

# ဗုဒ္ဓကိုယ်တိုင် ဖြေကြားခဲ့ရသော မေးခွန်းနှင့်ပြဿနာများ

(၄-၅)ပေါင်းချုပ်

ဒဂုန်ဦးစန်းငွေ

တ တိ ယ အ ကြိ မ်



ဗုဒ္ဓမြတ်စွာသည် ဘုရားဖြစ်တော်မူသည်မှစ၍
ပရိနိဗ္ဗာန်ပြုသည့်တိုင်အောင် (၄၅)ဝါ ပတ်လုံး
အမျိုးမျိုးသော မေးခွန်း၊ ပုစ္ဆာ၊ ပြဿနာများကို
ပြေလည်အောင် ဖြေကြားတော်မူခဲ့သည်။

# ဗုဒ္ဓကိုယ်တိုင် ဖြေကြားရခဲ့သော မေးခွန်းနှင့် ပြဿနာများ

(၄၊ ၅ - ပေါင်းချုပ်)

ဒဂုန် ဦးစန်းငွေ

၂၅၀၀/-

# မာတိကာ

| အကြောင်းအရာ | စာမျက်နှာ |
|---|---|



## မင်္ဂလာစကားဦး

အတ္တဝါဒဖြင့် တင်းမာသော အိန္ဒိယပြည်ကြီး၌ အနတ္တဝါဒ ပေါ်ပေါက်လာသည်နှင့် တစ်ပြိုင်နက် မီးဂါတန် ၅၀ ဖုံးချလိုက်သလို တုန်လှုပ်ချောက်ချား ဝက်ဝက်ကွဲသွားလေသည်။ အတ္တဝါဒနှင့် အနတ္တဝါဒသည် 'အဝိုင်းနှင့်လေးထောင့်' လို ဘယ်နည်းနှင့်မျှ အံဝင်ခွင်ကျ စွပ်မရသည့် ဝါဒနှစ်ခု ဖြစ်သည့်အတိုင်း ထောင့်တိုင်း ထောင့်တိုင်းတွင် ပြဿနာများ ပေါ်၍လာရပေသည်။

အတ္တဝါဒ အစွဲအလမ်း ကြီးမားလှသော ဘာသာရေးရှုထောင့်၊ လူမှုရေး ရှုထောင့်၊ စီးပွားရေးရှုထောင့်၊ အိမ်ထောင်ရေးရှုထောင့် အစရှိသော ထောင့်တိုင်း ထောင့်တိုင်းတွင် အနတ္တဝါဒ ဝင်ရောက်လာသောအခါ၌ ပြဿနာမပြေလည်မှုများ ဖြစ်ပေါ်လာခြင်းမှာ စင်စစ် သဘာဝကျသည်ဟူ၍ပင် ဆိုရပေမည်။ ထိုပေါ်လာသော ပြဿနာများကို ကြေညက်အောင် ဖြေရှင်းပေးမှု ရှိ,မရှိသည် ထိုအခါက အတ္တဝါဒနှင့် အနတ္တဝါဒရှင်တို့၏ တာဝန် ဖြစ်ပါသည်။

ထိုသို့ ပေါ်ပေါက်လာသော ပြဿနာများကို ကြေညက်အောင် ဖြေရှင်းပေးနိုင်လေလေ ထိုဝါဒရှင်အဖို့ စည်းရုံးရေးကောင်းလေလေပင် ဖြစ်သည်။

ကျွန်တော်တို့၏ ဗုဒ္ဓကြောင့် အနတ္တဝါဒ ပေါ်ပေါက်လာခြင်းဖြစ်ရာ ဗုဒ္ဓသည် အနတ္တဝါဒရှင် ဖြစ်သည့်အတိုင်း ထောင့်တိုင်းထောင့်တိုင်းမှ ပေါ်ပေါက်လာသော ပြဿနာရပ်များကို ခိုင်ခံ၍ ဖြေရှင်းပေးခဲ့သည်။ ဗုဒ္ဓဖြေရှင်းသည့်အတိုင်းလည်း ကျေလည်သည်။ ကျေလည်သလောက်လည်း စည်းရုံးရေး ကောင်းလာသည်။ စည်းရုံးရေး ကောင်းသလောက်လည်း ဗုဒ္ဓ၏ အနတ္တဝါဒသည် အောင်မြင်မှု ရှိခဲ့ပေသည်။

ဗုဒ္ဓသည် ဘုရားဖြစ်ပြီးသည့် အချိန်မှစ၍ ၄၅ ဝါအတွင်း 'စရထ ဘိက္ခဝေ စရိကံ၊ ဒေသေထ ဘိက္ခဝေ ဓမ္မံ'ဟု ၎င်း၏တပည့်များအား ညွှန်ကြားသည့်

နည်းတူ ၎င်းကိုယ်တိုင်လည်း မနေမနား ဒေသစာရီလှည့်လည်ကာ အနတ္တဝါဒကို ဟောပြောတည်ဆောက်ခဲ့သည်။ ပေါ်လာသော ပြဿနာများကို ဖြေရှင်းခဲ့သည်။

ရာဇဝင်မျက်စိနှင့် ကြည့်ပါက ၄၅ နှစ် ဆိုသည်မှာ တိုတောင်းလှသော ကာလပင် ဖြစ်သည်။ ထိုမျှ တိုတောင်းလှသော အချိန်ကလေးအတွင်း အနတ္တဝါဒ ကြီးသည် ကမ္ဘာအရပ်ရပ်တွင် အောင်ပွဲခံနိုင်အောင် ပျံ့နှံ့သွားရခြင်းမှာ ဗုဒ္ဓ၏ 'ပြဿနာများကို ကိုင်တွယ်ရာ၌ နူးညံ့မှု၊ ကျင်လည်မှု၊ နည်းပရိယာယ်ကောင်းမှု' များကြောင့် ဖြစ်သည်။

ထိုအချိန်က အိန္ဒိယပြည်၌ အတ္တဝါဒသာ တင်းမာနေသည် မဟုတ်သေး၊ ဝိသာခါ၊ အနာထပိဏ် စသော မြေရှင်ကြီးများ၏ အင်အားကလည်း မသေးလှပေ။ အရက်မူးအောင်သောက်ပြီး ဗုဒ္ဓဘက် ခြေထောက်ထားကာ ဖွတ်တရွတ် အိပ်နေ တတ်သည့် ရှင်သာဂတ ကဲ့သို့သော သူများကလည်း မရှားပေ။

သို့သော် ဗုဒ္ဓအနေနှင့် နိဗ္ဗာန်ပို့ဆောင်ရာ၌ အရင်းရှင်၊ မြေရှင်များပဲဟူ၍ ၎င်းတို့ကိုလည်း ချန်လှပ်ထား၍ မဖြစ်၊ ဖွတ်တရွတ် မိုက်ကန်းကန်း လုပ်သူများပဲ ဟူ၍ ၎င်းတို့ကိုလည်း မျက်နှာလွှဲထား၍ မဖြစ်။

ဗုဒ္ဓ၏ မဟာကရုဏာတော်ကား ကြီးမားလှပါပေသည်။ ကြီးမားသည့် အတိုင်း ဗုဒ္ဓသည် ဆင်းရဲချမ်းသာ၊ လူဖြူလူမည်း၊ လူမိုက်လူလိမ္မာ ခွဲခြားတော်မမူဘဲ ၎င်း၏ အနတ္တဝါဒဖြင့် ဝေနေယျ (ကျွတ်ထိုက်သူ) မှန်သမျှကို တာဝန်အနေဖြင့် နိဗ္ဗာန်သို့ ပို့ဆောင်တော်မူခဲ့ပြီး ဖြစ်သည်။

ထိုသို့ ရည်ရွယ်ရင်း ရှိသည့်အတိုင်းလည်း ပြဿနာရပ်များကို ဖြေကြား၍ အပြီးတွင်–

(က) ထိုသို့ ပြဿနာရပ်များ ဖြစ်ပွားလာရသော ဆင်းရဲမှုကို လည်းကောင်း၊

(ခ) ထိုဆင်းရဲမှု ပေါ်ပေါက်ရာ မြစ်ဖျားခံရာသော အကြောင်းကို လည်းကောင်း၊

(ဂ) ထိုဆင်းရဲမှုမှ လွတ်မြောက်ရာ နိဗ္ဗာန်ကို လည်းကောင်း၊

(ဃ) ထိုနိဗ္ဗာန်သို့ သွားရာ လမ်းစဉ်ကို လည်းကောင်း၊ လက်ညှိုးထိုးပြ ရှင်း နိဂုံးချုပ်လေ့ ရှိသည်။ ဤသည်ပင်လျှင် အနတ္တဝါဒ၏ အနှစ်သာရဖြစ်၍ ဗုဒ္ဓ၏ လိုလားချက် အကျဆုံးလည်း ဖြစ်သည်။ ဤလေးပါးကို သစ္စာလေးပါးဟု ခေါ်သည်။

ဗုဒ္ဓသည် ပြဿနာအရပ်ရပ်ကို မည်သို့ကိုင်တွယ်၍ မည်သို့ဖြေရှင်းကာ ပြဿနာ၏ အဆုံး၌ သစ္စာလေးပါးဖြင့် မည်သို့ချုပ်လိုက်ကြောင်း မျက်မြင်ကိုယ်

တွေ့ အများဆုံး တွေ့မြင်ခဲ့သူကား အရှင်အာနန္ဒာ ဖြစ်သည်။ ဗုဒ္ဓကား ၎င်း ပရိနိဗ္ဗာန်ပြုတော့မည်ကို ကြေညာသောနေ့ (အာယုသင်္ခါရ လွှတ်သောနေ့)၌ အရှင်အာနန္ဒာသည် ရှိုက်ကြီးတငင် ငိုကြွေးတော်မူသည်။

'နောက်ထပ် ဖြစ်ပေါ်လာမည့် ပြဿနာများကို မည်သူက ဒိုင်ခံဖြေရှင်းတော်မူပါမည်နည်း'ဟု အရှင်အာနန္ဒာ အနေဖြင့် အားငယ်ဝမ်းနည်းသွားဟန် တူ၏။

ထိုအခါ ဗုဒ္ဓက "ယော ခေါ အနန္ဒာမယာ ဓမ္မောစ ဝိနယောစ ဒေသိတော ပညတ္တော။ သော ဝေါ မမစ္စယေန သတ္ထာ" (အာနန္ဒာ၊ ငါဘုရား မရှိတော့သော အခါ၌ ငါ၏ဓမ္မနှင့် ဝိနယသည် သင်တို့၏ ဆရာအရာအဖြစ်ဖြင့် ပြဿနာရပ်များကို ဖြေရှင်းပေးလိမ့်မည်။)ဟူ၍ မှာကြားတော်မူခဲ့သည်။

ဗုဒ္ဓ မှာကြားတော်မူသည့်အတိုင်းလည်း ဗုဒ္ဓမရှိသည့်နောက် နှစ်ပေါင်း ၂၅၀၀ ကျော်လာပြီဖြစ်သည့် အချိန်တိုင်အောင် ဗုဒ္ဓကိုယ်တော်စား ဖြေရှင်းပေးခဲ့သည်။ သို့သော် ဗုဒ္ဓ၏ ဓမ္မနှင့် ဝိနယမှာ ပါဠိဘာသာ ဖြစ်နေသဖြင့်လည်းကောင်း အကယ်၍ မြန်မာပြန်များ ရှိနေသည့်တိုင်အောင်လည်း လူထုနှင့် နီးစပ်သည့် စကားလုံးများ မဟုတ်သဖြင့်လည်းကောင်း လူများစု လေ့လာဖတ်ရှုနိုင်ရန် မလွယ်လှပေ။

ယခု ဒဂုန်ဦးစန်းငွေ ပြုစုထားသည့် **ဗုဒ္ဓကိုယ်တိုင် ဖြေကြားခဲ့ရသော မေးခွန်းနှင့် ပြဿနာများ** စာအုပ်မှာ ဗုဒ္ဓ၏ ဓမ္မနှင့် ဝိနယ (နိကာယ်ငါးရပ်)မှ ဗုဒ္ဓဖြေရှင်းပေးခဲ့သည့် ပြဿနာများအနက် လောလောဆယ် သိသင့်သည့် ပြဿနာများကို ထုတ်နုတ်တင်ပြထားခြင်းဖြစ်ရာ ပါဠိဘာသာကို မကျွမ်းကျင်သူများ၊ ခက်ခဲသည့် မြန်မာပြန်များကို မလေ့လာနိုင်သူများအဖို့ လက်ကမ်းကြိုဆိုသင့်သော စာအုပ်ဟုပင် ဆိုရမည်။

ဒဂုန်ဦးစန်းငွေမှာ လူများစု နားလည်အောင် မြန်မာဝေါဟာရများကို ရွေးချယ်ရေးသားမှု၌ ကျွမ်းကျင်သူအဖြစ်ဖြင့် ကွယ်လွန်သူ လယ်တီပဏ္ဍိတ ဆရာဦးမောင်ကြီး၊ ပုပ္ပားဦးကျော်ရင် အစရှိသော ပညာရှိကြီးများကပင် ချီးကျူး ခြင်း ခံရသူဖြစ်သည်။

ဤ 'ဗုဒ္ဓကိုယ်တိုင် ဖြေကြားခဲ့ရသော မေးခွန်းနှင့် ပြဿနာများ' စာအုပ်ကို လေ့လာရာ၌ ပြဿနာ ပြေလည်ရုံသောက်တွင် မလေ့လာမူဘဲ ပြဿနာ ပြေလည်သည့် နောက်ဆုံး၌ (က) ပြဿနာရပ်များ ဖြစ်ပေါ်လာရသည့် ဆင်းရဲ ဒုက္ခကိုလည်းကောင်း၊ (ခ) ဤဆင်းရဲမှုများ၏ မြစ်ဖျားခံရာ အကြောင်းရင်းကို လည်းကောင်း၊ (ဂ) ထိုဆင်းရဲမှ လွတ်မြောက်ရာ နိဗ္ဗာန်ကို လည်းကောင်း၊ (ဃ)

ထိုနိဗၺာန်သို့ သွားရာလမ်းခရီးကိုလည်းကောင်း။ သိအောင်၊ မြင်အောင် လေ့လာ ကျင့်ကြံနိုင်ကြမည် ဆိုလျှင်ကား သာလွန်၍ ဗုဒ္ဓအလိုတော်ကျ ဖြစ်လိမ့်မည် ဖြစ်ကြောင်းကို မင်္ဂလာစကားဦးအဖြစ်ဖြင့် မှာထားလိုပေသည်။

မြင့်ဆွေ
၁၉–၆–၆၈

**မှတ်ချက်။** [ဆရာဦးမြင့်ဆွေမှာ သမိုင်းကြောင်းအရ အချက်အလက် ပိုင်နိုင်စွာ တင်ပြမှု၌ ထင်ရှားသူဖြစ်သည်။ ထိထိရောက်ရောက် သုံးသပ် ဖော်ပြလေ့ ရှိသည်။ သူ၏ ဤ'မင်္ဂလာ စကားဦး'မှာ ဗုဒ္ဓကိုယ်တိုင် ဖြေကြားခဲ့ရသော စာအုပ် ပထမတွဲ ထုတ်ဝေခဲ့စဉ်က ရေးသားသော စာ ဖြစ်၏။ ဤစာအုပ်ပေါ်တွင် သူမြင်သော အမြင်ကို ပွင့်ပွင့် လင်းလင်း တင်ပြထားလေသည်။]



## ဤစာအုပ် ဖြတ်သန်းလာခဲ့ရသော ခရီးစဉ်

ဤ ဗုဒ္ဓကိုယ်တိုင် ဖြေကြားခဲ့ရသော မေးခွန်းနှင့် ပြဿနာများ စာအုပ်ကို ၁၉၆၈ ခုနှစ်က ထုတ်ဝေခဲ့သည်။ သက်တမ်းအားဖြင့် အလွန်ကြီး မရှည်လှသေးသော်လည်း ၁၅ ဟူသော ကိန်းဂဏန်းကိုမူ ကျော်လွန်ခဲ့ပြီး ၁၆ နှစ်တွင်း ချဉ်းနင်းရောက်ရှိလာပြီ ဖြစ်၏။

ဤစာအုပ် ဖြတ်သန်းလာခဲ့ရသော ခရီးမှာ ဖြောင့်ဖြောင့်ဖြူးဖြူး မရှိလှ။ အကွေ့အကောက် ယောက်ယက်ခတ် ဖြစ်ရသည့်ကြားမှ တခဲတယဉ်း ဖြစ်ထွန်းလာခဲ့ရသည်။ ဤစာအုပ်ကို ၃၅ လမ်း၊ နေစိုးရှိန် ပုံနှိပ်တိုက်က ရိုက်နှိပ်ရန် မူလအစီအစဉ် ရှိခဲ့သည်။ သို့သော် ဟိုလ ရိုက်မည်၊ သည်လ ပုံနှိပ်မည်ဟူ၍ ချိန်ရင်း ဆရင်းနှင့်ပင် နေစိုးရှိန်တွင် တစ်နှစ်လောက် ကြာညောင်းအောင် အောင်းနေခဲ့ရသည်။

ဤတွင် အမြွတ်ရလိုက်သည်ကား **စာအုပ်အမည်** ဖြစ်၏။ ပေးထားသော အမည်ကား ရှိ၏။ သို့သော် ထိုအမည်ကို နှစ်နှစ်ကာကာကြီး မရှိလှ။ အမည်ကို ပြင်သင့်က ပြင်ရန် တေးထား၏။ တစ်နေ့သောအခါ စာရေးဆရာ ဘဝင်းနှင့် နေစိုးရှိန် ပုံနှိပ်တိုက်တွင် ဆုံမိရာက စာအုပ်အမည်ကိစ္စနှင့် ပတ်သက်၍ သူနှင့် ဆွေးနွေးကြသည်။ ဘဝင်းကား ဆရာတူတပည့်လည်း ဖြစ်၊ စာပေရောင်းရင်း ရင်းနှီးသူတည်း။

'ပြဿနာပေါင်း သောင်းခြောက်ထောင်' ဤအမည်ကိုလည်း မနှစ်ခြိုက်။

'အမေး နွားကျောင်းသား အဖြေဘုရားလောင်း' ဤအမည်ကိုလည်း မကြိုက်။

'ဗုဒ္ဓနှင့် မေးခွန်းပြဿနာရပ်များ' ဤအမည်ကိုလည်း မနှစ်သက်။

နှစ်ယောက်သား အပြန်ပြန်အလှန်လှန် အမည်ကို ဆွေးနွေးကြသည်တွင် ဘဝင်း၏ ဦးနှောက်မှ အလင်းရောင်တစ်ခု ဖောက်ထွက်လာသည်။

'ဒါဖြင့် ဒီလိုလုပ်ဆရာ'ဟု သူက ဆန္ဒပြုသည်။

'ဆိုစမ်း၊ ဘယ်လိုများတုံး'ဟု ကျွန်ုပ်က တောင်းဆိုသည်။

'ဗုဒ္ဓကိုယ်တိုင် ဖြေကြားခဲ့ရသော မေးခွန်းနှင့်ပြဿနာများ ဆရာ'

'အေး ကြိုက်ပြီဟေ့၊ ကျေးဇူးတင်သကွ'

ဘဝင်း ကင်ပွန်းတပ်လိုက်သော အမည်ကို နှစ်ခြိုက်စွာ လက်ခံရာမှ ဤစာအုပ်၏ အမည်မှာ 'ဗုဒ္ဓကိုယ်တိုင် ဖြေကြားခဲ့ရသော မေးခွန်းနှင့်ပြဿနာများ' ဟူ၍ ထင်ရှားစွာ ဖြစ်ပေါ်လာသတည်း။ စာအုပ်အမည် ရရှိထားသော်လည်း ထိုစာမူများမှာကား နေစိုးရှိန်မှ မကြွသေး၊ မထသေး၊ ငြိမ်ချက်သား ကောင်းလှသည်။ အဘယ်မျှ ကြာညောင်းအောင် နေစိုးရှိန်တွင် လျောင်းစက်နေရဦးမည်မသိ။

ကြိုးစားမင်းစား ရေးသားပြုစုထားသည့် စာမူများကို မြန်မြန် အကောင် အထည် ပေါ်စေချင်၏။ သို့သော် လမ်းပေါ်မှာ လမ်းပျောက်သကဲ့သို့ အကောင် အထည်ပေါ်ဖို့ လမ်းစမှာ နေစိုးရှိန်တွင် လမ်းပျောက်နေချေ၏။ နေစိုးရှိန်မှာ ပုံနှိပ်ရန် တကဲကဲ အခဲကြီးခဲသော်ငြားလည်း စီးပွားရေး အခြေအနေကြောင့် "ဆရာ့စာအုပ်ကို အားခဲထားပေမယ့် အခြေအနေက မပေးတော့ဘူးဆရာ"ဟူ၍ ပိုင်ရှင်ဖြစ်သူ ဦးလှကြည်၏ ညည်းတွားသံကိုသာ ကြားရပါတော့သည်။ သို့နှင့်ပင် ဤစာအုပ်မှာ နေစိုးရှိန်မှတစ်ဆင့် ဝင်းမော်ဦး စာပေသို့ ရောက်သွားရသတည်း။

"ဦးတင်မောင်၊ သည်စာအုပ်ကို ရိုက်ဗျာ။ တခြားမှာ မစွံလို့ လာပို့တာ မဟုတ်ဘူးနော်။ ပုံနှိပ်မယ့်လူက သည်စာအုပ်ကို ရင်ခွင်ပိုက်ထားတယ်၊ မလွှတ် ချင်ဘူး၊ မလွှတ်ရက်ဘူး။ ဒါပေမယ့် အခြေအနေအရ သူ့ခမျာ လက်လွှတ်လိုက် ရတဲ့ စာအုပ်"

ဤသည့်နောက်ပိုင်းတွင် ဝင်းမော်ဦးစာပေ ဦးတင်မောင်၏ ကျေးဇူးကြောင့် စာအုပ်အဖြစ်ဖြင့် ဗုဒ္ဓကိုယ်တိုင် ရပ်တည်လာနိုင်ခဲ့သည်။ စာဖတ်ပရိသတ်များသို့ လက်ဆင့်ကမ်းနိုင်ခဲ့သည်။ ဗုဒ္ဓကိုယ်တိုင် စာအုပ်စင် ပလ္လင်နန်းမှတစ်ဆင့် အိမ် တိုင်ယာရောက် ကြွမြန်းကာ ပူဇော်ခြင်းကို ခံယူနိုင်ခဲ့သည်။

ကံသိုလ်ကံလိုက်သည့်အခိုက်နှင့် ကြုံကြိုက်၍လား မသိ၊ ဖြန့်ဝေလိုက်သည် နှင့် တစ်ပြိုင်နက် ပြိုက်ခနဲ ကုန်မသွားသည့်တိုင်အောင် အရောင်းဈေးကွက်တွင် အတော်ကလေး သွက်ကြောင်း၊ မျက်နှာပန်းလှကြောင်း သိရ၏။ ဤစာအုပ်ကို ပြုစုစဉ်က ပ-ဒု-တ-စ အတွဲလိုက် အတွဲလိုက်ခွဲ၍ ထုတ်ဝေသွားရန် ရည်ရွယ် ချက် မရှိ။ မိမိစိတ်နှင့် ထိတွေ့ခံစားရသည့် အချက်အလက်များကို အဆီစစ်၍ အနှစ်ထုတ်ကာ တင်ပြခြင်းသာ ဖြစ်ပါသည်။

စပယ်ဦးစာပေ

သို့သော် မူလရည်ရွယ်ချက်ကို အခြေအနေက ဖျက်ဆီးပစ်လိုက်၏။ ရွှေ့အောင် ရွှေ့ပစ်လိုက်၏။

'ဆရာ၊ ဒုတိယတွဲ ဆက်ရေးလို့ ရဦးမလား ဆရာ'

'ရပါတယ်၊ ပိုင့ကတ်ပဲ ဘယ်ကုန်နိုင်တယ် ရှိမလဲ'

'ဒါဖြင့် ဒုတိယတွဲအတွက် ဆက်လုပ်ပေးပါဆရာ'

ဝင်းမော်ဦး ဦးတင်မောင်၏ တိုက်တွန်းမှု ပြုချက်အရ ဒုတိယတွဲ သာမက ဤ ဗုဒ္ဓကိုယ်တိုင် ဖြေကြားခဲ့ရသော မေးခွန်းနှင့်ပြဿနာများ စာအုပ်ကို ပ–ဒု–တ သုံးတွဲအထိ ဝင်းမော်ဦးမှ ဖြန့်ဝေခဲ့ပြီး ဖြစ်၏။ ဝင်းမော်ဦးမှပင် တစ်တွဲစာအုပ်တစ်အုပ်လျှင် နှစ်ကြိမ်ကျစီ (ဒုတိယအကြိမ်) ရိုက်နှိပ်ထုတ်ဝေခဲ့ပြီးလည်း ဖြစ်သတည်း။

## သုံးအုပ်တွဲ ပေါင်းချုပ် နှစ်ကြိမ်

ပ–ဒု–တ စာအုပ်များမှာ ကုန်သလောက် ရှိနေချိန်တွင် သုံးအုပ်စလုံး တစ်ပေါင်းတည်းတွဲ၍ (တစ်အုပ်တည်းနှင့်အပြီး) ရိုက်နှိပ်ရလျှင် ကောင်းမည်ဟု အကြံဖြစ်ပေါ်ပါသည်။ သို့သော် စရိတ်စက အကုန်အကျများမည် ဖြစ်သဖြင့် ချီတုံချတုံ ဖြစ်ခဲ့ရသေးသည်။ ပြဿနာများ စာအုပ်မှာ ပြဿနာနှင့် ရင်ဆိုင်နေ၏။ ဘယ်လို လုပ်ရမည်နည်း။

ယင်းပြဿနာကို ဦးတင်စိုး (စပယ်ဦးစာပေ) က တာဝန်ယူ၍ ဖြေရှင်းပေးခြင်းဖြင့် ပြေလည်သွားပေ၏။ စပယ်ဦးစာပေမှ–

၁၉၇၈ ခုနှစ်၊ ဖွန်လတွင် ၃ အုပ်တွဲ (ပထမအကြိမ်)

၁၉၈၃ ခုနှစ်၊ မတ်လတွင် ၃ အုပ်တွဲ (ဒုတိယအကြိမ်)

ဤသို့အားဖြင့် ဤစာအုပ်မှာ လူထုနှင့် အဆက်ပြတ်မသွားဘဲ သက်ဆိုးရှည်ရှည်နှင့် ရပ်တည်လျက် ရှိနေသည်။ စွမ်းအားရှိသလောက် နိုင်ငံထက်ဝန်းကျင်၌ သွက်လက်စွာ လှုပ်ရှားလည်ပတ်လျက် ရှိနေချိန်တွင် ဝင်းမော်ဦး ဦးတင်မောင်က စာတ်ပြားဟောင်းကြီးကို ပြန်၍ ဖွင့်ပါလေ၏။

"ဆရာ့ကို တိုက်တွန်းရတာလဲ အာပေါက်တော့မယ်၊ ဆရာက လှုပ်ဖော်တောင် မရတော့ဘူး။ ကျွန်တော့်ကို ဘယ် သတိရတော့မလဲလေ"

ဤကား ဦးတင်မောင်၏ စကား ဖြစ်၏။ သူ့စကားထဲမှ "ဆရာက လှုပ်ဖော်တောင် မရတော့ဘူး"ဆိုသော စကားအတွက် ကျွန်ုပ်စိတ်၌ အလွန်အမင်း

ထိခိုက်ခြင်း မဖြစ်လှသော်လည်း "ကျွန်တော့်ကို ဘယ်သတိရတော့မလဲ"ဟူ၍ ဆိုနိုင်သံနှင့် ပြောလိုက်သည့် နောက်စကားလုံးအတွက် ဖျန်းခနဲ ကြက်သီးထသွား၏။

"စတုတ္ထတွဲကို ဆက်ရေးပါ ဆရာ၊ ဆက်ရေးပါ ဆရာ"ဟူ၍ တစာစာ တိုက်တွန်းရှာပုံများကို မြင်ယောင် ကြားယောင်လာသည်။ "ရပါစေ့မယ်၊ ရပါစေ့မယ်"ဟူသော စကားလုံးကို အခွင့်ကြုံလေတိုင်း ကျွန်ုပ် တွင်တွင်ကြီး အသုံးပြုလာခဲ့ပြီး စတုတ္ထတွဲကိုကား ရုပ်လုံးပေါ်အောင် ဖော်မပေးနိုင်ခဲ့သော မိမိ၏ချို့ယွင်းချက်များအတွက် မျက်နှာပူလာသည်။ စိတ်မကောင်း ဖြစ်လာသည်။

"ကဲ ဦးတင်မောင်၊ စိတ်သာချ၊ ကျိန်းသေ ရစေ့မယ်"

"ပြောလဲ ကြားရတာပေါ့ ဆရာရယ်။ ကျွန်တော်တော့ စာမူကို မရမချင်း စိတ်မချဘူး။ ဆရာ့ကို မလေးစားလို့ မဟုတ်ပါဘူး။ ကျွန်တော့်ဝမ်းထဲမှာရှိတဲ့ ခံယူချက်ကို ပြောပြတာပါ"

အလုပ်များရသည့်ကြားက ဦးတင်မောင် စိတ်ချပါစေတော့ရယ်လို့ ဤ စတုတ္ထတွဲကို ကြိုကြားကြိုကြား ရေးသားပြုစုခဲ့ပါသည်။ ပြုစုရာတွင် ဆောင်းပါး၊ ဝတ္ထုများကဲ့သို့ ကိုယ်ရေးချင်ရာကို ရေး၍မဖြစ်။ ပိဋကတ် တောအုပ်အတွင်းသို့ သက်ဝင်ချဉ်းနင်း၍ အချက်အလက်များ ရှာရဖွေရ၊ ရွေးချယ်ရခြင်းများကလည်း အတော်ကလေး အချိန်စားသွားသည်။ သို့တစေလည်း–

"ရော့ဗျို့ ဦးတင်မောင်။ ဒါဟာ စိတ်မချသာစေ စတုတ္ထတွဲ"ဟု ဗုဒ္ဓ ကိုယ်တိုင် ဖြေကြားခဲ့ရသော မေးခွန်းနှင့် ပြဿနာများ ဤစတုတ္ထတွဲ စာမူကို ဦးတင်မောင်လက်သို့ မပျက်မကွက် ဆက်ဆက်အပ်လိုက်နိုင်ပြီတည်း။ "ပဉ္စမတွဲ အတွက် လုပ်ပါဦးဆရာ"ဟူသော ဦးတင်မောင်၏ တိုက်တွန်းစကားကို ဘယ်သော အခါများ ကြားရဦးမည် မသိ။

ဒဂုန်ဦးစန်းငွေ

၂၈–၇–၈၄



## နိဗ္ဗာန်ရောက်ခြင်း၊ စကြာမင်း
## . ဘယ်သင်း ဘယ်ကုသိုလ် ဆိုမည်နည်း။

ဗုဒ္ဓ ဟောတော်မူသော ဒေသနာ သုတ်တိုင်းသုတ်တိုင်းတို့၌ သုတ်အား လျော်စွာ နိဒါန်းပါရှိမြဲ ဖြစ်၏။ ဒီဃနိကာယ်၊ သုတ္တန္တပိဋက၊ ပါထိကဝဂ် (သုတ်ပါထေယျ ပါဠိတော်) ၌ စက္ကဝတ္တိသုတ် ဟူသော အမည်ဖြင့် သုတ် တစ်သုတ် ရှိ၏။ ထိုသုတ်၏ နိဒါန်းကား အခြားသုတ် နိဒါန်းများနှင့်မတူ တစ်မူ ဆန်းသစ်နေ၏။ အခြားသုတ်၏ နိဒါန်းမှာ ဗဟိဒ္ဓ ပြင်ပဖြစ်သော အကြောင်း အရာများအပေါ် အခြေခံသော်လည်း ဤစက္ကဝတ္တိသုတ်၏ နိဒါန်းမှာမူ ပြင်ပ ဖြစ်ရပ်များအပေါ် အခြေမခံလေဘဲ ဗုဒ္ဓ၏နှလုံးသား၌ အခြေခံထားသည်ကို တွေ့ရပေသည်။ အဘယ်သို့ အခြေခံလေသနည်း။

**သုတ်နိဒါန်း**

ပါထိကဝဂ် အဋ္ဌကထာ ၁၉ ၌ အဋ္ဌကထာ ဆရာက ဤသို့ဖွင့်ထား၏။ မာတုလမြို့သားတို့သည် ဘုရားအမှူးရှိသော သံဃာတော်များအား ပင့်ဖိတ်ပြီး ဆွမ်းလုပ်ကျွေးကြလေကုန်၏။ ဆွမ်း ဘုဉ်းပေးခြင်းကိစ္စ ပြီး[illegible]အခါ ဗုဒ္ဓသည် ဤသို့ စဉ်းစားတော်မူ၏။ 'ဤနေရာကား ကျဉ်းမြောင်းလွန်းလှ၏။ ဤနေရာ၌ တရားဟောခြင်းငှာ မသင့်။ ကျယ်ပြန့်သော နေရာ၌ ဟောရသော် ဤမာတုလ မြို့သူမြို့သားများနှင့်တကွ အခြား တရားနာသူ များစွာကို အကျွတ် တရား ရကုန်လတ္တံ့'ဟူ၍ ဤသို့ စဉ်းစားတော်မူပြီးလျှင် ဗုဒ္ဓသည် အနုမောဒနာ ပြုတော်မမူလေဘဲ ထိုင်ရာမှထကာ ကြွသွားတော်မူလေသော် ဆွမ်းဒါယကာ မာတုလမြို့သားတို့သည် အံ့အားသင့်လျက် ကျန်ခဲ့ကုန်လေ၏။

"ဗုဒ္ဓသည် ဆွမ်းဘုဉ်းပေးပြီးသော အခါတိုင်း အနုမောဒနာ ပြုတော်မူမြဲ ဖြစ်ပါလျက် ယခု အနုမောဒနာပြုတော်မမူဘဲ ကြွသွားခြင်းမှာ အဘယ့်ကြောင့်

ဖြစ်လေသနည်း။ ငါတို့အပေါ်၌ တစ်စုံတစ်ရာ ချို့ယွင်းချက်များ ရှိနေ၍ပေလော။ အပြစ်ရှိက သည်းခံခွင့်လွှတ်တော်မူပါရန် ဗုဒ္ဓနောက်သို့လိုက်၍ ငါတို့ တောင်းပန်ကြကုန်အံ့”ဟူ၍ မာတုလမြို့သားတို့သည် ဗုဒ္ဓ ကြွတော်မူရာနောက်သို့ တကောက်ကောက် လိုက်သွားကြလေကုန်၏။

ဗုဒ္ဓသည် ကျယ်ပြန့်၍ သန့်ရှင်းသော မြေနေရာတွင် ပေါက်ရောက်လျက်ရှိသော သစ်ပင်ကြီးတစ်ပင်အောက်သို့ ချဉ်းကပ်တော်မူပြီး အရှင်အာနန္ဒာအား လှည့်ကြည့်လိုက်သည်။ အရှင်အာနန္ဒာလည်း အလိုက်သိစွာပင် ဗုဒ္ဓထိုင်တော်မူရန်အတွက် နှစ်ထပ်သင်္ကန်းကြီးကို ခင်းပေးလေသည်။ ဗုဒ္ဓသည် သစ်ပင်ခြေရင်းတွင် အရှင်အာနန္ဒာ ခင်းပေးသော အခင်း၌ ထိုင်တော်မူ၏။

ဗုဒ္ဓနှင့် မရှေးမနှောင်းပင် မာတုလမြို့သားတို့ ရောက်လာပြီး ဗုဒ္ဓ၏ ရှေ့တူရူတွင် အသီးသီး နေရာယူ၍ ဗုဒ္ဓအား ရိုသေစွာရှိခိုးလျက် ထိုင်ကြကုန်လေ၏။ ရဟန်းတို့လည်း ဗုဒ္ဓကို ရံလျက် လက်အုပ်ချီ၍ တည်ကုန်၏။

ထိုအခါ ဗုဒ္ဓသည် ရဟန်းတို့အား ‘ရဟန်းတို့’ ဟူသော အာလုပ်စကားဖြင့် မြွက်ကြားခေါ်တော်မူပြီးလျှင် ဤစက္ကဝတ္တိသုတ်ကို ဟောတော်မူကြောင်းကို အဋ္ဌကထာ၌ ဆိုပေသည်။ ထို့ကြောင့် ဤသုတ်၏နိဒါန်းမှာ အခြားသုတ်များ၏ နိဒါန်းထက် ဆန်းကြယ်ကြောင်း အခြားတစ်ဦးတစ်ယောက်၏ မေးလျှောက်တောင်းပန်မှု မရှိလေဘဲ ကိုယ်တော်၏ နှလုံးဘဏ်တိုက်မှ တိုက်ရိုက်ထွက်ပေါ်ဟောကြားအပ်သော ဒေသနာတော်ဖြစ်ကြောင်း အထက်၌ ဆိုခဲ့ခြင်းဖြစ်သတည်း။ ဟောတော်မူသည့် ဒေသနာတော်ကား–

> “ရဟန်းတို့၊ မိမိကိုယ်တိုင် ကျွန်းကြီးသဖွယ်ပြု၍ နေကြကုန်လော့။ မိမိကိုယ်ကိုသာလျှင်မိမိ အားကိုး၍ နေကြကုန်လော့။ တစ်ပါးသောသူကား တစ်ပါးသူ၏ အားကိုးရာမဖြစ်နိုင်။ အခြား တစ်စုံတစ်ယောက်၏ အထောက်အပံ့၊ လုံ့လပယောဂအားဖြင့် အခြားသူတစ်ဦးကို မစင်ကြယ်စေနိုင်။ မိမိသည်သာလျှင် မိမိကိုယ်ကို စင်ကြယ်စေနိုင်၏”

တရားတော်မှာ အခြားသူကို အားမကိုးသော ကိုယ့်ထူးကိုယ်ချွန် တရားတော် ဖြစ်၏။ မိမိကိုယ်တိုင် မိမိကိုယ်ကို အားကိုးအားထား ပြုရမည့် အချက်ကြီး လေးချက် (သတိပဋ္ဌာန်လေးပါး) ကို ဆက်၍ဟောကြားတော်မူ၏။

သတိပဋ္ဌာန် လေးပါးကို အဖန်ဖန်ရှုပွားအားထုတ်လေသော ပုဂ္ဂိုလ်၏ သန္တာန်ကို ကိလေသာစသော အပြင်အပရန်သူများ မဝင်နိုင်၊ ဝင်ခွင့်မရပုံ၊ ကုသိုလ်တရားကိုသာလျှင် တိုးပွားနေပုံ၊ သံသရာ စက်ရဟတ်ကြီးကို မပြတ်လည်

စေတတ်သော ဝဏ္ဏဂါမိကုသိုလ်နှင့် သံသရာကို အကြွင်းမဲ့ ပြတ်အောင် ဖြတ်တောက်တတ်သော ဝိဝဏ္ဏဂါမိကုသိုလ်၊ ဤကုသိုလ်နှစ်မျိုးတို့၏ အကျိုးခြားနားချက်များကို ယှဉ်တွဲ၍ ခွဲခွဲခြားခြား အသေးစိတ်၍ ဟောကြားထားလေသည်။

အချုပ်အားဖြင့် သားသမီးတို့အပေါ်၌ မိဘတို့ ထားရှိသော အလွန်နူးညံ့လှသည့် စိတ်မျိုးတို့လည်းကောင်း၊ မိဘတို့အပေါ်၌လည်း သားသမီးတို့က ထားရှိသော အလွန်နူးညံ့လှသည့် စိတ်ဓာတ်မျိုးတို့လည်းကောင်း၊ သံသရာရှည်ခြင်း၏ အကြောင်းဖြစ်ခြင်းကြောင့် ထိုကုသိုလ်မျိုးကား ဝဏ္ဏဂါမိ ကုသိုလ်မျိုး ဖြစ်ကြောင်း၊ သတိပဋ္ဌာန်လေးပါးတို့ကို အဖန်ဖန်ရှုပွားဆင်ခြင်ခြင်းမှာ သံသရာ အကြွင်းမဲ့ ပြတ်ခြင်း၏ အကြောင်းရင်းဖြစ်သောကြောင့် ထိုကုသိုလ်မျိုးကား ဝိဝဏ္ဏဂါမိ ကုသိုလ်မျိုးဖြစ်ကြောင်း၊ ဝဏ္ဏဂါမိကုသိုလ်မျိုး၏ အကြီးမားဆုံးသော အကျိုးပေးမှုမှာ စကြဝတေးမင်းကြီး ဖြစ်ရခြင်းတွင် အဆုံးသတ်ကြောင်း၊ ထိုထက် ကြီးကျယ်မြင့်မားသော အကျိုးပေးမှု မရှိတော့ကြောင်း၊ ဝိဝဏ္ဏဂါမိ ကုသိုလ်မျိုး၏ အကျိုးပေးမှုသည်ကား မဂ်ဖိုလ်နိဗ္ဗာန်၌ အဆုံးသတ်ကြောင်းများကို ဟောကြားတော်မူပြီးနောက် ဤတွင် ဝဏ္ဏဂါမိ ကုသိုလ်မျိုး၏ အကျိုးပေးကြီးမားလှပုံများကို ရဟန်းတို့အား ဥဒါဟရုဏ် ပုံစံသာဓကများနှင့်တကွ ထုတ်ပြတော်မူလိုသောကြောင့် စက္ကဝတ္တိခေါ်သော စကြဝတေးမင်းများ၏ စည်းစိမ်ချမ်းသာကို ရှေးဦးစွာ ပြတော်မူလေသတည်း။

## စကြဝတေးမင်းတရားများကြီး

ဝဏ္ဏဂါမိ ကုသိုလ်မျိုး၏ အကျိုးကြောင့် လူတို့တွင် အထွတ်အမြတ်ဆုံးဖြစ်သော စကြဝတေးမင်းတို့၏ သမိုင်းကြောင်းကို ဟောတော်မူရာ၌ ဤစက္ကဝတ္တိသုတ်တော်တွင် စကြဝတေးမင်းပေါင်း ရှစ်ဆယ်အထိ ဟောပြထား၏။ အဆိုပါ စကြဝတေးမင်းတရားကြီးများ၏ လက်ထက်တော်၌ လူတို့၏ အသက်တမ်းနှင့် လူတို့၏ ရုပ်အဆင်းသဏ္ဌာန်တို့မှာ လူတို့၏ အကျင့်စာရိတ္တကိုလိုက်၍ ဖြစ်ကြရကြောင်း၊ အုပ်ချုပ်သောမင်းကလည်းကောင်း၊ အုပ်ချုပ်ခံ တိုင်းသူပြည်သားတို့ကလည်းကောင်း၊ မင်းနှင့်တကွ တိုင်းပြည်ကပါ ကိုယ်ကျင့်တရား ကောင်းမွန်သော ခေတ်တွင် အသက်လည်း ရှည်ကုန်၏၊ ရုပ်အဆင်းလည်း လှကုန်၏။

မင်းနှင့်ပြည်သူ အမှုအကျင့်ဖောက်ပြား၍ ကိုယ်ကျင့်တရား ပျက်ကွက်သော ခေတ်တွင်ကား လူတို့၏အသက်လည်း မရှည်ကုန်၊ လူတို့၏ ရုပ်အဆင်းလည်း မလှကုန်ဟူ၍ အကျယ်အားဖြင့် ဟောကြားတော်မူလေသည်။

**ဒဠနေမိစကြဝတေးမင်း**

ဤစက္ကဝဠာသုတ် သမိုင်းဝင် စကြဝတေးမင်းများအနက် ဒဠနေမိ မင်းတရားသည် ရှေးဦးစွာသောမင်း ဖြစ်လေသည်။ ထိုမင်း၏ လက်ထက်၌ မင်းကိုယ်တိုင်ကလည်း တရားစောင့်၏။ တိုင်းသူပြည်သားတို့ကလည်း တရားစောင့်၊ ဖြောင့်မတ်ကုန်၏။

ထို့ကြောင့် ထိုမင်းလက်ထက်၌ တိုင်းပြည်မြို့ရွာ လွန်သာယာ၏။ ငြိမ်ဝပ်ပိပြား၏။ လက်နက်ဖြင့် အုပ်ချုပ်ခြင်းမရှိ။ လူတို့ အသက်လည်း ရှည်ကုန်၏။ အဆင်းလည်း လှကုန်၏။ ထိုမင်း၏ဘုန်းသမ္ဘာနှင့် ထိုခေတ်၏အသွင်ကို ဗုဒ္ဓက ဤသို့မြင်အောင် ပြတော်မူ၏။

ရဟန်းတို့၊ ရှေး၌ဖြစ်ဖူးသည်ကား တရားစောင့်သော၊ တရားနှင့်အညီ မင်းပြုသော၊ သမုဒ္ဒရာလေးစင်း အပိုင်းအခြားရှိသည့် လေးကျွန်းလုံးကို အစိုးရသော၊ ရန်အပေါင်းကို အောင်မြင်သော၊ တိုင်းနိုင်ငံကို တည်ငြိမ်စေသော ရတနာ (၇) ပါးနှင့် ပြည့်စုံသော ဒဠနေမိ အမည်ရှိသော စကြဝတေးမင်းသည် ရှိ၏။

ထိုမင်းအား ရဲရင့်သော၊ သူရဲကောင်း ဖွဲ့လုံ့လမျိုး ရှိကုန်သော၊ တစ်ဖက်စစ်သည်တို့ကို နှိမ်နင်းနိုင်ကုန်သော၊ အထောင်မကသော သားတော်တို့သည် ရှိကုန်၏။ ထိုမင်းသည် သမုဒ္ဒရာအဆုံးရှိသော ဤမြေကို တုတ် မဆောင်မူ၍၊ လက်နက်မဆောင်မူ၍ တရားသဖြင့် အောင်မြင်လျက် အုပ်စိုး၏။

အချုပ်ကိုဆိုသော် နှစ်ပေါင်းအရာအထောင်တို့ ကုန်လွန်သောအခါ ထိုမင်းသည် လူ့ဘောင်၌ ငြိးငွေ့သဖြင့် တောထွက်၍ ရသေ့ရဟန်း ပြုလေ၏။ ဤတွင် မိဘတို့အနေအားဖြင့် သားသမီးတို့အား အမွေပေး၍ ရစကောင်းသော အရာ၊ မရစကောင်းသော အရာများ ခွဲခွဲခြားခြား သိသာထင်ရှားလာသည်။ ထီးနန်းစည်းစိမ် ဆိုသည်မှာ အမွေပေး၍ ရစကောင်းသောအရာမျိုး ဖြစ်သည့်အလျောက် ဒဠနေမိမည်သော စကြဝတေးမင်းသည် မိမိ၏သားကြီး ဩရသအား အမွေအဖြစ် ထီးနန်းကို လွှဲအပ်ကာ မင်းအဖြစ် အပ်နှင်းခဲ့သည်။ သားကြီးဩရသမှာ ထီးမွေနန်းမွေကို ဆက်ခံလျက် စကြဝတေးမင်း ဖြစ်လာလေ၏။

သို့သော် ကျင့်အပ်သော အကျင့်တရားသည်ကား အမွေပေး၍ ရစကောင်းသော အရာမျိုးမဟုတ်။ ကိုယ်တိုင်ကျင့်အပ်သော အရာမျိုး ဖြစ်သည့်အလျောက် အဘ၏ရိုက်ရာ ထီးမွေနန်းမွေကို ဆက်ခံ၍ မင်းဖြစ်လာသော ထိုစကြဝတေးမင်း

သည် ထိုအကျင့်ကို မကျင့်လေသောကြောင့် နန်းတက်၍ ခုနစ်ရက်မြောက်သော နေ့တွင် စကြာရတနာကြီးသည် ကွယ်လေသတည်း။

## စကြဝတေးမင်းတို့၏ကျင့်ဝတ်

ထိုအခါ သားတော်သည် ခမည်းတော်မင်းရသေ့ထံသို့ သွားရောက်၍ အကျိုးအကြောင်း လျှောက်ထားကာ စကြာရတနာကြီး ပြန်လည်ရရှိနိုင်မည့် နည်းလမ်းများကို ညွှန်ကြားတော်မူပါမည့်အကြောင်း ပန်ကြားလေသည်။ ဤတွင် ခမည်းတော်က ညွှန်ကြားလေသည်ကား–

"ချစ်သား သင်သည် ကွယ်ပျောက်သွားသည့် စကြာရတနာကြီးကို ပြန်လည်ရရှိလိုဘိမူကား–

သင်သည် တရားကိုသာလျှင် အမှီပြု၍၊

တရားကိုသာလျှင် အရိုအသေပြုလျက်၊

တရားကိုသာလျှင် မြတ်နိုးလျက်၊

တရားကိုသာလျှင် ပူဇော်လျက်၊

တရားကိုသာလျှင် တုပ်ဝပ်လျက်၊

တရားကိုသာလျှင် တံခွန်သဖွယ်ပြုလျက်၊

တရားကိုသာလျှင် မှန်ကင်းကဲ့သို့ပြုလျက်၊

တရားကိုသာလျှင် အကြီးအမှူးပြုလျက် အတွင်းသားမယား စသည်တို့၌ လည်းကောင်း၊ စစ်သည်ဗိုလ်ပါတို့၌ လည်းကောင်း၊ အရန်မင်းတို့၌ လည်းကောင်း၊ ပုဏ္ဏားနှင့် အမျိုးလေးပါးတို့၌ လည်းကောင်း၊ နိဂုံးဇနပုဒ်သားတို့၌ လည်းကောင်း၊ သမဏဗြာဟ္မဏတို့၌ လည်းကောင်း တရားနှင့်လျော်သော စောင့်ရှောက်မှု လုံခြုံမှုကို စီရင်လော့–

ချစ်သား၊ သင်၏နိုင်ငံ၌ အနိုင့်အထက် နှိပ်စက်မှုများ မဖြစ်စေလင့်။ ပစ္စည်းဥစ္စာ မရှိသူတို့အားလည်း ပစ္စည်းဥစ္စာကို ပေးကမ်းလော့။ ချစ်သား၊ သင်၏နိုင်ငံ၌ အကြင်သမဏဗြာဟ္မဏတို့သည် မာန်တက်ခြင်း၊ မေ့လျော့ခြင်းတို့မှ ရှောင်ကြဉ်ကုန်၏။ သည်းခံခြင်း၊ ကောင်းသောမွေ့လျော်ခြင်း၌ တည်ကုန်၏။ မိမိ၏စိတ်ကို ဆုံးမကြကုန်၏။ မိမိ၏စိတ်ကို ငြိမ်သက်စေကြကုန်၏။ မိမိ၏ စိတ်ကို ငြိမ်းအေးစေကြကုန်၏။ ထိုသမဏဗြာဟ္မဏတို့ထံ လျှောက်ပတ်သောအခါ ချဉ်းကပ်၍ ဤသို့မေးမြန်းလေလော့၊ စုံစမ်းလေလော့။–

'အရှင်ဘုရားတို့၊ အဘယ်သည် ကုသိုလ်ပါနည်း၊ အဘယ်သည် အကုသိုလ်ပါနည်း၊ အဘယ်သည် အပြစ်ရှိပါသနည်း၊ အဘယ်သည် အပြစ်မရှိပါသနည်း၊ အဘယ်ကို မှီဝဲအပ်ပါသနည်း၊ အဘယ်ကို မမှီဝဲ အပ်ပါသနည်း။ အကျွန်ုပ် ပြုအပ်သော အဘယ်တရားသည် ရှည်စွာသော ကာလပတ်လုံး အစီးအပွားမဲ့ခြင်းငှာ၊ ဆင်းရဲခြင်းငှာ ဖြစ်ပါသနည်း။ အကျွန်ုပ်ပြုအပ်သော အဘယ်မည်သောတရားသည် ရှည်စွာသော ကာလ ပတ်လုံး အစီးအပွား ဖြစ်ခြင်းငှာ၊ ချမ်းသာခြင်းငှာ ဖြစ်ပါသနည်း'ဟု မေးလျှောက်လော့၊ စုံစမ်းလော့။

"ချစ်သား၊ ထိုသမဏဗြာဟ္မဏတို့၏ စကားကို ကြားနာမှတ်သား၍ အကုသိုလ်တရားကို ကြဉ်ရှောင်လော့။ ကုသိုလ်တရားကို ဆောက်တည်၍ ကျင့်လော့။ ဤသည်ကား စကြဝတေးမင်းတို့၏ အပြစ်ကင်းသော ကိုယ်ကျင့် ဝတ်တည်း"

ခမည်းတော်က ဤသို့ညွှန်ကြားလိုက်၏။ သားတော်သည် ခမည်းတော် ညွှန်ကြားလိုက်သည့်အတိုင်း လိုက်နာပြုကျင့်လေသဖြင့် ပျောက်ကွယ်သွားသော ထိုစကြာရတနာကြီး ပြန်လည်ရောက်ရှိလာကြောင်းကို အကျယ်တဝင့် ဟောပြ ထားပေသည်။ ဤစကားရပ်များဖြင့် တရားကိုကျင့်သူ၊ တရားကို ချစ်မြတ်နိုးသူ၊ တရားကို ရိုသေလေးစားသူအား လက်ငင်းအကျိုး ခံစားရကြောင်းကိုလည်း စိတ်အာရုံထဲတွင် စွဲမြဲစွာ ထင်မြင်လာစေသည်။

## လူတို့သက်တမ်း ဆုတ်ယုတ်လာခြင်းများ

ဒဠှနေမိ စကြာမင်း ခေတ်သည် သက်တမ်းအနှစ်ရှစ်သောင်းခေတ် ဖြစ် လေသည်။ ထိုမင်းလက်ထက်၌ လူတို့အသက်လည်း ရှည်ကြ၊ အဆင်းလည်း လှကြကုန်သော်လည်း နောက်နောက်သော မင်းများ၏ လက်ထက်သို့ ရောက် လေသောအခါ မင်းနှင့်ပြည်သူတို့၏ အကျင့်စာရိတ္တကိုလိုက်၍ လူတို့၏သက် တမ်း တဖြည်းဖြည်း ယုတ်လျော့လာရာက နောက်ဆုံး ဆယ်နှစ်သက်တမ်းသို့ အထိ ဆုတ်ယုတ်လျော့ကျလာကြောင်းများကို ဤသုတ်၌ပင် ဆက်လက်၍ ဟောကြားသွားတော်မူ၏။ လူတို့သည် အဘယ်ကြောင့် အသက်တိုသွားကြကုန် သနည်း။ အဘယ်ကြောင့် အဆင်းမလှ ဖြစ်ကုန်သနည်းဆိုသော်-

ရဟန်းတို့၊ ထိုအခါ မင်းမျိုးဖြစ်သော၊ ဦးထိပ်၌ အဘိသိက် သွန်း ပြီးသော မင်းသည် ခိုးသူ ယောကျ်ားအား "အသင်သည် ဤဥစ္စာဖြင့်

ကိုယ်တိုင် အသက်လည်းမွေးလော့၊ သားမယားလည်း ကျွေးမွေးလော့။ အလုပ်အကိုင်တို့ကိုလည်း လုပ်ကိုင်လော့၊ မိဘကိုလည်း ကျွေးမွေးလော့၊ အထက်အထက်ဘုံသို့ ရောက်စေတတ်သော၊ အကျိုးရှိသော၊ ကောင်းမြတ်သော အကျိုးဆယ်ပါးကို ဖြစ်စေတတ်သော၊ ချမ်းသာသော၊ အကျိုးရှိသော၊ နတ်ပြည်၌ ဖြစ်စေတတ်သော အလှူကို သမဏဗြာဟ္မဏတို့၌ တည်စေလော့”ဟုဆို၍ ထိုယောကျ်ားအား ဥစ္စာကို ပေး၏။ ရဟန်းတို့၊ ထိုယောကျ်ားသည် “ကောင်းပါပြီ”ဟု မင်းအား ဝန်ခံ၏။

ဤသို့ မင်းက အရင်းအနှီးထုတ်ပေး၍ စီရင်ခြင်းအားဖြင့် ခိုးဆိုးတိုက်ခိုက်မှုများ ကင်းဝေးကာ အမှုအခင်းများ မရှိသလောက်ပင် ရှိခဲ့ရာမှ ကာလကြာမြင့်လာသောအခါ ပြည်သူတို့ဘက်မှ ကိုယ်ကျင့်တရား၊ အကျင့်စာရိတ္တများ စောင်ပျက်ပြားလာလေတော့သည်။ ပျက်ပြားရပုံကား ဤသို့တည်း။

‘ခိုးခြင်းကြောင့် အပြစ်ဒဏ် မကျခံရသည့်ပြင် အရင်းအနှီးများကိုပင် မင်းက ထုတ်ပေးသည်’ဟူ၍ သူခိုး ငါနိုး ခိုးကြသဖြင့် ခိုးမှုများ ထူထပ်ပေါများလာလေ၏။ နိုင်ငံ၌ ဆူပူမှုများ အဆမတန် ကြီးထွားလာလေ၏။ ထိုအခါ ပြည်သူတို့အား ‘အများချမ်းသာမှုကို ရှေးရှုအုပ်ချုပ်ပါမည်’ဟူ၍ ဝန်ခံကတိဖြင့် အုပ်ချုပ်နေသော ပြည်ပိုင်ရှင်ဘုရင်များ အနေဖြင့် တိုင်းပြည်အေးချမ်းသာယာအောင်၊ ငြိမ်ဝပ်ပိပြားအောင် ဆောင်ရွက်ရန် တာဝန်ရှိလာသည့်အလျောက် ‘ဤသို့ချည်းသာ ဥစ္စာပစ္စည်းများ ပေးပေးနေချေက ဆိုးခိုးတိုက်ခိုက်မှုများ များသည်ထက်သာ များလာဖွယ်ရာ ရှိ၏’ဟူ၍ ခိုးသူတို့အား ပစ္စည်းဥစ္စာ ထုတ်မပေးတော့ဘဲ ခိုးသူများအား ခေါင်းဖြတ်သတ်စေဟူ၍ တင်းကျပ်စွာ ပညတ်အုပ်ချုပ်ကြရလေ၏။

သတ်ဖြတ်မှုဆိုသည်မှာ လက်နက်အရင်းခံ ဖြစ်သဖြင့် ဤသို့ ခေါင်းဖြတ်၍ သတ်ဖြတ်စီရင်ရခြင်း ကိစ္စများ ပေါ်လာသည့်အချိန်မှစ၍ လူသတ်လက်နက်များ ဖြစ်ပေါ်လာသတည်း။ လူဆိုးလူမိုက်များကို တိုက်ခိုက်နှိမ်နင်းရန်အတွက် နိုင်ငံအုပ်ချုပ်သူတို့ကလည်း လက်နက်များကို အသုံးပြုလာကြရခြင်း၊ လူမိုက်၊ လူဆိုး၊ သူခိုး၊ ဓားပြများကလည်း လူကောင်းသူကောင်းတို့အား လည်းကောင်း၊ အုပ်ချုပ်သူတို့အား လည်းကောင်း တိုက်ခိုက်ရာတွင် လက်နက်ကို အသုံးပြုလာခြင်း၊ ဤသို့ လက်နက်ကို အပြိုင်အဆိုင် စွဲကိုင်အသုံးပြုကြခြင်းအားဖြင့် လက်နက်များ အရှိန်မြင့်မားစွာ ထွန်းကားလာသည်နှင့်အမျှ ဆိုးခိုးတိုက်ခိုက် သောင်းကျန်းမှုများလည်း များသည်ထက် များလာလေတော့သည်။ ထိုအကြောင်းကို စက္ကဝတ္တိသုတ်တွင် ရဟန်းတို့အား ဗုဒ္ဓက ဤသို့ဟောကြားတော်မူ၏။

ရဟန်းတို့၊ ဤသို့လျှင် ပစ္စည်းဥစ္စာ မရှိသူတို့အား ပစ္စည်းဥစ္စာကို မပေးခဲ့သော် ဆင်းရဲခြင်း များလာ၏။ ဆင်းရဲခြင်း များလာသော် သူ့ဥစ္စာကို ခိုးမှု၊ တိုက်မှု များလာ၏။ ခိုးမှုများလာသော် လက်နက်များ လာ၏။ လက်နက်များလာသော် သတ်မှုများလာ၏။ သတ်မှုများလာသော် သတ္တဝါတို့၏ အသက်လည်း ဆုတ်ယုတ်လာ၏။ ရုပ်အဆင်းလည်း ဆုတ်ယုတ်လာ၏။

ထိုခေတ်ရှိ လူတို့အနေဖြင့် လောဘ၊ ဒေါသ အားကြီးကာ လက်နက်အားကိုးဖြင့် အနိုင်ယူ လွှမ်းမိုးရန်အတွက် လက်နက်များကို အပြိုင်အဆိုင် ထုတ်လုပ်ကြပြီး ကြီးနိုင်ငယ်ညှဉ်း အချင်းချင်း သတ်ဖြတ်ကြခြင်းဟူသော ကိုယ်ကျင့်တရား ပျက်ကွက်မှုတို့ကြောင့် လူတို့၏သက်တမ်းမှာ အဘယ်မျှအထိ ဆုတ်ယုတ်လာသနည်းဆိုသော်–

အနှစ်ရှစ်သောင်းတမ်း မိဘမှ ဖွားမြင်သော သားသမီးသည် အနှစ်လေးသောင်းသာ အသက်ရှည်ကုန်တော့၏။ အနှစ်လေးသောင်းရှိ မိဘများမှ ဖွားမြင်သော သားသမီးများသည် အနှစ်တစ်သောင်းသာ အသက်ရှည်တော့၏။ အနှစ်တစ်သောင်းရှိ မိဘများမှ ဖွားမြင်သော သားသမီးများသည် အနှစ်ငါးထောင်သာ အသက်ရှည်ကုန်တော့၏။ ဟု ဗုဒ္ဓဟောတော်မူ၏။

ဤသို့ဖြစ်ရခြင်းမှာ ဘယ်သူမပြု မိမိမှုဆိုသောအတိုင်း မိမိတို့ကိုယ်တိုင်ပြုလုပ်ကြသော ကာယကံသောင်းကျန်းမှု၊ ဝစီကံ သောင်းကျန်းမှု၊ ဓနောကံသောင်းကျန်းမှုများအောက်တွင် ရှည်လျားသော အသက်များ ပျောက်ကုန်လေ၏။ သက်တမ်းများ တိုကုန်လေ၏။ ရှုမဝအောင် လှပသော ရုပ်အဆင်းတို့သည်လည်း ဆုတ်ယုတ်နွမ်းညှိုးကာ အရုပ်ဆိုးဘသို့ ရောက်ကုန်လေ၏။

**ဆယ်နှစ်သက်တမ်းရောက်သော်**

ကိုယ်ကျင့်တရား ပျက်ကွက်ကုန်သည့်အလျောက် လူတို့၏ အသက်သည် ခေါက်ချိုးထက်ဝက် တစ်တိတစ်တိနှင့် ကျဆင်းလာရာမှ ဆယ်နှစ်သက်တမ်းခေတ်သို့ အရောက်တွင် မည်သို့ဖြစ်လိမ့်မည်ဟူ၍ မြတ်စွာဘုရားသခင်က ကြိုတင်၍ ဗျာဒိတ်စကား မြွက်ကြားထားခဲ့သည်မှာ–

ရဟန်းတို့၊ ဤလူတို့၏ သားသမီးတို့သည် ဆယ်နှစ်အသက်ရှည်အံ့သော အခါမျိုးသည် ဖြစ်လတ္တံ့။ ထိုအခါ လူတို့သည် ဆယ်နှစ်သာ အသက်ရှည်ကုန်လတ်သော် ငါးနှစ်ရွယ် အမျိုးသမီးတို့သည် လက်ထပ်ထိမ်းမြားနိုင်သော အရွယ်ရောက်သူတို့ ဖြစ်ကုန်လတ္တံ့။

ရဟန်းတို့ ဆယ်နှစ်အသက်ရှည်ကုန်သော သူတို့၌ လူးထမင်းသည် စားဖွယ်တို့တွင် အမြတ်ဆုံးဖြစ်လတ္တံ့။ ရဟန်းတို့၊ ယခုအခါ စားဖွယ်တို့တွင် အသားရောသော သလေးထမင်းသည် အမြတ်ဆုံး ဖြစ်သကဲ့သို့၊ ဤအတူ ဆယ်နှစ်အသက်ရှည်သော သူတို့၌ လူးထမင်းသည် စားဖွယ်တို့တွင် အမြတ်ဆုံး ဖြစ်လတ္တံ့။

ရဟန်းတို့၊ ဆယ်နှစ်အသက်ရှည်သော သူတို့တွင် အမိ၌ ကောင်းစွာပြုသင့်သော ဝတ်ကို မပြုကြသူ၊ အဘ၌ ကောင်းစွာပြုသင့်သောဝတ်ကို မပြုကြသူ၊ သမဏတို့၌ ကောင်းစွာပြုသင့်သော ဝတ်ကို မပြုကြသူတို့သည် ပူဇော်ထိုက်သူတို့ ဖြစ်ကုန်လတ္တံ့၊ ချီးမွမ်းထိုက်သူတို့ ဖြစ်ကုန်လတ္တံ့။

**ဆယ်နှစ်သက်တမ်းမှ ပြန်တက်လာခြင်း**

အသက်ရှည်ခြင်း၊ အသက်တိုခြင်းနှင့် အဆင်းလှခြင်း၊ မလှခြင်းတို့သည် ကိုယ်ကျင့်တရား၌ တည်ကြောင်း၊ ကိုယ်ကျင့်တရားလျှင် အရင်းခံရှိကြောင်း ပြဆိုခဲ့ပြီး စကားရပ်များဖြင့် ထင်ရှားလေပြီ။ 'လှေမျောလျှင် လှေချင်းလိုက်' ဆိုဘိသကဲ့သို့ ကိုယ်ကျင့်တရား ပျက်မှုကြောင့် ဆုံးရှုံးသွားခဲ့သော လူတို့၏ သက်တမ်းကို ကိုယ်ကျင့်တရား ကောင်းမွန်ခြင်းဖြင့် ရင်းစားပြန်ကိုက်အောင်၊ မူလတည်ရှိခဲ့သော အနှစ်ရှစ်သောင်းတမ်းသို့ ပြန်လည်ရောက်ရှိအောင် ကိုယ်ကျင့်တရားဖြင့်ပင် ထူထောင်ကြပုံများကိုလည်း ဤစက္ကဝတ္တိသုတ်၌ ကျယ်ကျယ်ပြန့်ပြန့် ဟောကြားထားလေသည်။

ကိုယ်ကျင့်တရားဖြင့် အနှစ်ရှစ်သောင်းခေတ်သို့ ပြန်လည်ရောက်ရှိအောင် အဘယ်သို့ ထူထောင်သနည်းဆိုသော် ဆယ်နှစ်သက်တမ်း၌ လူဖြစ်လာသူတို့သည် အလွန်ရိုင်းကုန်၏။ ကြမ်းကြုတ်ကုန်၏။ ရက်စက်ကုန်၏။ အမိကိုလည်း အမိမှန်းမသိ။ အဘကိုလည်း အဘမှန်းမသိ။ ဆရာသမားကိုလည်း ဆရာသမားမှန်းမသိ။ ရိုသေရမည့်သူ မရှိ။ ကိုင်းရှိုင်းရမည့်သူ မရှိ။ ပူဇော်ရမည့်သူ မရှိ။ ဤမျှအထိ ရိုင်းစိုင်းကုန်ကြလေ၏။

အချုပ်အားဖြင့် ထိုခေတ်အတွင်း လူဖြစ်လာသူတို့ကား လူလူချင်း တွေ့နေပါလျက်၊ မြင်နေရပါလျက်၊ လူဟူ၍မထင်။ 'သားကောင်'ဟူ၍ အထင်ရောက်ကာ ဦးရာလူက သတ်ဖြတ်ကြကုန်လေ၏။ ဤသို့ လူလူချင်း သွေးသံရဲရဲနှင့် လူသတ်ပွဲကြီး ဖြစ်နေရကား သေဘေးမှ ကြောက်သူတို့သည် လွတ်ရာကျွတ်ရာ

ချောက်ကြီးမြောင်ကြား၊ ဥမင်လိုဏ်ခေါင်းကြီးများထဲ ဝင်ရောက်ပုန်းအောင်းနေကြရကုန်၏။

ထိုသတ္တန္တရကပ် လူသတ်ပွဲကြီးမှ သေကံမရောက် သက်မပျောက်ဘဲ ကံကောင်းထောက်မ၍ လွတ်မြောက်လာသူတို့အချင်းချင်း ပြန်လည်တွေ့ဆုံကြရသောအခါ အံ့အားကြီးသင့်ကာ ဤသို့မြည်တမ်းကုန်သတည်း။

"အချင်းတို့၊ သတ္တဝါဆိုတာ ရှိပါသေးသည်တကား။ ငါအသက်ရှင်သကဲ့သို့ပင် အသင်တို့လည်း အသက်ရှင်ကုန်သေးသည်တကား"ဟူ၍ လှိုက်လှဲစွာ ဝေ့ရမ်းပွေ့ဖက်၊ ဝမ်းပန်းတသာ နှုတ်ဆက်ကြကုန်လေ၏။ ထိုသည့်ဖြစ်လတ္တံ့သော အနာဂတ်ဖြစ်ရပ်ကို–

ရဟန်းတို့၊ ထိုသို့ အချင်းချင်းသတ်၍ သတ္တန္တရကပ်ကြီး ဆိုက်လေသောအခါ ကျန်ရှိကုန်သော ထိုလူသား သတ္တဝါတို့အား ဤသို့အကြံဖြစ်လတ္တံ့။ 'ငါတို့သည် အကုသိုလ် လိုက်စား မိုက်မှားကြလေသောကြောင့် ဤသို့သဘောရှိသော ဆွေမျိုးတို့၏ ပျက်စီးခြင်း စသော ဘေးဒုက္ခအမျိုးမျိုးသို့ ရောက်ကြကုန်၏။ ငါတို့သည် ကုသိုလ်ပြုကြရမူ ကောင်းလေစွ။ အဘယ်ကုသိုလ်ကို ငါတို့ပြုကြရပါမည်နည်း။ အသက်သတ်ခြင်းမှ ရှောင်ကြဉ်ရမူ ကောင်းလေစွ။ ကုသိုလ်တရားကို မွားများအားထုတ် ကျင့်ကြံရမူ ကောင်းလေစွ'ဟု ဤသို့အကြံဖြစ်လာကြကုန်လတ္တံ့။ ထိုသူတို့သည် အသက်သတ်ခြင်းမှ ရှောင်ကြဉ်ကုန်လတ္တံ့။ ကုသိုလ်တို့ကို ဆောက်တည်၍ ကျင့်ကုန်လတ္တံ့။ ထိုသူတို့သည် ကုသိုလ်တရားတို့ကို ဆောက်တည်၍ ကျင့်ကြခြင်းကြောင့် အသက်အားဖြင့်လည်း တိုးပွားကုန်လတ္တံ့။ အဆင်းအားဖြင့်လည်း တိုးပွားကုန်လတ္တံ့။ အသက်အားဖြင့်လည်း တိုးပွားကုန်သော၊ အဆင်းအားဖြင့်လည်း တိုးပွားကုန်သော ထိုသူတို့၏ သားသမီးတို့သည် အသက်နှစ်ဆယ် ရှည်ကုန်လတ္တံ့။

ရဟန်းတို့၊ ထိုအခါ သတ္တဝါတို့အား ဤသို့ အကြံဖြစ်လတ္တံ့။ 'ငါတို့သည် ကုသိုလ်တရားကို ဆောက်တည်ခြင်းကြောင့် အသက်လည်း တိုးပွားကုန်၏။ အဆင်းလည်း တိုးပွားကုန်၏။ ငါတို့သည် ကုသိုလ်ကို ထိုထက်ပို၍ ပြုကြရမူ ကောင်းလေစွ။ အဘယ်ကုသိုလ်ကို ပြုကြရပါကုန်အံ့နည်း။ ငါတို့သည် သူတစ်ပါးတို့မပေးသော ဥစ္စာကို ခိုးယူခြင်းမှ ရှောင်ကြဉ်ကြရမူ၊ ကာမဂုဏ်တို့၌ မှားယွင်းစွာ ကျင့်ခြင်းမှ ရှောင်ကြဉ်ကြရမူ၊ မဟုတ်မမှန် ပြောခြင်းမှ ရှောင်ကြဉ်ကြရမူ၊ ကုန်းချောခြင်းမှ

ရှောင်ကြဉ်ကြရမူ၊ ကြမ်းတမ်းသော စကားကို ပြောဆိုခြင်းမှ ရှောင်ကြဉ်ကြရမူ၊ ပြိန်ဖျင်းသော စကားကို ပြောဆိုခြင်းမှ ရှောင်ကြဉ်ကြရမူ၊ သူတစ်ပါးစည်းစိမ်၌ ရှေးရှုကြံခြင်းကို စွန့်ကြရမူ၊ ပျက်စီးခြင်းကို စွန့်ကြရမူ၊ မှားယွင်းသော အယူကို စွန့်ကြရမူ၊ မတရား တပ်မက်ခြင်း အဓမ္မရာဂ အလွန်အကြူး တပ်မက်ခြင်း ဝိသမလောဘ မှားယွင်းသော အကျင့် မိစ္ဆာဓမ္မဟူသော တရားသုံးမျိုးတို့ကို စွန့်ကြရမူ ကောင်းလေစွ။ ငါတို့သည် အမိအဘ သမဏဗြာဟ္မဏတို့၌ ကောင်းစွာပြုသင့်သော ဝတ်ကို ပြုကြရမူ ကောင်းလေစွ။ အမျိုးတို့၌ ကြီးသောသူတို့ကို ရိုသေမှုပြုကြရမူ ကောင်းလေစွ'ဟု အကြံဖြစ်လတ္တံ့။ ထိုသူတို့သည် အမိအဘ သမဏဗြာဟ္မဏ ကြီးသောသူတို့ကို ရိုသေတုပ်ကွမှု ပြုသူတို့ ဖြစ်ကုန်လတ္တံ့။ ဤသို့ဆိုအပ်ပြီးသော ကုသိုလ်တို့ကို ဆောက်တည်၍ ပြုကုန်လတ္တံ့။

ရဟန်းတို့၊ ထိုသူတို့သည် ကုသိုလ်တရားတို့ကို ဆောက်တည်၍ ကျင့်ခြင်းကြောင့် အသက်၊ အဆင်းအားဖြင့်လည်း တိုးပွားကုန်လတ္တံ့။ ထိုအနှစ် နှစ်ဆယ်ရှိသော သူတို့မှ ဖွားသော သားသမီးတို့သည် အသက် လေးဆယ် ရှည်ကုန်လတ္တံ့။ ထို အသက် လေးဆယ်ရှိသူတို့မှ ဖွားသော သားသမီးတို့သည် အနှစ် ရှစ်ဆယ် အသက်ရှည်ကုန်လတ္တံ့.'

ဗုဒ္ဓသည် ဤသို့ စသည်ဖြင့် ကိုယ်ကျင့်တရား ကောင်းမွန်လာသောအခါ လူတို့၏သက်တမ်းမှာ တဖြည်းဖြည်း တိုးပွားကာ အနှစ်ရှစ်သောင်းတမ်းအထိ တိုးပွားလာကြောင်းများကို ဤစက္ကဝတ္တိသုတ်၌ပင် ဆက်ဟောကြားထားခဲ့ပေသည်။

ထိုအနှစ်ရှစ်သောင်း သက်တမ်းမှသည် အဆင့်ဆင့် တိုးပွား၍ မည်ရွေ့မည်မျှဟု မရေတွက်နိုင်တော့သော၊ အလွန်ရှည်လျားသော **အသင်္ချေယျ** သက်တမ်းအထိ တိုးတက်သွားပြီး ၎င်းမှတစ်ဖန် ပြန်ဆုတ်၍ **အနှစ်ရှစ်သောင်းတမ်းသို့** ပြန်ရောက်လာသောအခါ ဤဇမ္ဗူဒီပ်ကျွန်း၌ ကေတုမတီမည်သော မင်းနေပြည်ကြီးတွင် သင်္ခမည်သော စကြဝတေးမင်း ဖြစ်လာလတ္တံ့။ ထိုမင်း၏ လက်ထက်တွင် အရိမေတ္တေယျ အမည်ရှိသော ရှင်တော်မြတ်ဘုရား ထင်ရှားစွာ ပွင့်ထွန်းတော် မူလတ္တံ့။

ထိုအခါ သင်္ခစကြာမင်းကြီးသည် လှူဘောင်ကို ငြီးငွေ့သဖြင့် အရိမေတ္တေယျ ဘုရားသခင်၏ အထံတော်၌ ရဟန်းပြုလျက် နိဗ္ဗာန်ဝင်လတ္တံ့.ဟူ၍ သင်္ခစကြာမင်းအား ဗျာဒိတ်စကား မြွက်ကြားတော်မူသည်။

စပယ်ဦးစာပေ

ဤစက္ကဝတ္တိသုတ်၏ လိုရင်းအနှစ်ချုပ်မှာ–

သံသရာ ရှည်စေတတ်သော ဝဋ္ဋဂါမိ ကုသိုလ်မျိုးနှင့် သံသရာပြတ်စေတတ်သော ဝိဝဋ္ဋဂါမိ ကုသိုလ်မျိုး၊ ဤကုသိုလ် နှစ်မျိုးတို့၏ အကျိုးပေး ခြားနားချက်ကို ကွက်ကွက်ကွင်းကွင်း ဟောကြားပြဆိုထားခြင်းပင်တည်း။

ဒဠှနေမိမင်း သမိုင်းကြောင်း၊ သခ်စကြာမင်း အထိတိုင်အောင် သမိုင်းကြောင်းတွင် ပါရှိသည့် ကုသိုလ်မျိုးကား သံသရာရှည်စေတတ်သော ဝဋ္ဋဂါမိ ကုသိုလ်မျိုးသာ ဖြစ်လေသည်။ လူ့ဘဝတွင် အထွတ်အထိပ် အရောက်ဆုံးသော စကြာမင်းကြီးအဖြစ် ရောက်ရှိရခြင်းမှာ ဝဋ္ဋဂါမိကုသိုလ်မျိုးကြောင့် ဖြစ်၏။

သို့သော် ထိုဝဋ္ဋဂါမိ ကုသိုလ်မျိုးကား သံသရာဝဋ်ဇာတ်ကို အမြစ်ပြတ်အောင် ဖြတ်နိုင်စွမ်းမရှိ။ သံသရာကြီးကို ရှည်သည်ထက်ရှည်အောင်၊ သံသရာနယ်ကြီး ကျယ်သည်ထက် ကျယ်အောင် ချဲ့ထွင်တတ်သောကြောင့် ထိုကုသိုလ်မျိုးကို မလိုလားကြမူ၍၊ အားမကျကြမူ၍ သံသရာဝဋ်ဒုက္ခကြီးကို တိခနဲ ယတိပြတ် ဖြတ်တောက်နိုင်ရန် ဝိဝဋ္ဋဂါမိကုသိုလ်မျိုးကိုသာ ကြိုးစားကြ၊ အားထုတ်ကြဟူ၍–

> ရဟန်းတို့၊ သင်တို့သည် မိမိသာလျှင် ကျွန်းကြီးသဖွယ် မှီခိုအားထားရာ ရှိသည်ဖြစ်၍၊ မိမိသာလျှင် ကိုးကွယ်ရာရှိသည်ဖြစ်၍၊ မိမိမှတစ်ပါး အခြားကိုးကွယ်ရာ မရှိသည်ဖြစ်၍ နေကြကုန်လော့။ တရားသာလျှင် ကိုးကွယ်ရာရှိသည်ဖြစ်၍ တရားမှတစ်ပါး အခြားကိုးကွယ်ရာ မရှိသည် ဖြစ်၍ နေကြကုန်လော့။

ဤဒေသနာတော်သည် ဤသုတ်၏ အနှစ်ချုပ်ဖြစ်၏။ လူတို့အား ရစ်ပတ်နှောင်ဖွဲ့ထားအပ်သော သံသရာလွန်ကြိုးကား လွန်စွာပင် ခိုင်မာတောင့်တင်းလှ၏။ ထိုသံသရာနှောင်ကြိုးကြီး ပြတ်အောင် အခြားသူက ဖြတ်မပေးနိုင်၊ ကိုယ့်ကြိုးကို ကိုယ်တိုင်ဖြတ်မှ ပြတ်မည်ဖြစ်သောကြောင့် ပြတ်အောင်ဖြတ်ကြလော့။ ရန်းကန်ကြကုန်လော့ဟူ၍ ရဟန်းတို့အား တိုက်တွန်းတော်မူပြီးနောက် ပြတ်အောင် ဖြတ်တောက်နိုင်သည့် နည်းနာနိဿယများကိုပါ ဤသို့ပေးတော်မူ၏။

> ၁။ ရဟန်းတို့၊ ဤသာသနာ၌ ရဟန်းသည် ပြင်းစွာအားထုတ်လျက်၊ ဆင်ခြင်လျက်၊ သတိရှိလျက်၊ ရုပ်အပေါင်းကိုယ်၌ 'ရုပ်အပေါင်းကိုယ်' ဟု အဖန်ဖန်ရှုပွားလျက်၊ လောက၌ လိုချင်တပ်မက်ခြင်းနှင့် နှလုံးမသာယာခြင်းကို ပယ်ဖျောက်၍ နေ၏။ (ကာယာနုပဿနာ)

၂။ ရဟန်းတို့၊ ဤသာသနာ၌ ရဟန်းသည် ခံစားမှုဝေဒနာတို့၌ ခံစားမှုဝေဒနာဟု အဖန်ဖန်ရှုပွားရ၍နေ၏။ (ဝေဒနာ နုပဿနာ)

၃။ ရဟန်းတို့၊ ဤသာသနာ၌ ရဟန်းသည် စိတ်၌ 'စိတ် စိတ်'ဟု အဖန်ဖန်ရှုလျက် လောက၌ လိုချင်တပ်မက်ခြင်းနှင့် နှလုံးမသာယာခြင်းကို ပယ်ဖျောက်၍နေ၏။ (စိတ္တာနုပဿနာ)

၄။ ရဟန်းတို့၊ ဤသာသနာ၌ ရဟန်းသည် သဘောတရားတို့၌ 'သဘောတရား သဘောတရား'ဟု အဖန်ဖန်ရှုလျက် လောက၌ လိုချင်တပ်မက်ခြင်းနှင့် နှလုံးမသာယာခြင်းကို ပယ်ဖျောက်၍ နေ၏။ (ဓမ္မာနုပဿနာ)

'ရဟန်းတို့၊ ဤသို့လျှင် ရဟန်းသည် မိမိသာလျှင် ကျွန်းကြီးသဖွယ် မှီရာရှိသည်ဖြစ်၍၊ မိမိသည်သာလျှင် ကိုးကွယ်ရာရှိသည်ဖြစ်၍၊ မိမိမှတစ်ပါး အခြားကိုးကွယ်ရာ မရှိသည်ဖြစ်၍နေ၏။ တရားသာလျှင် ကျွန်းကြီးသဖွယ် မှီရာရှိသည်ဖြစ်၍၊ မိမိမှတစ်ပါး အခြားကိုးကွယ်ရာ မရှိသည်ဖြစ်၍၊ တရားသာလျှင် ကိုးကွယ်ရာရှိသည်ဖြစ်၍၊ တရားမှတစ်ပါး ကိုးကွယ်ရာမရှိသည်ဖြစ်၍ နေ၏။

နိဂုံးကို သတိပဋ္ဌာန် ဒေသနာတော်ဖြင့် ချုပ်တော်မူ၏။ ကုသိုလ်ဆိုသည်မှာ အပြစ်မရှိ၊ ကောင်းသောလက္ခဏာကို ဆောင်သောကြောင့် ထိုကုသိုလ်၏ အကျိုးအာနိသင်ကို ခံစားရာတွင်–

ဝဋ္ဋဂါမိကုသိုလ်မျိုး၏ အကျိုးကို ခံစားလိုသလော။

ဝိဝဋ္ဋဂါမိ ကုသိုလ်မျိုး၏ အကျိုးကို ခံစားလိုသလော။

ဝဋ္ဋဂါမိကုသိုလ်မျိုးကား လူတို့တွင် အထွတ်ဆုံး အမြတ်ဆုံးဖြစ်သော စကြာမင်းကြီးဖြစ်သည်အထိ အကျိုးပေးနိုင်၏။ ဝိဝဋ္ဋဂါမိကုသိုလ်မျိုးကား နိဗ္ဗာန်သို့ ထုတ်ချင်းပေါက် ရောက်ရသည်အထိ အကျိုးပေးနိုင်၏။ မိမိတို့ကြိုက်နှစ်သက်ရာ ကုသိုလ်မျိုးကို ကြိုးစားကြရန်သာ လိုအပ်ပါသတည်း။



## တမလွန်လောက၊ ပေးအမျှ
## ရ၏၊မရ၏၊ မည်သို့နည်း။

ပြဿနာ = အမျှပေးဝေခြင်း
ပန်ကြားသူ = ဝေဿဝဏ်နတ်မင်းကြီး

ကုသိုလ်ကောင်းမှုများ ပြုကြသောအခါ ကွယ်လွန်သူ၊ တမလွန်လောကသို့ ပြောင်းသွားသူများအား ရည်စူး၍ 'အမျှ–အမျှ–အမျှ' ဟု မိမိပြုသော ကုသိုလ်ကောင်းမှု၏ အဖို့ကို အမျှပေးဝေလေ့ ရှိကြ၏။

ယင်းအကြောင်းနှင့် ပတ်သက်၍ ဤလူ့ဘဝအဖြစ်မှ ကွယ်လွန်သေဆုံးသွားသူသည် အဘယ်ဘဝသို့ ရောက်သွားမှန်းလည်းမသိ၊ ဘာဖြစ်နေမှန်းလည်း မသိလေဘဲ ထိုသူကို ရည်စူး၍ ဤဘဝတွင် ရှိနေသူ၊ ကျန်ရစ်သူများက အမျှပေးဝေခြင်းမှာ ဖြစ်နိုင်စရာ ရှိပါမည်လား။ ပေးဝေလိုက်သော ကုသိုလ်အဖို့ကို ဘဝပြောင်းသွားသူကကော ရနိုင်ပါမည်လားဟူ၍ ဆွေးနွေးတတ်ကြ၏။

ပေးဝေလိုက်သည့် ကောင်းမှုကုသိုလ်အဖို့ကို တမလွန်ဘဝသို့ ရောက်နေသူက 'ရ၊မရ'နှင့်ပတ်သက်သော ပြဿနာအတွက် နန္ဒမာတာမည်သော အမျိုးသမီးနှင့် ဝေဿဝဏ်နတ်မင်းကြီးတို့၏ ဇာတ်ကြောင်းမှ အထောက်အထားများ ရယူနိုင်၏။ ထိုဇာတ်ကြောင်းကိုကြည့်လျှင် အမျှဝေ၍ ရ၊မရ ပြဿနာမှာ လွယ်လွယ်နှင့် ရှင်းသွားမည်ဖြစ်၏။ နန္ဒမာတာမှာ ဤလူ့ဘဝတွင် အသက်ထင်ရှား ရှိနေသူဖြစ်ပြီး ဝေဿဝဏ်နတ်မင်းကြီးသည်ကား ဤဘဝမှ သီးခြားပရလောကမှ နတ်မင်းကြီး ဖြစ်လေသည်။ သူတို့၏ ဖြစ်ရပ်ဇာတ်ကြောင်းကား မည်သို့ပါနည်း။

### နန္ဒမာတာ၏ သမိုင်းကြောင်း

အင်္ဂုတ္တရနိကာယ်၊ သတ္တကနိပါတ်၊ မဟာယညဝဂ်၌ နန္ဒမာတာသုတ်

ဟူ၍ တစ်သုတ်ရှိ၏။ ထိုသုတ်ကား နန္ဒမာတာ ဆိုသည်မှာ မည်သို့သော အမျိုးသမီးဖြစ်ကြောင်း၊ ဘာသာရေးနှင့် ပတ်သက်၍ မည်သည့်ဘာသာဝင်ဖြစ်၍ သူကိုးကွယ်သော ဘာသာ၌ စူးစူးစိုက်စိုက် အဘယ်မျှ ယုံကြည်လေးစားသူ ဖြစ်ကြောင်းကို အကျယ်တဝင့် ဖွင့်ဆိုဟောကြားထားသော သုတ် ဖြစ်လေသည်။

နန္ဒမာတာသည် ဝေဠုကဏ္ဍကီမြို့သူ ဖြစ်၏။ ရာဇဂြိုဟ်ပြည်တွင်းမှ ထင်ရှားသော မြို့တစ်မြို့ဖြစ်၏။ မြို့၏ပတ်လည်တစ်ဝိုက်တွင် တံတိုင်းကြီးသဖွယ် ဝါးပင်များကိုစိုက်၍ ခြံစည်းရိုးခတ်ထားသောကြောင့် ဝေဠုကဏ္ဍကီမြို့ဟု တွင်ခြင်း ဖြစ်၏။ (ကဏ္ဍက သဒ္ဒါမှာ ဆူး၊ ထက်သောအချွန်ဟူသော အနက်ကို ဟောသောကြောင့် မြို့ကို တံတိုင်းခတ်ထားသော ဝါးရုံပင်များမှာ ကြခတ်ဝါးပင်များ ဖြစ်ဖွယ်ရှိ၏။)

ဤနန္ဒမာတာသုတ်၏ အစကို ဆဋ္ဌမြန်မာပြန် ၅၆ဝ ၌ အောက်ပါအတိုင်း တွေ့နိုင်၏၊ တွေ့ရ၏။

အကျွန်ုပ်သည် ဤသို့ကြားနာခဲ့ရပါသည်။

အခါတစ်ပါး၌ အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလာန်တို့သည် များစွာသော ရဟန်းအပေါင်းနှင့်အတူ ဒက္ခိဏာဂိရိ ဇနပုဒ်၌ ဒေသစာရီ လှည့်လည်တော်မူကုန်၏။ ထိုအခါ ဝေဠုကဏ္ဍကီမြို့နေ နန္ဒမာတာ ဥပါသိကာမသည် ညဉ့်၏ မိုးသောက်အခါ၌ နံနက်စောစောထ၍ ပါရာယနသုတ်ကို အသံဖြင့်ရွတ်ဆို၏။

ထိုအခါ ဝေဿဝဏ်နတ်မင်းကြီးသည် တစ်စုံတစ်ခုသော ပြုဖွယ်ကိစ္စဖြင့် မြောက်အရပ်မှ တောင်အရပ်သို့ သွား၏။ ဝေဿဝဏ်နတ်မင်းကြီးသည် နန္ဒမာတာ ဥပါသိကာမ၏ အသံဖြင့်ရွတ်ဆိုသော ပါရာယနသုတ်ကို ကြား၍ တရားစကား ဆုံးသည်တိုင်အောင် ဆိုင်းငံ့လျက် ရပ်၏။

ဤသို့ အစချီလျက် ပါရာယနသုတ်ကို ပြီးဆုံးသည်အထိ ဘာသာပြန်ဆိုထားပေသည်။ အထက်စကားရပ်တွင် ပါရာယနသုတ်ကို အကြောင်းပြု၍ နန္ဒမာတာနှင့် ဝေဿဝဏ်နတ်မင်းကြီးတို့၏ နီးနွယ်ဆက်စပ်ပုံကို ရိပ်စားမိနိုင်၏။ တစ်နည်းဆိုသော် ပါရာယနသုတ်သည် နန္ဒမာတာနှင့် ဝေဿဝဏ်နတ်မင်းကြီးတို့ ဆုံစည်းမိရန်အတွက် ဆက်သွယ်ပေးလိုက်သောသုတ် ဟူ၍လည်း မှတ်နိုင်ပေသည်။

## ပါရာယနသုတ်နှင့် အရှင်မဟာသီလဝံသ

အရှင်မဟာသီလဝံသသည် မြန်မာစကားပြေလောကတွင် အစောဆုံး၊

ရှေး အကျဆုံးမှာ အသိအမှတ်ပြုထားကြသော ပါရာယန ဝတ္ထုတော်ကြီးကို ပြုစု တော်မူ၏။ ထိုဝတ္ထုထဲတွင် နန္ဒမာတာ၏ အခန်းတစ်ခန်း ပါလာသည်။ စင်စစ် ဆိုသော် ပါရာယနသုတ်မှာ ဗာဝရီအမည်ရှိသော တောနေရသေ့ကြီး၏ တပည့် ပေါင်း တစ်သောင်းခြောက်ထောင်နှင့် တစ်ဆယ့်ခြောက်ဦးတို့အား ဟောကြား တော်မူသော သုတ်သာ ဖြစ်ပေ၏။ နန္ဒမာတာအား ဟောကြားသောသုတ် မဟုတ်ပေ။

သို့ပါလျက် အရှင်သီလဝံသ၏ ပါရာယန ဝတ္ထုထဲတွင် နန္ဒမာတာ ပါဝင် လာခြင်းမှာ ပါရာယနသုတ်တော်ကို နှုတ်တက်အာဂုံတွတ်တွတ် နန္ဒမာတာ ရွတ်ဆိုသောကြောင့် ဖြစ်၏။ ပါရာယန ဘာသာပြန်ဝတ္ထု ရေးပုံရေးဟန်သည် မြန်မာစကားပြေ အရေးအသားတွင် ရှေးအကျဆုံး၊ အစောဆုံး အရေးအသား ဖြစ်ခြင်းကြောင့် ရှေးခေတ်က မည်သို့ရေးခဲ့ပုံ၊ စကားလုံးကို မည်သို့ရွေးပုံ၊ ဝါကျ မည်သို့ တည်ဆောက်ပုံများကို ယနေ့ခေတ်လူတို့ သိစကောင်းသည် ထင်ပါသည်။

ဤတွင် နန္ဒမာတာနှင့် ဝေဿဝဏ်နတ်မင်းကြီးတို့၏ သမိုင်းကြောင်းကို ဆက်၍ရေးရသော် နန္ဒမာတာအကြောင်းကို သရုပ်ပေါ်လွင်အောင် တခမ်းတနား ဖွင့်ဆိုရမည် ဖြစ်၏။ အရှင်မဟာသီလဝံသ၏ ပါရာယနဝတ္ထု၌လည်း နန္ဒမာတာ ၏ အကြောင်း တခမ်းတနားပင် ပါလာ၏။

ထို့ကြောင့် မြန်မာစကားပြေလောကတွင် နေဝန်းကြီး လဝန်းကြီးများ အလား ရှေးဦးစွာ ပေါ်ထွန်းလာခဲ့သော မြန်မာစကားပြေ အရေးအသားကို ဂုဏ်ပြုသောအားဖြင့်လည်းကောင်း၊ မြန်မာစာကို လေ့လာလိုက်စားကြသူများအား လည်း ရှေးဦးပေါ် မြန်မာစကားပြေ အရေးအသားကို ဗဟုသုတအဖြစ် တွေ့သိ စေလိုသော အားဖြင့်လည်းကောင်း၊ ပါရာယနဝတ္ထုတွင် ပါရှိသည့် အရှင်မဟာ သီလဝံသ၏ ပါရာယနဝတ္ထုမှ နန္ဒမာတာကိုသည်လည်း ညသတ်ကအစ တစ်လုံး တစ်ပါဒမျှ ပြင်ဆင်ခြင်း မပြုလေဘဲ အရှင်မဟာသီလဝံသ၏ ရေးဟန်အတိုင်း ဖော်ပြလိုက်ပါသတည်း။

## အရှင်မဟာသီလဝံသ၏ ပါရာယနဝတ္ထုမှ နန္ဒမာတာ

ရာဇဂြိုဟ်ပြည်၏ တောင်မျက်နှာအရပ်၌ ဝါးရုံအတိ မြို့ပြင်၌ ရှိသော ကြောင့် ဝေဠုကဏ္ဍကီမြို့တွင်သော မြို့ကြီးတစ်ခု ရှိ၏။ ထိုမြို့၌ ပြာသာဒ်ဘုံ ခုနစ်ဆင့်မြင့်သောအိမ်ဖြင့် စည်းစိမ်ကြီးလှ သူဌေးမတစ်ယောက်ကို သားယောကျာ်း

နန္ဒလုလင် ရှိသည်ဖြစ်၍ နန္ဒမာတာဟု တွင်၏။ နန္ဒမာတာ မိန်းမမြတ်၏ အာနုဘော်ကျေးဇူးကား ဤသို့တည်း။

၁။ စင်ကြယ်သန့်ရှင်းစွာသော အာစာရသီတင်း အကျင့်နှင့်လည်း ပြည့်စုံစွာ၏။

၂။ အခါခပ်သိမ်းလျှင် နေလွဲညစာ မစား၊ ရှောင်ကြဉ်နိုင်သော အကျင့်လည်း ရှိ၏။

၃။ မြတ်စွာဘုရား ဟောတော်မူသော တရားဟူသမျှ ပိဋကတ်သုံးပုံကို အလေ့အကျက် ဆောင်ရွက်နိုင်၏။

၄။ အကျွတ်သုံးတန်ရလျက် ဈာန်သမာပတ် ချမ်းသာနှင့်တကွ ပြည့်စုံသော အနာဂါမ်၊ အရိယာ မိန်းမမြတ် အဖြစ်ဖြင့်လည်း ထင်ရှား၏။

၅။ ကြွယ်ဝချမ်းသာသော သူဌေးသမီးဖြစ်၍ တစ်ထောင်နှစ်ရာငါးဆယ်သော ယသေးစပါးနီ ကျီကြီးများတို့၏ သခင်လည်း ဖြစ်၏။

ထိုကျီတို့ကား အသက်ရှိသရွေ့ သုံးဆောင်လှည့်သော်လည်း ယူရာမထင် အတိုင်းပင် ပြည့်တုံတုံ ပြည့်ပြန်၏။ နန္ဒမာတာ သူဌေးမ၏ စပါးကျီကဲ့သို့ အယူမထင်၊ ပြည့်သည်နှင်နှင် ဖြစ်ပါချင်၏ဟု လူသူတကာတို့ ဆုတောင်းပတ္ထနာ တောင့်တရာလည်း ဖြစ်သတည်း။

ထိုမျှသော ကျီများတို့ကား ဝေဿဝဏ် မဟာရာဇ်နတ်မင်းကြီးလျှင် မြတ်နိုးရတနာ သဒ္ဓါယုံကြည်စွာ၍ ပေးသတည်း။ ပေးသောအကြောင်းကား ဤသို့တည်း။

တစ်ရံရောအခါ နန္ဒမာတာ မိန်းမမြတ်ကား ကောင်းသော၊ ခြိုးခြံစွာ စောင့်စည်းသော၊ ဘုံခုနစ်ဆင့်မြင့်သော ပြာသာဒ်မှ ညဉ့်ဦးယံ၊ သန်းခေါင်ယံ နှစ်ပါးလွန်၍ မိုးသောက်ယံ၌ 'ဈာန်သမာပတ် ချမ်းသာဖြင့်တည်း မွေ့လျော်ရာ အံ့လော၊ သဗ္ဗညု ဟောတော်မူသော တရားတော်ကိုတည်း သရဇ္ဈာယ်ခြင်းဖြင့် မွေ့လျော်ရာအံ့လော'ဟု ကြံလတ်သော်တည်း။

ဈာန်ချမ်းသာထက် တရားတော်ကို သရဇ္ဈာယ်၍ နှစ်လိုဝမ်းမြောက်ခြင်း ချမ်းသာကို ခံစားသည်လျှင် မြတ်၏ဟု ဆောက်တည်၍ ရာဇဂြိုဟ်ပြည်တွင်း ပါသာဏ စေတီယမည်သောကျောင်း၌ ရသေ့တစ်ကျိပ်ခြောက်ယောက် မေးသော ပြဿနာကို ဖြေတော်မူ၍ ရသေ့တစ်သောင်းခြောက်ထောင် တစ်ကျိပ်ခုနစ်ယောက် တို့နှင့်တကွ တစ်ဆယ့်လေးကုဋေသော ပရိသတ်တို့ကို ချွတ်တော်မူလျက် ဟော သော ဂါထာ နှစ်ရာငါးဆယ်မျှလောက်သော 'ပါရာယနတရား'ဟု အမည်တွင်

သော သုတ္တန်တရားကို နန္ဒမာတာ မိန်းမမြတ်သည် သာယာစွာသောအသံဖြင့် သရဇ္ဈာယ်၍ တရားအရသာကို ခံစားလျက် မွေ့လျော်၏။

ထိုသို့ ပါရာယနတရားကို လေသာနန်းတံခါးဖွင့်၍ သရဇ္ဈာယ်ကြိုက်လျှင် ဝေဿဝဏ မဟာရာဇ်နတ်မင်းကြီးကား မိမိနတ်ပြည်ကသည် ကုဋေတစ်သောင်းမျှ လောက်သော ဘီလူးခြံရံလျက် သန္တာကိုင်မှန်ကင်းက တံခွန်ကြီးကို ရှေ့ဆောင် စေလျက် အထောင်မကသော မင်းနေရာ၊ သန္တာပလ္လင်အတိပြည့်သော တစ်ဆယ့် နှစ်ယူဇနာမျှလောက် အလျားအနံကျယ်သော၊ သတို့သမီးတို့သာ ရွက်ဆောင်ရ သော၊ နာရီဝါဟန မည်သော ယာဉ်သာကြီးကိုစီး၍ 'ဘုရားသခင်အား ပြဿနာ မေးအံ့'ဟု ကောင်းကင်ပြင်တိုင် လာလတ်သောကြိုက် လည်းကောင်း နန္ဒမာတာ မိန်းမမြတ်၏ ပြာသာဒ်ဆီသို့ ရောက်လာသောအခါ တရားသရဇ္ဈာယ်သံကို ကြားလေ၏။

ဝေဿဝဏ မဟာရာဇ်နတ်မင်းကြီးကား စီးသောယာဉ်ကို တန့်စေ၍ တရားအဆုံးထက်တိုင်စေလျှင် နာသတည်း။ တရားနာဆုံးပြီးသောအခါ၌ 'ရွှေပန်း တရာစည်သဖွယ်'ကဲ့သို့သော (ရွှေပန်တျာစည်) လည်တော်၏ တင့်တယ်ခြင်းကို ဖော်၍ တင့်တယ်စေလျက် "နှမကြီး၊ အံ့ဖွယ်ဖြစ်စွ"ဟု ကောင်းချီးပေး၏။

> ဘုရားမြတ်စွာ၊ ပါသာဏ စေတီယမည်သော ကျောင်းတော်၌ နေတော်မူလျက် တစ်သောင်းခြောက်ထောင်တစ်ကျိပ်ခုနစ်ယောက်သော ပါရာယနိက ရသေ့ပုဏ္ဏားတို့ကို တိုင်တည်၍ ဟောတော်မူသည့်နေ့မှ ယခုနေ့ကား အထူးမရှိ၊ အတူတည်း။ နှစ်တုံးပြတ်ဖြတ်သော ရွှေတုံးကဲ့ သို့ နှမကြီးရွတ်သော ဂါထာသည် ဘုရားမြတ်စွာ ဟောတော်မူသော ဂါထာလည်းကောင်းတည်း။ နှမကြီးလည်း အမှတ်မြဲစွာ၏။ နှမကြီး၏ ဟောသံလည်း နားသာစွာ၏။ ငါလည်း သာဓုခေါ်ပါ၏။

ဟု ကောင်းချီးပေးလင့်၏။ ဝေဿဝဏ နတ်မင်းကြီး 'သာဓု သာဓု'ဟု ကောင်းချီးပေးသံကို နန္ဒမာတာ မိန်းမမြတ် ကြားလတ်၍ "မျက်နှာရောင်ဆင်း တင့်တယ်စွာသော အရှင်သူမြတ်၊ ငါ့တရားတော်ကို သာဓုခေါ်သသူမြတ်ကား အသူနည်းသြ။ 'တံခါးခုနစ်တန့်ဖြင့် မြဲမြံစွာသော အစောင့်အရှောက်ရှိလျက် ဘုံပြာသာဒ်ဖျားထက်မှာ သာဓုခေါ်လာလတ်သသူကား အဘယ်သို့သော နဂါး မင်း၊ ဂဠုန်မင်း၊ နတ်မင်း၊ ဗြဟ္မာမင်းတို့လျှင် ဖြစ်ဘိသနည်းသြ"ဟု သံတော် ပေးလျက် အကျွတ်သုံးတန် ဈာန်သမာပတ် ရပြီးသော မိန်းမမြတ်သည် လေသာ နန်း တံခါးဝသို့ ထွက်၍မေး၏။

နတ်မင်းကြီးလည်း "နှမကြီး၊ ငါ ဝေဿဝဏ နတ်မင်းဖြစ်သော မောင်ကြီးတည်း"ဟု မည်ရှည် ထုတ်ပေ၏။ နတ်မင်းကြီးကား သောတာပန်မျှသာဖြစ်၍ အနာဂါမ်ဖြစ်သော နန္ဒမာတာ တရားရသည် လွန်ပေသောကြောင့် နှမကြီးဟူသတည်း။ အနှစ်ကိုးသန်းမျှလောက် အသက်ရှည်စွာ ပြီးသည်ဖြစ်သောကြောင့် တစ်မှုကား 'ငါ မောင်ကြီး'ဟု ဆိုသတည်း။

နတ်မင်းကြီးအမည်ပေးသော အသံကိုကြားလေပြီးမှ နန္ဒမာတာလည်း "အရှင်နတ်မင်းကြီး သာဓုခေါ်တော်မူသည် အလွန်မြတ်လှစွာ၏။ ဤသို့ သာဓုခေါ်တော်မူသောကြောင့်လျှင် ငါရွတ်သောတရားသည်ကား ဧည့်သည်အား လက်ဆောင်တော် ဖြစ်လင့်ထိုက်၏"ဟု တရားလက်ဆောင် ဆက်သည်မှု၍ အလှူအဖို့ကို ဝေလင့်၏။

နတ်မင်းကြီးလည်း ဤသို့ဆို၏။ "နှမကြီး၊ ငါ့ကိုအလှူဖို့ဝေသော ဧည့်သည်လက်ဆောင်ကိုလည်း ခံ၏။ နက်ဖြန်မိုးသောက်လတ်သော် သာရိပုတ္တရာ၊ မောဂ္ဂလာန်အရှင်တို့ တပည့်သားတော်အရံ သံဃာနှင့်တကွ ဘုရားမြတ်စွာကိုယ်စားတော် စေတော်မူ၍ ဇေတဝန်ကျောင်းတော်ကသည် ဒေသစာရီ လှည့်လည်ကြလေ၍ ရောက်လတ္တံ့သတည်း။ မိုးသောက်ပြီး အရှင်တို့ကို ဆွမ်းပစ္စည်းလုပ်ကျွေးသော်လည်း ဧည့်ခံလက်ဆောင်မည်ပါစေလသေး"ဟု အလှူအဖို့ကိုခွင့်တောင်းပြီးမှ "နှမကြီး၊ ပါရာယနတရားကို သရဇ္ဈာယ်သည်တည်း တရားဟော မည်စေ။ ငါလည်း တရားနာ မည်ပါစေ။ တရားဟောအား တရားနာမည်သည် ပူဇော်ပြီးဖြစ်သောကြောင့် နှမကြီး တရားဟောအား ပူဇော်ရသော ကျင့်ဝတ်အလျောက်လျှင် ပူဇော်ပါ၏"ဟု သလေးစပါးနီ အတိပြည့်သော၊ တစ်ထောင့်ငါးရာ ငါးဆယ်မျှသော စပါးကျီကြီးတို့ကို ဆောက်နှင်းခဲ့၏။ 'နှမကြီး အသက်သ၍လျှင် ဤမျှလောက်သော ကျီတို့သည် ယူရာမထင်၊ အပြည့်ပင် ဖြစ်စေသော'ဟု နတ်မင်းကြီး အဓိဋ္ဌာန်ဖြင့် ဆောက်တည်ခဲ့သတည်း။

ဤသို့လျှင်တည်း နန္ဒမာတာမိန်းမမြတ်ကား ဝေဿဝဏ မဟာရာဇ် နတ်မင်းကြီးတို့ပင်သော်လည်း မြတ်နိုးရတနာ ပူဇော်သကာ ပြုထိုက်သော ဘုရားသခင် သာသနာတော်၌ မိန်းမမြတ်ပင်ကိုတည်း။ ထိုအခါ ဝါဆိုလပြည့်နေ့၌ ဇေတဝန်ကျောင်းတော်မှ ဘုရားမြတ်စွာ ဒေသစာရီ လှည့်အံ့သောငှာ ထွက်၍ သွားတော်မူလေသည်ကို ကောသလမင်း၊ အနာထပိဏ်သူဌေး စသူတို့ မတောင်းပန်ဝံ့ကြ၍ ပြည့်ဝဟု အမည်ရှိသော အနာထပိဏ်သူဌေး ကျွန်မသည် "အရှင်ဘုရား၊ ပြန်တော်မူ၍ ကျောင်းတော်တွင် နေကာမူ အကျွန် သရဏဂုံ ဆောက်

တည်ပါအံ့"ဟု ဘုရားသခင်ကို တောင်းပန်၍ ကျောင်းတော်သို့ ဝင်ပြန်သော အခါတည်း။

ဤသို့ "သွားအံ့ဟု ရည်တော်မူပြီးသည်ဖြစ်၍ ငါ့ကိုယ်စား ဒေသစာရီ ကြွလေကုန်"ဟု သာရိပုတ္တရာ၊ မောဂ္ဂလာန် အရှင်တို့ကို စေတော်မူသတည်း။ အရှင်နှစ်ပါးလည်း အရံသံဃာနှင့်တကွ ဝေဠုကဏ္ဍကီမြို့သို့ မိုးသောက်လျှင် ရောက်သတည်း။ နန္ဒမာတာမိန်းမမြတ်လည်း ဝေဿဝဏနတ်မင်းကြီးဆိုသည် ကြားပြီးသောကြောင့် ဆွမ်းပန်းစီရင်၍ အရှင်တို့ကို ပင့်စေလေ၍ လုပ်ကျွေး၏။

ဆွမ်းဘုဉ်းပေးပြီးသော် နန္ဒမာတာမိန်းမမြတ်ကို အရှင်သာရိပုတ္တရာ မေးတော်မူ၏။ "အသူလျှင် သံဃာ လာအံ့သော အကြောင်းကို ဆိုပေ၍ ဒကာမ သိသနည်း"ဟု မေး၏။ နန္ဒမာတာ မိန်းမမြတ်လည်း "အကျွန် ပါရာယနတရားကို သရဇ္ဈာယ်စဉ် ဝေဿဝဏနတ်မင်း ဆုံးအောင်နာ၍ ကောင်းချီးပေးပြီးမှ အရှင် သံဃာတို့ လာလတ္တံ့သော အကြောင်းကို ဆိုပေခဲ့သတည်း"ဟု နတ်မင်းနှင့်တကွ ဆိုကြသော စကားကို စေ့စုံစွာ ပြန်ပေ၏။

(၁) သာရိပုတ္တရာအရှင်လည်း 'တန်ခိုးကြီးသော နတ်မင်းနှင့်တကွ မျက်မှောက်ကက်ာ ဖူးတွေ့ရ၍ နန္ဒမာတာ နှုတ်ဆက်ရသောဟူသည် အံ့ဖွယ်သရဲ ဖြစ်စွတကား'ဟု ကောင်းချီးပေး၏။ နန္ဒမာတာလည်း အကြိမ်ကြိမ်လျှင် အံ့ဖွယ်သရဲ ဖြစ်လောက်သော မိမိကျေးဇူးကို ဆိုပေ၏။

(၂) နန္ဒဟု အမည်ရှိသော အကျွန့်သားတစ်ယောက်သာတည်း။ ထိုသို့သော သားကို တစ်စုံတစ်ခုသော သေပျောက်လောက်သော အဖြစ်ကြီး၌ ယူငင်၍ သတ်ညှစ်လေ၏။ အကျွန်၏နှလုံးသား တစိုးတစိ ဖောက်ပြန်ခြင်းမျှ မကြည်သော မဖြစ်ဘဲလျှင် ကြပတော့ပင် ဆည်းတားနိုင်သတည်း။

(၃) တစ်ဦးတုံ ကြမ္မာအလျောက် ဖိတ်စဉ်လေသော အကျွန့်လင်သည် ဘီလူးဖြစ်သတည်း။ တစ်ရံတစ်ရံ လာလတ်၍ လူကအသွင်ဖြင့် မြင်မြဲတိုင်းပင် ပြလှာ၏။ ထိုပြလှာသည်ကို မြင်သော်လည်း အကျွန် နှလုံးတွန့်တို မရှိသလျှင်ကတည်း။

(၄) တစ်ကြိမ်တုံ ငယ်သော အရွယ်ကလျှင် မိဘပေးစားသော လင်၏ အိမ်တွင် ရှိလှာ၏။ ထိုရှိလှာသော အခါကစ၍ လင်မှတစ်ပါးကို နှလုံးမျှ လွန်ကျူး၍ ကျင့်ဖူးလေသည် မရှိ။

(၅) အကြင်တစ်ဦးတုံ အကြင်သော အခါကစ၍ သာသနာတွင် 'ဘုရား ဒါယိကာမ'ဟု သရဏဂုံဆောက်တည်၍ ဝန်ခံစမူ၏။ ထိုသော အခါကစ၍ ပဉ္စသီတင်း ပျက်ဖူးသည်မရှိ။

(၆) အကြင်တစ်ဦးတုံ့ အကြင်အကြင်မျှလောက်သော ရှာန်သမာပတ် ချမ်းသာကို မြတ်သောပုဂ္ဂိုလ်တို့ ခံ၏။ အကြွန်လည်း ထိုအတိုင်းလျှင် အလိုအလျောက် ရှာန်ချမ်းသာကို ခံစားရ၏။

(၇) ရှာန်သမာပတ် ချမ်းသာမှ တစ်ပါးလည်း လောကုတ္တရာအားဖြင့် ဩရုံဘာဂိယသံယောဇဉ် ငါးပါးကို အကြွန်၌ မဖျောက်နိုင်ဘဲ ကြွင်းသည် မရှိ။

ဤသို့ ခုနစ်ကြိမ်စေ့အောင်လျှင် မိမိကိုယ်၌ အမြဲဖြစ်သော အကျင့်ကို နန္ဒမာတာ မိန်းမမြတ်သည် ပြန်ပေသည့်အတိုင်းလျှင် သာရိပုတ္တရာအရှင်ကား အံ့ဖွယ်သရဲဖြစ်လျက် ကောင်းချီးပေးသည် နှင်နှင်တည်း။ ဤသို့ဆိုခဲ့ပြီးသော ကျေးဇူးအကျင့်၊ သီတင်းအာစာရတို့သည်ကား နန္ဒမာတာ မိန်းမမြတ်၏ ကျေးဇူး အာနုဘော် နှင်နှင်တည်း။

အရှင်မဟာသီလဝံသ၏ မြန်မာပြန်စကားပြေ နန္ဒမာတာ၏ သမိုင်းကြောင်းကား ဤမျှဖြင့် ပြီးလေ၏။

ကွယ်လွန်သူတို့အား ကောင်းမှုပြု၍ အမျှပေးဝေလျှင် ပေးဝေလိုက်သည့် အမှုကို ဘဝတစ်ပါး ပြောင်းသွားလေသူတို့ ရ၏၊ မရ၏ ပြဿနာနှင့် ပတ်သက်၍ ဤနန္ဒမာတာကို သက်သေသာဓကအဖြစ် ထုတ်ပြခြင်း ဖြစ်၏။

နိဂုံးချုပ်သော် လူ့ဘုံ၊ နတ်ဘုံ ခွဲခြား၍ သိရာ၏။ သုံးဆယ့်တစ်ဘုံတွင် ကာမသုဂတိ ခုနစ်ဘုံပါ၏။ ယင်း ကာမသုဂတိ (၇) ဘုံတွင် မနုဿဘုံ (လူ့ဘုံ) ပါ၏။ နန္ဒမာတာသည် အဘယ်သူနည်း။ ဝေဿဝဏ် နတ်မင်းကြီးသည် အဘယ်ဘုံသူနည်းဟု အထူးမေးရန် မလိုပြီ။

ဤမနုဿဘုံမှ အခြားတစ်ပါးသော ဘုံများကို သိမ်းကျုံး၍ 'ပရလောက' ဟု ခေါ်ဝေါ်စမှတ် ပြုကြကုန်၏။ စတုမဟာရာဇ် နတ်ဘုံသည် ပရလောက၌ အကျုံးဝင်လေ၏။

ဤမနုဿလူ့ဘုံသူ နန္ဒမာတာက ပရလောကမှ ဝေဿဝဏ်နတ်မင်းကြီး အား သူ၏ကောင်းမှုအဖို့ဘာဂကို အမျှဝေသည်။

လူ့ဘုံက ပေးဝေလိုက်သော အမျှကို ပရလောကမှ ဝေဿဝဏ်နတ်မင်း ကြီးက ရရှိလိုက်သည်သာမက နောင်ကို အလှူအတန်းများ ပြုလေက ငါ့အား အမျှဝေပါဟု နတ်မင်းကြီးက တောင်းဆိုသည်။

ကွယ်လွန်သွားရှာသူတို့အား 'အမျှအတန်း ပေးဝေလျှင် ရ၏၊ မရ၏' ဟူသော ပြဿနာမှာ ဤဖြစ်ရပ်အား သိသာထင်ရှားသတည်း။



## အကျိုးနှစ်ပါး၊ ပွားအပ်ငြား
## တရားတစ်ခု၊ အဘယ်နည်း။

ပြဿနာ = တစ်ခုသောတရား
မေးလျှောက်သူ = ပုဏ္ဏားတစ်ဦး

ဗုဒ္ဓသည် ပြဿနာပေါင်း သောင်းခြောက်ထောင်တို့၏ တည်ရာဖြစ်တော်မူ၏။ လူရှင်ရဟန်း နတ်ဗြဟ္မာ သိကြား ပုဂ္ဂိုလ်အသီးသီးတို့သည် မိမိတို့ဉာဏ်ဖြင့် မဝေဖန် မဆုံးဖြတ်နိုင်သည့် ပြဿနာအရပ်ရပ်တို့ကို မြတ်ဗုဒ္ဓထံတော်သို့ ယူဆောင်လာကြကုန်၏။

ယခုလည်း ပုဏ္ဏားတစ်ယောက်သည် ပြဿနာမေးလျှောက်ရန် ဗုဒ္ဓ၏ ရှေ့တော်မှောက်သို့ ရောက်ရှိနေ၏။ ထိုပုဏ္ဏားက မေးလျှောက်သည်ကား-

"အရှင်ဂေါတမ၊ မျက်မှောက်အကျိုး၊ တမလွန်အကျိုး၊ အကျိုးနှစ်မျိုးစလုံးကို ယူ၍တည်သော၊ ပွားများအပ်, ကြိမ်ဖန်များစွာ ပြုအပ်သော တစ်ခုသော တရားသည် ရှိပါသလော"ဟု မေးလေသည်။

"ပုဏ္ဏား၊ ရှိ၏"

"ရှိလျှင် ထိုတစ်ခုတည်းသော တရားကား အဘယ်ပါနည်း။"

"ပုဏ္ဏား၊ မျက်မှောက်အကျိုး၊ တမလွန်အကျိုး၊ အကျိုးနှစ်မျိုးစလုံးကို ယူ၍တည်သော၊ ပွားများအပ်, ကြိမ်ဖန်များစွာ ပြုအပ်သော တစ်ခုသော တရားဟူသည် မမေ့မလျော့မှု အပ္ပမာဒ တရားပင်တည်း။

ဤသို့မိန့်တော်မူလိုက်သောအခါ ပုဏ္ဏားသည် စဉ်းစဉ်းစားစား အာရုံစိုက်စိုက်နှင့် နားစွင့်နေ၏။ သူ့နားတွင်းသို့ ဗုဒ္ဓစကားတော် ဝင်လာသည်ကား-

"ပုဏ္ဏား၊ ကုန်းမြေ၌ ကျက်စားသွားလာကုန်သော သတ္တဝါဟူသမျှတို့၏ ခြေရာအားလုံးတို့သည် ဆင်ခြေရာ၌ ပေါင်းဆုံခြင်းသို့ ရောက်ကုန်သကဲ့သို့

ဆင်ခြေရာကို ကြီးမားသည်၏ အဖြစ်ကြောင့် ထိုသတ္တဝါတို့၏ ခြေရာတို့ထက် မြတ်၏ဟု ဆိုအပ်သကဲ့သို့ ပုဏ္ဏား၊ ထို့အတူသာလျှင် မျက်မှောက်အကျိုး၊ တမလွန်အကျိုး အကျိုးနှစ်မျိုးစလုံးကို ယူ၍ တည်သော၊ ပွားများအပ်, ကြိမ်ဖန်များစွာ ပြုအပ်သော တစ်ခုသော တရားဟူသည် မမေ့မလျော့မှု အပ္ပမာဒ တရားပင်တည်း”

ထိုပုဏ္ဏားသည် ဗုဒ္ဓ၏စကားတော်ကို အာရုံစူးစိုက်စွာ နာလင့်နေ၏။ ဗုဒ္ဓလည်း လွယ်လင့်တကူ နားလည်စေရန်အလို့ငှာ ပုဏ္ဏားအား ဥပမာ အမျိုးမျိုးတို့ဖြင့် ဆက်၍ဟောတော်မူ၏။

၁။ ပုဏ္ဏား၊ ဥပမာတစ်မျိုးသော်ကား အထွတ်တပ်သော အိမ်၏ အခြင်ဟူသမျှတို့သည် အထွတ်သို့ ရောက်ကုန်၏။ အထွတ်သို့ညွတ်ကုန်၏၊ အထွတ်လျှင် စုဝေးရာ ရှိကုန်သကဲ့သို့ အထွတ်ကို ထိုအခြင်တို့ထက် မြတ်၏ဟူ၍ ဆိုအပ်သကဲ့သို့ ပုဏ္ဏား၊ ထို့အတူသာလျှင် မျက်မှောက်အကျိုး၊ တမလွန်အကျိုး အကျိုးနှစ်မျိုးစလုံးကိုယူ၍ တည်သော၊ ပွားများအပ်, အဖန်ဖန်ပြုအပ်သော တစ်ခုသော တရားဟူသည် မမေ့မလျော့မှု အပ္ပမာဒတရားပင်တည်း။

၂။ ပုဏ္ဏား၊ ဖြူဆံမြက်ရိတ် ယောကျ်ားသည် ဖြူဆံမြက်ကိုရိတ်၍ အဖျား၌ ကိုင်ပြီးလျှင် အောက်သို့ခါသကဲ့သို့၊ ဘေးနှစ်ဖက်သို့ ခါသကဲ့သို့၊ တစ်စုံတစ်ခုဖြင့် ရိုက်နှက်သကဲ့သို့၊ ဤအတူသာလျှင်–

၃။ ပုဏ္ဏား၊ သရက်သီးခိုင်၏ အသီးဟူသမျှသည် အညှာဖွဲ့ကုန်၊ အညှာသို့ အစဉ်လိုက်ကုန်သကဲ့သို့၊ ပုဏ္ဏား ဤအတူသာလျှင်–

၄။ ပုဏ္ဏား၊ မင်းငယ်အားလုံးတို့သည် စကြဝတေးမင်း၏ နောက်လိုက်ဖြစ်ကုန်သကဲ့သို့၊ ထိုမင်းတို့ထက် စကြဝတေးမင်းကို မြတ်၏ဟု ဆိုအပ်သကဲ့သို့ ပုဏ္ဏား၊ ထို့အတူသာလျှင်–

၅။ ပုဏ္ဏား၊ နက္ခတ်တာရာတို့၏ အရောင်ဟူသမျှသည် လရောင်၏ နှစ်ရာ့ငါးဆယ်ခြောက်စိတ်၏ တစ်စိတ်ကိုမျှ မမီသကဲ့သို့ လရောင်ကို ထိုအရောင်တို့ထက် မြတ်၏ဟု ဆိုအပ်သကဲ့သို့ ပုဏ္ဏား၊ ထို့အတူသာလျှင် မျက်မှောက်အကျိုး၊ တမလွန်အကျိုး အကျိုးနှစ်ပါးစလုံးကို ယူ၍တည်သော၊ ပွားများအပ်, အဖန်ဖန်ပြုအပ်သော တစ်ခုသော တရားဟူသည် မမေ့မလျော့မှု အပ္ပမာဒတရားပင်တည်း။

၄ ပုဏ္ဏား၊ ဤသည်လျှင် မျက်မှောက်အကျိုး၊ တမလွန်အကျိုး အကျိုးနှစ်ပါး

စလုံးကို ယူ၍တည်သော၊ ပွားများအပ်, အဖန်ဖန် ပြုအပ်သော တစ်ခုသော တရားပင်တည်းဟု မိန့်တော်မူ၏။

ထိုအခါ ပုဏ္ဏားသည် ဒူးနှစ်ဖက်ကိုထောက် လက်အုပ်ကို မြှောက်ချီလျက် "အရှင်ဂေါတမ၊ အလွန်နှစ်သက်ဖွယ် ရှိပါ၏။ အရှင်ဂေါတမ၊ အလွန်နှစ်သက်ဖွယ် ရှိပါ၏"ဟု လျှောက်ထားပြီးလျှင် ဗုဒ္ဓထံ၌ ရာသက်ပန် ဥပါသကာအဖြစ် ခံယူလေသတည်း။

(သဏ္ဍနိပါတ်၊ အင်္ဂုတ္တိုရ်၊ ဓမ္မိကဝဂ်၊ အပ္ပမာဒသုတ်)



## နတ်သမီးအား၊ ထိုနတ်သား
## ကြောက်အား ဘာကြောင့် ပိုသနည်း။

**ပြဿနာ = နတ်သမီးများ**
**မေးလျှောက်သူ = နတ်သားတစ်ပါး**

"မြတ်စွာဘုရား၊ တပည့်တော်၏ ခိုကိုးရာ ဖြစ်တော်မူပါ။ တပည့်တော်၏ ပုန်းအောင်းရာ၊ မှီခိုရာ ဖြစ်တော်မူပါဘုရား။ တပည့်တော်အား ကယ်တော်မူပါဘုရား။ တပည့်တော်ကို ဖမ်းစားရန် ဘီလူးမ၊ သရဲမတွေ တပည့်တော်နောက်သို့ လိုက်လာကုန်ပါပြီ။ ကယ်တော်မူပါဘုရား၊ ကယ်တော်မူပါဘုရား"

ကြောက်ရွံ့လန့်ထိတ် စိတ်ထားမမှန် အားကိုးရာ ရှာသောအသံဖြင့် အလျင်တဆော ဗုဒ္ဓထံတော်သို့ ပြေးလာပြီး လျှောက်ထားသူကား လူမဟုတ်ချေ။ နတ်သားတစ်ပါး ဖြစ်လေသည်။ ဗုဒ္ဓ၏ရှေ့တော်မှောက် ရောက်သော်လည်း ရွံ့ကြောက်စိတ်ကား မပြေသေး။ နောက်သို့ပြန်လှည့်၍ ကြည့်ကာ ကြည့်ကာ အားကိုးသော မျက်နှာနှင့် ဗုဒ္ဓ၏ရှေ့သို့ မသိမသာ တရွေ့ရွေ့ ရွေ့နေ၏။

နတ်သားဖြစ်ပါလျက် တစ္ဆေ သရဲကို သလောက်တောင် ကြောက်ရသလော။ ထိုဘီလူးမ၊ သရဲမ ဆိုသူတို့ကား မည်ကဲ့သို့သောသူများ ဖြစ်လေသနည်း။ စင်စစ်ဆိုသော် ထိုဘီလူးမ၊ သရဲမဆိုသော်လည်း ထိုနတ်သား၏ အထင်သာ ဖြစ်၏။ တကယ့်ဘီလူးသရဲမများ မဟုတ်။ အလွန်ချော အလွန်လှသည့် မိုးနတ်သူဇာ နတ်ကညာများသာ ဖြစ်လေသည်။

လှမ်းကြည့်လျှင် လိုက်လာသော နတ်သမီးများကို မြင်ရ၏။ ထိုနတ်သားကား နတ်သမီးများ သူ့နောက်သို့ လိုက်လာသည်ကိုမြင်လေ လန့်လေ ဖြစ်နေ၏။ နတ်သမီးများ ဗုဒ္ဓ၏ရှေ့တော်မှောက်သို့ ရောက်ရှိလာကြပြီး ရိုသေစွာ မြတ်စွာ

ဘုရားအား ရှိခိုးကန်တော့ပြီးနောက် နတ်သမီးများ၏ မျက်လုံးများသည် ထိုနတ်သားဆီသို့ ရောက်သွားကြလေကုန်၏။

ဤဖြစ်ရပ်ကား အလွန်ဆန်း၏။ သဂါထာဝဂ္ဂ သံယုတ်၌လာ၏။ ထိုနတ်သားသည် အဘယ်ကြောင့် လန့်နေသနည်း။ နတ်သမီးကိုပင် သူ့စိတ်က အဘယ့်ကြောင့် ဘီလူး၊ သရဲမတွေဟု ထင်လေသနည်း။ ထိုဖြစ်ရပ်ကား ဤသို့ဖြစ်သတည်း။

* * *

လူသူမနီးသော တောကြီးမြိုင်ချောင် အလယ်ခေါင်လောက်တွင် သစ်ခက်မိုး ကျောင်းကလေးတစ်ဆောင် ရှိလေ၏။ ထိုကျောင်းကလေးအတွင်း၌ ရဟန်းတစ်ပါး တရားအားထုတ်နေ၏။ ဥပမိရုပ်သန့်၏။ အသားဝါ၏၊ အရွယ်လည်းနုသေး၏။ အသက်အားဖြင့် နှစ်ဆယ့်ငါးနှစ်ခန့် မှန်းနိုင်၏။ ယောဂီပုဂ္ဂိုလ်ပဥ္စင်းပျိုကလေးသာတည်း။

သူကား ဘုရားသားတော် ပီသလှ၏။ ဗုဒ္ဓထံတော်မှ ကမ္မဋ္ဌာန်းတရားကို ခံယူခဲ့ပြီး မဆုတ်မနစ်သောလုံ့လဖြင့် နိဗ္ဗာန်ကို ဦးတည်၍ ကျင့်နေ၏။ ဝိပဿနာတရားကို အားကူပါးကူ အားထုတ်ရင်း ဒုက္ခလက္ခဏာကို ကောင်းစွာထင်လာလေသည်။ သူ၏စက္ခုအာရုံတွင် မြင်မြင်သမျှ ပုပုရွရွတွေကို ဒုက္ခကောင်တွေ၊ ဒုက္ခတုံးတွေ ဒုက္ခခဲကြီးတွေဟု ထင်လာသည်။

'ငါ နိဗ္ဗာန်နှင့် နီးပြီထင်လေရဲ့'ဟူ၍ သဲကြီးမဲကြီး ဖွဲကောင်းကောင်းနှင့် အားထုတ်လေ၏။ 'ငါ သည်ဘဝမှာပင် ခန္ဓာကင်းပျောက်ကာ နိဗ္ဗာန်သို့ မျက်မှောက် ပြုနိုင်ရမည်။ နိဗ္ဗာန်ကို မျက်မှောက်မပြုသမျှ အရိုးကြေကြေ၊ အရေစုတ်စုတ်၊ ငါ နောက်မဆုတ်။ နိဗ္ဗာန်ကို မျက်မှောက်မပြုရမချင်း ဤနေရာမှ ငါမထ' ဟူ၍ အစာအပြတ်ပြတ် ရေအငတ်ငတ်နှင့် ကျင့်လေသတည်း။

ထိုပဥ္စင်းပျို ယောဂီကိုယ်တော်ကလေး၏ မလျှော့သော လုံ့လဖြင့် တရားအားထုတ်နေချိန်တွင် တာဝတိံသာနတ်ပြည်၌ ၁၂ ယူဇနာရှိသော ရွှေဗိမာန်ကြီးမှာ စိုးပိုင်သူ နတ်သားမရှိသဖြင့် ခြောက်သွေ့နေ၏။ ထိုဗိမာန်ကြီး၏ ဝဲယာနတ်ဘုံဆောင်များတွင်မူ နတ်သမီးတွေ အပြည့်ရှိနေ၏။ ထိုနတ်သမီးတို့ကား ရွှေဗိမာန်ကြီးသို့ ရောက်လာမည့် နတ်သားအား ခစားဖျော်ဖြေကြမည့် နတ်ကညာတွေဖြစ်၏။ ဤရွှေဗိမာန်ကြီးသို့ ရောက်ရှိလာမည့် နတ်သားကိုသာ ပေါ်လာနိုးနိုးဖြင့် မျှော်ကိုးနေကြကုန်၏။ ကုသိုလ်ကံပေါ်လျှင် တစ်နေ့နေ့မှာ

ငါတို့ ပျော်ကြရမှာပဲဟူ၍ ဖူးစာရှင် နတ်မောင်မောင်ကို ဘုံဆောင်ထက်က စောင့်နေကြကုန်၏။

ထိုတော့ရစ်ပျော် ကမ္မဋ္ဌာန်းကိုယ်တော်ကလေးကား ဝီရိယလွန်ကဲကာ တစ်ဖက်စွန်း ရောက်နေ၏။ 'ဒွေ မေ ဘိက္ခဝေ အန္တာ ပဗ္ဗဇိတေန န သေဝိတဗ္ဗာ' အစွန်းနှစ်ဖက်သို့ မရောက်စေဘဲ မဇ္ဈိမပဋိပဒါ လမ်းအတိုင်း ကျင့်ရမည်ဟူသော ဗုဒ္ဓ၏ ညွှန်ကြားချက်ဝါဒကို သတိမထားမိလေ။

သည်ခန္ဓာကိုယ်ကောင်ကြီး ရှိနေ၍သာ ငါ ဆင်းရဲနေရသည်။ သည်ခန္ဓာကိုယ်ကောင်ကြီး မရှိလျှင် ငါ ဆင်းရဲမည် မဟုတ်။ သည်ခန္ဓာကိုယ်ကောင်ကြီး အသက်ရှည်ရေးအတွက် နေ့စဉ် အစာကျွေးနေသော် သင်း အသက်ရှည်နေမည်။ ငါ့မှာ အရေးကြီးနေသည်ကား နိဗ္ဗာန်။ နိဗ္ဗာန်ကိုရမှ အေးမည်၊ စိတ်ချရမည်။ ဒုက္ခခပ်သိမ်း ကင်းငြိမ်းသွားမည်။

ဤသို့ အတွေးရောက်ပြီး ထိုကိုယ်တော်ကလေးသည် ခန္ဓာကိုယ်၏ အလိုသို့ မလိုက်လေဘဲ အစာကိုဖြတ်ပြီး အငတ်ခံ၍ တရားအားထုတ်လေ၏။ သစ်ပင်များသည်ပင် အစာတည်းဟူသော ရေကို မမှီဝဲရချေက အားပြတ်ပြီး တဖြည်းဖြည်း သွေ့ခြောက်ကာ နောက်ဆုံးတွင် အသက်ပါ ပျောက်ရလေ၏။ လူ၊ ကျွဲ၊ နွား စသော သတ္တဝါ ဆိုသည်မှာလည်း အာဟာရအစားအစာကိုသာ မှီတွယ်လျက် အသက်ရှင်နေကြရကုန်၏။ အစာငတ်က အသက်ပင် ပြတ်လေ၏။

ယောဂီပဋ္ဌင်းပျို၏ မိဋ္ဌာန်ချက်သည် အသက်ကိုပင် ရန်ရှာမည့် အခြေသို့ ရောက်လာ၏။ တင်ပျဉ်ခွေကို မဖြုတ်လေဘဲ အားထုတ်လာခဲ့ရာမှ လေးငါးရက်လောက်အကြာတွင် အသွေးအသား ခေါင်းပါးခြောက်ကပ်၊ ဖြူဖပ်ဖြူရော် ဖြစ်လာ၏။ သို့နှင့်လည်း တင်ပျဉ်ခွေမဖျက်၊ တရားဘက်ကိုသာ အာရုံစိုက်ထားလေသည်။ 'သည်ခန္ဓာနှင့် သည်ကိုယ်ကား ငါ၏နောက်ဆုံးဘဝ ဖြစ်ရမည်'ဟူပေသတည်း။

သို့သော် သူ့ခမျာ ကြိုးစားရှာပါလျက် ထင်တိုင်းမပေါက်ချေ။ သူ မျှော်မှန်းထားသည့် နိဗ္ဗာန်မရောက်ခင် အစာပြတ်လေသောကြောင့် တင်ပျဉ်ခွေ တရားအားထုတ်လျက်နှင့်ပင် အသက်ဖိဝိန် ချုပ်သွားရရှာလေသတည်း။

ယောဂီပုဂ္ဂိုလ် ထိုကမ္မဋ္ဌာန်းကိုယ်တော်ကလေး တင်ပျဉ်ခွေလျက်သား သက်ရှင်လောကမှ ပြည်ဖုံးကား ချသွားချိန်နှင့် မရှေးမနှောင်းမှာပင် နှစ်ပေါင်းများစွာက ရွှေဝါမဖြိုး တညှိုးမှိန်မှိန်နှင့် ရှိနေသော တာဝတိံသာဘုံပျံမှ ရွှေဗိမာန်ကြီးမှာ တဝင်းဝင်း တလက်လက်နှင့် အရောင်တွေ ထွက်လာလေတော့သည်။

ထိုသို့ ရွှေဗိမာန်ကြီး ပြိုးပြိုးပြက်ပြက် တလက်လက် တဝင်းဝင်း တလင်းလင်း တောက်ပလာသည်ကို နတ်သမီးများ တွေ့သိကြရလေသောအခါ "ရှင်မရို့၊ ဟိုမှာရှုကြစမ်း ပြိုးပြိုးပြက်ပြက် တလက်လက် တဝင်းဝင်းနှင့် ရွှေဗိမာန်ကြီး လင်းထိန်လာပါပြီကော။ နတ်ရွှေဘုံပျံ စိုးစံလေမည့် နတ်သား ရောက်များရောက် လေမလား မသိ။ လာရှုကြည့်ချေကြပါကုန်စို့"ဟူ၍ မိုးနတ်ဒေဝီ တစ်သိုက်တို့ ကတိုက်ကရိုက် ရွှေဗိမာန်ဆီသို့ သွားကြလေကုန်၏။

နတ်သမီးများ ရွှေဗိမာန်သို့ ရောက်သွားကြလေသောအခါ ဟာခနဲ ဟင်ခနဲ ဖြစ်ကုန်လေ၏။ 'ဟင် ဘာလိုပါလိမ့်။ ဟာ ဘယ့်နှယ်ပါလိမ့်"ဟု အံ့သြသော မျက်လုံးများဖြင့် သုံးသပ်ရှုမော အံ့သြမဆုံး ဖြစ်နေကြလေ၏။ အဘယ့်ကြောင့်ဆိုသော် မှန်းချက်နှင့် နှမ်းထွက်မကိုက်သောကြောင့်ဖြစ်၏။ သူတို့ အံ့သြမည်ဆိုကလည်း အံ့သြလောက်ပေသည်။ ရွှေဗိမာန်ကြီး၏ရှေ့တွင် နတ်သား တစ်ပါး ရောက်လာသည်ကား မှန်၏။ သို့သော် ထိုနတ်သား၏ အခြေအနေကို မြင်ရသောအခါ နတ်သမီးတို့သည် စိတ်ဓာတ်များ ကျဆင်းကုန်လေ၏။ ရွှေဘုံပျံမှာ နတ်စည်းစိမ် ခံစားရတော့မှာ မဟုတ်ပါဘူးဟူ၍ ညည်းသူကညည်း၊ ဦးခေါင်းကို မသိမသာ ခါသူကခါနှင့် ရှိနေကြကုန်၏။

ထိုနတ်သားကား ဏှာခြွေတော် ရင့်ကျက်လှ၏။ သူ့ကိုယ်သူ ရဟန်းဘဝမှ စုတေသည်ဟူ၍ မထင်။ ယခင်ရဟန်း၏ အသွင်အတိုင်း စူးစိုက်မြဲမြဲ ရှုအားသန်သန်နှင့် ကမ္မဋ္ဌာန်းတရားကို တင်ပျဉ်ခွေလျက် ရှုပွားကာသာ နေလေ၏။

နတ်သမီးတို့သည် မတုန်မလှုပ် ကျောက်တုရုပ်ကဲ့သို့သော နတ်သားကို လှုပ်ရှားလာအောင် အကြံထုတ်ကြကုန်၏။ နတ်သား၏စိတ်များ ရိုးတိုးရွတနှင့် နိုးကြွလာစေရန် သာယာငြိမ့်ညောင်း စောင်းညင်းပတ်သာ တူရိယာငါးပါးတို့ဖြင့် ရွှေနားတော် သွင်းသူကသွင်း၊ သီချင်းဆိုသူကဆို၊ ထိုနတ်သားအား ဖျော်ဖြေကြကုန်လေ၏။

မိမိကိုယ်ကို ရဟန်းဟူ၍ပင် ထင်နေသေးသော ထိုနတ်သားသည် ဆူဆူညံညံ အသံများကို ကြားရလေသောအခါ သူ့ကျောင်းကို မာတုဂါမများ လာရောက်ပြီး လှည့်လည်ကြည့်ရှုကြသည်အထင်နှင့် အမြင်တင့်တယ်သပ္ပာယ်စေရန် သင်္ကန်းပြင်၍ လက်ကန်တော့ထိုးသကဲ့သို့ မိမိ၏ဝတ်လဲတော် နတ်ပုဆိုးကို သင်္ကန်းလက်ကန်တော့ထိုးသည့်ပမာ လက်ဝဲဘက် ပခုံးစွန်းပေါ် တင်လိုက်လေ၏။ ပြီးလျှင် တရားရှုပွားနေဟန် စက္ခုဏှာခြွေ ချမြဲချနေလေ၏။

ဤတွင် ထိုအပြုအမူများကို မြင်လေသောအခါ နတ်သမီးများက ရိပ်စား

မိလာသည်။ ဤနတ်သားဟာ ရဟန်းဘဝကလာတဲ့ နတ်သားပဲ ဖြစ်မယ်။ သူ့ကိုယ်သူ ရဟန်းဘဝမှ စုတေစိတ်ကျ၍ နတ်ဘဝသို့ ရောက်ရှိလာမှန်း သိဟန်မတူရှာသေးဘူး။ ဘဝသစ် တစ်ဖြစ်လဲလာမှန်းသိအောင် သူ့ရှေ့က ကိုယ်လုံးပေါ်မှန်ကြီးကို ထောင်ပြမှ တော်မယ်ဟူ၍ ကိုယ်လုံးပေါ် မှန်ကြီးကို ယူဆောင်၍ ထိုနတ်သားရှေ့တွင် ထောင်ပြကြလေ၏။

ဤသို့ပြလေသောအခါ မှန်ကြေးမုံထဲတွင် မိမိ၏ ရုပ်ပုံအသွင်ကို မြင်လတ်သော် လန့်ဖျပ်သွားလေ၏။ ဖြစ်ရလေခြင်းဟူ၍ သူ့ကိုယ်သူ ခံပြင်းနေ၏။ ဤသို့ ကြေးမုံမှန်ကြီးထဲက သူ့ရုပ်လွှာကို ကြည့်နေဆဲတွင် နတ်သမီးတစ်ဦး၏ အလွန်ချိုသာသောအသံ ကြားလာလေသည်။ "အို အရှင်နတ်သား၊ သတိရှိတော်မူပါလော့။ ဤလောကသည် နတ်လောက ဖြစ်ပါသည်။ ရဟန်းလောက မဟုတ်တော့ပါ။ ဘုန်းကံပါရမီတော် ထူးခြားသည့်အတွက် နတ်စည်းစိမ်ကို ခံစားရန် ရောက်ရှိလာခြင်း ဖြစ်ပါ၏။ နတ်တို့၏ စည်းစိမ်ကို ခံစားတော်မူပါလော့ အရှင်နတ်သား"

ထိုစကားကို ကြားရသောအခါ သာ၍စိတ်မချမ်းမသာ ဖြစ်လာပြီး မှန်ကြေးမုံကြီးအတွင်းက သူ့မျက်နှာကို လက်ညှိုးနှင့် ထိုးကာ ထိုးကာ–

'ဒါဟာ ငါ ငါ။ ဒါကို မလိုချင်ဘူး။ နတ်သမီးနဲ့ နတ်စည်းစိမ် ခံစားလို့၊ နတ်စည်းစိမ်ကို မက်မောလို့ ငါ တရားအားထုတ်တာ မဟုတ်ဘူး။ ဝဋ်ဆင်းရဲအပေါင်းမှ လွတ်မြောက်ရာ နိဗ္ဗာန်ကို လိုချင်လို့၊ နိဗ္ဗာန်သို့ ရောက်ချင်သည့်အတွက် ဆင်းရဲပင်ပန်းကြီးစွာ ခံ၍ ငါ တရားအားထုတ်ခြင်း ဖြစ်သည်'

သူ့ကိုယ်သူ ကြိုးကြိုးစားစား စကားဆိုပြီးနောက် နတ်သမီးများကို လှည့်ကြည့်လိုက်ရာ ရွှင်ပြုံးမူရာနှင့် သူ့ကိုကြည့်နေသော နတ်သမီးများကို မြင်လျှင် 'တစ္ဆေမတွေ၊ သရဲမတွေ'ဟု လန့်အော်လျက် ထိုနတ်သားသည် ထွက်ပြေးလေတော့၏။

နတ်သမီးများသည် ပထမတွင် ကြောင်စီစီနှင့် ကြည့်နေပြီး နောက်တွင်မှ ထိုနတ်သားပြေးရာသို့ တကောက်ကောက် လိုက်ကြကုန်လေ၏။ ထိုနတ်သားကား စွတ်မိစွတ်ရာ ပြေးရာမှ အလွန်သာယာလှစွာသော နန္ဒဝနီ နတ်ဥယျာဉ်ကြီးထဲသို့ ရောက်သွားလေသည်။

သို့သော် ထိုနတ်သားကား နန္ဒဝန်ဥယျာဉ်ကြီးကိုလည်း တစ္ဆေသရဲတို့ခိုအောင်းရာ ကျောင်းအိုကျောင်းပျက်ကြီးဟု ထင်နေ၏။ နတ်ပြည်ရောက်သော်

လည်း သူ့အဖို့တွင် ပျော်မွေ့စရာ တစ်ခုမျှမမြင်။ 'ဟော ဟော ဟိုမှာ ဟိုမှာ' ဟူ၍ လိုက်လာသော နတ်သမီးများကို မြင်လျှင် ထိုနတ်သားသည် လွတ်ရာ လွတ်ကြောင်း သုတ်ခြေတင်ပြန်လေ၏။ နောက်ဆုံး၌ကား ဘုရားသခင်၏ ရှေ့တော်မှောက်သို့ ရောက်သွားလေပြီတည်း။ နတ်သမီးတို့လည်း ဘုရားသခင် ရှေ့တော်မှောက်ရောက်အောင် လိုက်လာကြသတည်း။

နတ်သမီးများ လိုက်လာကြသည်ကို မြင်သောအခါ 'တစ္ဆေသရဲတွေ တပည့်တော်အား ဖမ်းစားရန် လိုက်လာကြကုန်ပါပြီ။ တပည့်တော်အား ကယ်တော်မူပါ။ ဘေးကင်းရာကို ညွှန်ကြားတော်မူပါ'ဟူ၍ ဂါထာဖြင့် လျှောက်ထားလေသည်။

အစ္ဆရာဃဏသံဃုဋ္ဌံ၊
ပိသာစဂဏ သေဝိတံ။
ဝနန္တံ မောဟနံ နာမ၊
ကထံ ယတြာ ဘဝိဿတိ။

ဘန္တေ = ဆွေးဗျာထုကြွယ် ဒုက္ခသည်ကို ကယ်တင်တော်မူပေတတ်သော မြတ်စွာရှင် ထိပ်ခေါင်တင်ဘုရား။ အစ္ဆရာဃဏသံဃုဋ္ဌံ = နတ်သမီးသံတို့ဖြင့် ကြွက်ကြွက်ညံလျက် ရှိနေပါသော၊ ပိသာစဂဏ သေဝိတံ = သရဲတစ္ဆေ မြေဘုတ် ပြိတ္တာတို့၏ ခိုအောင်းရာလည်း ဖြစ်ပေသော၊ မောဟနံနာမ = ရောက်လာသူတိုင်းအား တွေဝေထိုင်းအောင် မှိုင်းတိုက်သည့် သဘာဝကြောင့် မောဟန ဟူ၍ ခေါ်တွင်ထင်ရှားပါသော၊ တံဝနံ = ထိုနန္ဒဝန်ဥယျာဉ်ကြီးကို၊ ကထံ = အဘယ်သို့လျှင်၊ ယတြာ = လွန်မြောက်အောင် ရုန်းကန်ခြင်းသည်၊ ဘဝိဿတိ= ဖြစ်ပါမည်နည်းဘုရား။

"အရှင်ဘုရား၊ နန္ဒဝန်ဥယျာဉ်ကြီးကို အလွန်သာယာသော ဥယျာဉ်ကြီးဟု ချီးကျူးဆိုပြောနေကြသော်လည်း တပည့်တော်၏ အဖို့တွင်မူ လူတိုင်းကို မှိုင်းတိုက်သော နေရာကြီးဟု ထင်ပါ၏။ သရဲတစ္ဆေ မြေဘုတ်ပြိတ္တာ အပေါင်းတို့ ခိုအောင်းရာ ကျောင်းအိုကျောင်းပျက်ကြီးနှင့် တူလှပါသည်။ ဆို,က,တီးမှုတ် ရုတ်ရုတ်သဲသဲ နားကွဲလုမတတ် နတ်သမီးများ၏ အသံများကလည်း ဆူညံလျက် ရှိနေပါ၏။ ထိုနေရာမှ လွတ်မြောက်ရာကို တပည့်တော်အား ညွှန်ကြားတော်မူပါ ဘုရား"ဟု ဆိုလိုသည်။

ထိုအခါ မဟာကရုဏာတော်သခင် ရှင်တော်မြတ်ဘုရားသည် ထိုနတ်သားအား ဤသို့မြွက်ကြားတော်မူသတည်း။

စပယ်ဦးစာပေ

ချစ်တပည့်၊

မဂ္ဂဂ်ဟူ၍ လမ်းမကြီးတစ်ခု ရှိ၏။ ထိုလမ်းကား ကွေ့ကောက်ခြင်း မရှိ၊ အလွန်ဖြောင့်၏။ လမ်းဖြောင့်ဖြစ်၏။ နိဗ္ဗာနဟူသော အမည်နာမဖြင့် ဒေသကြီးတစ်ခုလည်း ရှိ၏။ ဘေးခပ်သိမ်း ကင်းငြိမ်းရာဖြစ်၍ အဘယ ဟု တွင်၏။

ထိုဌာနသို့ရောက်အောင် ပို့ဆောင်ပေးနေသော ရထားကြီးတစ်စင်း လည်း ရှိ၏။ ထိုရထားကြီးကား ဓမ္မတည်းဟူသော ဘီးတပ်ထားသဖြင့် ကျိုးကျိုးကျွိကျွိ မြည်ခြင်းမရှိ။

ချစ်တပည့်၊ ထိုရထားကား မဂ္ဂင်ရထားပင်တည်း။ ထိုမဂ္ဂင်ရထား တွင် မှီစရာ တကဲလည်းရှိ၏။ ရံတိုင်လည်း ရှိ၏။ မောင်းသူ ရထား ထိန်းလည်း ရှိ၏။

ချစ်တပည့်၊ ကောင်းစွာနာလော့။ ကောင်းစွာ မှတ်လေလော့။ မကောင်းမှုမှ ရှက်ခြင်း၊ မကောင်းမှုမှ လန့်ခြင်း ဤတရားနှစ်ပါးသည် ရထား၏ အမှီတကဲ မည်၏။ မမေ့မလျော့ခြင်း သတိသည် ရထား၏ ရံတိုင်မည်၏။ ဖြောင့်မှန်သော အယူ သမ္မာဒိဋ္ဌိသည် ရထားထိန်းမည်၏။

ချစ်တပည့်၊ ထိုမဂ္ဂင်ရထားသည် လူတိုင်းတွင်ရှိ၏။ မိန်းမမှာလည်း ရှိ၏။ လူတိုင်းလူတိုင်း ရထားကိုယ်စီ ရှိကြသည်ချည်း ဖြစ်၏။ နိဗ္ဗာန် သည် လူနှင့်ဝေးလံလှသည်မဟုတ်။ မဂ္ဂင်ရထားနှင့်သွားလျှင် ရောက်နိုင် ပေ၏။

ဗုဒ္ဓသည် ထိုနတ်သားအား ဤတရားကို ဟောတော်မူ၏။ ထိုနတ်သား နှင့်တကွ နတ်သမီးတို့သည်လည်း တရားအဆုံးတွင် သောတာပန် တည်ကုန် သတည်း။ အပါယ်တံခါးပိတ်၍ နိဗ္ဗာန်တံခါး ပွင့်လေပြီတည်း။

(သဂါထာဝဂ္ဂသံယုတ်၊ အစ္ဆရာသုတ်၊ အဋ္ဌကထာ-၈၀)



## သန္တိသုခ၊ နိဗ္ဗာန
## ဘယ်မျှကြာအောင်၊ ကျင့်ရသနည်း။

**ပြဿနာ = သန္တိသုခ**
**မေးလျှောက်သူ = ဗောဓိမင်းသား**

မမွေးဖွားမီ အမိဝမ်းတွင်း၌ ပဋိသန္ဓေ တည်ကတည်းက သရဏဂုံတည်သူ အလွန်ရှား၏။ မရှိသလောက်ပင် ဖြစ်၏။ ဗောဓိမင်းသားကား 'မွေးမှာ တလူ' ဆိုရလောက်အောင် ထူးခြားသူဖြစ်လေသည်။

အဘယ်သို့ ထူးခြားသနည်းဆိုသော် သူ၏မိခင်မှာ ဗုဒ္ဓဘာသာအမျိုး ဖြစ်သည့်အလျောက် သူ၏ဝမ်း၌ ဗောဓိမင်းသား သန္ဓေတည်လာသောအခါ သား၏ ကောင်းကျိုးကို ရှေးရှုလျက် သား၏ကိုယ်စား ဤသို့ သရဏဂုံ ဆောက်တည်လာခဲ့သည်။

'ယော မေ အယံဘန္တေ ကုစ္ဆိဂတော ကုမာရကော၀, ကုမာရိက၀ါ' စသည် ဖြစ်၏။ အဓိပ္ပာယ်ကား-

"အရှင်ဘုရား၊ တပည့်တော်မ၏ ဝမ်း၌ သားဖြစ်မည်လည်း မသိပါ၊ သမီးဖြစ်မည်လည်း မသိပါ။ သန္ဓေတည်လျက် ရှိနေပါ၏။ ရင်သွေး ဖြစ်သော ထိုသန္ဓေသည် မြတ်စွာဘုရားကိုလည်းကောင်း၊ တရားတော်ကို လည်းကောင်း၊ သံဃာတော်ကိုလည်းကောင်း ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏ ဘုရား"

ဟူ၍ မိခင်က သရဏဂုံ ဆောက်တည်၏။ သားဖြစ်စေ၊ သမီးဖြစ်စေ ဘုရား တပည့်တော်မ၏ ဝမ်း၌ ကိန်းအောင်းလာသော သန္ဓေက ရတနာသုံးပါးအား ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါသည်ဘုရားဟု ဆိုလိုသည်။

ထိုမိခင်မှ သားယောကျ်ားကလေး ဖွား၏။ အမည်ကို ဗောဓိကုမာရဟူ၍

တွင်စေ၏။ ထို့ကြောင့် ဗောဓိကုမာရမင်းသားဟူ၍ ထင်ရှားလာသတည်း။ အမိဝမ်း၌ သန္ဓေအဖြစ်နှင့် ရှိစဉ်ကတည်းက သရဏဂုံတည်သောမင်းသား ဖြစ်သဖြင့် ထူးခြားသောမင်းသားဟု ဆိုခြင်း ဖြစ်သတည်း။

ထိုမင်းသား ကြီးခေါ်ငင်၍ အရွယ်ရောက်လာသောအခါ လောကဓမ္မတာအလျောက် လက်ထပ်ထိမ်းမြား၍ ဇနီးကြင်ယာ ရှိပါသော်ငြားလည်း သားသမီး ထွန်းကားခြင်း မရှိချေ။ ထို့ကြောင့် ဗောဓိမင်းသားသည် 'သားသမီးရလျှင် ကောင်းလေစွ'ဟု တောင့်တကာသာ နေ၏။

'နတ်တို့ဖန် ရေကန်အသင့် ကြာအသင့်' ဆိုသကဲ့သို့ သားသမီး ထွန်းကား ရရှိလာသောအခါ အဆင်သင့် ဖြစ်စေရန်အတွက် ဗောဓိမင်းသားသည် ကောကနဒ အမည်ရှိသော နန်းပြာသာဒ်တစ်ဆောင် ဆောက်လုပ်ရာ ထိုပြာသာဒ်မှာ ကောင်းစွာ ပြီးစီးသွားပြီဖြစ်၏။

ထိုအချိန်တွင် ဗုဒ္ဓသည် များစွာသော ရဟန်းများ ခြံရံလျက် ဒေသစာရီ လှည့်လည်၍ တရားနတ်စည် ဆော်ရွမ်းလည်ရာမှ ဗောဓိမင်းသား၏ သုသုမာရမြို့သို့ရောက်ရှိလာပြီး မြို့၏အနီး ရှုဖွယ်သာမောလှသည့် ပဲစင်းငုံတော၌ သီတင်းသုံးတော်မူလာ၏။

ထိုအခါ ဗောဓိမင်းသားသည် သူတွေးကြံထားသည့် ပြဿနာတစ်ရပ်ကို ဗုဒ္ဓထံ တင်ပြမေးလျှောက်လိုခြင်း၊ ထိုမှတစ်ပါး သားသမီး ရ,မရ ကိစ္စကိုလည်း အဓိဋ္ဌာန်၍ သိအောင်ပြုလိုခြင်း၊ နန်းပြာသာဒ်အသစ်တွင် ဘုရားအမှူးရှိသော သံဃာတော်များအား ဆွမ်းကပ်လှူဒါန်းပြီး တရားတော်ကို နာလိုခြင်းဟူသော ဦးတည်ချက်ဖြင့် သဉ္စိကာပုတ္တ အမည်ရှိသော လုလင်အား 'ဆွမ်းအလှူခံတော်မူရန်' ဗုဒ္ဓထံ စေလွှတ်၍ အပင့်ခိုင်းလေ၏။

ဘာဏုရာဇာ မည်သော နေမင်းသည် နံနက်ခင်း ရောင်ခြည်နုနုဖြင့် သုသုမာရမြို့ကို ထိန်လင်းစေသော အချိန်တွင် ဗုဒ္ဓသည် ရဟန်းများခြံရံလျက် ကြွလာတော်မူသောအခါ ဗောဓိမင်းသားသည် နန်းပြာသာဒ် အသစ်ပေါ်သို့ တက်သည့်လှေကား၌ ဖွေးဖွေးဖြူ၍နုသော ကမ္ဗလာကို ခင်းလျက် အဓိဋ္ဌာန်ပြီး စောင့်နေ၏။

နောက်ပါသံဃာများရံလျက် ကြွလာတော်မူသော မြတ်စွာဘုရားကို ဗောဓိမင်းသားသည် လှေကားဦးမှကြို၍ ရိုသေစွာ ရှိခိုးလျက် ပြာသာဒ်ထက်သို့ ကြွတော်မူပါဘုရားဟု လျှောက်လေ၏။ ဗုဒ္ဓသည် လှေကား၌ ခင်းထားသော အခင်းကို ရှုစားတော်မူပြီး ပြာသာဒ်ထက်သို့ မတက်ဘဲ တန့်ရပ်တော်မူနေ၏။

"ကြွတော်မူပါဘုရား၊ ကြွတော်မူပါဘုရား၊ ကြွတော်မူပါဘုရား"ဟူ၍ သုံးကြိမ်တိုင်တိုင် ပင့်လျှောက်ငြားသော်လည်း ဘုရားသခင်ကား လေ့ကားဦးတွင် ရပ်မြဲသာ ရပ်တန့်နေတော်မူလျက်မှ အရှင်အာနန္ဒာကို လှည့်ကြည့်တော်မူ၏။ ဗောဓိမင်းသားမှာ သူ၏အဓိဋ္ဌာန်ချက်အတွက် စိတ်မသက်မသာ ဖြစ်နေဆဲတွင် အရှင်အာနန္ဒာ၏အသံကို ကြားရ၏။ "မင်းသား၊ လှေကား၌ ခင်းထားသည့် အခင်းများကို ရုပ်သိမ်းလိုက်ဘိလော့။ ဤအခင်းများကိုနင်း၍ မြတ်ဘုရား ကြွတော်မူမည် မဟုတ်"ဟု ညွှန်ကြားသဖြင့် ဗောဓိမင်းသားသည် မျက်နှာညှိုး လျှလျှနှင့် ခင်းထားသည့် အခင်းများကို ရုပ်သိမ်းစေရလေ၏။ ဤတွင်မှ ဗုဒ္ဓ သည် ပြာသာဒ်ထက်သို့ ကြွတော်မူသတည်း။ (မှတ်ချက်။ ဗောဓိမင်းသားက အဓိဋ္ဌာန်ထားသည်မှာ 'ငါ့မှာ သားသမီးရတနာ ထွန်းကားမည်ဖြစ်က ငါခင်းထား သော အခင်းကိုနင်း၍ ကြွတော်မူစေသား။ သားသမီး ထွန်းကားခြင်း မရှိလျှင် မူကား မနင်းစေသား'ဟူ၍ အဓိဋ္ဌာန်ထားလေသည်)

ပြာသာဒ်ထက်သို့ ရောက်ပြီးသော ဘုရားအမှူးရှိသည့် သံဃာတော်များ အား ဗောဓိမင်းသားသည် သာဟတ္ထိကမြောက်အောင် ကိုယ်တိုင်ကပ်လှူခြင်း ပြု၏။ ဆွမ်းဘုဉ်းပေးခြင်းကိစ္စ ပြီးလေသောအခါ ဗုဒ္ဓအား တင်ပြလိုသော ပြဿနာကို သူ၏နှလုံးသားဘဏ်တိုက်မှ ထုတ်ပြီး ဗုဒ္ဓအား ဆက်ကပ်လေ သတည်း။ မေးလျှောက်ခြင်း ပြုလေသတည်း။

> "အရှင်ဘုရား၊ တပည့်တော်၏ အတွေးအခေါ်နှင့် ထင်မြင်ချက်ကို တင်ပြလျှောက်ထားလိုပါ၏။ ခွင့်ပြုတော်မူရန် ရိုသေစွာ ပန်ကြားပါ၏။ ယင်းသည်ကား အခြားမဟုတ်ပါ။ 'ချမ်းသာကို ချမ်းသာနှင့် ရင်းနှီးသဖြင့် မရနိုင်။ ဆင်းရဲနှင့် ရင်းနှီးမှသာ ချမ်းသာကို ရနိုင်၏'ဟူ၍ တပည့်တော် အား စိတ်အကြံဖြစ်ပေါ်နေပါ၏။ မှန်မည်၊ မှားမည်ကို မြွက်ကြားတော် မူပါဘုရား"

ဗောဓိမင်းသား၏ မေးလျှောက်ချက်မှ ထွက်လာမည့် ဗုဒ္ဓ၏အဖြေကို ဗောဓိမင်းသား အမှူးပြုသော ခြွေရံပရိသတ်တို့သည်လည်းကောင်း၊ အရှင်အာနန္ဒာ အမှူးပြုသော သံဃာတော်တို့သည်လည်းကောင်း အာရုံစူးစိုက်စွာနှင့် ကြိုလင့်နေ ကြကုန်၏။ ခဏအတွင်းမှာပင် ဗုဒ္ဓ၏အာခံတွင်းမှ သင်းရနံ့ကြိုင် အဖြေများ လှိုင်လှိုင်ထွက်လာလေပြီတည်း။

"မင်းသား၊ ငါ့အားလည်း သင်ကဲ့သို့ပင် အလောင်းတော်ဘဝတုန်းက ဤအကြံမျိုး ဖြစ်ခဲ့ဖူး၏။ ထို့ကြောင့် ချမ်းသာကို အလိုရှိသောငါသည် ယင်း

ချမ်းသာကို ဒုက္ခနှင့် ရင်းနှီး၍ရှာရန် အလို့ငှာ သန်မြန်၍ အရွယ်ကောင်းတုန်း အချိန်တွင် ထီးနန်းစည်းစိမ်ကို ရက်ရက်မညာ စွန့်ခွာ၍ တောထွက်လာခဲ့ပြီး ညစ်ထပ်ထပ် သစ်ခေါက်ဆိုးသင်္ကန်းကိုဝတ်ကာ ငါ ရဟန်းပြုခဲ့၏။-

-မင်းသား၊ ထိုနောက် ငါသည် ငါ့အား ချမ်းသာကို ပေးနိုင်စွမ်းရှိမည့် ပုဂ္ဂိုလ်များကို စူးစမ်းရှာဖွေခဲ့သည်။ ထိုအချိန်၌ ကာလာမမျိုးနွယ် အာဠာရ ရသေ့နှင့် ရာမ၏သား ဥဒကရသေ့တို့ကို ငါတွေ့ရ၏။ သူတို့ထံ ချဉ်းကပ်၍ နိဿရည်း ခံခဲ့၏။ သူတို့၏ကျင့်စဉ်အတိုင်း ငါကျင့်ခဲ့၏။ အားထုတ်ခဲ့၏။ ဤသို့ ကျင့်ကြံအားထုတ်ခြင်းအားဖြင့် နေဝသညာနာသညာယတနဈာန်ကို ငါ မျက်မှောက်ပြုနိုင်ခဲ့ပေသည်။-

-မင်းသား၊ သို့သော် သူတို့၏ကျင့်စဉ်အတိုင်း မည်သို့ပင် အားထုတ်စေကာမူလည်း၊ ဒုက္ခနှင့် အရင်းအနှီးပြုစေကာမူလည်း ငါ လိုလားအပ်၊ တောင့်တအပ်သော ဆင်းရဲချုပ်ငြိမ်းမှု ချမ်းသာကို မရနိုင်ကြောင်းကို အားထုတ်ရင်း ငါ သိလာ၏။ ငါ သဘောပေါက်လာ၏။ ထို့ကြောင့် ငါသည် သူတို့ထံမှ ဖဲခွာလာပြီး ဆင်းရဲခပ်သိမ်းငြိမ်း၍ စင်စစ်ချမ်းသာသော သန္တိသုခကို လျှောက်၍ ရှာရင်းနှင့်ပင် မဂဓတိုင်းသို့ ငါရောက်သွား၏။ ထိုတွင်လည်း ဒုက္ခနှင့်ရင်းနှီး၍ သန္တိသုခကို ငါရှာခဲ့သည်၊ ဖွေခဲ့သည်။ သို့သော် ငါ့မှာ ဆင်းရဲခြင်းသာလျှင် အဖတ်တင်၏။ ငါ၏လိုလားချက်၊ တောင့်တချက်ကား မပြည့်စုံသေး။

-မင်းသား၊ ဤသို့ ပင်ပန်းကြီးစွာခံ၍ ရှာရင်း၊ ဖွေရင်းနှင့်ပင် ဥရုဝေဠတောအုပ် အနီးက သေနနိဂုံးသို့ ငါ ရောက်သွားပြန်၏။ ထိုသေနနိဂုံး၌ အခြေချရန် ငါ ဆုံးဖြတ်လိုက်တော့၏။ အကြောင်းသော်ကား ထိုအရပ် ထိုဒေသကား မွေ့လျော် ဖွယ် ကောင်း၏။ စိတ်နှလုံး ကြည်လင်ချမ်းမြေ့စရာ တောအုပ်လည်းရှိ၏။ သန့်ရှင်းကြည်လင်သည့် ရေကောင်းရေသန့်များလည်း ရှိ၏။ ဂေါစရဂါမ်ပြုရာ ဆွမ်းခံရွာနှင့်လည်း မနီးလွန်း မဝေးလွန်းလှသဖြင့် လျောက်ပတ်သည်ဖြစ်၏။ ထို့ကြောင့်ပင် ဤဒေသ၌ အခြေချ၍ တရားအားထုတ်ရန် ငါဆုံးဖြတ်လိုက်ခြင်း ဖြစ်ပေသည်”(မှတ်ချက်။ ဥရုဝေဠ တောတွင် ခြောက်နှစ်ကြာအောင် ဒုက္ကရစရိယာ ကျင့်ခဲ့ပြီးနောက် ဘုရားအဖြစ်သို့ ရောက်တော်မူ၍ ပဉ္စဝဂ္ဂီရဟန်းငါးဦးတို့အား တရားဦး ဟောတော်မူပုံအထိ နောက်ကြောင်းကို ဗောဓိမင်းသားအား ပြန်လည် ပြောပြတော်မူသည်။)

ဗောဓိမင်းသားသည် ဗုဒ္ဓ ပြန်လည်ပြောပြသော သန္တိသုခ တည်းဟူသော နိဗ္ဗာန်ချမ်းသာကို ဒုက္ခနှင့် ရင်းနှီး၍ ကျင့်ကြံကြိုးကုတ် အားထုတ်တော်မူလာခဲ့

ပုံများကို ကြားနာရလေသောအခါ မတုန်မလှုပ် အာရုံစူးစိုက်စွာ စဉ်းစားနေ၏။ ဉာ၏နှလုံးသား တည်းဟူသော ပင်လယ်ကြီး၌ 'သန္တိသုခ၊ သန္တိသုခ၊ နိဗ္ဗာန်၊ ဗ္ဗာန်'ဟူသော လှိုင်းလုံးကြီးများ တအိအိ ထလာကုန်လေ၏။ ထိုအခါ ဗောဓိ င်းသားသည် မြတ်ဘုရားအား လက်အုပ်ချီ၍ လျှောက်ထားလေသည်ကား-

"ရွှေဘုန်းတော်သခင် အရှင်ဘုရား၊ ဒုက္ခနှင့် ရင်းနှီးခဲ့သဖြင့် ရှင်တော်မြတ် ဘုရားသည် သန္တိသုခ နိဗ္ဗာန်ချမ်းသာကြီးကို ရရှိတော်မူပြီး လောကသုံးပါးတွင် ခတုလွတ် ဘုရားအဖြစ်သို့ ရောက်တော်မူလာ၏။ အရှင်ကဲ့သို့သော မြတ်ဘုရား၏ ဝံတော်တွင် တပည့်ခံ၍ ကျင့်သောသူသည် ထိုနိဗ္ဗာန်ချမ်းသာကို ရရှိရန် ဘယ်မျှကြာအောင် ကျင့်ရပါသနည်း။ အဘယ်မျှကြာအောင် အားထုတ်မှ ထို ဗ္ဗာန်ချမ်းသာကို ရရှိမည် ဖြစ်ပါသနည်း"ဟူ၍ မေးလျှောက်လတ်သော် ဗုဒ္ဓ သည် ဗောဓိမင်းသားအား ဤသို့ပြန်၍မေးတော်မူ၏။

"မင်းသား၊ သင်၏အမေး ဟုတ်တန်စေ။ သင့်အား ငါ တစ်ခုမေးအံ့။ သင် ကြိုက်သလို ဖြေနိုင်ပေ၏"

"မေးတော်မူပါဘုရား"

"မင်းသား၊ သင်သည် ဆင်စီးခြင်းအတတ်၊ မြင်းစီးခြင်းအတတ်၊ ချွန်း ကိုင်ခြင်း အတတ်တို့၌ တစ်ဖက်ကမ်းခပ် တတ်မြောက်ခဲ့သည် မဟုတ်ပါလော"

"ဟုတ်ပါသည်ဘုရား၊ ယင်းအတတ်တို့၌ လိမ္မာကျွမ်းကျင်ခဲ့ပါ၏"

"မင်းသား၊ သို့ဖြစ်ဘိသော် တစ်ဦးသောယောကျ်ားသည် ထိုအတတ်များ ကို သင်ယူလို၍ သင့်ထံသို့ ရောက်လာသည် ဆိုပါတော့။ သို့သော် ထိုသူသည် ယုံကြည်မှု မရှိသူ၊ အနာရောဂါများသူ၊ ဟန်ဆောင်တတ်, လှည့်စားတတ်သူ၊ ပျင်းရိသူ၊ အသိဉာဏ်ခေါင်းပါးသူ ဖြစ်နေခဲ့သော် ထိုသူသည် သင့်ထံမှ ထိုအတတ် များကို တတ်မြောက်နိုင်ပါမည်လော"

"တတ်မြောက်နိုင်မည် မဟုတ်ပါ။ ယုံကြည်မှု၊ အနာရောဂါကင်းမှု စသော ထိုအင်္ဂါငါးပါးနှင့် ပြည့်စုံမှသာလျှင် တတ်မြောက်နိုင်မည် ဖြစ်ပါသည်"

"မင်းသား၊ ယုံကြည်မှုရှိခြင်း၊ အနာရောဂါကင်းခြင်း၊ ဟန်ဆောင်လှည့် စားမှု မရှိခြင်း၊ ထက်သန်သော လုံ့လဝီရိယရှိခြင်း၊ အသိဉာဏ်ရှိခြင်းဟူသော အင်္ဂါနှင့် ပြည့်စုံသော ယောကျ်ားသည် ဆင်စီးအတတ်၊ ချွန်းကိုင်အတတ်တို့ကို သင်ယူရန်အတွက် သင့်ထံရောက်လာခဲ့သော် ထိုသူသည် ယင်းအတတ်တို့ကို တတ်မြောက်နိုင်ပါမည်လော"

"အရှင်ဘုရား၊ ယင်းငါးပါးအနက်တွင် တစ်ပါးပါးနှင့် ပြည့်စုံသူပင်

ယင်းအတတ်တို့ကို တတ်မြောက်နိုင်ရာပါ၏။ ငါးပါးလုံး ပြည့်စုံသူကား ဆိုဖွယ် မရှိတော့ပါ"ဟု လျှောက်၏။

"မင်းသား၊ ဤဥပမာအတိုင်းပင် ကမ္မဋ္ဌာန်းတရားကို အားထုတ်သူတွင် အင်္ဂါငါးပါးရှိပေသည်။ ယင်းအင်္ဂါငါးပါးသည်ကား-

၁။ မြတ်စွာဘုရား၏ ဗောဓိဉာဏ်၌ ယုံကြည်ခြင်း၊

၂။ အနာရောဂါကင်း၍ ကျန်းမာခြင်း၊

၃။ ဟန်ဆောင်မှု လှည့်စားမှု မရှိခြင်း၊

၄။ အကုသိုလ်ကိုပယ်၍ ကုသိုလ်ပွားများရန် ထက်သန်လုံ့လရှိခြင်း၊

၅။ ဆင်းရဲချုပ်စေနိုင်သည့် ထိုးထွင်းဉာဏ်ရှိခြင်း၊

"မင်းသား၊ ယင်းအင်္ဂါငါးပါးနှင့် ပြည့်စုံသူသည် မြတ်စွာဘုရားတည်းဟူသော ဆရာကောင်းကို ရသည်ရှိသော် ခုနစ်နှစ်ကာလအတွင်း၌ အရဟတ္တဖိုလ်ကို မျက်မှောက်ပြုနိုင်၏။ ခုနစ်လအတွင်း၊ ခုနစ်ရက်အတွင်း၌ အရဟတ္တဖိုလ်ကို မျက်မှောက်ပြုနိုင်၏။ ထို့မျှမက ဤအင်္ဂါငါးပါးနှင့် ပြည့်စုံသူသည် ညနေပိုင်း၌ ဆုံးမသော် နံနက်ပိုင်းတွင် တရားထူးကို ရနိုင်၏။ နံနက်ပိုင်း၌ ဆုံးမသော် ညနေပိုင်းတွင် တရားထူးကို ရနိုင်၏"

ဗုဒ္ဓထံမှ ဤအဖြေစကားကို ကြားရလျှင် ဗောဓိမင်းသားသည် ချီးကျူးစကား လျှောက်ထားလေ၏။ မြတ်စွာဘုရားသည်လည်းကောင်း၊ မြတ်ဘုရားဟောကြားအပ်သော တရားတော်သည်လည်းကောင်း၊ အလွန်အံ့ဖွယ်ကောင်းလှပါ၏ဟူ၍ လျှောက်ထားလေသောအခါ သဉ္စိကပုတ္တ လုလင်သည် မင်းသားကို လှည့်ကြည့်ကာ "အရှင့်သား၊ အရှင့်သားသည် ချီးကျူးစကားမျှကိုသာ လျှောက်ထားပြီး ဘုရားအမှူးရှိသော သံဃာတော်များကို ကိုးကွယ်ဆည်းကပ်ခြင်း မပြုသေးပါ။ သရဏဂုံတည်ရန် လိုအပ်ပါ၏"ဟု သတိပေးလေသည်။ ထိုအခါ ဗောဓိမင်းသားက "ငါသည် အမိဝမ်း၌ ပဋိသန္ဓေတည်စဉ်ကတည်းကပင် သရဏဂုံ တည်လာခဲ့ကြောင်း" ပြောပြလေသတည်း။

(မဇ္ဈိမပဏ္ဏာသ၊ ဗောဓိရာဇကုမာရသုတ်)



## ပြုကြကုသိုလ်၊ ကျိုးများလို
## စိတ်ကိုမည်သို့၊ ထားမည်နည်း။

**ပြဿနာ = ဒါနအကျိုး**
**မေးလျှောက်သူ = အရှင်သာရိပုတ္တရာ**

အင်္ဂုတ္တိုရ်ပါဠိတော်၊ သတ္တကနိပါတ်၊ မဟာယညဝဂ်၊ ဒါနမ္ဗလသုတ်ဟူ၍ ရှိ၏။ ထိုသုတ်သည် အလှူရေစက် လက်နှင့်မကွာ ပေးလှူသူတို့အဖို့ မှတ်အပ်မှတ်သင့် မှတ်ထိုက်သောသုတ် ဖြစ်၏။ အဘယ်ကြောင့်ဆိုသော်–

ထိုအချိန်တွင် မြတ်ဗုဒ္ဓသည် စမ္ပာပြည်သို့ ရောက်ရှိပြီး ဂဂ္ဂရာအမည်ရှိသော မင်္ဂလာကန်တော်ကြီးအနီးတွင် သီတင်းသုံးနေတော်မူစဉ် စမ္ပာမြို့သူမြို့သားတို့သည် မြတ်ဗုဒ္ဓ၏ တရားတော်ကို နာလိုကြသဖြင့် ဗုဒ္ဓအား လျှောက်ထားပေးပါရန် အရှင်သာရိပုတ္တရာအား ချဉ်းကပ်ကြကုန်၏။ အရှင်သာရိပုတ္တရာက ဥပုသ်နေ့တွင် တရားနာ လာကြရန် ရက်ချိန်းပေးလိုက်၏။

ဥပုသ်နေ့သို့ ရောက်လာသောအခါ အရှင်သာရိပုတ္တရာသည် စမ္ပာမြို့သူမြို့သားများကို ဘုရားသခင်ထံတော်သို့ ခေါ်သွားပြီးလျှင် ဒါနတရား၏ အကျိုးကြီးမြတ်ပုံကို ကြားနာကြစေရန် ဘုရားသခင်အား ဤသို့လျှောက်ထားလေ၏။

"အရှင်ဘုရား၊ ဤလောက၌ တစ်ရံတစ်ခါ အချို့သော ပုဂ္ဂိုလ်တို့၏ ထိုသို့သော သဘောထား ရည်ရွယ်ချက်မျိုးဖြင့် လှူအပ်သော အလှူသည် အကျိုးအာနိသင် ကြီးမားမှု ဖြစ်နိုင်၊ မဖြစ်နိုင်"ကို မေးလျှောက်လျှင်–

"သာရိပုတ္တရာ၊ အကျိုးအာနိသင် ကြီးမှုမဖြစ်သော အလှူလည်း ရှိ၏။ အကျိုးအာနိသင် ကြီးမားမှုဖြစ်သော အလှူလည်းရှိ၏"ဟု မိန့်တော်မူသောအခါ အကျိုးအာနိသင် မကြီးမားသော အလှူနှင့် အကျိုးအာနိသင် ကြီးမားသော အလှူကို ခွဲခွဲခြားခြား မြွက်ကြားပေးတော်မူပါရန် အရှင်သာရိပုတ္တရာ၏ တောင်းပန်ချက်အရ ဟောကြားတော်မူလေသည်ကား–

"သာရိပုတ္တရာ၊ ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည်–
ငဲ့ကွက်မှု ရှိသည်ဖြစ်၍ အလှူကို ပေးလှူ၏။
နှောင်ဖွဲ့အပ်သောစိတ် ရှိသည်ဖြစ်၍ အလှူကို ပေးလှူ၏။
သိုမှီးခြင်းကို ငဲ့ကွက်လျက် အလှူကို ပေးလှူ၏။
ဤအလှူ၏ အကျိုးကို တမလွန်ဘဝသို့ရောက်လျှင် သုံးဆောင်ခံစားရလိမ့်မည်ဟု အလှူကို ပေးလှူ၏။
ထိုပုဂ္ဂိုလ်သည် သမဏဖြစ်စေ၊ ဗြာဟ္မဏဖြစ်စေ ထမင်း၊ အဖျော်၊ အဝတ်။ ယာဉ်၊ နံ့သာ၊ နံ့သာပျောင်း၊ အိပ်ရာနေရာ၊ ဆီမီးအလှူကို ပေးလှူ၏။

"သာရိပုတ္တရာ၊ ထိုအရာကို သင် မည်သို့ထင်သနည်း။ ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် ဤသို့သဘောရှိသော အလှူကို ပေးလှူရာအံ့လော"ဟု မေးတော်မူ၏။

"အရှင်ဘုရား၊ ပေးလှူရာပါ၏"

"သာရိပုတ္တရာ၊ ထိုသို့သဘောရှိသော အလှူကို လှူသော ထိုပုဂ္ဂိုလ်သည် ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ စတုမဟာရာဇ် နတ်တို့၏ အသင်းဝင် အဖြစ်သို့ ရောက်၏။ ထိုပုဂ္ဂိုလ်သည် ထိုကုသိုလ်ကံ ထိုတန်ခိုးကို၊ ထိုအခြံအရံနှင့် ပြည့်စုံမှုကို၊ ထိုအစိုးရမှုကို ကုန်စေ၍ ဤလူ့ဘုံသို့ ပြန်ရောက်လျက် အောက်ဘုံသို့ ဆင်းရ၏။

သာရိပုတ္တရာ၊ ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည်ကား–
မငဲ့ကွက်မူ၍ အလှူကို ပေးလှူ၏။
မနှောင်မဖွဲ့မူ၍ အလှူကို ပေးလှူ၏။
သိုမှီးခြင်းကို မငဲ့ကွက်မူ၍ အလှူကို ပေးလှူ၏။
ဤအလှူ၏ အကျိုးကို တမလွန်ဘဝသို့ ရောက်လျှင် သုံးဆောင်ခံစားရလိမ့်မည်ဟု အလှူကို မပေးလှူ။
စင်စစ်မူကား အလှူပေးခြင်းသည် ကောင်းမွန်လှ၏ဟု နှလုံးသွင်း၍ အလှူကို ပေးလှူ၏။

ထိုပုဂ္ဂိုလ်သည် ထိုအလှူကို ပေးလှူပြီးလျှင် ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်နောက်၌ စတုမဟာရာဇ် နတ်တို့၏ အသင်းဝင်အဖြစ်သို့ ရောက်၏။ ထိုပုဂ္ဂိုလ်သည် ထိုကုသိုလ်ကံကို၊ ထိုတန်ခိုးကို၊ ထိုအခြံအရံနှင့် ပြည့်စုံမှုကို၊ ထိုအစိုးရမှုကိုကုန်စေ၍ ဤလူ့ဘုံသို့ ရောက်လျက် အောက်ဘုံသို့ ဆင်းရ၏။

သာရိပုတ္တရာ၊ အလှူပေးခြင်းသည် ကောင်းမွန်လှ၏ဟု နှလုံးသွင်း၍ အလှူကို ပေးလှူသည်မဟုတ်။ စင်စစ်မူကား 'အဘအဘိုးတို့သည် အလှူကို ပေးလှူဖူး၏၊ ပြုဖူး၏၊ ရှေးဖြစ်သော ဆွေမျိုးတို့၏ အနွယ်အဆက်ကို ယုတ်လျော့စေခြင်းငှာ မထိုက်'ဟု နှလုံးသွင်း၍ အလှူကို ပေးလှူ၏။ ထိုပုဂ္ဂိုလ်သည်... (စတုမဟာရာဇ်နတ်ပြည် ရောက်ပြီးလျှင် လူ့ပြည်ပြန်ရောက်။)

သာရိပုတ္တရာ၊ အဘအဘိုးတို့သည် အလှူကို ပေးလှူဖူး၏။ ရှေးဖြစ်သော ဆွေမျိုးတို့၏ အနွယ်အဆက်ကို ယုတ်လျော့စေရန် မထိုက်ဟု နှလုံးသွင်း၍ အလှူကို ပေးလှူသည်မဟုတ်။ စင်စစ်မူကား ငါသည် ချက်ပြုတ်၏။ ဤသမဏဗြာဟ္မဏတို့သည်ကား မချက်ပြုတ်ကုန်။ ချက်ပြုတ်သူသည် မချက်ပြုတ်သော သမဏတို့အား အလှူကို မပေးမလှူဘဲ နေရန်မသင့်ဟု နှလုံးသွင်း၍ အလှူကို ပေးလှူ၏။ ထိုပုဂ္ဂိုလ်သည်... (စတုမဟာရာဇ်နတ်ဘုံရောက်၊ ပြီးလျှင် လူ့ပြည်ပြန်ဆင်း။)

သာရိပုတ္တရာ၊ ငါသည် ချက်ပြုတ်၏။ ဤသမဏဗြာဟ္မဏတို့ကား မချက်ပြုတ်ကုန်။ ချက်ပြုတ်သူသည် မချက်ပြုတ်သော သမဏဗြာဟ္မဏတို့အား အလှူကို မပေးမလှူဘဲ နေရန်မသင့်ဟု နှလုံးသွင်း၍ အလှူကို ပေးလှူသည်မဟုတ်။ စင်စစ်မူကား ရှေးကဖြစ်ကုန်သော အဋ္ဌကရသေ့၊ ဝါမကရသေ့၊ ဝါမဒေဝရသေ့၊ ဝေဿာမိတ္တရသေ့၊ ယမဒဂ္ဂိရသေ့၊ အင်္ဂီရသရသေ့၊ ဝါသေဋ္ဌရသေ့၊ ကဿပရသေ့၊ ဘဂုရသေ့တို့၏ ကြီးမားသော ထိုယဇ်ပူဇော်မှုတို့သည် ဖြစ်ကုန်သကဲ့သို့ ဤအတူ ဤ ငါလှူဒါန်းခွဲဝေမှုသည် ဖြစ်လိမ့်မည်ဟု နှလုံးသွင်း၍ အလှူကို ပေးလှူ၏။ ထိုပုဂ္ဂိုလ်သည်...(အထက်နည်းအတိုင်း နတ်ပြည်ရောက်။)

သာရိပုတ္တရာ၊ ရှေးကဖြစ်ကုန်သော အဋ္ဌကရသေ့ စသူတို့၏ ကြီးမားလှသော ထိုယဇ်ပူဇော်မှုတို့သည် ဖြစ်ကုန်သကဲ့သို့ ဤအတူ ဤ ငါ၏လှူဒါန်းခွဲဝေမှုသည် ဖြစ်လိမ့်မည်ဟု နှလုံးသွင်း၍ အလှူကို ပေးလှူသည်မဟုတ်။ စင်စစ်မူကား ဤအလှူကို ပေးလှူသော ငါ၏စိတ်သည် ကြည်လင်၏။ နှစ်သက်မှု၊ ဝမ်းမြောက်မှု ဖြစ်၏ဟု နှလုံးသွင်း၍ အလှူကိုပေးလှူ၏။ ထိုပုဂ္ဂိုလ်သည်...(ရှေးနည်းအတိုင်း)

သာရိပုတ္တရာ၊ ဤအလှူကို ပေးလှူသော ငါ၏စိတ်သည် ကြည်လင်၏။ နှစ်သက်မှု ဝမ်းမြောက်မှုဖြစ်၏ဟု နှလုံးသွင်း၍ အလှူကို ပေးလှူသည်မဟုတ်။ စင်စစ်မူကား သမထ ဝိပဿနာစိတ်၏ တန်ဆာ၊ စိတ်၏ အခြံအရံ ဖြစ်သည့် အလှူကို ပေးလှူ၏။

သာရိပုတ္တရာ၊ ထိုအရာကို သင် မည်သို့အောက်မေ့သနည်း။ ဤလောက၌ အချို့သောသူသည် ဤသို့သဘောရှိသော အလှူကို ပေးလှူရာအံ့လော"

"အရှင်ဘုရား၊ ဤသို့ပေးလှူရာပါ၏"

"သာရိပုတ္တရာ၊ ထိုသို့ပေးလှူရာ၌ အကြင်ပုဂ္ဂိုလ်သည်-

မငဲ့ကွက်သော စိတ်ရှိသည်ဖြစ်၍ အလှူကို ပေးလှူ၏။

နှောင်ဖွဲ့သောစိတ် မရှိသည်ဖြစ်၍ အလှူကို ပေးလှူ၏။

သိုမှီးခြင်းကို မငဲ့ကွက်မူ၍ အလှူကို ပေးလှူ၏။

တမလွန်ဘဝ၌ ခံစားရလိမ့်မည်ဟု ပေးလှူသည်မဟုတ်။ ပေးလှူခြင်းသည် ကောင်းမွန်လှ၏ဟု ပေးလှူသည်မဟုတ်။ အဘအဘိုးတို့သည် ရှေးက လှူဖူး၊ ပြုဖူး၏။ ရှေးကဖြစ်သော အမျိုးအနွယ်အဆက်ကို ယုတ်လျော့စေရန် မသင့်ဟု နှလုံးသွင်း၍ အလှူကို ပေးလှူသည်မဟုတ်။

ငါသည် ချက်ပြုတ်၏။ ဤသမဏ ဗြာဟ္မဏတို့ကား မချက်ပြုတ်ကုန်။ ချက်ပြုတ်သူသည် မချက်ပြုတ်သော သမဏ ဗြာဟ္မဏတို့အား မလှူဘဲ ယုတ်လျော့စေရန် မသင့်ဟု ပေးလှူသည် မဟုတ်။

ရှေးကဖြစ်ကုန်သော အဋ္ဌက၊ ဝါမက စသော ရသေ့တို့၏ ကြီးမားလှသော ထိုယဇ်ပူဇော်ခြင်းတို့သည် ဖြစ်ကုန်သကဲ့သို့ ဤအတူ ငါ၏ လှူဒါန်းဝေခွဲခြင်းသည် ဖြစ်လိမ့်မည်ဟု အလှူကို ပေးလှူသည် မဟုတ်။

ဤအလှူကို ပေးလှူသော ငါ့အား စိတ်သည် ကြည်လင်၏၊ နှစ်သက်ဝမ်းမြောက်မှု ဖြစ်၏ဟု နှလုံးသွင်း၍ ပေးလှူသည်မဟုတ်။

စင်စစ်သော်ကား သမထ ဝိပဿနာစိတ်၏ တန်ဆာ၊ စိတ်၏အခြံအရံ ဖြစ်သည့် အလှူကို ပေးလှူ၏။ ထိုသူသည် အလှူပေးပြီးလျှင် ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ဗြဟ္မာတို့၏ အသင်းဝင်အဖြစ်သို့ ရောက်၏။ ထိုသူသည် ထိုကံ၊ ထိုတန်ခိုး၊ ထိုအခြံအရံ၊ ထိုအစိုးရမှုကို ကုန်စေ၍ ဤကာမဘုံသို့ မလာမရောက်သောကြောင့် (ဈာန်) အနာဂါမ် ပုဂ္ဂိုလ် ဖြစ်၏။

သာရိပုတ္တရာ၊ ဤလောက၌ အချို့သောပုဂ္ဂိုလ်၏ ပေးလှူအပ်သော အလှူသည် အကျိုးအာနိသင် မဖြစ်နိုင်ခြင်း၏အကြောင်းကား ဤသည်ပင်တည်း။ အထောက်အပံ့ကား ဤသည်ပင်တည်း။

သာရိပုတ္တရာ၊ ဤလောက၌ အချို့သော ပုဂ္ဂိုလ်၏ ပေးလှူအပ်သော အလှူသည် အကျိုးအာနိသင် ကြီးမားခြင်း၏အကြောင်းကား ဤသည်ပင်တည်း။ အထောက်အပံ့ကား ဤသည်ပင်တည်း"ဟု မိန့်တော်မူသတည်း။



## ကာမဂုဏ်ငါးပါး၊ အမြတ်စား ဘုရားအား မည်သူ လျှောက်သနည်း။

**ပြဿနာ = ကာမဂုဏ်**
**မေးလျှောက်သူ = မင်းငါးပါး**

သာဝတ္ထိပြည်၊ ဇေတဝန်ကျောင်း၌ မြတ်စွာဘုရား သီတင်းသုံးတော်မူစဉ်က ဖြစ်၏။ ကောသလမင်းနှင့်တကွ မင်းငါးပါးတို့သည် ကာမဂုဏ်နှင့် ပတ်သက်၍ အယုတ်,အမြတ် အငြင်းပွားနေကြ၏။ 'ဘယ်ဟာ အမြတ်ဆုံး'ဟူ၍ အရှုံးအနိုင် မဆုံးဖြတ်နိုင်ဘဲ ဖြစ်နေကြ၏။

"အကြည်တော်တို့၊ သည်လိုဆိုလျှင် သည်ပြဿနာကို မြတ်စွာဘုရားထံ အဆုံးအဖြတ်ခံရသော် မကောင်းပေဘူးလား"ဟု ကောသလမင်းကြီးက အကြံပေးလေသည်။ ထိုအကြံပေးချက်ကို အားလုံးက လက်ခံကြသဖြင့် 'ကဲ ဒါဖြင့် သွားကြစို့'ဟု မင်းငါးပါးတို့ ပြဿနာထုပ်ကြီးကို ပိုက်၍ ဇေတဝန်ကျောင်းတော်သို့ သွားကြပြီး ကောသလမင်းကြီးက သူတို့၏ပြဿနာကို ဤသို့တင်ပြကာ ဗုဒ္ဓထံ အဆုံးအဖြတ် တောင်းခံလေ၏။

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ လောကီအာရုံ ကာမဂုဏ်တို့ဖြင့် ကုံလုံပြည့်စုံကုန်သည် ဖြစ်၍ မွေ့လျော်ကုန်သော အကျွန်ုပ်တို့ မင်းငါးယောက်တို့အား 'ကာမဂုဏ်တို့တွင် အဘယ်သည် မြတ်သနည်း'ဟူသော စကားထင်ရှားဖြစ်ခဲ့ပါ၏။-

အချို့က ကာမဂုဏ်တို့တွင် ရူပါရုံသည် အမြတ်ဆုံးဟု ဆိုပါသည်။
အချို့က သဒ္ဒါရုံသည် အမြတ်ဆုံးဟု ဆိုပါသည်။
အချို့က ဂန္ဓာရုံသည် အမြတ်ဆုံးဟု ဆိုပါသည်။
အချို့က ရသာရုံသည် အမြတ်ဆုံးဟု ဆိုပါသည်။

အချို့က ဖောဋ္ဌဗ္ဗာရုံသည် အမြတ်ဆုံးဟု ဆိုပါသည်။

-အရှင်ဘုရား၊ ကာမဂုဏ်တို့တွင် အဘယ်သည် မြတ်ပါသနည်း"ဟု ဤသို့ တင်ပြမေးလျှောက်လေသည်။

"မင်းကြီး၊ ကာမဂုဏ် ငါးပါးတို့၌ နှစ်သက်ခြင်း အထွတ်အထိပ်ရှိသော ကာမဂုဏ်ကို စင်စစ် မြတ်၏ဟူ၍ ငါဘုရား ဟောတော်မူ၏။

-မင်းကြီး၊ ထိုရူပါရုံသည်ပင် အချို့သောသူအား နှစ်သက်ဖွယ်ဖြစ်၏။ အချို့သောသူအား နှစ်သက်ဖွယ် မဖြစ်လေ။ အကြင်သူသည် အကြင်ရူပါရုံတို့ဖြင့် နှစ်လို၏။ ပြည့်စုံသော အကြံရှိ၏။ ထိုသူသည် ဤရူပါရုံမှ တစ်ပါးသော၊ အထူးသဖြင့် လွန်သည်လည်း ဖြစ်သော၊ အထူးသဖြင့် မြတ်သည်လည်း ဖြစ်သော ရူပါရုံကို မတောင့်တ။ ထိုရူပါရုံသည် မြတ်၏။

မင်းကြီး၊ ထိုသဒ္ဒါရုံသည်ပင် . . .

မင်းကြီး၊ ထိုဂန္ဓာရုံသည်ပင် . . .

မင်းကြီး၊ ထိုရသာရုံသည်ပင် . . .

မင်းကြီး၊ ထိုဖောဋ္ဌဗ္ဗာရုံသည်ပင် အချို့သောသူအား နှစ်သက်ဖွယ် ဖြစ်၏။ အချို့သောသူအား နှစ်သက်ဖွယ် မဖြစ်။ အကြင်သူသည် အကြင်ဖောဋ္ဌဗ္ဗာရုံဖြင့် နှစ်လို၏။ ပြည့်စုံသောအကြံရှိ၏။ ထိုသူသည် ထိုဖောဋ္ဌဗ္ဗာရုံမှ တစ်ပါးသော၊ အထူးသဖြင့် လွန်သည်လည်း ဖြစ်သော၊ အထူးသဖြင့် မြတ်သည်လည်း ဖြစ်သော ဖောဋ္ဌဗ္ဗာရုံကို မတောင့်တ။ ထိုသူအား ထိုဖောဋ္ဌဗ္ဗာရုံသည် မြတ်၏"ဟု မိန့်တော်မူ၏။

ထိုအချိန်တွင် ဘုရားသခင်၏ ရှေ့တော်မှောက်၌ ထိုမင်းငါးပါးသာ ရှိသည်မဟုတ်။ စန္ဒနင်္ဂလိက အမည်ရှိသော ဥပါသကာလည်း ဗုဒ္ဓရှေ့တော်မှောက်တွင် ရောက်လျက်ရှိနေပြီး ကောသလမင်းကြီး မေးလျှောက်ပုံနှင့် ဗုဒ္ဓက ဖြေကြားတော်မူပုံများကို ကြားနာရ၏။ ထိုအခါ ထိုဥပါသကာသည် နေရာမှ ထတည့်ပြီး ပခုံးတစ်ဖက်၌ အဝတ်ကို စမ္ပာယ်တင်လျက် မြတ်စွာဘုရားအား လက်အုပ်ချီကာ ဤစကားကို လျှောက်လေ၏။

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ အကျွန်ုပ်၏ဉာဏ်တွင် တစ်ခုသော အကြောင်းသည် ထင်လာပါ၏။ ကောင်းသောစကားကို ဆိုတော်မူတတ်သော မြတ်စွာဘုရား၊ အကျွန်ုပ်အား တစ်ခုသော အကြောင်းသည် ထင်လာပါ၏"ဟု လျှောက်၏။

"စန္ဒနင်္ဂလိက၊ ထိုတစ်ခုသော အကြောင်းသည် ထင်စေလော့",

ဤသို့ ခွင့်ပြုစကား ကြားရလျှင် စန္ဒနင်္ဂလိကသည် ဂါထာတွက်တွက် ရွတ်၍ ချီးကျူးစကား လျှောက်ထားသတည်း။

ကောင်းသောအနံ့ရှိသော၊ နံနက်အခါ၌ ပွင့်သော၊ မကင်းသော အနံ့ရှိသော ကောကနဒ အမည်ရှိသော ပဒုမ္မာကြာကဲ့သို့လည်းကောင်း၊ ကောင်းကင်၌ ထွန်းလင်းတောက်ပသော၊ နေမင်းကဲ့သို့လည်းကောင်း တင့်တယ်တော်မူသော၊ ကိုယ်တော်မှ ပြိုးပြိုးပြက်ထွက်သော အရောင်ရှိတော်မူသော မြတ်စွာဘုရားကို ဖူးမြင်လော့။

ထိုအခါ မင်းငါးပါးတို့သည် စန္ဒနင်္ဂလိကအား ငါးထည်သော စုလျားပုဆိုးတို့ကို ပေးကုန်၏။ စန္ဒနင်္ဂလိကလည်း ထိုငါးထည်သော စုလျားပုဆိုးတို့ကို မြတ်စွာဘုရားအား လှူလေ၏။

(ကောသလသံယုတ်၊ ပဥ္စရာဇသုတ်)



## လူသုံးစကား၊ ဖြတ်တောက်ထား
## သူကား မည်သူနည်း။

**ပြဿနာ = လောကဝေါဟာရ**
**မေးလျှောက်သူ = ပေါတလိကသူကြွယ်**

ဗုဒ္ဓသည် ရဟန်းများစွာ ခြံရံလျက် တိုင်းအတည်တည် ပြည်အစိုစို မြို့ အဖြာဖြာ ရွာအတန်တန်တို့သို့ လှည့်လည်၍ တရားအချက် မွေစက်ကို ဖွင့်တော်မူသည်တွင် အင်္ဂတိုင်းမြောက်ပိုင်းရှိ အာပဏနိဂုံးသို့ ရောက်ရှိသွား၏။ ထိုနိဂုံး၌ အခိုက်အတန့် သီတင်းသုံးနေတော်မူ၏။

တစ်နေ့သောအခါ ဆွမ်းစားပြီးချိန်တွင် ဗုဒ္ဓသည် သစ်တစ်ပင်ရင်း ဝါး တစ်ပင်အောက်တွင် တစ်ပါးတည်း ထိုင်နေတော်မူ၏။ ထိုနိဂုံးမှ ပေါတလိက မည်သော သူကြွယ်သည် ဝတ်ကောင်းစားလှ ဝတ်ဆင်လျက် ဖိနပ်ကိုစီး၊ ထီးကို ဆောင်းကာ နေ့စဉ်လမ်းလျှောက်မြဲအတိုင်း လမ်းလျှောက်လေ၏။

ဤသို့ လမ်းလျှောက်ရာက ဗုဒ္ဓထိုင်တော်မူသည့် သစ်ပင်အောက်သို့ အမှတ်မထင် ရောက်ရှိသွားလေသောအခါ ဗုဒ္ဓက "သူကြွယ်၊ ထိုင်လိုက ထိုင် လော့"ဟု ဆိုလေသော် ပေါတလိကသူကြွယ်သည် သူ့ကို သူကြွယ်ဟု ခေါ်ရ ပါမည်လားဟု ဗုဒ္ဓအား စိတ်ဆိုးသော မျက်နှာကြီးနှင့် သုန်သုန်မှုန်မှုန် ကြည့် နေ၏။

"သူကြွယ်၊ ထိုင်လော့"ဟု ဗုဒ္ဓက သုံးကြိမ်တိုင်တိုင် မိန့်လေသောအခါ မျက်နှာမကြည်မသာနှင့်ပင် သူ့အား သူကြွယ်ဟု မခေါ်သင့်ကြောင်း လျှောက် ထားတော့သည်။

"အရှင်ဂေါတမ၊ ကျွန်ုပ်အား သူကြွယ်ဟု ခေါ်ခြင်းမှာ မသင့်စနိုးလှ။ ဤသို့ သူကြွယ်ဟု မခေါ်ပါလင့်"

"သူကြွယ်၊ သင်၏အမူအရာနှင့် သင်၏အသွင်အပြင်များကား သူကြွယ်ကဲ့သို့ပင် တကား"

ဤတွင်မှအစ ဗုဒ္ဓနှင့် ပေါတလိက သူကြွယ်တို့မှာ မေးလိုက် ဖြေလိုက်၊ ခွန်းတုံ့ခွန်းပြန် ဖြစ်လာသည်။ ဆက်ဆံမှုအရာတွင် ခက်ထန်မာကြောလှသော သူကြွယ်အား ဗုဒ္ဓက ချိုသာစကားဖြင့် ဆက်ဆံ၏။

"အရှင်ဂေါတမ၊ အကျွန်ုပ်သည် လုပ်မှုကိစ္စ မှန်သမျှ အားလုံးစွန့်ပယ်ထားသူ ဖြစ်၏။ လူ့အသုံးအနှုန်း ဝေါဟာရမှန်သမျှကိုလည်း အားလုံး ဖြတ်တောက်ထားသူ ဖြစ်၏"

"သူကြွယ်၊ သင်သည် လုပ်မှုကိစ္စ မှန်သမျှကို မည်သို့စွန့်ပယ်၍ လူ့အသုံးအနှုန်း ဝေါဟာရ အားလုံးကိုလည်း မည်သို့ဖြတ်တောက်ထားသနည်း"

"အရှင်ဂေါတမ၊ အကျွန်ုပ်သည် ကောက်ပဲသီးနှံ၊ ဆန်ရေစပါး၊ ရွှေငွေများကအစ ရှိသမျှ အရပ်ရပ်တို့ကို သားသမီးများအား လွှဲအပ်ခွဲဝေပေးလိုက်ပြီး ဖြစ်၏။ ကျွန်ုပ် ထိုပစ္စည်းအရပ်ရပ်တို့၌ တပ်မက်မှုလည်း မရှိ၊ တွယ်တာမှုလည်း မရှိပြီ။ လုပ်မှုကိစ္စအားလုံးကို စွန့်ပယ်ထားသည်ကား ဤသို့၊ လူ့အသုံးအနှုန်း ဝေါဟာရ အားလုံးကို ဖြတ်တောက်ထားသည်ကား ဤနှယ်"ဟူ၍ ဆို၏။

"သူကြွယ်၊ လူ့အသုံးအနှုန်းများကို သင်၏ ဖြတ်တောက်ပုံနှင့် အရိယာတို့ အဆုံးအမ၌ လူ့အသုံးအနှုန်းကို ဖြတ်တောက်ပုံတို့ကား ခြားနားနေချေသည် တကား"

"အရှင်ဂေါတမ၊ မည်သို့ခြားနားပါသနည်း။ ခြားနားချက်ကို ကျွန်ုပ်အား ဟောကြားစေချင်ပါ၏"ဟု ဗုဒ္ဓထံ ပန်ကြားလေ၏။ ထိုအခါ ဗုဒ္ဓသည် အရိယာတို့၏ အဆုံးအမ၌ လူ့အသုံးအနှုန်း ဖြတ်တောက်ခြင်း ရှစ်မျိုးရှိကြောင်းကို သူကြွယ်အား ဟောကြားလေသည်ကား-

(၁) သူ့အသက် သတ်ခြင်းကို ပယ်ခြင်း၊
(၂) သူ့ဥစ္စာ ခိုးခြင်းကို ပယ်ခြင်း၊
(၃) မုသားစကား ဆိုခြင်းကို ပယ်ခြင်း၊
(၄) ကုန်းချောစကား ဆိုခြင်းကို ပယ်ခြင်း၊
(၅) လိုချင်တပ်မက်မှုကို ပယ်ခြင်း၊
(၆) ကဲ့ရဲ့မှု၊ ချုပ်ချယ်မှုကို ပယ်ခြင်း၊
(၇) အမျက်ထွက်မှု၊ ပင်ပန်းမှုကို ပယ်ခြင်း၊
(၈) လွန်မင်းစွာ မာန်မူခြင်းကို ပယ်ခြင်းတို့ ဖြစ်သတည်း။

ဤသို့ အကျဉ်းအားဖြင့် ဟောကြားသည်ကို နားမလည်နိုင်သဖြင့် အကျယ်အားဖြင့် ဟောကြားပါရန် တောင်းပန်သည်မှာ–

"အရှင်ဂေါတမ၊ ဤသို့ ဟောကာမျှဖြင့် အကျွန်ုပ် နားမလည်ပါ။ တောင်းပန်ပါ၏။ အကျယ်အားဖြင့် ဟောကြားတော်မူပါဦး"

"သူကြွယ်၊ အာရုံထား၍ ကြားနာမှတ်သားလေလော့။ သူ့အသက်ကို သတ်သူသည် မိမိကိုယ်ကို မိမိလည်း စွပ်စွဲရာ၏။ ပညာရှိတို့ ကဲ့ရဲ့ခြင်းကိုလည်း ခံရရာ၏။ သေပြီးသည့်နောက်၌လည်း အပါယ်လေးပါးသို့ လားရာ၏။ စင်စစ် သူ့အသက်ကို သတ်ခြင်းသည် အနှောင်အဖွဲ့တစ်မျိုး၊ အနှောင့်အယှက်တစ်မျိုး ပင်တည်း။ သူ့အသက်ကို သတ်ခြင်းဟူသော အကြောင်းကြောင့် ဖြစ်ပေါ်သည့် ပင်ပန်းခြင်း၊ ပူပန်ခြင်းဟူသော ဆင်းရဲဒုက္ခတို့သည် သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်သူအား ဖြစ်ပေါ်မည် မဟုတ်။ သူကြွယ်၊ အရိယာတပည့်သည် ဤအကြောင်းကို ဆင်ခြင်၍ သူ့အသက်ကို သတ်ခြင်းမှ ရှောင်ကြဉ်၏။

သူကြွယ်၊ သူ့ဥစ္စာ ခိုးယူသူသည် . . .

သူကြွယ်၊ မုသားစကား ဆိုသူသည် . . .

သူကြွယ်၊ ကုန်းချောစကား ဆိုသူသည် . . .

သူကြွယ်၊ လိုချင်တပ်မက်မှု ရှိသူသည် . . .

သူကြွယ်၊ ကဲ့ရဲ့ချုပ်ချယ်မှု ပြုသူသည် . . .

သူကြွယ်၊ အမျက်ထွက်သူ၊ ပြင်းစွာပင်ပန်းသူသည် . . .

–သူကြွယ်၊ လွန်မင်းစွာ မာန်မူသူသည် မိမိကိုယ်ကို မိမိလည်း စွပ်စွဲရာ၏။ ပညာရှိတို့ ကဲ့ရဲ့ခြင်းကိုလည်း ခံရရာ၏။ သေပြီးနောက်၌လည်း အပယ်သို့ ကျရောက်ရာ၏။ စင်စစ် လွန်မင်းစွာ မာန်မူခြင်းသည် အနှောင်အဖွဲ့ တစ်မျိုး၊ အနှောင့်အယှက် တစ်မျိုးသာတည်း။ လွန်မင်းစွာ မာန်မူခြင်းဟူသော အကြောင်းကြောင့် ဖြစ်ပေါ်သည့် ပင်ပန်းခြင်း၊ ပူပန်ခြင်း ဟူသော ဆင်းရဲဒုက္ခတို့သည် လွန်မင်းစွာ မာန်မူခြင်းမှ ရှောင်ကွင်းသူအား ဖြစ်ပေါ်မည် မဟုတ်။ သူကြွယ်၊ အရိယာ၏တပည့်သည် ဤအကြောင်းများကို ဆင်ခြင်၍ လွန်မင်းစွာ မာန်မူခြင်းမှ ရှောင်ကြဉ်၏။

–သူကြွယ်၊ အရိယာသူမြတ်၏ အဆုံးအမ၌ လူ့အသုံးအနှုန်းကို ဖြတ်တောက်ခြင်းတို့သည် ဤရှစ်မျိုးတို့ပင် ဖြစ်ပေ၏။ သို့သော် ဤမျှဖြင့် လူ့အသုံးအနှုန်း လုံးဝပြတ်တောက်သွားသည်ကား မဟုတ်။"

"အရှင်ဂေါတမ၊ အရိယာအဆုံးအမ၌ မည်မျှသော အတိုင်းအတာဖြင့် လူ့အသုံးအနှုန်းများ လုံးဝပြတ်စဲသွားပါသနည်း။ ဟောကြားတော်မူပါဦးလော့"

–သူကြွယ်၊ အရိယာ၏ တပည့်သည်–

ကာမဂုဏ်တို့၏ အမဲရိုးသားတစ်၊ မြက်မီးရှူး၊ မီးကျီးတွင်းတို့နှင့် တူ၍ ဆင်းရဲပင်ပန်းခြင်းကို ဖြစ်စေပုံ၊

အိပ်မက်နှင့်တူ၍ အစစ်အမှန် မဟုတ်ပုံ၊

ငှားရမ်းအပ်သော ပစ္စည်းနှင့်တူ၍ မိမိမပိုင်ဆိုင်ပုံ၊

ချိုသောအသီးရှိသော သစ်ပင်နှင့်တူ၍ ဘေးအန္တရာယ်ရှိပုံတို့ကို ပညာဖြင့် ဆင်ခြင်၍ အမျိုးမျိုးသော သဘောရှိသော ဥပေက္ခာကို ရှောင်ပြီး တစ်ခုတည်းသော သဘောရှိသော ဥပေက္ခာကို ပွားများ၏။–

–ထိုအရိယာ တပည့်သည် မြတ်သော ဥပေက္ခာကြောင့် ဖြစ်သည့် သတိစင်ကြယ်ခြင်းကို အစွဲပြု၍ ဘဝဟောင်းတို့ကို ပြန်ပြောင်းအောက်မေ့နိုင်သော ပုဗ္ဗေနိဝါသာနုဿတိဉာဏ်၊ သတ္တဝါတို့၏ သေခြင်း, ဖြစ်ခြင်းကို မြင်သော ဒိဗ္ဗစက္ခုဉာဏ်နှင့် အာသဝေါကင်းသော လွတ်မြောက်မှုတို့ကို မျက်မှောက်ပြုလေ၏။–

–သူကြွယ်၊ ဤမျှသော အတိုင်းအတာဖြင့် အရိယာ အဆုံးအမ၌ လူ့အသုံးအနှုန်း လုံးဝပြတ်ခြင်းသည် ဖြစ်၏။ ဤကဲ့သို့သော လူ့အသုံးအနှုန်း ပြတ်ခြင်းကို သင်၏ကိုယ်တွင် တွေ့မြင်ပါ၏လော"

"အရှင်ဘုရား၊ အကျွန်ုပ်သည် ထိုကဲ့သို့သော အသုံးအနှုန်း ပြတ်ခြင်းမျိုးနှင့် အလှမ်းဝေးလှပါ၏။ အကျွန်ုပ်သည် ရှေးအခါက ပရိဗိုဇ်များအား တတ်သိလိမ္မာသူများဟု အမှတ်မှားခဲ့ပါသည်။ ယခုအခါ၌ကား ပရိဗိုဇ်တို့အား တတ်သိလိမ္မာသူများ မဟုတ်ဟု မှတ်၍ ရဟန်းများကိုသာ တတ်သိလိမ္မာသူများဟူ၍ မှတ်ပါတော့အံ့။ မြတ်စွာဘုရားသည် အကျွန်ုပ်အား ရဟန်းသံဃာတော်များအပေါ်၌ မြတ်နိုးခြင်း၊ ကြည်ညိုခြင်း၊ ရိုသေခြင်းတို့ ဖြစ်ပေါ်စေခဲ့ပါသည်။"

ဤသို့ ရိုသေကျိုးနွံစွာ လျှောက်ထားပြီးလျှင် ပေါတလိယသူကြွယ်ကား မြတ်စွာဘုရားအထံ၌ ရာသက်ပန် ဥပါသကာအဖြစ် ခံယူလေသတည်း။

(မဇ္ဈိမပဏ္ဏာသပါဠိ၊ ပေါတလိယသုတ်)



## နိဗ္ဗာန်စခန်း၊ တစ်ဖက်ကမ်း
## သွားလမ်း အဘယ်နည်း။

**ပြဿနာ = နိဗ္ဗာန်**
**မေးလျှောက်သူ = ဗာရဝီ ရသေ့ကြီး၏တပည့် ရသေ့များ**

အဿကတိုင်းနှင့် အဠကတိုင်း၊ ဤတိုင်းကြီးနှစ်တိုင်းတို့၏ အကြားတွင် လူသူမနီး တောအုပ်ကြီးတစ်ခုရှိ၏။ ထိုတောအုပ်၌ ဗာရဝီရသေ့ကြီးသည် တပည့်ရသေ့များစွာ ခြံရံလျက် နေ၏။

ထိုဗာရဝီရသေ့ကြီးတွင် လက်ရင်းတပည့်ကြီး တစ်ကျိပ်ခြောက်ယောက် ရှိလေရာ ထိုတပည့်ကြီး တစ်ဦးတစ်ဦးလျှင် တပည့်ပေါင်း တစ်ထောင်စီ တစ်ထောင်စီ ရှိလေသည်။ တပည့်ကြီး တစ်ကျိပ်ခြောက်ဦးနှင့် ယင်းတို့၏ တပည့်အားလုံးပေါင်းသော် တစ်သောင်းခြောက်ထောင် တစ်ဆယ့်ခြောက်ဦး ဖြစ်၏။ ဗာရဝီရသေ့ကြီးကား ထိုရသေ့ပေါင်း တစ်သောင်းကျော်တို့၏ ဆရာကြီး ဖြစ်သတည်း။

တစ်နေ့သောအခါတွင် ထိုဗာရဝီရသေ့ကြီး၌ စိတ်နှလုံး မချမ်းမြေ့စရာ ပြဿနာတစ်ခုနှင့် အကြီးအကျယ် ရင်ဆိုင်ရလေ၏။ ထိုပြဿနာအတွက် အခံရခက်နေ၏။ စက်မပျော်၊ စားမဝင်၊ တရားကိုပင် မဆင်ခြင်နိုင်၊ မသုံးသပ်နိုင်၊ အားမထုတ်နိုင် ဖြစ်နေ၏။ ထိုပြဿနာကား ပုဏ္ဏားတစ်ဦး လာရောက်ပြီး ကျိန်စာတိုက်သွားသည့် ခေါင်းပြတ်ပြဿနာ ဖြစ်သတည်း။

> "အရှင်သူမြတ်၊ အကျွန်ုပ်အား အသပြာ ငွေငါးရာ ပေးပါဟု တောင်းခံသည်ကို အရှင်သည် မပေးဘဲနေ၏။ ငါ့မှာ ပေးစရာမရှိတော့ပြီ၊ လှူ၍ကုန်ပြီဟု အကြောင်းပြ၍ ဆို၏။ အကယ်၍ အသပြာငါးရာကို မပေးခဲ့သော် အရှင်၏ဦးခေါင်းသည် ဤနေ့မှ နောက် (၇) ရက်မြောက်သောနေ့တွင် ပြတ်စေသတည်း။"

ဗာရဝီရသေ့ကြီးမှာ ဤကျိန်စာအတွက် စိတ်လက်မဖြောင့် တကြောင့်ကြကြနှင့်သာ အချိန်ကုန်ရလေ၏။ ရသေ့ကြီးအား ကြည်ညိုလေးစားသော ရက္ခစိုးနတ်တစ်ဦး ရှိ၏။ ထိုနတ်သားသည် ဆရာရသေ့ကြီး မချမ်းမမြေ့ ဖြစ်နေသည်ကို မြင်လျှင် ဤသို့ ဖြေသိမ့်စကားကို လျှောက်ထားလေသည်။

"အရှင်ဘုရား၊ သို့စဉ်မျှ ကြောင့်ကြပူဆွေး ရင်လေးဖွယ် မဟုတ်ပါ။ စိုးရိမ်တော် မမူပါလင့်။ ထိုပုဏ္ဏားကား သာမန်အညတရ ပုဏ္ဏားသာတည်း။ အသပြာငွေ ရလိုမှုအတွက် အရှင့်အား ခြိမ်းခြောက်၍ တောင်းခြင်းသာ ဖြစ်ပါသည်။ စင်စစ်ဆိုသော် ထိုပုဏ္ဏားသည် ဦးခေါင်းကိုလည်း သိသူမဟုတ်၊ ဦးခေါင်းပြုမှုကိုလည်း သိသူမဟုတ်ပါ။ ထိုအကြောင်းကို အရှင်သိလိုမူကား ဘုရားသခင်အား မေးလျှောက်ကြည့်တော်မူပါ။ ယခုအခါ သာဝတ္ထိတွင် လူတွင်ထင်ရှား ဘုရားပွင့်ထွန်းလျက် ရှိပါ၏"

ဤသို့ လျှောက်လာသော နတ်သား၏စကားကို ကြားရသည်တွင် ဗာရဝီရသေ့ကြီးမှာ အနည်းငယ် သက်သာရာ ရရှိသွား၏။ 'ဘုရား–ဘုရား၊ ဘုရားပွင့်ထွန်းလျက် ရှိနေသည် ဆိုပါကလား။ ထိုပြဿနာကို မြတ်စွာဘုရားအား ငါမေးလျှောက်ကြည့်အံ့'ဟူ၍ သန္နိဋ္ဌာန် ချလိုက်သတည်း။

သို့သော် ထိုအကြံမှာ တန့်သွားလေ၏။ 'ဩော် ငါ အသက်အရွယ်ကြီးပြီ၊ အိုမင်းမစွမ်းအရွယ် ရောက်နေပြီတကား။ ငါ၏အသက်မှာ ၁၂၀ ပင် ရှိလေပြီ။ ငါ၏ အိုမင်းမစွမ်း ရှိလေပြီဖြစ်သော ဤခန္ဓာကိုယ်ကောင်းကြီးကို ဗုဒ္ဓ၏ ရှေ့တော်ရောက်အောင် ငါမည်သို့ သယ်ဆောင်နိုင်မည်နည်း' ဤသို့တွေးကာ ကိုယ်တိုင်သွားရောက်၍ မေးလိုပါလျက်လည်း အရွယ်တော်က ဟိုင်းသဖြင့် ဆိုင်းတွတွ ဖြစ်နေပြန်လေ၏။

ထိုနောက် ဗာရဝီရသေ့ကြီးသည် တပည့်များကို သတိရလာသည်။ 'သူတို့ကိုပဲ ငါ့ကိုယ်စား လွှတ်ရတော့မှာပဲ။' ဤသို့စဉ်းစားလျက် အဇိတ၊ တိဿ၊ မေတ္တေယျ အစရှိသော လက်ရင်းတပည့်ကြီး ၁၆ ယောက်တို့ကို ခေါ်ပြီးလျှင် ဤသို့ ဆိုလေသတည်း။

"ချစ်တပည့်တို့၊ လောက၌ ဘုရားပွင့်ခြင်းသည် လွန်စွာရခဲ၏။ ဘုရားဟူ၍ ကျော်စောသော ထိုပုဂ္ဂိုလ်သည် ယခု ပွင့်လာပြီ။ သာဝတ္ထိပြည်တွင် ယခု ရှိနေ၏။ ထိုမြတ်စွာဘုရားအား သင်တို့ သွားဖူးကြကုန်"

ဗာရဝီရသေ့ကြီးသည် အိုမင်းမစွမ်း ရှိနေပြီဖြစ်၍ ကိုယ်တိုင်မသွားနိုင်တော့သဖြင့် မှာလိုသော အကြောင်းအရာများကို တပည့်တို့အား နှုတ်ဖြင့် ကြားလေ၏။

"တပည့်တို့၊ ငါ၏စကားကို စူးစိုက်စွာ နာလင့်ကြကုန်လော့။ မြတ်ဗုဒ္ဓအား ငါ ပြဿနာ ခုနစ်ရပ် မေးလျှောက်လိုက်အံ့။ ထိုပြဿနာများကို မြတ်ဗုဒ္ဓအား စိတ်ဖြင့်သာ မေးလျှောက်ကြရမည်။ နှုတ်မြွက်၍ မေးခြင်း မပြုအပ်။ ကြားကြကုန်၏လော။"

ထိုစကားကြားသော် တပည့်ရသေ့တို့သည် အသီးသီး တွေးတောကုန်၏။ 'သည်တစ်ခါ ကျေးဇူးရှင် ထိပ်ခေါင်တင်၏ စကားသည် ဆန်း၏။ အံ့ဖွယ် စကား ဖြစ်၏။ နှုတ်မြွက်၍ မေးခြင်းမပြုရ၊ စိတ်ဖြင့်သာ မေးရမည်ဟု မြတ်ဆရာ မိန့်ချွေတော်မူ၏။ စိတ်ဖြင့်မေးသည်ကို ဖြေသူက သိလေမည်လော။ မသိလျှင် မည်သို့ဖြေမည်နည်း။ အဖြေ မည်သို့ရနိုင်မည်နည်း။'

ဤသို့ အသီးသီး ကိုယ်စီ အတွေး၌ နစ်မျောနေကြစဉ် စိတ်ဖြင့်သာ မေးရမည့် ပြဿနာများသည် ဗာဝရီရသေ့၏ နှုတ်ဖျားမှ ထွက်လာလေ၏။ "ဂေါတမရှင်တော်ဘုရားအား သင်တို့ စိတ်ဖြင့် မေးလျှောက်ရမည့် ပြဿနာများမှာ–

(၁) အရှင်ဘုရား၊ အကျွန်ုပ်တို့၏ ဆရာ့အသက်သည် မည်မျှရှိပါပြီနည်း။

(၂) အရှင်ဘုရား၊ အကျွန်ုပ်တို့၏ ဆရာ့အမည်ကို မည်သို့ခေါ်ပါသနည်း။

(၃) အရှင်ဘုရား၊ အကျွန်ုပ်တို့ ဆရာ၏ကိုယ်တွင် ထူးဆန်းလက္ခဏာများ မည်မျှပါရှိပါသနည်း။

(၄) အရှင်ဘုရား၊ အကျွန်ုပ်တို့ဆရာသည် ကျမ်းဂန်မည်မျှ တတ်ကျွမ်းပါသနည်း။

(၅) အကျွန်ုပ်တို့ဆရာမှာ အမြဲနေ့စဉ် ပို့ချပေးနေရသော တပည့်ပေါင်း မည်မျှရှိပါသနည်း။

(၆) အဘယ်အရာသည် ဦးခေါင်းမည်ရာ ပါသနည်း။

(၇) အဘယ်အရာသည် ဦးခေါင်း ပြတ်ရာသောအကြောင်း မည်ပါသနည်း။

–ချစ်တပည့်တို့၊ ဤပြဿနာများကို ငါက မေးလျှောက်လိုက်ပါကြောင်း ဂေါတမသခင် မြတ်ရှင်ပင်အား လျှောက်ထားကြကုန်လော့။ ဤပြဿနာများကို သေချာစွာမှတ်ကာ ယူဆောင်သွားကြလေကုန်လော့။"

ဗာဝရီရသေ့ကြီးကား ဉာဏ်အမြော်အမြင် ကြီးလှ၏။ သူ အရေးတကြီး သိလိုနေသည်မှာ 'ခေါင်းပြတ်ပြဿနာ' ဖြစ်လေသည်။ ထိုပြဿနာသည် သူ့အဖို့တွင် သေရေးရှင်ရေး ဖြစ်နေသည်။ သို့သော် ထိုအချက်ကိုကွက်၍ မမေး

လေဘဲ ပညာရှိပီသစွာ 'တစ်ချက်ခုတ် နှစ်ချက်ပြတ်' ဆိုသကဲ့သို့ သိချင်နေသော ခေါင်းပြတ်ပြဿနာလည်း ရှိရစေ၊ ထို့ပြင် ဘုရား ဟုတ်မဟုတ်ကိုလည်း သိရှိစေဟူ၍ တပည့်ကြီး တစ်ကျိပ်ခြောက်ယောက်တို့အား ကိုယ်စားလှယ်အဖြစ် စေလွှတ်လိုက်ခြင်း ဖြစ်သတည်း။

ဗုဒ္ဓထံသို့ စေလွှတ်လိုက်သော တပည့်ကြီး တစ်ကျိပ်ခြောက်ယောက်တို့၏ အမည်မှာ–

| | |
|---|---|
| (၁) အဇိတ | (၉) တောဒေယျ |
| (၂) တိဿမေတ္တေယျ | (၁၀) ကပ္ပ |
| (၃) ပုဏ္ဏက | (၁၁) ဇတုကဏ္ဏိ |
| (၄) မေတ္တဂူ | (၁၂) ဘဒြာဝုဓ |
| (၅) ဓောတက | (၁၃) ဥဒယ |
| (၆) ဥပသီဝ | (၁၄) ပေါသာလ |
| (၇) နန္ဒ | (၁၅) မောဃရာဇ |
| (၈) ဟေမက | (၁၆) ပိင်္ဂိယ |

တို့ ဖြစ်လေသည်။

ထိုတပည့်ကြီး တစ်ကျိပ်ခြောက်ယောက်သည် ဗာဝရီရသေ့ကြီး၏ စေလွှတ်ချက်အရ တစ်ထောင်စီ တစ်ထောင်စီသော မိမိတို့၏ တပည့်များကို ခေါ်ဆောင်ကာ ဗုဒ္ဓရှိရာ သာဝတ္ထိသို့ သွားကြကုန်သတည်း။

ထိုအချိန်၌ ဗုဒ္ဓသည် ဇေတဝန်ကျောင်းတော်မှာပင် သီတင်းသုံးလျက်ရှိနေတော်မူ၏။ ဗာဝရီရသေ့ကြီး၏ တပည့်ပေါင်း တစ်သောင်းခြောက်ထောင်ကျော်တို့သည် မြို့အဖြာဖြာ၊ ရွာအတန်တန်တို့ကို ဖြတ်ကျော်ခဲ့ပြီး သာဝတ္ထိ နယ်နိမိတ်အတွင်းသို့ ချဉ်းနင်းရောက်ရှိလာကြပြီ ဖြစ်၏။

ဗုဒ္ဓသည် ရသေ့တစ်သောင်းကျော်တို့ မိမိထံ လာနေကြသည်ကို ဒိဗ္ဗစက္ခုဉာဏ်ဖြင့် သိမြင်တော်မူသဖြင့် ဤသို့ဆင်ခြင်လေ၏။ 'ဗာဝရီရသေ့၏ တပည့်တို့သည် ပရိသတ်များစွာကို ဆောင်ကြဉ်းလျက် ငါ့ထံသို့ လာနေကြ၏။ ဤသာဝတ္ထိကား ယင်းတို့၏ ကျွတ်အံ့သောနေရာမဟုတ်။ ရာဇဂြိုဟ်ပြည်၌ ရှိသော 'ပါသာဏစေတီ' မည်သော ကျောင်းသည်သာလျှင် ရသေ့တို့အား လျောက်ပတ်၏။ ထိုပါသာဏစေတီကျောင်း၌ ဟောပြောရလျှင် ထိုရသေ့တို့ ကျွတ်ကုန်လတ္တံ့။'

ဤသို့ မြင်တော်မူ၍ ရသေ့များ ရောက်လာကြသောအခါ နိမိတ်ဖတ်နိုင်ကြစေရန်အလို့ငှာ သာဝတ္ထိ၌ ခြေတော်ရာတစ်ဆူကို ချထားခဲ့ပြီး ရာဇဂြိုဟ်သို့ ကြွတော်မူလေ၏။

"မြတ်ဘုရား၊ ရာဇဂြိုဟ်သို့ ကြွသွားတော်မူပါသည် အရှင်ရသေ့တို့။"

ဇေတဝန်ကျောင်းတော်သို့ ရောက်လျှင်ရောက်ချင်း ရသေ့တို့ ကြားရသော သတင်း ဖြစ်၏။ အမောဆိုက် ဟိုက်ခနဲ ဖြစ်ကုန်လေ၏။ နောက်တွင်မူ ရဟန်းတော်များ၏ ပြောပြချက်အရ ခြေတော်ရာကို တွေ့ကြရလေသော် ဗာဝရီရသေ့ကြီးက မှာကြားလိုက်သောအတိုင်း ဗုဒ္ဓ၏ခြေတော်ရာကို ဝေဒကျမ်းတို့၌ ပါရှိသော ပညာရပ်များဖြင့် သုံးသပ်ကြည့်ကြလေသောအခါ 'အဟော ဗုဒ္ဓေါ- အဟော ဗုဒ္ဓေါ' တအံ့တသြ ဖြစ်ကုန်လေ၏။ ခြေတော်ရာကို မြင်ကာမျှဖြင့် 'ဘုရားစစ်စစ်'ဟု တစ်ထစ်ချ သိရှိကြပြီး 'ဗုဒ္ဓရှိရာ ငါတို့ သွားကုန်စို့'ဟူ၍ ရာဇဂြိုဟ်ပြည်သို့ လိုက်သွားကြလေသတည်း။

ပါသာဏစေတိယကျောင်းသည် ကျောက်တောင်ပေါ်၌ တည်ရှိသော တောင်ပေါ်ကျောင်း ဖြစ်လေသည်။ ထိုအချိန်၌ ဗုဒ္ဓသည် ရံဝန်းလျက်ရှိသော ရဟန်းတို့အား တောအတွင်း၌ ခြင်္သေ့မင်း ဟောက်သကဲ့သို့ တရားဟောနေ၏။

ပါသာဏကျောက်တောင်သည် အဖြူနုရောင် ကျောက်တို့ဖြင့် ပြီး၏။ တောင်ပေါ်သို့ တက်ရာလမ်းမှာ တောင်ကို ခရုကဲ့သို့ ပတ်ရစ်လျက် တက်ရ၏။ အဇိတ အစရှိသော တောရသေ့ပေါင်း တစ်သောင်းကျော်တို့မှာ နီညိုရောင် သင်္ကန်းများကို ဝတ်ဆင်ထားကြသည်ဖြစ်ရာ ခရုပတ်လမ်းအတိုင်း ကျောက်တောင်ပေါ်သို့ ရသေ့များ တက်သွားကြသောအခါ အဖြူပေါ်တွင် နီညိုရောင် တလျှပ်လျှပ်နှင့် ရှိနေ၏။

ဗုဒ္ဓ တရားဟောတော်မူစဉ် တောင်ပေါ်သို့ တက်လာသော ရသေ့များအနက် အဇိတရသေ့သည် တရားဟောနေသော ဗုဒ္ဓကို ခပ်ဝေးဝေးမှ လှမ်း၍မြင်ရသောအခါ ဘာဏုရာဇာနေမင်းကြီး ထွန်းလင်းနေဘိသကဲ့သို့ လည်းကောင်း၊ ယုဂန်ဓိုရ်တောင်စွန်းမှ ငွေဝန်းသီတဂူ ထွက်ပြူလာဘိသကဲ့သို့ လည်းကောင်း ထင်ရလေ၏။ နီရွှေညိုမောင်း ရှုမညောင်းဖွယ် ကွန့်မြူးနေသည့် ရောင်ခြည်တော်များသည် ရသေ့တို့အား 'လာလှည့်ကုန်၊ တရားနာလှည့်ကုန်'ဟု ဖိတ်ခေါ်နေသကဲ့သို့ ထင်ရ၏။

ရသေ့တို့ တောင်ပေါ်သို့ အားလုံးရောက်ရှိသောအခါနှင့် တရားတစ်ထုံး အဆုံးသတ်ကာလ တိုက်ဆိုင်သဖြင့် တရားဟောပြီး၍ ရဟန်းသံဃာတော်များ ဖဲသွားသည့်နေရာတွင် အဇိတ စသော ရသေ့တို့ အသီးသီး နေရာယူကာ ဗုဒ္ဓအား ရိုသေစွာ ဖူးမြော်ကြကုန်၏။ ဤတွင် အဇိတရသေ့သည် ဗာဝရီရသေ့ကြီး မှာကြားလိုက်သော စကားကို အလေးထားကာ 'နှုတ်ဖြင့် တွတ်တွတ်ရွတ်ဆိုခြင်း

မပြုလေဘဲ စိတ်ဖြင့် မေးလေသတည်း။ ဗုဒ္ဓလည်း မေးတိုင်း မေးတိုင်းသော ပြဿနာများကို နှုတ်မြွက်လျက် ဖြေကြားတော်မူသတည်း။

**စိတ်ဖြင့်မေး** … … … …။

**နှုတ်ဖြင့်ဖြေ** အဓိတ၊ သင်တို့ဆရာ၏အသက်သည် ၁၂၀ ရှိလေပြီ။

**စိတ်ဖြင့်မေး** … … … …။

**နှုတ်ဖြင့်ဖြေ** အဓိတ၊ သင်တို့၏ဆရာကား ဗာရဝီအနွယ်ဖြစ်၍ အမည်အားဖြင့်လည်း ဗာရဝီဟူ၍ပင် ထင်ရှား၏။

**စိတ်ဖြင့်မေး** … … … …။

**နှုတ်ဖြင့်ဖြေ** အဓိတ၊ သင်တို့ဆရာ ဗာရဝီ၏ကိုယ်တွင် ထူးခြားသော လက္ခဏာအင်္ဂါများ သုံးပါးပါရှိပေသည်။

**စိတ်ဖြင့်မေး** … … … …။

**နှုတ်ဖြင့်ဖြေ** အဓိတ၊ သင်တို့ဆရာ ဗာရဝီသည် ဝေဒကျမ်းတို့၌ တစ်ဖက်ကမ်းခပ် တတ်မြောက်လှ၏။

**စိတ်ဖြင့်မေး** … … … …။

**နှုတ်ဖြင့်ဖြေ** အဓိတ၊ သင်တို့ဆရာသည် အဘိဓာန်နိဃဏ္ဍုကျမ်း၊ အလင်္ကာကေဋုဘကျမ်းနှင့် တကွသော လက္ခဏာကျမ်း၊ ဣတိဟာသကျမ်းတို့ကို တပည့်ငါးရာတို့အား အမြဲသင်ကြားပို့ချ၏။

**စိတ်ဖြင့်မေး** ယုံမှားမှုကို ဖြတ်တော်မူနိုင်သော၊ လူတို့ထက် မြတ်တော်မူသော မြတ်စွာဘုရား၊ ဗာရဝီ၏ ထူးခြားသော လက္ခဏာတို့ကို အကျယ်စိစစ်တော်မူလျက် ထင်စွာပြတော်မူပါ။ အကျွန်ုပ်တို့အား ယုံမှားမဖြစ်ပါစေလင့်။

**နှုတ်ဖြင့်ဖြေ** အဓိတ၊ သင်တို့ဆရာ ဗာရဝီသည် လျှာဖြင့် မျက်နှာကို ဖုံးအုပ်နိုင်၏။ ထိုဗာရဝီ၏ မျက်မှောင်အကြား၌ ဥဏ္ဏာလုံမွေးရှင် ပေါက်၏။ ထိုဗာရဝီအား အအိမ်ဖြင့် ဖုံးလွှမ်းသော ပုရိသအင်္ဂါ ရှိပေ၏။

နှုတ်ဖြင့် တွတ်တွတ်ရွတ်ဆို မေးမြန်းခြင်း မပြုလေဘဲ အမေးပုစ္ဆာကို တစ်စုံတစ်ရာ မကြားရပါဘဲလျက် ဤသို့ မြတ်စွာဘုရား ဖြေဆိုပုံများကို ကြားရလေသော် ရသေ့အားလုံးတို့သည် လက်အုပ်ချီကာ အထူးထူး ကြံဆကြ၏။ ‘ဤပြဿနာကို မည်သူက မေးလေသနည်း။ နတ်က မေးလေသလော။ ဗြဟ္မာက မေးလေသလော။ သိကြားမင်းက မေးလေသလော။ မြတ်စွာဘုရားသည်’ ဤအဖြေများကို မည်သူ့အား ဖြေလေသနည်း။’ဟု အတွေးကိုယ်စီနှင့် ရှိနေကုန်၏။

တွေးမည်ဆိုကလည်း တွေးစရာပင်။ စိတ်ဖြင့်မေးရမည် ဆိုသောအချက်ကို လက်ရင်းတပည့်ကြီးတို့မှတစ်ပါး ငယ်သားရသေ့တို့ မသိကြကုန်။ ထို့ကြောင့် တွေးကြခြင်း ဖြစ်၏။

**စိတ်ဖြင့်မေး** ... ... ... ...။

**နှုတ်ဖြင့်ဖြေ** အဇိတ၊ အမှန်ကိုမသိမှု၊ အဝိဇ္ဇာသည် ဦးခေါင်းမည်၏။ ယုံကြည်မှု သဒ္ဓါ၊ အောက်မေ့မှုသတိ၊ တည်ကြည်မှု သမာဓိတို့နှင့်လည်းကောင်း၊ အကုသိုလ်ကို အလိုရှိမှုဆန္ဒ၊ အားထုတ်မှု ဝီရိယနှင့်လည်းကောင်း ယှဉ်သော (အရဟတ္တမဂ်) ဝိဇ္ဇာသည် ဦးခေါင်းကို ဖြတ်တတ်သောတရား မည်၏ဟူ၍ သတ်မှတ်လေလော့။

ဤသို့ဖြေကြားလိုက်သည်တွင်မှ အဇိတရသေ့သည် နှစ်ထောင်းအားရ ဝမ်းမြောက်မှုအတိဖြင့် ကိုယ်ရောစိတ်ပါ တက်ကြွကာ ပြီးလျှင် ပခုံးတစ်ဖက်၌ သစ်နက်ရေကိုတင်ကာ မြတ်စွာဘုရား၏ ခြေတို့၌ ဦးခိုက်လေ၏။ နှုတ်မြွက်လည်း ဤသို့လျှောက်လေ၏။

"ပညာစက္ခုရှိတော်မူသော အရှင်ဘုရား၊ တပည့်တော်နှင့်တကွ ဗာဝရီဆရာမြတ်သည် ဝမ်းမြောက်ဝမ်းသာ တက်ကြွသောစိတ် ရှိသည်ဖြစ်၍ အရှင်ဘုရား၏ ခြေတော်တို့ကို ဦးခိုက်ပါ၏"

"အဇိတ၊ တပည့်တို့နှင့်အတူတကွ ဆရာဗာဝရီသည် ချမ်းသာစေသတည်း။ သင်သည်လည်း ချမ်းသာစေသတည်း။ အသက်ရှည်စေသတည်း။ အဇိတ၊ သင်တို့ဆရာ ဗာဝရီ၏လည်းကောင်း၊ သင် အဇိတ၏လည်းကောင်း၊ တပည့်အားလုံးတို့၏လည်းကောင်း၊ ယုံမှားအားလုံးကို သင်တို့အား ငါဘုရား မေးခွင့်ပြု၏။ သင်တို့၏စိတ်၌ မေးလိုသော ပုစ္ဆာဟူသမျှကို မေးကြကုန်လော့"

'မေးလိုရာ မေးကြ'ဟု ဤသို့ မြတ်စွာဘုရားက ခွင့်ပြုလိုက်သောအခါ တောရသေ့တို့သည် ချမ်းမြေ့နှလုံး ပီတိဖုံးလျက် ရှိကုန်၏။ ယင်းတို့အထဲတွင် အကြီးအမှူး ဦးစီးခေါင်းဆောင်ဖြစ်သော အဇိတရသေ့သည် ဒုတ်တုတ်ထိုင်ပြီးလျှင် လက်အုပ်ချီကာ မိမိ၏စိတ်တွင် ဘဝင်မကျဖြစ်နေသော အချက်အလက်များကို ရှေးဦးစွာ မေးလျှောက်လေသတည်း။

## (၁) အဇိတရသေ့၏ မေးလျှောက်ချက်

**မေး။** လောကတွင် အဘယ်တရားက ဖုံးလွှမ်းထားပါသနည်း။
-လောကသည် အဘယ်တရားကြောင့် မထင်ရှားပါသနည်း။

–အဘယ်တရားကို လိမ်းကျံကပ်ငြိတတ်သော တရားဟု ဟောပါသနည်း။
–အဘယ်တရားသည် ထိုလောက၏ ဘေးကြီး ဖြစ်ပါသနည်း။

**ဖြေ။** အဇိတ၊ လောကကို မသိမှု အဝိဇ္ဇာက ဖုံးလွှမ်းထား၏။
–မိမိအားသာ ဖြစ်စေလို၍ သူတစ်ပါးအား မဖြစ်စေလိုမှု မစ္ဆရိယနှင့် မေ့လျော့မှု ပမာဒတရားတို့ကြောင့် လောကသည် မထင်ရှား။
–မြည်တမ်းကြောင်း တဏှာကို (လောကကို) လိမ်းကျံကပ်ငြိတတ်သော တရားဟု ငါဆို၏။
–သံသရာဝဋ်ဒုက္ခသည် ထိုလောက၏ ဘေးကြီးဖြစ်၏။
အဇိတ မေးပြီးနောက် တိဿမေတ္တေယျက ဤသို့မေးလျှောက်၏။

## (၂) တိဿ မေတ္တေယျ၏ မေးလျှောက်ချက်

**မေး။** လောက၌ အဘယ်သူသည် ရောင့်ရဲလွယ်သူ ဖြစ်ပါသနည်း။
–အဘယ်သူအား တုန်လှုပ်မှုတို့ မရှိပါသနည်း။
–အဘယ်သူသည် အစွန်းနှစ်ဖက်ကို လည်းကောင်း၊ အလယ်ကို လည်းကောင်း၊ ပညာဖြင့်သိ၍ မကပ်ငြိပါသနည်း။
–အဘယ်သူကို မဟာပုရိသဟူ၍ ဟောတော်မူပါသနည်း။
–ဤလောက၌ အဘယ်သူသည် ချုပ်စပ်တတ်သော တရားကို လွတ်မြောက်ပါသနည်း။

**ဖြေ။** မေတ္တေယျ၊ အကြင်ရဟန်းသည် ကာမတို့၌ အပြစ်ကိုမြင်၍ မဂ်အကျင့်မြတ်ကို ကျင့်သုံးသူ၊ တပ်မက်မှုတဏှာကင်းသူ၊ အခါခပ်သိမ်း အောက်မေ့မှုသတိရှိသူ၊ ပညာဖြင့် ဆင်ခြင်၍ ငြိမ်းအေးသူဖြစ်၏။ ထိုရဟန်းအား တုန်လှုပ်တတ်သောတဏှာ ဒိဋ္ဌိတို့ မရှိကုန်။ ထိုရဟန်းသည် ဒုက္ခသစ္စာ၊ သမုဒယသစ္စာဟူသော အစွန်းနှစ်ဖက်ကိုလည်းကောင်း၊ နိရောဓသစ္စာ ဟူသော အလယ်ကိုလည်းကောင်း မဂ်ပညာဖြင့်သိ၍ (တဏှာ ဒိဋ္ဌိတို့ဖြင့်) မလိမ်းကျံ၊ မကပ်ငြိတော့ပေ။ ထိုရဟန်းကို 'မဟာပုရိသ'ဟူ၍ ငါဆို၏။ ထိုရဟန်းသည် ဤလောက၌ ချုပ်စပ်တတ်သော တဏှာကို လွန်မြောက်လေပြီ။
ထို့နောက် ပုဏ္ဏက ရသေ့က မေးလျှောက်၏။

## (၃) ပုဏ္ဏက၏ မေးလျှောက်ချက်

**မေး။** မြတ်စွာဘုရား၊ ရသေ့၊ လူ၊ မင်း၊ ပုဏ္ဏား၊ ဤသူအားလုံးတို့သည် နတ်

တို့အား ပူဇော်မှုကို အများအပြား ပြုကြပါကုန်၏။ မြတ်စွာဘုရား၊ အသို့ပါနည်း။ ပူဇော်မှု၌ မမေ့မလျော့ကုန်သော ထိုသူတို့သည် ပဋိသန္ဓေနေမှုကို လည်းကောင်း၊ အိုမှုကိုလည်းကောင်း လွန်မြောက်နိုင်ပါကုန်သလော။ ထိုအကြောင်းကို မေးလျှောက်ပါ၏။ အကျွန်ုပ်အား ဟောကြားတော်မူပါ။

**ဖြေ။** ပုဏ္ဏက၊ အကြင်သူတို့သည် လူ၊ နတ်၊ ဗြဟ္မာ အဖြစ်ကို တောင့်တကုန်၏။ လူ့ဖွယ်ဝတ္ထု၊ အလှူခံပုဂ္ဂိုလ်၊ အလှူ၏အကျိုး အာနိသင်ကို ချီးမွမ်းကုန်၏၊ မြွက်ဆိုတမ်းတကုန်၏၊ ပူဇော်ပသ ကြကုန်၏။ လူ၊ နတ်၊ ဗြဟ္မာအဖြစ် ရမှုကို အစွဲပြု၍ ကာမတို့ကို တမ်းတကုန်၏။ ထိုသူတို့သည် ပူဇော်မှုကို အားထုတ်ကြကုန်သော်လည်း ဘဝကို တပ်စွန်းမှု 'တဏှာ'ဖြင့် တပ်မက်ကုန်သောကြောင့် ပဋိသန္ဓေနေမှု၊ အိုမှု စသော ဝဋ်ဆင်းရဲကို မလွတ်မြောက်နိုင်ကြကုန်ဟု ငါဆို၏။

ထို့နောက် မေတ္တဂူ ရသေ့က မေးလျှောက်၏။

## (၄) မေတ္တဂူ၏ မေးလျှောက်ချက်

**မေး။** ဂေါတမနွယ်ဖွား မြတ်စွာဘုရား၊ မြတ်ဘုရား ဟောကြားတော်မူအပ်သောကံ၊ ကိလေသာ စသော ဥပဓိကို ပယ်တတ်သည့် ထိုစကားကို အကျွန်ုပ် နှစ်သက်ပါ၏။ ထိုတရားကို အရှင်ဘုရား သိတော်မူပြီး ဖြစ်သောကြောင့် မြတ်စွာဘုရားသည် မချွတ်ကေန်ပင် ဆင်းရဲကို ပယ်တော်မူနိုင်ပါ၏။

–မြတ်စွာဘုရား၊ အကျွန်ုပ် ကြံစည်မိသည်ကား အရှင်ဘုရားသည် အကြင်သူတို့ကို မပြတ်ခါခါ ဆုံးမတော်မူ၏။ ထိုသူတို့သည်လည်း ဆင်းရဲကို ပယ်နိုင်ကုန်ရာ၏။ မကောင်းမှုကို ပြုတော်မမူသော မြတ်စွာဘုရား၊ ထို့ကြောင့် အရှင်ဘုရားသို့ ချဉ်းကပ်၍ အကျွန်ုပ် ရှိခိုးပါ၏။ အကျွန်ုပ်ကို မပြတ်ခါခါ ဆုံးမတန်ရာပါ၏။

**ဖြေ။** မေတ္တဂူ၊ အကြင်သူကို သင်သည် မကောင်းမှုမှအပ ပြုပြီးသူ၊ မဂ်ဉာဏ်လေးပါးတို့ဖြင့် အဆုံးသို့ ရောက်ပြီးသူ၊ ကြောင့်ကြမှု မရှိသူ၊ ကာမဘဝ၌ ကပ်ငြိခြင်း မရှိသူဟူ၍ သိရာ၏။ ထိုသူသည် မချွတ်လျှင် သံသရာအယဉ် ဩဃကို လွန်မြောက်ပြီးသူ၊ တစ်ဖက်ကမ်း (နိဗ္ဗာန်) သို့ ကူးမြောက်ပြီးသူ၊ ကိလေသာဆူးငြောင့် မရှိသူ၊ ယုံမှားကင်းသူ ဖြစ်နိုင်တော့၏။

–ဤလောက၌ အကြင်သူသည် ပညာရှိ၏။ လေးပါးသော မဂ်ဉာဏ်ဖြင့် အဆုံးသို့ရောက်၏။ ထိုသူသည် ဘဝငယ်, ဘဝကြီး၌ ဤရာဂစသော ကပ်ငြိတွယ်တာမှုကို ပယ်စွန့်သောကြောင့် တဏှာကင်းပြီးသူ၊ ဆင်းရဲကြောင်း ကိလေသာ

ကင်းပြီးသူ၊ တွယ်တာမှု ကင်းပြီးသူဖြစ်၍ ပဋိသန္ဓေနေမှု၊ အိုမှု စသော ဝဋ်ဆင်းရဲကို ကူးမြောက်နိုင်၏ဟု ငါဆို၏။

ထို့နောက် ဓောတက ရသေ့က မေးလျှောက်၏။

## (၅) ဓောတက ရသေ့၏ မေးလျှောက်ချက်

**မေး။** ထက်ဝန်းကျင် မြင်နိုင်စွမ်းသော ပညာစက္ခုရှိတော်မူသော မြတ်စွာဘုရား၊ နတ်လောက၊ လူ့လောကၥ် ရာဂစသော ကြောင့်ကြမှုမရှိသော၊ မကောင်းမှုကို အပပြုပြီး၍ လှည့်လည်တော်မူသော မြတ်စွာဘုရားကို အကျွန်ုပ် ဖူးမြင်ရပါ၏။ ထိုအရှင်ဘုရားကို အကျွန်ုပ် ရှိခိုးပါ၏။ သာကီနွယ်ဖွားမြတ်စွာဘုရား၊ အကျွန်ုပ်ကို ယုံမှားမှုတို့မှ လွတ်မြောက်စေတော်မူပါလော့။

**ဖြေ။** ဓောတက၊ လောကၥ် ယုံမှားရှိသူ တစ်ဦးတစ်ယောက်ကိုမျှ လွတ်မြောက်စေခြင်းငှာ ငါဘုရား တတ်နိုင်မည် မဟုတ်။ သင်သည် မြတ်သောနိဗ္ဗာန်တရားကို သိလတ်သော် ဤနည်းဖြင့် ဤသံသရာ ဩဃကို လွန်မြောက်နိုင်ရာ၏။

**မေး။** အမြတ်တရားကို ရှာမှီးတော်မူတတ်သော မြတ်စွာဘုရား၊ အကြင်ကိလေသာမှ ငြိမ်းအေးမှု နိဗ္ဗာန်တရားကိုသိ၍ အောက်မေ့မှု သတိရှိလျက် ကျင့်ကြံအားထုတ်သူသည် ဤလောကၥ် ကပ်ငြိတွယ်တာမှုတဏှာကို လွန်မြောက်နိုင်ရာပါ၏။ ထိုကိလေသာမှ ငြိမ်းအေးမှု နိဗ္ဗာန်တရားမြတ်ကို အကျွန်ုပ် နှစ်သက်လှပါ၏။

**ဖြေ။** ဓောတက၊ ပစ္စုပ္ပန်, အတိတ်, အနာဂတ် စသော တရားအားလုံးကို အနိစ္စ စသော အပြားအားဖြင့် သင်သိ၏။ လောကၥ် ထိုတရားအားလုံးကို ကပ်ငြိ တတ်သော တရားဟုသိ၍ ဘဝကြီး, ဘဝငယ်၌ ဖြစ်ခြင်းငှာ တပ်မက်တွယ်တာမှု တဏှာကို မပြုလေလင့်။

ထို့နောက် ဥပသီဝ ရသေ့က မေးလျှောက်၏။

## (၆) ဥပသီဝရသေ့၏ မေးလျှောက်ချက်

**မေး။** သာကီနွယ်ဖွား မြတ်စွာဘုရား၊ အကျွန်ုပ်သည် တစ်ယောက်တည်း အမှီမရှိဘဲ ကြီးကျယ်သော သံသရာအယဉ် ဩဃကို ကူးမြောက်ခြင်းငှာ မတတ်နိုင်ပါ။ ထက်ဝန်းကျင် မြင်စွမ်းနိုင်သော၊ ပညာစက္ခုရှိသော မြတ်စွာဘုရား၊ အကြင်တရားကိုမှီ၍ ဤသံသရာအယဉ်ဩဃကို ကူးမြောက်နိုင်ရာ၏။ ထိုမှီရာတရားကို ဟောတော်မူပါလော့။

**ဖြေ။** ဥပသီဝ၊ အောက်မေ့မှု သတိရှိလျက် အာကိဉ္စညာယတန သမာပတ်ကို အနိစ္စ စသော အားဖြင့် ရှုသည်ဖြစ်၍ (တစ်စုံတစ်ခုမျှ) မရှိဟူသော (အာကိဉ္စညာယတနသမာပတ်ကို) မှီ၍ သံသရာအယဉ်ဩဃကို ကူးမြောက်လေလော့။ ကာမတို့ကို ပယ်လျက် ယုံမှားခြင်းတို့မှ ကင်းပျောက်သည်ဖြစ်၍ တပ်မက်မှု တဏှာ ကုန်ရာ (နိဗ္ဗာန်) ကို နေ့ရောညဉ့်ပါ ထင်စွာ ရှုလေလော့။

ထို့နောက် နန္ဒရသေ့က မေးလျှောက်ပြန်၏။

## (၇) နန္ဒရသေ့၏ မေးလျှောက်ချက်

**မေး။** ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ လောက၌ မုနိအမည်ခံ အာဇီဝက တို့ ရှိကုန်၏ဟု လူတို့ပြောဆိုကုန်၏။ ထိုစကားကို အဘယ့်ကြောင့် ဆိုကုန်သနည်း။ သမာပတ်ဉာဏ် စသည်ဖြင့် ပြည့်စုံသောသူကို မုနိဟု ဆိုကုန်ပါသလော။ သို့မဟုတ် ခေါင်းပါးသော အသက်မွေးမှုနှင့် ပြည့်စုံသူကို မုနိဟု ဆိုကုန်သလော။

**ဖြေ။** နန္ဒ၊ ဤသာသနာတော်ဝယ် ခန္ဓာစသည်တို့၌ လိမ္မာသူတို့သည် အမြင်စင်ကြယ်မှုဖြင့် မုနိဟူ၍ မဆိုကုန်။ အကြားစင်ကြယ်မှုဖြင့် မုနိဟူ၍ မဆိုကုန်။ သမာပတ် စသောဉာဏ်ဖြင့် မုနိဟူ၍ မဆိုကုန်။ အကြင်သူတို့သည် ကိလေသာ စသော မာရ်စစ်သည် ကင်းအောင် ပြုပြီး၍ ဆင်းရဲမှု မရှိကြကုန်။ ကပ်ငြိတွယ် တာမှု အာသာမရှိကြကုန်ဘဲ ကျင့်ကုန်၏။ ထိုသူတို့ကို မုနိဟူ၍ ငါဆို၏။

ထို့နောက် ဟေမက ရသေ့က လျှောက်ပြန်၏။

## (၈) ဟေမကရသေ့၏ မေးလျှောက်ချက်

**မေး။** ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ရှင်တော်မြတ်ဘုရား၏ သာသနာ တော် မပေါ်သေးမီ ရှေးအခါက အကြင်သူတို့သည် 'ဤသို့ဖြစ်ခဲ့ပြီ။ ဤသို့ ဖြစ်လိမ့်မည်။'ဟု အကျွန်ုပ်အား မိမိတို့၏ အယူအဆကို ပြောကြားကြပါကုန်၏။ ထိုသူတို့၏ ထိုအလုံးစုံသော စကားသည် တစ်ဆင့်ကြားကာမျှသာတည်း။ ထို အလုံးစုံသည် ကာမဝိတက် စသည်ကိုသာ ပွားစေနိုင်၏။ အကျွန်ုပ်သည် ထို အယူတို့၌ မနှစ်သက်နိုင်ပါ။

–မြတ်စွာဘုရား၊ အကြင်တရားကို သိ၍ အောက်မေ့မှု သတိရှိလျက် ကျင့်သူသည် လောက၌ ကပ်ငြိမှု တဏှာကို လွန်မြောက်ရာ၏။ တပ်မက်မှု

တဏှာကို ဖျက်ဆီးတတ်သော ထိုတရားကို အရှင်ဘုရားသည် အကျွန်ုပ်အား ဟောကြားတော်မူပါလော့။

**ဖြေ။** ဟေမက၊ ဤလောက၌ ချစ်ဖွယ်သဘော ရှိကုန်သော မြင်ရ၊ ကြားရ၊ ရောက်ရ၊ သိရသော အာရုံခြောက်ပါး တရားတို့၌ အလွန်တပ်စွမ်းမှု ဆန္ဒရာဂကို ပယ်ဖျောက်နိုင်သော ငြိမ်းအေးရာ နိဗ္ဗာန်သည် ရွေ့လျောခြင်း မရှိ။

–အောက်မေ့မှု သတိရှိကြသော အကြင်သူတို့သည် ထိုနိဗ္ဗာန်ကို သိသောကြောင့် တရားကိုမြင်ပြီးသူ၊ ကိလေသာမီး ငြိမ်းအေးပြီးသူတို့ ဖြစ်ကုန်၏။ ထိုသူတို့သည် အခါခပ်သိမ်း ကိလေသာမှ ငြိမ်းအေးကုန်သည်ဖြစ်၍ လောက၌ ကပ်ငြိမှု တဏှာကို လွန်မြောက်ကုန်၏။

ထို့နောက် တောဒေယျရသေ့က မေးလျှောက်၏။

## (၉) တောဒေယျရသေ့၏ မေးလျှောက်ချက်

**မေး။** သာကီနွယ်ဖွား ရှင်တော်မြတ်ဘုရား၊ အကြင်ပုဂ္ဂိုလ်၌ ကာမတို့ မကိန်းအောင်းကုန်။ အကြင်သူအား တပ်မက်မှုတဏှာ မရှိ။ အကြင်သူသည် သို့လော သို့လော တွေးတောယုံမှားမှု ဝိစိကိစ္ဆာကို လွန်မြောက်၏။ ထိုပုဂ္ဂိုလ်အား အဘယ်သို့သော လွတ်မြောက်မှု ဝိမောက္ခကို အလိုရှိအပ်ပါသနည်း။

**ဖြေ။** တောဒေယျ၊ အကြင်ပုဂ္ဂိုလ်၌ ကာမတို့ မကိန်းအောင်းကုန်။ အကြင်ပုဂ္ဂိုလ်အား တပ်မက်မှုတဏှာ မရှိ။ အကြင်သူသည် သို့လော သို့လော တွေးတောမှု ဝိစိကိစ္ဆာကို လွန်မြောက်၏။ ထိုပုဂ္ဂိုလ်အား အခြားတစ်ပါးသော လွတ်မြောက်မှု ဝိမောက္ခကို အလိုမရှိအပ်တော့ပြီ။

**မေး။** အရှင်ဘုရား၊ ထိုသူသည် တွယ်တာမှုအာသာ ကင်းပြီလော။ သို့မဟုတ် တွယ်တာမှုအာသာ ရှိသေးသလော။ ထိုသူသည် ပညာရှိသူ ဖြစ်ပါသလော။ သို့မဟုတ် သမာပတ္တိစသော ဉာဏ်ဖြင့် တဏှာကပ္ပ၊ ဒိဋ္ဌိကပ္ပကို ဖြစ်စေသူပါလော။ ထက်ဝန်းကျင် မြင်စွမ်းနိုင်သောစက္ခုကို ရှိတော်မူသော မြတ်စွာဘုရား၊ အကျွန်ုပ် သိနိုင်လောက်အောင် ထိုမုနိကို အကျွန်ုပ်အား ဟောကြားတော်မူပါလော့။

**ဖြေ။** တောဒေယျ၊ ထိုသူသည် တွယ်တာမှု အာသာကင်းပြီ။ တွယ်တာမှု အာသာ မရှိတော့ပြီ။ ထိုသူသည် ပညာရှိသူဖြစ်၏။ သမာပတ္တိစသော ဉာဏ် ဖြင့် တဏှာကပ္ပ၊ ဒိဋ္ဌိကပ္ပကို ဖြစ်စေသူ မဟုတ်တော့ပြီ။ ဤသို့လျှင် ကြောင့်ကြ မရှိသူ၊ ကာမ၌ လည်းကောင်း၊ ဘဝ၌ လည်းကောင်း ကပ်ငြိမှု တဏှာ မရှိသူကို မုနိဟူ၍ သိလော့။

ထို့နောက် ကပ္ပရသေ့သည် မေးလျှောက်၏။

## (၁၀) ကပ္ပရသေ့၏ မေးလျှောက်ချက်

**မေး။** မြတ်စွာဘုရား၊ ဖြစ်ပေါ်နေသော များသော ဘေးရှိသော ဩဃလေးဖြာ သံသရာအလယ်၌ တည်ရှိကုန်သော၊ အိုခြင်း သေခြင်းသည် နှိပ်စက်အပ်ကုန်သော သူတို့၏ မှီခိုရာကျွန်းကို ဟောတော်မူပါလော့။ အရှင်ဘုရားသည် ဆင်းရဲတစ်ဖန် မဖြစ်နိုင်ရာသော ဤကျွန်းကို အကျွန်ုပ်အား ဟောတော်မူပါလော့။

**ဖြေ။** ကပ္ပ၊ ဖြစ်ပေါ်နေသော များသော ဘေးရှိသော၊ ဩဃလေးဖြာ သံသရာ အလယ်၌ တည်ကုန်သော၊ အိုခြင်း သေခြင်းသည် နှိပ်စက်အပ်ကုန်သော သူတို့၏ မှီခိုရာကျွန်းကို သင့်အား ငါဘုရား ဟောအံ့။

–မှီခိုရာ ကျွန်းသည် ကြောင့်ကြမှု မရှိ။ တဏှာဒိဋ္ဌိတို့ဖြင့် စွဲလမ်းယူရာ မဟုတ်။ ဤကျွန်းမှတစ်ပါး အခြားကျွန်းမရှိ။ အိုခြင်း သေခြင်း၏ ကုန်ရာဖြစ်သော ထိုကျွန်းကို နိဗ္ဗာန်ဟူ၍ ငါဆို၏။

–အောက်မေ့မှု သတိရှိသော အကြင်သူတို့သည် ထိုနိဗ္ဗာန်ကို သိခြင်းကြောင့် တရားကို မြင်ပြီးလျှင် ကိလေသာမီး ငြိမ်းသူ ဖြစ်ကုန်၏။ ထိုသူတို့သည် မာရ်နတ်၏ နောက်လိုက်မဟုတ်တော့ကုန်။ မာရ်နတ်၏ အလုပ်အကျွေး မဟုတ်တော့ကုန်။

ထို့နောက် ဇတုကဏ္ဏိ ရသေ့ မေးလျှောက်၏။

## (၁၁) ဇတုကဏ္ဏိရသေ့၏ မေးလျှောက်ချက်

**မေး။** လုံ့လရှိတော်မူသော မြတ်စွာဘုရား၊ အကျွန်ုပ်တို့သည် ကာမကို လိုလားခြင်း ကင်းသော အရှင်ဘုရားကို (အရဟံ အစရှိသော ဂုဏ်တော်နှင့် ပြည့်စုံ၏) ဟု ကြားသိရ၍ ဩဃလေးဖြာ သံသရာမှ လွတ်မြောက်ပြီးသော၊ လိုလားမှု ကာမ ကင်းတော်မူသော အရှင်ဘုရားကို မေးလျှောက်ခြင်းငှာ လာရောက်ခဲ့ပါ၏။ ဘုရားဖြစ်သည်နှင့် တစ်ပြိုင်နက် သဗ္ဗညုတဉာဏ်ကို ရတော်မူသော မြတ်စွာဘုရား၊ ငြိမ်းအေးမှု နိဗ္ဗာန်ကို ဟောတော်မူပါလော့။ ဟုတ်မှန်တိုင်းသော ထို နိဗ္ဗာန်ကို မြတ်စွာဘုရားသည် အကျွန်ုပ်အား ဟောတော်မူပါလော့။

–တန်ခိုးရှိသော နေမင်းသည် တန်ခိုးဖြင့် မြေကိုလွှမ်းမိုး၍ ဖြစ်သကဲ့သို့ ဤအတူ မြတ်စွာဘုရားသည် ကာမတို့ကို လွှမ်းမိုး၍ ဖြစ်တော်မူ၏။ မြေကြီးကဲ့သို့ ကျယ်ပြန့်သောပညာ ရှိတော်မူသော မြတ်စွာဘုရား၊ အရှင်ဘုရားသည် ဤသာသနာတော်၌ ပဋိသန္ဓေနေမှု၊ အိုမှုကို ပယ်ဖျက်နိုင်သော အကြင်တရားကို အကျွန်ုပ် သိရာ၏။ ထိုတရားကို ပညာနည်းသော အကျွန်ုပ်အား ဟောကြားတော်မူပါလော့။

**ဖြေ။** ဇတုကဏ္ဏိ၊ ကာမမှ လွတ်မြောက်ရာ နိဗ္ဗာန်ကို ဘေးကင်းရာဟု ရှုမြင်၍ ကာမတို့၌ တပ်မက်မောမှုတို့ကို ပယ်ဖျောက်လော့။ တဏှာဒိဋ္ဌိဖြင့် ယူစွဲအပ်သော၊ ပယ်စွန့်သင့် ပယ်စွန့်ထိုက်သော ရာဂစသော ကြောင့်ကြမှုသည် သင့်အား မဖြစ်စေလင့်။

–အတိတ်သင်္ခါရတို့ကို (အာရုံဖြစ်၍ဖြစ်သော) ကိလေသာမျိုးကို ခြောက်ခန်းစေလော့။ အနာဂတ် သင်္ခါရတို့ကို (အာရုံပြု၍ ဖြစ်သော ရာဂစသော) ကြောင့်ကြမှု သင့်အား မဖြစ်စေလင့်။ ပစ္စုပ္ပန်ခန္ဓာငါးပါးတို့ကို တဏှာဒိဋ္ဌိဖြင့် သင် မစွဲယူခဲ့မူ ကိလေသာ ငြိမ်းအေးသည်ဖြစ်၍ နေရလတ္တံ့။

–ဇတုကဏ္ဏိ၊ အကြင်အာသဝတို့ဖြင့် သေမင်း၏ အလိုသို့ လိုက်ရ၏။ နာမ်တရား၊ ရုပ်တရား အားလုံး၌ ငါ၊ ငါ၏ဥစ္စာဟု မြတ်နိုးစွဲလမ်းမှု ကင်းပြီးသော ရဟန္တာပုဂ္ဂိုလ်အား ထိုအာသဝတို့ မရှိတော့ကုန်။

ထို့နောက် ဘဒြာဝုဓရသေ့က မေးလျှောက်၏။

## (၁၂) ဘဒြာဝုဓ ရသေ့၏ မေးလျှောက်ချက်

**မေး။** ခန္ဓာအိမ်၌ တပ်စွန်းမှု ရာဂကို စွန့်တော်မူပြီးသော၊ တပ်မက်မှုတဏှာ ကင်းတော်မူပြီးသော၊ နှစ်သက်မှုတဏှာကို စွန့်တော်မူပြီးသော၊ သြဃလေးဖြာ သံသရာကို လွန်မြောက်တော်မူပြီးသော၊ ကိလေသာတို့မှ လွန်မြောက်တော်မူပြီးသော၊ တဏှာကပ္ပ ဒိဋ္ဌိကပ္ပကို စွန့်တော်မူပြီးသော၊ ကောင်းသောပညာ ရှိတော်မူသော မြတ်စွာဘုရားကို ရှိသေစွာ တောင်းပန်ပါ၏။ မကောင်းမှု ရှိတော်မမူသော အရှင်ဘုရား၏ စကားတော်ကို ကြားနာရပြီးသော် ဤပါသာဏကျောင်းမှ ဖဲသွားကြရပါကုန်လတ္တံ့။

–လုံ့လရှိတော်မူသော မြတ်စွာဘုရား၊ အရှင်ဘုရား၏ စကားတော်ကို အလွန်လိုလားကုန်သော လူအမျိုးမျိုးတို့သည် အင်္ဂ, မဂဓ စသော ဇနပုဒ်တို့မှ အညီအညွတ် ရောက်လာကြကုန်၏။ တောင်းပန်ပါ၏။ အရှင်ဘုရားသည် ဤတရားကို ဟုတ်မှန်သည့်အတိုင်း သိတော်မူပြီး ဖြစ်ပါသောကြောင့် ထိုသူတို့အား အရှင်ဘုရား ဟောကြားတော်မူပါလော့။

**ဖြေ။** ဘဒြာဝုဓ၊ အနာဂတ်၌လည်းကောင်း၊ အတိတ်၌လည်းကောင်း၊ ပစ္စုပ္ပန်၌ လည်းကောင်း စွဲယူမှု တဏှာအားလုံးကို ပယ်ဖျောက်ရာ၏။ မှန်၏။ လောက၌ အကြင် အကြင်ရုပ်၊ ဝေဒနာ စသော တရားကို စွဲယူကုန်၏။ ထိုထိုတရားဖြင့်သာလျှင် မာရ်သည် သတ္တဝါသို့ အစဉ်လိုက်၏။

ထို့ကြောင့် သခ်ါရတို့၏ အနိစ္စ စသော အခြင်းအရာကို သိသော အောက်မေ့မှု သတိရှိသူ ရဟန်းသည် သေခြင်းတရား၏ တည်ရာ ကိလေသာ ခန္ဓာ စသည်၌ ကပ်ငြိတတ်သော ဤသတ္တဝါ အပေါင်းကို စွဲယူတတ်သော သတ္တဝါတို့ဟု ရှုလျက် လောကအားလုံး၌ ရုပ်, ဝေဒနာ စသည် တစ်စုံတစ်ခုကိုမျှ မစွဲယူရာ။

ထို့နောက် ဥဒယရသေ့က မေးလျှောက်၏။

## (၁၃) ဥဒယရသေ့၏ မေးလျှောက်ချက်

**မေး။** ဈာန်ဝင်စားလေ့ ရှိတော်မူသော၊ ကိလေသာမြူကင်းလျက် နေတော်မူသော၊ မဂ်ကိစ္စကို ပြုတော်မူပြီးသော၊ အာသာကင်းတော်မူသော၊ တရားအားလုံးတို့၏ ကမ်းတစ်ဖက်သို့ ရောက်တော်မူပြီးသော အရှင်ဘုရားကို ပြဿနာ မေးလိုသဖြင့် ရောက်လာပါ၏။ အဝိဇ္ဇာကို ဖျက်ဆီးတတ်သော ကိလေသာမှ လွတ်မြောက်မှု အရဟတ္တဖိုလ် ဝိမောက္ခကို ဟောတော်မူပါလော့။

**ဖြေ။** ဥဒယ၊ ကာမဂုဏ်ကို လိုလားသော ကာမစ္ဆန္ဒ၊ နှလုံးမသာမှု ဒေါမနဿ၊ ဤနှစ်ပါးစုံကို ပယ်ခြင်းကိုလည်းကောင်း၊ ထိုင်းမှိုင်းမှု ထိနမိဒ္ဓကို ပယ်ဖျောက်ခြင်းကို လည်းကောင်း၊ နောက်တစ်ဖန် ပူပန်မှု ကုက္ကုစ္စကို တားမြစ်ခြင်းကို လည်းကောင်း၊ လျစ်လျူရှုမှု (စတုတ္ထဈာန်ဥပေက္ခာ) ကြောင့်ဖြစ်သော အောက်မေ့မှု သတိ၏စင်ကြယ်ခြင်းရှိသော တရားကို ကြံစည်မှု ဓမ္မဝိတက်လျှင် ရှေ့သွားရှိသော အဝိဇ္ဇာကို ဖျက်ဆီးတတ်သော တရားကို လွန်မြောက်မှု အရဟတ္တဖိုလ် ဝိမောက္ခဟူ၍ ဆို၏။

**မေး။** ကိလေသာသည် အဘယ်နှောင်ကြိုး သံယောဇဉ် ရှိပါသနည်း။ ထိုလောကကို သုံးသပ်ခြင်းကား အဘယ်ပါနည်း။ အဘယ်တရားကို အထူးစွန့်ပယ်ခြင်းဖြင့် နိဗ္ဗာန်ဟူ၍ ဆိုအပ်ပါသနည်း။

**ဖြေ။** လောကသည် နှစ်သက်မှုတဏှာလျှင် နှောင်ကြိုးသံယောဇဉ် ရှိ၏။ ထိုလောကကို သုံးသပ်ခြင်းကား ကြံစည်မှု ဝိတက်တည်း။ တပ်မက်မှု တဏှာကို ပယ်ခြင်းဖြင့် နိဗ္ဗာန်ဟူ၍ ဆိုအပ်၏။

**မေး။** အောက်မေ့မှု သတိရှိသည်ဖြစ်၍ အဘယ်သို့နေသောသူအား ကုသိုလ်, အကုသိုလ်ကံနှင့်တကွ ဖြစ်သော ဝိညာဉ်သည် ချုပ်ပါသနည်း။ မြတ်စွာဘုရားကို မေးရန် အကျွန်ုပ်တို့ လာရောက်ပါကုန်၏။ အရှင်ဘုရား၏ ထိုစကားကို ကြားနာလိုပါကုန်၏။

**ဖြေ။** အောက်မေ့မှု သတိရှိသည်ဖြစ်၍ အတွင်းအဇ္ဈတ္တသန္တာန်၌ လည်းကောင်း၊ အပ ဗဟိဒ္ဓသန္တာန်၌လည်းကောင်း ခံစားမှုဝေဒနာကို မနှစ်သက်မှု၍ ဤသို့ နေသောသူအား ကုသိုလ်, အကုသိုလ်တရားတို့နှင့်တကွ ဖြစ်သော ဝိညာဉ်သည် ချုပ်၏။

ထို့နောက် ပေါသာလရသေ့ မေးလျှောက်၏။

## (၁၄) ပေါသာလရသေ့၏ မေးလျှောက်ချက်

**မေး။** အကြင်မြတ်စွာဘုရားသည် လွန်ပြီးအတိတ်ကို ညွှန်ပြတော်မူ၏။ တုန်လှုပ်မှုတဏှာ ကင်းတော်မူ၏။ ယုံမှားမှုကို ပယ်ဖြတ်ပြီးဖြစ်၏။ တရားအားလုံးတို့၏ ကမ်းတစ်ဖက်သို့ ရောက်တော်မူပြီးသော ထိုမြတ်စွာဘုရားကို ပြဿနာ မေးလိုသဖြင့် ရောက်လာပါ၏။

သာကီနွယ်ဖွား မြတ်စွာဘုရား၊ ရုပ်အမှတ်သညာရှိသော ရူပါဝစရ သမာပတ်ကို လွန်မြောက်ပြီးသော၊ ရုပ်ပဋိသန္ဓေ အားလုံးကို တဒင်္ဂဝိက္ခမ္ဘနအားဖြင့် ပယ်ပြီးသော၊ အတွင်းအဇ္ဈတ္တသန္တာန်၌ လည်းကောင်း၊ အပ ဗဟိဒ္ဓသန္တာန်၌ လည်းကောင်း တစ်စုံတစ်ခုမျှ မရှိဟု ရှုသော အာကိဉ္စညာယတနဈာန်ရ ပုဂ္ဂိုလ်၏ ဉာဏ်ကို မေးလျှောက်ပါ၏။ ထိုသို့ သဘောရှိသောသူကို အဘယ်သို့ သိအပ်ပါသနည်း။

**ဖြေ။** ပေါသာလ၊ အလုံးစုံသော ဉာဏ်၏ တည်ရာ ဝိညာဏဋ္ဌိတိတို့ကို အမှန်သိသော ဘုရားသည် (ကံ၏အစွမ်းအားဖြင့်) တည်သော၊ အာကိဉ္စညာယတန စသည်တို့၌ ညွတ်သော၊ ထိုအာကိဉ္စညာယတနလျှင် လည်းလျောင်းရာရှိသော ထိုသတ္တဝါကို သိ၏။

အကြင် အာကိဉ္စညာယတနဈာန်ရ ပုဂ္ဂိုလ်သည် အာကိဉ္စညာယတနဘုံ၌ ဖြစ်စေတတ်သော အာကိဉ္စညာယတန ကုသိုလ်ကံကို ပလိဗောဓဟု သိ၍ အရူပရာဂဟု ဆိုအပ်သော နှစ်သက်မှု နန္ဒီကိုလည်း ဘဝရာဂ သံယောဇဉ်ဟု သိ၍ ဤသို့ ထိုအာကိဉ္စညာယတန သမာပတ်ကို ထူးသောဉာဏ်ဖြင့် သိပြီးလျှင် ထိုအာကိဉ္စညာယတန သမာပတ်မှ (ထလျက်) ထိုသမာပတ်ကို အနိစ္စ စသော အားဖြင့် ရှု၏။ မဂ်အကျင့်ကို ကျင့်သုံးပြီးသော (ထိုအာကိဉ္စညာယတနဈာန်ရ) ရဟန္တာပုဂ္ဂိုလ်၏ ဤအရဟတ္တဖိုလ်ဉာဏ်သည် မဖောက်မပြန် မှန်ကန်သော ဉာဏ်ပေတည်း။

ထို့နောက် မောဃရာဇ ရသေ့က လျှောက်၏။

(၁၅) မောဃရာဇရသေ့ မေးလျှောက်ချက်

**မေး။** အကျွန်ုပ်သည် သာကီနွယ်ဖွား မြတ်စွာဘုရားကို နှစ်ကြိမ်တိုင် မေးလျှောက်ခဲ့ပါပြီ။ စက္ခုငါးပါး ရှိတော်မူသော မြတ်စွာဘုရားသည် အကျွန်ုပ်အား ဖြေကြားတော် မမူခဲ့ပါ။ ဝိသုဒ္ဓိနတ် ရဟန်းမြတ် ဖြစ်တော်မူသော အရှင်ဘုရားသည် သုံးကြိမ်တိုင် မေးမှသာလျှင် ဖြေကြားတော်မူ၏ဟု အကျွန်ုပ် ကြားရဖူးပါ၏။

–ဤလောကသည် လည်းကောင်း၊ အခြားလောကသည် လည်းကောင်း၊ နတ်နှင့်တကွသော ဗြဟ္မာလောကသည် လည်းကောင်း၊ ဂေါတမအနွယ် ဖြစ်တော်မူသော၊ အခြံအရံ အကျော်အစော ရှိတော်မူသော အရှင်ဘုရား၏ အယူကို မသိပါ။

–ဤသို့ အလွန်မြတ်သည်ကို သိမြင်တော်မူလေ့ရှိသော မြတ်စွာဘုရားထံသို့ ပြဿနာ မေးလိုသဖြင့် အကျွန်ုပ် ရောက်လာပါ၏။ လောကကို အဘယ်သို့ ရှုသူကို သေမင်းသည် မမြင်နိုင်ပါသနည်း။

**ဖြေ။** မောဃရာဇ၊ အခါခပ်သိမ်း အောက်မေ့မှု သတိရှိလျက် မိမိကိုယ်ဟု စွဲလမ်းယူမှု အတ္တာနုဒိဋ္ဌိကို နုတ်ပယ်၍ လောကကို ဆိတ်သုဉ်းသောအားဖြင့် ရှုလော့။ ဤသို့ ရှုသည်ရှိသော် သေမင်းကို လွန်မြောက်နိုင်ရာ၏။ ဤသို့ လောကကို ရှုသောသူကို သေမင်းသည် မမြင်နိုင်။

ထို့နောက် ပိင်္ဂိယရသေ့က မေးလျှောက်၏။ ထိုပိင်္ဂိယရသေ့ကား ဗာဝရီရသေ့ကြီး၏ လက်ရင်းတပည့်ကြီး တစ်ကျိပ်ခြောက်ယောက်တို့အနက် ၁၆ ယောက်မြောက်ဖြစ်ပြီး ဗာဝရီရသေ့ကြီးနှင့် ဆွေမျိုးသားချင်းမကင်း တူအရင်း ဖြစ်လေသည်။

(၁၆) ပိင်္ဂိယရသေ့၏ မေးလျှောက်ချက်

**မေး။** အကျွန်ုပ်သည် အိုမင်းပါပြီ။ အားနည်းလှပါပြီ။ ရုပ်အဆင်း ယုတ်လျော့နေပါပြီ။ မျက်စိများ မကြည်လင်တော့ပါ။ နားကောင်းကောင်း မကြားတော့ပါ။ အကျွန်ုပ်သည် အရှင်ဘုရား တရားကို မျက်မှောက်မပြုရမီအကြားခဲ့သာလျှင် တွေဝေလျက် မပျက်စီးလိုပါ။ ဤနေရာ၌ ပဋိသန္ဓေမှု၊ အိုမှုကို ပယ်ဖျောက်နိုင်သော အကြင်တရားကို အကျွန်ုပ်လိုပါ၏။ ထိုတရားကို ဟောကြားတော်မူပါလော့။

**ဖြေ။** ပိင်္ဂိယ၊ မေ့လျော့ကုန်သော သူတို့သည် ရုပ်တို့ကြောင့် ပင်ပန်းသည်တို့

ကို မြင်၍ ရုပ်တို့ကြောင့်ပင် ဖောက်ပြန်ပျက်စီးရကုန်၏။ ထို့ကြောင့် သင်သည် မမေ့မလျော့မူ၍ တစ်ဖန်ဘဝသစ် ဖြစ်ခြင်းငှာ ရုပ်ကို စွန့်ပယ်လေလော့။

**မေး။** လောကဝယ် တူရူအရပ် လေးမျက်နှာ၊ အထောင့်အရပ် လေးမျက်နှာ၊ အထက်အရပ်, အောက်အရပ် မျက်နှာဟူသော ဤအရပ်ဆယ်မျက်နှာတို့၌ အရှင်ဘုရားသည် မမြင်ရ, မကြားရ, မရောက်ရ, မသိရသော တရားတစ်စုံတစ်ခုကို မျှ မရှိပါ။ ပဋိသန္ဓေနေမှု, အိုမှုကို ပယ်စွန့်ရာဖြစ်သော အကြင်တရားကို အကျွန်ုပ်သိရာပါ၏။ ထိုတရားကို ဟောကြားတော်မူပါလော့။

**ဖြေ။** ပိင်္ဂိယ၊ တဏှာသည် နှိပ်စက်ဖျက်ဆီးအပ်ကုန်သောကြောင့် (ဇာတိ စသည်ဖြင့်) ပူပင်ခြင်း ရှိကုန်သော အိုခြင်းဖြင့် နှိပ်စက်အပ်ကုန်သော သတ္တဝါတို့ကို သင် တွေ့မြင်နေရ၏။ ပိင်္ဂိယ၊ ထို့ကြောင့် သင်သည် မမေ့မလျော့မူ၍ ဘဝသစ်၌ တစ်ဖန်မဖြစ်ခြင်းငှာ တဏှာကို စွန့်ပယ်လေလော့။

ဤသို့ဆိုအပ်ခဲ့ပြီးသောအတိုင်း ဗာဝရီရသေ့ကြီး၏ လက်ရင်းတပည့် တစ်ကျိပ်ခြောက်ယောက်တို့သည် မြတ်စွာဘုရားအား နိဗ္ဗာန်သွားရာ လမ်းကြောင်းကို အသီးသီး မေးပေကုန်၏။ မေးတိုင်း မေးတိုင်း ပြဿနာများကို ဗုဒ္ဓက ဖြေကြားတော်မူ၏။ ဤသို့မေးခြင်း၊ ဖြေခြင်းတို့ကို အကြောင်းပြု၍ သာသနာတွင် ပါရာယနသုတ်ဟူ၍ ထင်ရှားသော သုတ်တစ်သုတ် ဖြစ်လာသတည်း။

(မှတ်ချက်။ အရှင်မဟာသီလဝံသသည် ဤပါရာယန ဝတ္ထုကို ပြုစုသွားတော်မူ၏။ ပါရာယန ဝတ္ထုသည် မြန်မာစကားပြေများအနက် ရှေးအကျဆုံးဟု အသိအမှတ်ပြုခြင်း ခံရသော ဝတ္ထုဖြစ်၏။) ပါရာယန ဒေသနာတော်၏ အကျိုးတရား ကြီးမားပုံနှင့် ယင်းဒေသနာကို ပါရာယနဟု အဘယ်ကြောင့် ခေါ်တွင်ကြောင်းများကို သုတ္တနိပါတ် ပါဠိတော်တွင် ပါရှိပြီးဖြစ်၏။ တစ်ပုဒ်သော ဂါထာဖြင့် အကျိုးတရားကိုပြ၍ တစ်ပုဒ်သော ဂါထာဖြင့် သုတ်၏အမည်ကို ပြထား၏။ ယင်းဂါထာနှစ်ပုဒ်ကို အရှင်မဟာသီလဝံသက ဤသို့ ဘာသာပြန်ဆိုတော်မူ၏။

ဧကေ မေကဿ ပဉှဿ၊ ယထာ ဗုဒ္ဓေန ဒေသိတံ၊
တထာ ယော ပဋိပဇ္ဇေယျ၊ ဂစ္ဆေပါရံ အပါရတော။

ဧကမေကဿပဉှဿ = တစ်ယောက်တစ်ယောက်၏ တစ်ပါးတစ်ပါးသော ပြဿနာကို၊ ယထာ = အကြင်အခြင်းဖြင့်၊ ဗုဒ္ဓေန = မြတ်စွာသည်၊ ဒေသိတံ = ဖြေတော်မူပေ၏။ တထာ = ထိုသို့ဖြေတော်မူတိုင်း၊ ယော = အကြင်သူသည်၊ ပဋိပဇ္ဇေယျ = ကျင့်နိုင်လေသည်ဖြစ်အံ့၊ သော = ထိုသူသည်ကား၊

အပါရတော = ဘုံသုံးပါးမှ၊ ပါရံ = အမြိုက်နိဗ္ဗာန်အရပ်သို့၊ ဂစ္ဆေ = ရောက်လေရာ၏။

အပါရာ ပါရံ ဂစ္ဆေယျ၊ ဘာဝေန္တော မဂ္ဂ မုတ္တမံ၊
မဂ္ဂေါ သော ပါရံဂမနာယ၊ တသ္မာ ပါရာယနံ္ကုတိ။

ဥတ္တမံမဂ္ဂံ = မြတ်သောအကျင့်ကို၊ ဘာဝေန္တော = စီးမြန်းသောသူသည်ကား၊ အပါရာ = ဘုံသုံးပါးမှ၊ ပါရံ = အမြိုက်နိဗ္ဗာန်ပြည်သို့၊ ဂစ္ဆေယျ = ရောက်လေရာသာလျှင် ကတည်း။ သော မဂ္ဂေါ = ထိုသုတ္တန် တရားသည်ကား၊ ပါရံ ဂမနာယ = အမြိုက် နိဗ္ဗာန်ပြည်မသို့ ရောက်ခြင်းငှာ၊ မဂ္ဂေါ = ခရီးပင်ကိုတည်း။ တသ္မာ = ထိုသို့ ခရီးဖြစ်သောကြောင့်လျှင်၊ ပါရာယနံ ဣတိ = ပါရာယန တရားမည်၏ ဟူ၍ အရှင်မဟာသီလဝံသ အနက်ပြန်ဆိုတော်မူ၏။

ဗုဒ္ဓထံတော်သို့ ဗာရဝီရသေ့ကြီး စေလွှတ်လိုက်သော ရသေ့ပေါင်း သောင်းခြောက်ထောင်ကျော်တို့သည် (ဗာရဝီရသေ့ကြီး၏တပည့်) ပိင်္ဂိယရသေ့မှတစ်ပါး အားလုံးပင် ဧဟိဘိက္ခု ရဟန္တာချည်း ဖြစ်ကုန်လေ၏။ ပိင်္ဂိယရသေ့မှာမူကား တရားနာနေစဉ်တွင် 'ဤတရားတော်ကို ငါ့ဦးတော် ဗာရဝီရသေ့ကြီး ကြားနာစေချင်ပါဘိ။' ဟူ၍ တောင့်တချက်ဖြင့် ဆန္ဒကွက်မိလေသောကြောင့် ရဟန္တာအဖြစ်သို့ မရောက်လေဘဲ ဧဟိဘိက္ခု အနာဂါမ်အဖြစ်တွင် တစ်နေ၏။

မြတ်ဗုဒ္ဓသည် ဒေသနာကိစ္စ ပြီးစီးလေသောအခါ ဧဟိဘိက္ခု ရဟန္တာပေါင်း တစ်သောင်းခြောက်ထောင်ကျော် ခြံရံလျက် ရာဇဂြိုဟ်ပြည် ပါသာဏစေတိယ ကျောင်းတိုက်မှ သာဝတ္ထိသို့ ပြန်၍ကြွတော်မူ၏။ ဘိက္ခုပိင်္ဂိယမှတစ်ပါး ကျန်ရဟန္တာပေါင်း တစ်သောင်းကျော်တို့သည် သာဝတ္ထိပြည် ဗုဒ္ဓ၏ အပါးတော်၌ နေရစ်ခဲ့ကြကုန်၏။ အရှင်ပိင်္ဂိယ တစ်ပါးတည်းသာ ဦးရီးတော် ဗာရဝီရသေ့ကြီး၏ သွားခါနီးတွင် 'ဗုဒ္ဓနှင့်တွေ့လျှင် တွေ့ကြောင်းကို ငါ့ထံ အကြောင်းပြန်' ဟူ၍ မှာလိုက်သောစကားကြောင့် ဖြစ်ကြောင်းကုန်စင်ကို အစီရင်ခံရန် ပြန်သွားရလေသည်။

ဗာရဝီရသေ့ကြီးသည် မိမိရှေ့မှောက်သို့ ပြန်ရောက်လာသော ပိင်္ဂိယကို ကြည့်ကာ အံ့အားသင့်သွားလေသည်။ အကြောင်းမူကား သွားစဉ်အခါက သစ်ခေါက်ဆိုး ညိုမှိုင်းမှိုင်း ရသေ့သင်္ကန်းကို ဝတ်ရုံသွားသော်လည်း ယခုအခါတွင် ဘိက္ခုရဟန်းအသွင်ဖြင့် မြင်တွေ့နေရသောကြောင့် ဖြစ်၏။

"ဘုရားသခင်ကို တွေ့ခဲ့ပြီလော"ဟု အားရဝမ်းသာသော အမူအရာဖြင့် သိင်္ဂီယအား မေးလေ၏။

ထိုအခါ ဘိက္ခုပိင်္ဂီယသည် ဦးရှိုးတော်အား ဗုဒ္ဓနှင့် အတွေ့အကြုံပုံများကို တင်ပြပြီးလျှင် ဗုဒ္ဓ၏တရားကို တစ်ဆင့်ဟောကြားလေသော် ဗာဝရီရသေ့ကြီးမှာ အနာဂါမ်တည်ပြီး တပည့်ငါးရာတို့မှာ သောတာပန် ဖြစ်ကုန်လေ၏။ ဘိက္ခုပိင်္ဂီယ ကိုယ်တိုင်မှာလည်း ဤတွင်မှ အာသဝေါ ကုန်ခန်းကာ ရဟန္တာဖြစ်လေသတည်း။



## အကျင့်မြတ်လျှင်၊ သုံးမျိုးတွင် အရှင် ဘယ်အမျိုးအစားနည်း။

**ပြဿနာ = နတ် ရှိ၊ မရှိ**
**မေးလျှောက်သူ = သင်္ဂါရဝ လုလင်**

ကောသလတိုင်းတွင် စဥ္စလိကပ္ပရွာဟူ၍ ရွာတစ်ရွာ ရှိ၏။ ထိုရွာတွင် ဓနဥ္စာနီဟူသော အမည်ဖြင့် ပုဏ္ဏားမကြီးတစ်ယောက် ရှိလေသတတ်။ ထိုဓနဥ္စာနီကား သုံးပါးရတနာကို လွန်စွာကြည်ညိုသော ဥပါသိကာမကြီး ဖြစ်၏။ ရတနာသုံးပါးကို အမြဲဦးထိပ်ထား၏။ ကိုးကွယ်၏။ ဆည်းကပ်၏။

ဓနဥ္စာနီ ပုဏ္ဏားမသည် ဗုဒ္ဓအား အဘယ်မျှ ကြည်ညိုလေးစား ဦးထိပ်ထားသနည်းဆိုသော် မတော်တဆ ခလုတ်တိုက်မိသော အခါများမှာဖြစ်စေ၊ တစ်စုံတစ်ရာနှင့် ထိမိခိုက်မိသော အခါများမှာဖြစ်စေ ဘုရားကို သူ မမေ့။ နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿဟူ၍ ရွတ်ဆိုကာ ဘုရားသခင် ရှိရာကို မှန်း၍ ရှိခိုးလေ့ရှိသူ ဖြစ်သတည်း။

ထိုရွာ၌ ဗေဒင်အရာတွင် တစ်ဖက်ကမ်းခပ် တတ်မြောက်သူ သူငယ်တစ်ယောက်လည်း ရှိ၏။ အမည်မှာ သင်္ဂါရဝဟု တွင်၏။ ထိုသူငယ်ကား ဓနဥ္စာနီ ပုဏ္ဏေးမအား အမြင်ကပ်နေ၏။ 'ကိုးကွယ်ရာ ရှားသမို့လား။ ရဟန်းဂေါတမကိုမှ ကိုးကွယ်ရသလား။' ဟူ၍ ဓနဥ္စာနီကို မျက်မုန်းကျိုးနေသူ ဖြစ်လေသည်။

"ခင်ဗျားကြီးဟာ ရွာကျော်ပြီး ရွက်တိုက်တဲ့ မိန်းမကြီး။ ကျုပ်တို့ရွာမှာ ကိုးကွယ်စရာ ပုဏ္ဏားတော်ပညာရှိကြီးတွေ ရှိပါလျက်သားနဲ့ ကတုံးထိပ်ပြောင် ကျက်သရေရောင် ကင်းမဲ့တဲ့ ခွက်နက်ကြီးပိုက်လျက် အိမ်ပေါက်စေ့ တောင်းရမ်းစားသောက်နေတဲ့ ရဟန်းဂေါတမကိုမှ ကိုးကွယ်ရသလားဗျာ" ဟူ၍ အပြစ်တင်ချက်ကို ဓနဥ္စာနီက နှုတ်သံချိုချိုနှင့် ဤသို့ဆိုလေသည်။

"အမောင်လုလင်၊ အပြစ်တင် မစောပါလေနှင့်။ မြတ်ဘုရားအား ထိပါးသော စကား မဆိုသင့်ပါ။ အကယ်၍သာ အမောင်သည် မြတ်ဘုရား၏ သီလ, ပညာကို သိခဲ့ပါမူ ဤစကားမျိုးကို အမောင်၏နှုတ်မှ ဖွင့်ထုတ်ရက်လေမည် မဟုတ်ပါ။"

ဤသို့ဆိုလေသော် သင်္ဂါရဝ လုလင်မှာ ကြောင်စီစီ ဖြစ်သွားလေ၏။ ဓနဉ္ဇာနီ၏ စကားကို အလေးအနက်ထား၍ စဉ်းစားနေ၏။ အဘယ်မျှ သီလရှိသည်၊ အဘယ်မျှ ပညာရှိသည်ကို စူးစမ်းလိုစိတ်များ တဘွားဘွား ဖြစ်ပေါ်လာသည်။

"ကျွန်တော့်စကား လွန်တာရှိရင် ဝန္ဒာမိပါ၏။ ရဟန်းဂေါတမဟာ သီလရှိသူ၊ ပညာရှိသူ ဖြစ်ခဲ့သော် တွေ့လိုပါသည်။ ဤတစ်ကြိမ် ကျွန်တော်တို့ရွာသို့ ရဟန်းဂေါတမ ရောက်လာပါလျှင် ကျွန်တော့်ကို အကြောင်းကြားပါခင်ဗျာ။"

သင်္ဂါရဝ လုလင်သည် ပညာတတ်လူငယ်တစ်ယောက် ဖြစ်သည့်အလျောက် မိမိ၏ နှုတ်လွန်ဆိုမိသော စကားကို ရုပ်သိမ်းကာ ဗုဒ္ဓကြွအလာကိုသာ စောင့်မျှော်နေလေ၏။

သင်္ဂါရဝ လုလင်အဖို့ စောင့်မျှော်ရကျိုး နပ်သွားလေပြီ။ များမကြာမီပင် ဗုဒ္ဓသည် ဒေသစာရီ လှည့်လည်တော်မူရာမှ စဥ္စလိကပ္ပရွာသို့ ရောက်တော်မူလာပြီး တောဒေယျ သရက်ဥယျာဉ်ကြီး၌ တည်းခိုသီတင်းသုံးတော်မူ၏။ ဓနဉ္ဇာနီ ပုဏ္ဏေးမလည်း သင်္ဂါရဝ လုလင်အား ဘုရားသခင် ရောက်လာပြီဖြစ်ကြောင်း ပြောပြလေ၏။

သင်္ဂါရဝ လုလင်သည်လည်း ဗုဒ္ဓ မလာရောက်မီကပင် ဗုဒ္ဓ ရောက်လာသောအခါ မေးမည်ဟူ၍ သူ့စိတ်တွင် ဘဝင်မကျ ဖြစ်နေသော ပြဿနာရပ်များကို တသီကြီး စဉ်းစားထားလေရာ ဗုဒ္ဓဆိုက်ရောက်ကြောင်း သတင်းကောင်း ကြားလိုက်ရသဖြင့် အကြိုက်နှင့် တွေ့သွားလေ၏။

ထို့နောက် များမကြာမီ သင်္ဂါရဝမှာ ဘုရားသခင် ရှေ့တော်သို့ ရောက်သွားပြီး ဗုဒ္ဓအား လျှောက်ထားမေးမြန်းနေသော သူ၏အသံကို ကြားရလေ၏။

"အရှင်ဂေါတမ၊ ဤလောက၌ ယခုမျက်မှောက်ဘဝမှာပင် ငါတို့သည် အသိဉာဏ်ထူး၏၊ အပြီးအဆုံးသို့ ရောက်ပြီးသူများ၊ အထွတ်အထိပ်သို့ ရောက်ပြီးသူများဟု အကျင့်မြတ်ကို ဝန်ခံနေကြသည့် ရဟန်း, ပုဏ္ဏားတို့ ရှိပါကုန်၏။ ထိုကဲ့သို့ ဝန်ခံဆိုပြောနေကြသည့် ပုဂ္ဂိုလ်များထဲတွင် အရှင်ဂေါတမသည် မည်သည့်ပုဂ္ဂိုလ် အတန်အစား ဖြစ်ပါသနည်း။ မည်သည့်အတန်းစား၌ ပါဝင်ပါသနည်း။"

"သင်္ဂါရဝ၊ ထိုကဲ့သို့ အကျင့်မြတ်ကို ဝန်ခံဆိုပြောနေသူတို့တွင် ကွဲလွဲချက်၊ ခြားနားချက်များ ရှိသေးကြောင်း ငါဆို၏။ သင်္ဂါရဝ၊ အကျင့်မြတ်ကို ဝန်ခံဆိုပြောကြသည်ချင်း တူသော်လည်း မတူသော ကွဲလွဲခြားနားချက်များမှာ-

(၁) ဗေဒင်သုံးပုံဆောင် ပုဏ္ဏားတို့ကား တစ်ဆင့်ကြားဖြင့် ထိုသို့ ဝန်ခံသူများ ဖြစ်ကြ၏။

(၂) ကြံစည် စူးစမ်းလေ့ရှိသော ရဟန်းပုဏ္ဏားတို့မှာမူ ယုံကြည်မှု သက်သက်ဖြင့် ထိုသို့ဝန်ခံသူများ ဖြစ်၏။

(၃) ထို့အပြင် ရှေးအခါက မကြားဖူး မသိဖူးသော တရားတို့၌ ကိုယ်တိုင်ပင် တရားသဘော အချက်အလက်ကို ထူးခြားလေးနက်စွာ သိမြင်၍ ထိုသို့ ဝန်ခံသူများလည်း ရှိပေ၏။

-သင်္ဂါရဝ၊ ထိုသုံးမျိုးသော ပုဂ္ဂိုလ်တို့တွင် ငါသည် တရားသဘော အချက်အလက်ကို ကိုယ်တိုင်ထူးခြားလေးနက်စွာ သိမြင်၍ လက်ဦးဆုံး အကျင့်မြတ်ကို ဝန်ခံသူ ဖြစ်ပေ၏။ ယင်းသို့ ဝန်ခံသူဖြစ်ကြောင်းကိုလည်း ဆိုအပ်လတ္တံ့သော စကားများဖြင့် သိအပ်၏။

-သင်္ဂါရဝ၊ ငါသည် အကျင့်မြတ် ရရှိရေးကို ရှေးရှု၍ ထီးနန်းစည်းစိမ်ကို စွန့်ခွာခဲ့ပြီး တောထွက်၍ ရဟန်းပြုခဲ့ပေသည်။ အကျင့်မြတ်ကို ရလိမ့်နိုးနိုး ရည်မျှော်ကိုး၍ အာဠာရသေ့နှင့် ဥဒကရသေ့တို့ထံတွင် နိသျရည်း ခံခဲ့၏။ သို့သော် ငါ၏မျှော်လင့်ချက်မှာ အချည်းနှီးသာ ဖြစ်ခဲ့ရ၏။ သူတို့၏ တရားသည် ငါ မျှော်လင့်ထားသော ငြိမ်းအေးမှု သန္တိသုခကို ပေးစွမ်းနိုင်သောတရား မဟုတ်ဟု သိမြင်၍ သူတို့ထံမှ ငါ ဖဲခွာခဲ့ပြီး ဉရုဝေဠတောအုပ်တွင် ပင်ပန်းကြီးစွာ ကျင့်နိုင်ခဲသော ဒုက္ကရစရိယ အကျင့်ကို ငါကျင့်ခဲ့ပေသည်။ သို့သော် ကျင့်ရကျိုး မနပ်။ ကိုယ်လက်အင်္ဂါများ ကြုံလှီပိန်ချုံးခြင်းသာ ငါ့မှာ အဖတ်တင်ခဲ့၏။

-သင်္ဂါရဝ၊ ယင်းသို့ ကိုယ်ခန္ဓာ ပိန်ချုံး၍ လူလုံးမလှ ဖြစ်လာသောအခါ ဤအကျင့်ဖြင့် တရားမြတ်ကို မရသော်လည်း ထိုအကျင့်ဖြင့် ရတန်ရာ၏ဟူ၍ ထိုကျင့်နည်းကို ဖြတ်လိုက်ပြီး အာဟာရကို ပြန်လည်မှီဝဲကာ ဈာန်အဆင့်ဆင့်ကို ငါ ပွားများခြင်းအားဖြင့် ပုဗ္ဗေနိဝါသာနုဿတိဉာဏ်၊ ဒိဗ္ဗစက္ခုဉာဏ်၊ အာသဝက္ခယဉာဏ်တည်းဟူသော ဝိဇ္ဇာဉာဏ်သုံးပါးကို ငါ ရရှိခဲ့ပေသည်။"ဟူ၍ ဤသို့ စသည်ဖြင့် အဆင့်ဆင့် ကျင့်ကြံအားထုတ်ခဲ့ပုံများကို ဟောကြားတော်မူလေ၏။

ဗုဒ္ဓ၏ ဘဝဖြစ်ရပ် ကျင့်စဉ်အတ္ထုပ္ပတ္တိကို ကြားနာရသောအခါ သင်္ဂါရဝ

လုလင်သည် ဗုဒ္ဓ၏ အားသွန်ကြိုးကုတ် မဆုတ်မနစ်သော ဝိရိယကို ချီးကျူး စကား မြွက်ကြားပြီးနောက် မိမိ၏စိတ်တွင် မျိုသိပ်ထားခဲ့သော ပြဿနာတစ်ရပ်ကို နောက်ထပ် တင်ပြပြန်လေ၏။

"အရှင်ဂေါတမ၊ ဤလောက၌ နတ်ဟူသည် ရှိပါသလော။"

"သင်္ဂါရဝ၊ ဤလောက၌ နတ်တို့ရှိခြင်းကို အကြောင်းအားလျော်စွာ သိရ၏။"

"အရှင်ဂေါတမ၊ အဘယ်ကြောင့် ဤသို့ မတင်မကျ ဖြေပါသနည်း။ ရှိလျှင် ရှိကြောင်း၊ မရှိလျှင် မရှိကြောင်း ပြတ်သားစွာ ဖြေသင့်သည် မဟုတ်ပါလား။"

"သင်္ဂါရဝ၊ နတ်တို့ရှိသည်ဟူ၍ ဖြေသည်ဖြစ်စေ၊ နတ်တို့ရှိခြင်းကို အကြောင်းအားလျော်စွာ သိရ၏ဟူ၍ ဖြေသည်ဖြစ်စေ မည်သို့ပင်ဖြေဖြေ အသိဉာဏ်ရှိသော ပုဂ္ဂိုလ်ကား နတ်ရှိသည်ဟု တထစ်ချ သိနိုင်၊ ဆုံးဖြတ်နိုင်မည်သာ ဖြစ်ပေ၏။"

"သို့ဖြစ်ပါလျက် အရှင်ဂေါတမသည် အဘယ့်ကြောင့် အစက ပြတ်ပြတ်သားသား မဖြေကြားပါသနည်း။"

"သင်္ဂါရဝ၊ နတ်တို့ရှိခြင်းကိုကား သောင်းလောကဓာတ် ပွဲတင်ထပ်မျှ အသိအမှတ် ပြုကြပြီး မဟုတ်ပါလော။"

ဤသို့ မိန့်တော်မူသောအခါ သင်္ဂါရဝသည် ယင်းမိန့်မြွက်ချက်ကို လွန်စွာ နှစ်သက်သွားသည့်အလျောက် ဗုဒ္ဓအား ဒူးထောက်ရှိခိုးကာ ရာသက်ပန် ဥပါသကာ အဖြစ် ခံယူလေသတည်း။

(မဇ္ဈိမပဏ္ဏာသ၊ သင်္ဂါရဝသုတ်မှ)



## ချစ်လာစေမှု၊ အကြောင်းပြု
## ဘယ်သူ့အား ဂါထာပေးသနည်း။

ပြဿနာ = သားမိုက် ချွေးမဆိုး
မေးလျှောက်သူ = မဟာသာလပုဏ္ဏား

(၁)

တုန်ချည့်ချည့် ခါးကိုင်းပြန်တယ်၊
နားထိုင်းဟန် ယိုယွင်းလို့၊
အိုမင်းမှု ကုန်းကွဇရာ၊
သုံးမကျပါ။
ရှင့်သေမင်း မယူလာတောင်၊
လူ့အရာ ဝင်ဘူးကွဲ့လေး။

သည်ဂီတမှာ သည်အဘိုးအိုအတွက်ဟု ဆိုသင့်၏။ အဘိုးအို၏ သွင်ပြင်သဏ္ဌာန်ကို ရှု၍ ထပ်တူပြု၍ ဖွဲ့ဆိုထားသော ကဗျာဟူ၍လည်း ဆိုနိုင်ပါ၏။ မှန်ပါသည်။ ထိုအဘိုးအိုကား ညစ်ထပ်ပေကျံနေသော သူ၏ကိုယ်တွင် စုတ်ပြတ်ပွယောင်း ဟောင်းနွမ်းသော အဝတ်များဖြင့် ပုဆိုးအဖြစ် ရစ်ပတ်လျက် တောင်ဝှေးကို အားပြုကာ တတောက်တောက်နှင့် လျှောက်နေ၏။ ရှင်သေမင်းက လာမခေါ်သေး၍သာ တတောက်တောက်နှင့် လျှောက်နေရငြားသော်လည်း လူရာကား မဝင်တော့ပါ။

အံနေစုတ်သော်လည်း ရွှေထုပ်မြပဝါ ဆိုသကဲ့သို့ ယခုအခြေတွင် အသရေနပ်နေသော်လည်း သူ၏ဥပမိရုပ်မှာ သူဌေးရုပ်၊ သူကြွယ်ရုပ်မျိုး ဖြစ်၏။ သို့ပါလျက် မျက်လှည့်ဆရာ ကံကြမ္မာက မည်သို့ဖန်တီးလိုက်သည် မသိ၊ သူ့ အသွင်မှာ ရှုချင်စရာပင် မကောင်းအောင် ဖြစ်နေရှာပြီကော။

တစ်ချိန်တုန်းကဆိုသော် သူ၏သန့်ပြန့်ခဲ့ညားသော ဥပဓိရုပ်နှင့် လိုက်ဖက်စွာ သူသည် သာဝတ္ထိမြို့၏ အထက်လွှာတွင် ကျင်လည်ကျက်စားလာခဲ့သူဖြစ်၏။ သူဌေးဂုဏ်သိရ်ဖြင့် အရှိန်မြင့်စွာ နေလာခဲ့သူပါဟု ပြောသော် ယခုမြင်ရသော အသွင်ကိုချင့်လျက် မည်သူမျှ လက်ခံနိုင်မည် မဟုတ်၊ ယုံကြည်နိုင်မည် မဟုတ်။ သူ့အဖြစ်ကား စိန်မှန်ကင်း အစစ်က ထင်းဖြစ်ရသည့် ဘဝမျိုးပေတကား။

မှန်ပါသည်။ သူကား ဗြာဟ္မဏ မဟာသာလမျိုး ဖြစ်၏။ သာဝတ္ထိမြို့ပေါ်ဝယ် မဟာသာလသူဌေးဟု ဟိုးလေးတကျော် ထင်ရှားခဲ့သည်။ မဟာသာလသူဌေးဆိုလျှင် လူကိုမမြင်ဖူးလျှင်သာ ရှိမည်၊ နာမည်ကိုကား မကြားဖူးသူ မရှိသလောက်ပင် ဖြစ်၏။ သူ့မှာ သားလေးယောက် ရှိလေသည်။ သူ၏ ချစ်စွာသော ဇနီးမှာကား သားများ အရွယ်မရောက်မီကပင် ကွယ်လွန်သွားရှာ၏။ ဇနီးကွယ်လွန်သွားချိန်၌ သူ့အသက်မှာ ငါးဆယ်ကျော်မျှသာ ရှိသေးသဖြင့် တစ်ပင်လဲမှ တစ်ပင်ထူရန် အလားအလာ ကောင်းတုန်းအရွယ် ဖြစ်လေသည်။

သို့သော် သားကိုချစ်သော ဖခင်ဖြစ်သည့်အလျောက် သူသည် နောက်အိမ်ထောင် မပြုချေ။ နောက်အိမ်ထောင်ပြုခဲ့သော် မိထွေး၏ အရိပ်အခြေကိုကြည့်ကာ ငါ့သားများ မျက်နှာငယ်ရှာမည်။ ငါ့သားများ ကိုယ်နွမ်းစိတ်နွမ်းမချမ်းမသာနှင့် နေကြရရှာမည်။ ကွယ်လွန်သွားရှာသူ မယား၏ကိုယ်စား ငါ့သားများ၏ မျက်နှာကို တစိမ့်စိမ့်ကြည့်၍ ဖြေသိမ့်မည်၊ ချုပ်တည်းမည်။ ရွှေစင်ရုပ်တု ထွတ်ထွတ်နုလှသော သားရွှေဥများကြားတွင် မိထွေးတည်းဟူသော သူစိမ်းတရံဆံကို ငါ အဝင်မခံလိုဟူ၍ သားများကိုငဲ့ကာ အိမ်ထောင်မပြုဘဲ နေလာခဲ့သည်။

အမိမဲ့သားများကလည်း သူချစ်သလိုပင် သူ့ကို ချစ်ကြသည်။ သားများတဖြည်းဖြည်း လူလားမြောက်လာလေလေ၊ ဖခင်ဖြစ်သော မဟာသာလသူဌေးမှာ မျက်နှာပွင့်လေလေ ဖြစ်လာသည်။ သမီးကို သူဌေးကတော်ဖြစ်စေလိုသော သမီးရှင်များမှာလည်း ဝေဝစ်ပရိယာယ်အသွယ်သွယ်ဖြင့် ရမယ်ရှာရှာပြီး အလည်လာရောက်ကြသဖြင့် အိမ်မှာ ဧည့်နှင့် တင်းကျမ်းဆိုသလို ဖြစ်ခဲ့သည်။

သူ၏သားများ အိမ်ထောင်ပြုချိန် ရောက်လာသောအခါ ဖခင်ဖြစ်သော မဟာသာလသူဌေး၏ နှလုံးအုံမှာ ခုန်ခုန်လာသည်။ သားအဖငါးယောက် စပ်ကြားမှာ လူစိမ်းဝင်လာမည့်အရေးကို တွေးမိတိုင်း တထိတ်ထိတ်နှင့် ရှိနေသည်။ သူ၏ဆန္ဒအရ သာဆိုလျှင် သားအဖငါးယောက် 'ဥမကွဲသိုက်မပျက်' နေချင်၏။

ဖခင်ဖြစ်သော မိမိ၏မေတ္တာမှာ သားများအပေါ်၌ တည်သကဲ့သို့ သားတို့၏ မေတ္တာသည်လည်း ဖခင်အပေါ်မှာသာ တည်စေချင်သည်။ မေတ္တာများ ဘေးသို့ ပြန့်ကား၍ ထွက်သွားမည်ကို စိုးရိမ်မကင်း ဖြစ်နေသည်။

သို့သော် လောကဓမ္မတာကို သူ မဆန့်ကျင်။ အရွယ်ရောက်လာသော သားများအား တစ်ယောက်ပြီးတစ်ယောက် ဆိုသလိုပင် အိမ်ထောင်ချပေးလိုက်ရာ ထိုအခါ ချွေးမလေးယောက် တိုးလာသဖြင့် အိမ်မှာ တစ်မျိုးစည်စည်ကားကား ဖြစ်လာသည်။ ချွေးမများကလည်း သားများကဲ့သို့ပင် သူ့ကို ဖခင်ရင်းပမာ ဝိုင်း၍ချစ်ကြ၊ မြတ်နိုးကြ၊ ပြုစုကြလေရာ မဟာသာလသူဌေးသည် ချွေးမများ၏ ပြုစုယုယမှုကို သာယာလာသည်။ 'ငါ့ချွေးမများဟာ ဒီလိုဆိုတော့လဲ သမီးရင်းနဲ့ မခြားပါပဲကလား။ လိမ္မာလိုက်ကြဘိခြင်း။ ထမင်းဆိုလဲ အဆင်သင့်။ ချိုးရေဆိုလဲ အဆင်သင့်။ အိပ်ရာနေရာဆိုလဲ အဆင်သင့်။ လိုလေသေးမရှိ။ အလိုက်သိတတ်လိုက်ကြတာ။ အစက ဒီလိုလိမ္မာမှန်းသိရင် စောစောစီးစီးက အိမ်ထောင်ချမပေးရလား။ ဩော် ငါ့သားရော ငါ့ချွေးမများပါ တော်ရှာပါပေသည်။ လိမ္မာရှာကြပါပေသည်။'ဟူ၍ ဝမ်းတွင်းနှလုံးကျိတ်၍ ပြုံးသောပီတိဖြင့် သားနှင့်ချွေးမများကို အရိပ်တကြည့်ကြည့်နှင့် ရှိနေတော့၏။

(၂)

နံနက်ခင်းမှာ၊ မဆွေရာ၊ ဣဿာ ညနေပိုင်း။
ညချမ်းတိုင်ဘိ၊ တဏှာငြိ၊ ဣတ္ထိဆိုတဲ့ဂိုဏ်း။

ရှေးနီတိဆရာကြီးများက မိန်းမတို့၏ အတွင်းသဘော မနောစိတ်ဓာတ်ကို ဤသို့အကဲခတ်၍ အနက်ဖွင့်ဆိုကြကုန်၏။ အဓိပ္ပာယ်မှာ မိန်းမတို့သန္တာန်တွင် နံနက်ခင်း အချိန်၌ မနာလိုသဝန်တိုသောစိတ်များ တဘွားဘွား တလျှမ်းလျှမ်း ဖြစ်တတ်သည်။ ကောင်းကင်လမ်းကြောင်းမှ သူရိယနေဒေါင်း ညနေသို့ စောင်းလေသောအခါများတွင်မူ ငြူစူတတ်သည်ဟု ဆိုခြင်းဖြစ်၏။

ရှေးအခါက သားအဖငါးယောက်တို့ဖြင့် ဂုဏ်ရောင်တောက်ကာ သာတောင့်သာယာ မင်္ဂလာသာ ထိုဂေဟာကြီးမှာ မိန်းမတည်းဟူသော ချွေးမငါးဦးတို့ တမြူးမြူး တလွန့်လွန့် အညွန့်တလူလူနှင့် ရောက်ရှိလာလေသောအခါ အစပထမတွင် တစ်ယောက်နှင့်တစ်ယောက် မေတ္တာသြောက်သန်သန်နှင့် ဆက်ဆံကြသော်လည်း တဖြည်းဖြည်းတွင် မိန်းမတို့၏ဓာတ်ရုပ်များ ပေါ်လာလေ၏။ မိန်းမတို့၏ သဘာဝစိတ်ဓာတ် တဖျတ်ဖျတ် မြူးလာလေကုန်၏။ ချွေးမအချင်း

ချင်း မသင့်မတင့် ဖြစ်ကုန်လေ၏။ ထိုအခါမှစ၍ သီရိဂေဟာ၏ ကျက်သရေ ဂုဏ်သိရ်မှာ တဖြည်းဖြည်း မှေးမှိန်စ ပြုလာ၏။

တစ်ဦးသော ချွေးမက တစ်ယောက်သော ချွေးမ၏ မကောင်းသတင်း ကို ယောက္ခမကြီးအား တတွတ်တွတ် ပြောလာ၏။ အခြားချွေးမများကလည်း လစ်လျှင်လစ်သလို အချင်းချင်း အိမ်တွင်း မကောင်းသတင်းများကို ယောက္ခမ ကြီးအား ရွှေနားတော်သွင်းကြလေရာ ယောက္ခမကြီးမှာ ချွေးမများ၏ အသံလွှင့် ရုံကြီးသဖွယ် ဖြစ်နေ၏။ ထိုတွင်မျှမက မယားများ၏ နားပူနားဆာ လုပ်ချက် အရ လင်ယောကျာ်းများကလည်း ဖခင်ကြီးအား အမွေခွဲပေးရန် အရေးဆိုလာ ကြကုန်သတည်း။

ထိုအခါ မဟာသာလသူဌေးကြီးအား အရှူးမီးဝိုင်းသကဲ့သို့ စိတ်နှလုံး ကြွေပြုန်းမတတ်သော ဒုက္ခတွေ ပင်လယ်ဝေလာခဲ့သည်။ ချွေးမအချင်းချင်း မသင့်မြတ်မှု၊ ရန်ဖြစ်မှု၊ မရိုးနှင့်မတ်၊ ခယ်မနှင့် ခဲအို တကျက်ကျက် စကား များမှု စသော ဒုစရိုက်မှုများက အဘိုးကြီးအား ဝိုင်း၍ မီးမြှိုက်သကဲ့သို့ ဖြစ် နေ၏။ တဟုန်းဟုန်း တောက်လောင်နေသော မီးလျှံများအောက်တွင် တခြောက် သွေ့သွေ့နှင့် နေ့ကုန်ရက်ခန်း မချမ်းမသာနှင့်သာ အချိန်ကုန်ရလေ၏။ ထမင်း ကျွေးသည်ဆိုသော်လည်း အသံမကြားတကြား ကျိန်စာတိုက်ကျွေးသောကြောင့် အဆိပ်တုံးကို စားနေရသည်နှင့် တူ၏။ ဤဂေဟာ၌ နေလိုစိတ် ကုန်ခန်းအောင် သွယ်ဝိုက်သောနည်းအားဖြင့် အဘိုးကြီးအား သံပုံးတီး၍ တောထုတ်နေကြကုန်၏။

မသဒ္ဓါဘဲ၊ စေတနာမရှိဘဲ ကျွေးသောထမင်းကို စားရခြင်းထက် မစားဘဲ သေလိုက်ခြင်းက မြတ်သေး၏။ သင်းတို့ကျွေးသော အဆိပ်ကို ငါ မစားလို၊ မမျိုလို။ ငါ့ကံနှင့် ငါ့ကုသိုလ် ဖြစ်လိုရာ ဖြစ်စေတော့ဟူ၍ မဟာသာလ သူဌေး သည် သားလေးယောက်နှင့် ချွေးမလေးယောက် ဤရှစ်ယောက်သော သူတို့၏ ကတုံးကတိုက် အမျိုးမျိုးလုပ်၍ နှင်ထုတ်လိုက်ချက်အရ အိမ်မှထွက်ခွာလာရ လေသတည်း။

ရက်မှလကျူး၍ တန်ခူး၊ ကဆုန် လတွေနှင့် ကြုံခဲ့ရသည်မှာလည်း အတန်တန်။ ကန်ချောင်းအင်းအိုင် ရေလှိုင်လှိုင်နှင့် ဂနိုင်တစ်လျှောက် မြစိမ်း ရောင် တောက်နေရာမှ ညှိုးခြောက်ပတ်ချာ မြေလွှာလည်းအက် ရွက်ဟောင်းကျ ကြွေ ရွက်သစ်ဝေကြပုံကို အာရုံပြုခဲ့ရပေါင်းလည်း များလှလေပြီ ဖြစ်၏။

သူဌေးအရာကျ မဟာသာလမှာ ရှေးက အသွေးမျိုး အသားမျိုးလည်း မရှိတော့ပြီ။ ရှေးက ဝတ်ခဲ့သော အဝတ်အစားမျိုးလည်း မရှိတော့ပြီ။ သူတောင်း

စား ဒွန်းစဏ္ဍားကြီးအလား တောင်ဝှေးကိုထောက်ကာ ထောက်ကာနှင့် တဒေါက်ဒေါက်နှင့် ခြေဦးတည့်ရာ လျှောက်နေ၏။ သူ့ကိုမြင်လျှင် ကလေးသူငယ်များက 'အရူးကြီး အရူးကြီး'ဟု ပြောင်လှောင်ကြ၏။ သို့သော် သူ၏နားကား ပတ်ဝန်းကျင် အသံများကို ဘာမျှမကြားတော့လေယောင်တကား။

ထိုအချိန်၌ မြတ်ဗုဒ္ဓသည် သာဝတ္ထိပြည် အနာထပိဏ်သူဌေး ဆောက်လှူသော ဇေတဝန်ကျောင်း၌ သီတင်းသုံးလျက်ရှိနေသောကြောင့် ကျောင်းတော်သို့ သွားရာ လမ်းတစ်လျှောက်တွင် ဘုရားဖူးသွားလာသူများနှင့် စည်ကားလျက် ရှိနေ၏။

တုန်ချည့်ချည့် ခါးကိုင်းကိုင်းနှင့် မဟာသာလ ဒုဂ္ဂတ အဘိုးအိုသည် လမ်းဘေးတွင် တောင်ဝှေးဖြင့် မေးကိုထောက်၍ ရပ်လျက်မှကျောင်းသွားကျောင်းပြန်များကို မျက်ရည်အရွဲသားနှင့် ကြည့်နေ၏။ သူတို့ဘဝကား ချမ်းသာလေစွ၊ ချမ်းသာလေစွဟု နှုတ်မှ တတွတ်တွတ် ရေရွတ်မိနေ၏။ ဤသို့ စူးစိုက်စွာ ကြည့်ရင်းမှ သူသည် ဗုဒ္ဓ၏ အေးမြသောအရိပ်တော်ကို ခိုလှုံလိုဟန် တူပါသည်။ ဇေတဝန်ကျောင်းတော်ဆီကို မျှော်ကြည့်ပြီးနောက် တမတ်စောက်စောက်နှင့် ဇေတဝန်ကျောင်းတော်ဘက်သို့ ထွက်ခွာသွားလေ၏။

"ပုဏ္ဏား၊ သင်ကား သွားကျိုးဆံဖြူ မှုယူဖောက်ပြား ချောက်ချားယိုယွင်း အိုမင်းမစွမ်း ရှိချေ၏။ ဟောင်းနွမ်းစုတ်ပြတ်သော အဝတ်ကိုဆီးလျက် ငါ့ရှေ့မှောက်သို့ ရောက်လာ၏။ အကြောင်းအသို့နည်း။"

ကြီးမားသော မဟာကရုဏာဖြင့် မေတ္တာလေညင်း သတ္တဝါတို့အပေါ်၌ သွင်းလေ့ရှိသော မြတ်စွာဘုရားသည် ရှေ့တော်မှောက်သို့ရောက်လာသော ဒုဂ္ဂတ သူအို၏ အသွင်ကိုကြည့်ကာ ကရုဏာသက်စွာဖြင့် မေးတော်မူသောအခါ သူဌေးအရာကျ ဒုဂ္ဂတအဘိုးအိုသည် မိမိ၏ဘဝစဉ်ကို ဗုဒ္ဓအား လေသွားမမှန် တုန်ချည့်သောအသံဖြင့် လျှောက်ထားလေသတည်း။

"ပုဏ္ဏား၊ ဤဆင်းရဲဝဋ်မှ သင် လွတ်မြောက်လိုသလော"

"လွတ်မြောက်လိုပါသည်ဘုရား"

"ပုဏ္ဏား၊ ယင်းသို့ လွတ်မြောက်လိုဘိသော် သင့်အား ဂါထာများ ငါ သင်ပေးလိုက်အံ့။ သင် နှုတ်တက်ရွရွရအောင် ကျက်နိုင်မည်လော"

"ရအောင် ကျက်ပါအံ့ဘုရား"

ထို့နောက် မြတ်ဗုဒ္ဓသည် အိုမင်းမစွမ်းဖြစ်နေသော ဖခင်ဒုဂ္ဂတ၏ ချမ်းသာမှု၊ မိဘကို စွန့်ပယ်ထားသောဒ၏ သားမိုက်များအားလည်း လိမ္မာရေးခြား

ရှိစေမှုများကို ရည်ညွှန်းလျက် သူဌေးအရာကျ မဟာသာလ ဒုက္ခိတအဘိုးအိုအား ဂါထာငါးပုဒ်ကို နှုတ်တိုက်သင်ပေးတော်မူ၏။ ပြီးသောအခါ ဗုဒ္ဓက ဤသို့ မှာကြားလိုက်၏။

"ပုဏ္ဏား၊ ဤဂါထာများကို စည်ကားသော ပွဲလမ်းသဘင်သို့ သင်၏သားများနှင့် သင်၏ချွေးမများ ရောက်ရှိနေချိန်တွင် သင် ရွတ်ဆိုလော့။ သင့်အား ကောင်းကျိုးရောက်လတ္တံ့။"

ဒုက္ခိတအဘိုးအိုသည် ဗုဒ္ဓ ချီးမြှင့်လိုက်သော ဂါထာကို နှလုံးသာဏ်တိုက်ထဲ သွင်းလျက် ဇေတဝန်ကျောင်းတိုက်မှ ထွက်ခွာခဲ့လေ၏။

(၃)

စည်ကားလှစွာသော ပရိသတ်လူထုကြီးသည် တုန်ယင်သောအသံနှင့် ရွက်ဆိုလိုက်သော ဒုက္ခတအဘိုးအို၏ အသံအောက်တွင် ပါးစပ်ပေါက် အဟောင်းသားနှင့် ငေးစိုက်၍ နားထောင်နေကြကုန်၏။ သားလေးယောက်နှင့် ချွေးမလေးယောက်တို့မှာလည်း 'ဘယ်သူများ ဆိုလေဘိ။' ဟု နားရွက်တစောက်စောက်နှင့် ရှိနေကြကုန်၏။ အဘိုးအို၏အသံကား ပရိသတ်ပေါ်ဝယ် မြူးလျက်၊ ပျံလျက် ပရိသတ် ထောင့်စွန်းတစ်နေရာတွင် တောင်ဝှေးကိုထောက်ပြီး ရပ်လျက်မှ ဗုဒ္ဓက သင်ကြားပေးလိုက်သော ဂါထာကို ရွတ်ဆိုနေသူကား သူဌေးအရာကျ မဟာသာလ အဘိုးအိုကြီးပါတည်း။

(၁) အကြင်သားတို့ဖြင့် အကျွန်ုပ် နှစ်သက်ဝမ်းမြောက်ခဲ့ရ၏။ အကြင်သားတို့၏ ကြီးပွားခြင်းကိုလည်း အလိုရှိခဲ့၏။ ခွေးတို့သည် ဝက်ကိုဟောင်၍ နှင်ထုတ်ကုန်သကဲ့သို့ ထိုသားတို့သည် မယားတို့နှင့်အတူတိုင်ပင်ကာ ငါ့ကို မြည်တမ်းငေါက်ငမ်း၍ နှင်ထုတ်ကြကုန်၏။

ဆိုလိုသည်မှာ 'ဤမင်္ဂလာသဘင်သို့ ရောက်ရှိလာကြသည့် ပရိသတ်အပေါင်းအို–သူတော်ကောင်းတို့၊ ပရိသတ်များ မြင်တော်မူကြသည့်အတိုင်း အမြင်မလှ ဒုက္ခိတဘဝသို့ ကျွန်ုပ် ရောက်ရှိနေရပုံကို ပရိသတ်လူကြီးမင်းများထံ တင်ပြအစီရင်ခံလိုပါသည်။ ကျွန်ုပ်သည် မဟာသာလဟူသောအမည်ဖြင့် ဤ သာဝတ္ထိမြို့မှာပင် နေထိုင်လာခဲ့ပါ၏။ ကျွန်ုပ်မှာ သားလေးယောက် ရှိပါသည်။ သားတို့ ရပ်ရည်သိတာမည် ဆိုသောစကားမှာ အလွန်မှန်ကန်သောစကားဖြစ်ကြောင်း ကျွန်ုပ် ကိုယ်တွေ့ဖြစ်ပါသည်။ သားကိုမြင်လျှင် ရွှင်သည်။ သားကိုကြည့်ပြီး ပီတိဖြစ်ရသည်မှာ လွန်စွာအရသာရှိလှပါသည်။–

– စိန်တုံးမြခဲ၊ ပုလဲသန္တာ၊ နီလာဥဿဖလား၊ လေးပါးသော သားရွှေတောင်တို့ကို လူ့ဘောင်တွင် လူနှင့်သူနှင့်တူအောင် နေနိုင်ရေး၊ စီးပွားဂုဏ်သိရ်၊ အရှိန်မြင့်မြင့်၊ တစွင့်စွင့်နှင့် တင့်တယ်ရေးတို့အတွက်ဆိုလျှင်လည်း ကျွန်ုပ်ထက် ပို၍လိုလားသူ မရှိပါ။ ငါ့သားလေးယောက် အထွတ်အထိပ် ရောက်ပါစေ၊ ကြီးပွားပါစေ၊ ချမ်းသာပါစေဟူသော မေတ္တာစေတနာဦးတည်ချက်ဖြင့် အဘက်ဘက်မှ ပြုစုစောင့်ရှောက်လာခဲ့သည်။–

– သို့သော် အို–ပရိသတ်အပေါင်း သူတော်ကောင်းတို့ခင်ဗျား။ ခြေမွေး မီးမလောင်၊ လက်မွေးမီးမလောင်ဆိုသလို ကျွန်ုပ် ပြုစုပျိုးထောင်ပေးခဲ့သော ထိုသားတို့သည် ဖအေ့မျက်နှာကိုမှထောက်၊ မယား၏မျက်နှာကိုသာကြည့်ပြီး မယားအကြိုက်ကိုလိုက်ကာ ဖခင်အရင်းခေါက်ခေါက်ဖြစ်သော အကျွန်ုပ်ကို အိမ်မှနှင်ထုတ်လိုက်ကြပါကုန်၏။ ဥပမာအားဖြင့်ဆိုရပါသော် ခွေးတို့သည် ဝက်ကိုဟောင်၍ နှင်ထုတ်ကြပုံနှင့်မခြား အူလျားဖားလျားနှင့် အိမ်ပေါ်က အတင်းဆင်းပြေးလာခဲ့ရပါသည်' ဟု ဆိုလိုသည်။

(၂) သူတော်မဟုတ်၊ ယုတ်မာသော ရက္ခိုသ်တို့သည် သားတို့၏ အသွင်အပြင်ဖြင့် 'ဖခင်၊ ဖခင်' ဟု ခေါ်ကုန်၏။ ထိုရက္ခိုသ်တို့သည် အရွယ်လွန်သော ငါ့ကို စွန့်ကုန်ယောင်တကား။

ဆိုလိုသည်မှာ 'အို–သူတော်ကောင်းတို့၊ လွန်စွာကြမ်းကြုတ်ရက်စက်၍ ကြောက်မက်ဖွယ်ကောင်းလှသော ရက္ခိုသ်ဘီလူးတို့သည် ရှိကုန်၏။ ထိုရက္ခိုသ်တို့သည် သား၏အသွင်ကိုဆောင်ကုန်လျက် ငါ့ကို 'ဖေဖေ၊ ဖေဖေ' ဟု ခေါ်ကုန်၏။ ငါ့ကို အကယ်ပင် ချစ်တော့သလို ဖေဖေ၊ ဖေဖေဟု ခေါ်ဆိုကုန်သော သားအယောင်ဆောင် ထိုရက္ခိုသ်ကောင်တို့သည် ယခုအခါ ငါ့အပါးတွင် မရှိကြတော့ပြီ။ ငါ့ကို စွန့်ခွာသွားကြပြီတကား' ဟု ဆိုလိုသည်။

(၃) အိုမင်းသည်ဖြစ်၍ အသုံးမပြုနိုင်သော မြင်းကို အစာမကျွေးဘဲ ဖယ်ထားဘိသကဲ့သို့ လူမိုက်တို့၏ အဖအိုသည် သူတစ်ပါးအိမ်တို့၌ တောင်းစားရ၏။

ဆိုလိုသည်မှာ 'အို–သူတော်ကောင်းတို့၊ ခိုင်းရန်စေရန် အသုံးမကျတော့သော မြင်းအိုကြီးကို အစာလည်းမကျွေး၊ ရေလည်းမတိုက်၊ အမှိုက်သရိုက်သဖွယ် စွန့်ပယ်ထားဘိသကဲ့သို့ ငါ့သားမိုက်တို့သည်လည်း ငါ့အား ကျွေးမွေးခြင်းမပြု၊ လျစ်လျူရှုထားပြီး မယားနှင့်သာ ပျော်ပါးနေကြသဖြင့်ငါ့မှာ အရှက်အကြောက်ကို

အမှုမ်ထားနိုင်တော့ဘဲ ခွက်လက်စွဲကာတောင်းရမ်းစားသောက်၍ အသက်မွေးနေရပါ၏' ဟု ဆိုလိုသည်။

ထိုဂါထာအရောက်တွင် လေးယောက်သော သားတို့မှာ ဖခင်အိုကြီးကို ကြည့်ကာ မျက်ရည်များ ရွဲလာကြကုန်လေ၏။ ချွေးမတို့မှာမူ ကြောင်စီစီနှင့် ငေးနေကြကုန်သည်။

(၄) ငါ၏ လက်စွဲတောင်ဝေးသည်ကား မြတ်သေး၏။ ငါ့အား မရှိမသေ မတုပ်ဝပ်သော သားတို့သည် မမြတ်ကုန်။ တောင်ဝေးသည် ကြမ်းသောနွမ်းကိုလည်း ဟန့်တားနိုင်၏။ ထို့ပြင် ကြမ်းသော ခွေးကိုလည်း ဟန့်တားနိုင်၏။

ဆိုလိုသည်မှာ 'အို-သူတော်ကောင်းတို့ဟု တုန်ယင်သောအာလုပ်သံကြီးဖြင့် ခေါ်လိုက်ပြီး လက်၌စွဲကိုင်ထားသည့် တောင်ဝေးကို ပရိသတ်ရှေ့တွင် ဖော့ ရမ်း၍ပြကာ 'အဆွေတို့၊ ရောင်းရင်းသွေးသောက်တို့၊ ရှုကြပါကုန်။ ကျွန်ုပ် စွဲကိုင်ထားသော ဤတောင်ဝေးကား သားများထက်ပင် မြတ်ပါသေး၏။ ဤတောင်ဝေးကား နွားရိုင်း၊ ကျွဲရိုင်းများ၏ ရန်ကိုလည်း ခုခံနိုင်စွမ်း ရှိပေ၏။ ကိုက်ခဲမည့်ဟန် မာန်အဟုန်ဖြင့် တဝုတ်ဝုတ်ဟောင်၍ ပြေးလာသောခွေးကိုလည်း ဤတောင်ဝေးက ဟန့်တားနိုင်ပါ၏။ ကျွန်ုပ်၏ သားမိုက်တို့ကား ဤတောင်ဝေးလောက်မှ အဖိုးမထိုက်ပါတကား' ဟု ဆိုလိုသည်။

ထိုစကားကိုကြားသောအခါ သားလေးယောက်တို့မှာ ဖင်တကြွကြွနှင့် ဖခင်ကြီးဆီ ထပြေးတော့မလို ဂနာမငြိမ် ဣန္ဒြေယိုယွင်းလာကုန်၏။

(၅) တောင်ဝေးသည် မှောင်ထဲ၌ ရှေ့သွားဖြစ်နိုင်၏။ နက်သော ရေ၌ ထောက်တည်ရာကို ရနိုင်၏။ ချော်ကျသော်လည်း တောင်ဝေး၏ အစွမ်းကြောင့် ရပ်တည်နိုင်ရ၏။ ထို့ကြောင့် တောင်ဝေးသည် သားတို့ထက် မြတ်သေး၏။

ဆိုလိုသည်မှာ 'အို-သူတော်ကောင်းတို့၊ ဤတောင်ဝေးကား မှောင်ထဲ၌လည်း အသုံးကျ၏။ မမြင်မကန်း တောင်ဝေးဖြင့် စမ်းသွားသော် လိုရာသို့ ချမ်းသာစွာ ရောက်နိုင်၏။ ဤတောင်ဝေးသည် မြေပြင်တွင် တဒေါက်ဒေါက်နှင့် လမ်းလျှောက်ရာတွင်သာ အသုံးကျသည်မဟုတ်။ ရေထဲ၌သွားရာတွင်လည်း လွန်စွာပင် အသုံးကျလှ၏။ ရေ၌သွားလာရာတွင် ရေ၏အတိမ်အနက်ကိုလည်း

မသိလေဘဲ ကျင်းချိုင့်တွေရှိမည်၊ ကျောက်ခဲကျောက်တုံးတွေ ရှိမည်ကိုလည်း မသိလေဘဲ သွားခဲ့သော် ရေနက်ထဲကျ၍ ဒုက္ခရောက်ချင်လည်း ရောက်ပေမည်။ ချွဲကျိုကျို ရေညှိနှင့်ကျောက်တုံးကို နင်းမိသဖြင့် ကိုယ်ကိုတောင့်မထားနိုင်ဘဲ လဲချင် လဲသွားပေမည်။ ထိုကဲ့သို့သော ဘေးများကို ဤတောင်ဝှေးက ကယ်တင်နိုင်ပေ၏။ ရေကို တောင်ဝှေးဖြင့်ထောက်စမ်း၍ တစ်လှမ်းချင်း တစ်လှမ်းချင်း သွားခြင်းအားဖြင့် ဒုက္ခကင်းကွာ လိုရာသို့ ချမ်းသာစွာ ရောက်နိုင်ပေ၏။ ရောက်ရ၏။ တောင်ဝှေး၏ ကျေးဇူးတရားကား လွန်စွာကြီးမားလှ၏။ ကျွန်ုပ်၏သားတို့ကား ဤတောင်ဝှေးလောက်မှ အထောက်အကူပေးနိုင်သူများ မဟုတ်ပါတကား။' ဟု ဆိုလိုသည်။

သူအိုသည် ဗုဒ္ဓပေးလိုက်သောဃါထာကို တုန်ယင်သောအသံဖြင့် ရွတ်ဆိုလတ်သော် ဂါထာ၏တန်ခိုးကြောင့် သားတို့သည် အဘိုးအိုထံ ပြေးလာကြကုန်လေ၏။ မိမိတို့၏ အမှားများကို ပရိသတ်ရှေ့မှောက်တွင် ဖခင်ကြီးအား ဝန်ချတောင်းပန်ကြလေကုန်၏။ ပြီးလျှင် ဖခင်ကြီးအား ပွေ့ချီလျက် အိမ်သို့ ခေါ်သွားကာ ကောင်းမွန်စွာ လုပ်ကျွေးပြုစုကြလေသတည်း။

ဤဖြစ်ရပ်သည် သဂါထာဝဂ္ဂသံယုတ် ပါဠိတော်၊ မဟာသာလသုတ်၌ လာ၏။ ဤသုတ်က သင်ခန်းစာ ရရှိစေသည်ကား 'သားသမီးတို့သည် မိဘများအား စွန့်ပစ်၍မထားအပ်' ဟူပေ၏။

(သဂါထာဝဂ္ဂသံယုတ်၊ မဟာသာလသုတ်)



## ပိုးစုန်းကြူးရောင်၊ နေလရောင် ဘယ်အရောင်က လင်းမည်နည်း

**ပြသနာ = စင်စစ် ချမ်းသာလောက**
**မေးလျှောက်သူ = သကုလုဒါယီပရိဗိုဇ်**

ရာဇဂြိုဟ်ပြည်၌ မောရနိဝါပ အမည်ရှိသော ပရိဗိုဇ်ကျောင်းတိုက်တစ်ခု ရှိ၏။ ကျောင်းတိုက်၌ ပရိဗိုဇ်ပေါင်း ငါးရာ ရှိ၏။

အခါတစ်ပါး၌ မြတ်စွာဘုရားသည် ဆွမ်းခံရန် ဝေဠုဝန်ကျောင်းတော်မှ သပိတ်ပိုက်လျက် ထွက်လာခဲ့ပြီး အချိန်စောလွန်းသေးသည်နှင့် အဆိုပါကျောင်း တိုက်သို့ ဝင်တော်မူလေ၏။

ထိုအချိန်၌ ပရိဗိုဇ်တို့သည် မဂ်ဖိုလ်နိဗ္ဗာန်နှင့်ဗီလာဖြစ်သော စကားများကို ကြွက်စီညံအောင် ဆိုပြောနေကြကုန်၏။ အကြီးအမှူးဖြစ်သော သကုလုဒါယီသည် ကျောင်းတိုက်သို့ ဗုဒ္ဓကြွတော်မူလာသည်ကိုမြင်လျှင် တပည့်များအား တိတ်ဆိတ် စွာနေရန် သတိပေးပြီး ဗုဒ္ဓအား ခရီးဦးကြိုဆိုခြင်း ပြုလေ၏။ နေရာထိုင်ခင်းကို ကိုယ်တိုင်ခင်းပေးလေ၏။ ဗုဒ္ဓသည် ခင်းထားအပ်သောနေရာတွင် ထိုင်တော်မူ ရင်း "ဥဒါယီ၊ ငါ မလာမီစပ်ကြားတွင် သင်တို့ မည်သည့်စကားများကို ပြောဆို နေကြသနည်း။" ဟု မေးတော်မူသဖြင့် ဥဒါယီက ဤသို့ လျှောက်လေသည်။

"အရှင်ဘုရား၊ ကျွန်ုပ်တို့ပြောနေသောစကားများ ရှိပါစေတော့။ ထားလိုက် ပါတော့။ ထိုစကားမျိုးကား ကြားရခဲသောစကားမျိုး မဟုတ်ပါ။ နေရာအနှံ့အပြား တို့၌ ကြားနိုင်ပါ၏။" ဟု လျှောက်ထားပြီးနောက် ဆက်၍ "အရှင်ဘုရား၊ ဤပရိဗိုဇ်ပရိသတ်သည် အကျွန်ုပ်ရောက်လာတုန်းက သူတို့အား တရားဟောလိမ့် မည်ဟူသော မျှော်လင့်ချက်ဖြင့် ကျွန်ုပ်၏မျက်နှာကို မော်၍ကြည့်ကြပါကုန်၏။ အရှင်ဘုရား ကြွလာသောအခါတွင်လည်း ကျွန်ုပ်နှင့်တကွ သူတို့တစ်တွေ အား

လုံး၏ မျက်နှာများသည် တရားဟောတော်မူလိမ့်မည်ဟူသော မျှော်လင့်ချက်ဖြင့် မြတ်ဘုရား၏ မျက်နှာတော်ကို မော်၍ဖူးမြော်နေကြပါကုန်၏။" ဟု လျှောက်၏။

"ဥဒါယီ၊ ယင်းဖြစ်ဘိမူကား ငါ ဟောကြားမည့်တရားကို သင်ကပင် စတင်၍ ငါ့အား ပြောကြားပါဘိ။" ဟူ၍ ဟောစေလိုသောတရားကို ပြောကြားရန် ခွင့်ပေးလိုက်သည်။ ထိုအခါ ဥဒါယီသည် လက်အုပ်ချီလျက် ဤသို့ လျှောက်ထားသတည်း။

"အရှင်ဘုရား၊ ယခင်နေ့များက ဤကျောင်းတိုက်သို့ လာရောက်ပြီး ငါသည် အလုံးစုံကိုသိမြင်၏။ ငါ့အား ဉာဏ်အမြင်သည် အမြဲထင်နေ၏ဟူ၍ မိမိကိုယ်ကို သဗ္ဗညုဟု ဝန်ခံသူတစ်ယောက် ရှိခဲ့ပါ၏။ ထိုသဗ္ဗညုဟု ဝန်ခံလေသူအား အကျွန်ုပ်က လွန်ခဲ့ပြီးသောအတိတ်ကို အကြောင်းပြု၍ တီးခေါက်မေးမြန်းကြည့်လိုက်သောအခါ ထိုသူသည် ကျွန်ုပ်မေးခွန်းကို ဖြေဆိုခြင်းမပြုလေဘဲ စကားကို လိုးလွဲပြောဆိုသွားပါသည်။ ဤသို့ မေးရမည်လားဟူ၍ မကျေနပ်သော အမူအရာကိုလည်း ပြသွားပါသည်။ ထိုအခါ အကျွန်ုပ်သည် မြတ်ဘုရားကို သတိရလိုက်ပါသည်။ ထိုတရားမျိုး၌ မြတ်ဘုရားသည် လွန်စွာ ကျွမ်းကျင်တော်မူလှ၏။ ဤအခါမျိုးတွင် မြတ်ဘုရားရှိဘိမူကား ကောင်းလေစွဟု တောင့်တမိပါသည်ဘုရား။"

"ဥဒါယီ၊ ဤသို့ အကြွင်းမရှိ ဉာဏ်အမြင် သဗ္ဗညုဟု ဝန်ခံသူကား မည်သူနည်း။"

"နာဋပုတ္တနိဂဏ္ဌ ဖြစ်ပါသည်ဘုရား။"

"ဥဒါယီ၊ အကြင်သူသည် ရှေးက မိမိနေခဲ့ဖူး၊ ဖြစ်ခဲ့ဖူးသော ဘဝများစွာ ခန္ဓာအစဉ်တို့ကို ပြန်ပြောင်း၍ အောက်မေ့နိုင်၏။ သိနိုင်၏။ ထိုသူသည် ရှေးအတိတ်ကို အကြောင်းပြု၍ ငါ့အား မေးလာခဲ့သော် ငါသည် ယင်းပြဿနာကို ဖြေခြင်းဖြင့် ထိုသူ၏စိတ်ကို နှစ်သက်စေနိုင်ရာ၏။ ထိုသူအား ငါက ပြဿနာ မေးလျှင်လည်း ယင်းပြဿနာကို ဖြေခြင်းဖြင့် ထိုသူသည် ငါ၏စိတ်ကို ကျေနပ်စေနိုင်ရာ။-

-ဥဒါယီ၊ အကြင်သူသည် သေလွန်သောသတ္တဝါ၊ ဘဝသစ်၌ တစ်ဖန်ဖြစ်သော သတ္တဝါတို့ကို ဒိဗ္ဗစက္ခုဉာဏ်ဖြင့် မြင်နိုင်၏။ ထိုသူသည် ငါ့အား အတိတ်က ဖြစ်ခဲ့ဖူးသော ဘဝများကိုအကြောင်းပြု၍ ပြဿနာပြုလာခဲ့သော် ငါသည် ယင်းပြဿနာကိုဖြေခြင်းဖြင့် ထိုသူ၏စိတ်ကို ကျေနပ်စေနိုင်ရာ၏။ ထိုသူအား ငါက ပြဿနာမေးလျှင်လည်း ယင်းပြဿနာကို ဖြေဆိုခြင်းဖြင့် သူသည် ငါ၏

စိတ်ကို ကျေနပ်စေနိုင်ရာ၏။ ဥဒါယီ၊ အတိတ်မှ အနာဂတ် (ရှေးအဖို့၊ နောက်အဖို့) သည် ရှိစေတော့။ ထားလိုက်ဘိလော့။ လိုရင်းအချုပ်ဖြစ်သည့် အကြောင်းတရားရှိပေ၍သာ အကျိုးတရားဖြစ်ပုံကိုလည်းကောင်း၊ အကြောင်းတရား ချုပ်လေ၍သာ အကျိုးတရားချုပ်ပုံကိုလည်းကောင်း သင့်အား ငါ ဟောကြားပေအံ့။" ဟု မိန့်တော်မူသောအခါ ဥဒါယီသည် ဤမျှသိမ်မွေ့နက်နဲလှစွာသော တရားတော်ကိုသူ၏ဉာဏ်ရည်နှလုံးသားဖြင့် ခံယူနိုင်စွမ်း မရှိပါကြောင်း ဗုဒ္ဓအား ပွင့်လင်းစွာ ဝန်ခံလျှောက်ထားလေသည်။

"အရှင်ဘုရား၊ အမှန်အတိုင်း ဝန်ခံလျှောက်ထားရပါသော် အတိတ်ဘဝ၌ ဖြစ်ခဲ့သော ခန္ဓာအစဉ်များကိုထားဘိဦး။ ဤမျက်မှောက်ပစ္စုပ္ပန်ဘဝ၌ပင် "မည်သည့်နှစ်၊ မည်သည့်လရက်၊ မည်သည့်အချိန်က မည်သို့ဖြစ်ခဲ့သည်' ဆိုသောအချက်များကိုပင်လျှင် ကုန်စင်အောင် ပြန်ပြောင်း၍ မအောက်မေ့နိုင်၊ မမှတ်မိနိုင်ပါ။ ရှေးအတိတ်ဘဝက ဖြစ်ခဲ့ဖူးသော ဘဝဖြစ်စဉ်များကိုမူ အကျွန်ုပ်၏ သေးနုပ်လှသည့်ဉာဏ်ဖြင့် အဘယ်မှာလျှင် ပြန်ပြောင်း၍ အောက်မေ့နိုင်၊ သိနိုင်ပါမည်နည်း။ အကျွန်ုပ်အနေဖြင့် ယုတ်စွအဆုံး မြေဘုတ်ဘီလူးမျှကိုပင် မြင်နိုင်စွမ်း မရှိပါ။ အရှင်ဘုရားကဲ့သို့ သေလွန်သောသတ္တဝါ၊ တစ်ဖန် ဘဝသစ်၌ဖြစ်သော သတ္တဝါတို့ကိုကား အဘယ်မှာလျှင် မြင်နိုင်ပါမည်နည်း။ မြတ်ဘုရား အမိန့်ရှိတော်မူသည့်တိုင်း 'အကြောင်းတရားရှိပေ၍သာ အကျိုးတရား ဖြစ်ပုံ၊ အကြောင်းတရား ချုပ်လေ၍သာ အကျိုးတရား ချုပ်ပုံတရားတော်' သည်ကား အကျွန်ုပ်အနေဖြင့် အတိုင်းထက်အလွန်ပင် ထင်မြင်ရန် ခဲယဉ်းလှပါ၏။ အရှင်ဘုရား၊ မြတ်ဘုရားအနေဖြင့် အကျွန်ုပ်အား မိမိဆရာ့ဝါဒ၌ ပြဿနာ မေးတော်မူမည်ဆိုပါက ထိုပြဿနာကို ဖြေခြင်းဖြင့် မြတ်ဘုရား၏စိတ်တော်ကို ကျေနပ်စေနိုင်ဖွယ်ရာ ရှိပါသည်ဘုရား။" ဟု လျှောက်၏။ ထိုအခါ ဗုဒ္ဓသည် ဥဒါယီ၏လျှောက်ထားချက်အရ သူ၏ဆရာ့ဝါဒကိုပင် မေးတော်မူသတည်း။

"ဥဒါယီ၊ သင်၏ ဆရာ့ဝါဒ၌ အဘယ်သို့ ရှိသနည်း။"

"အရှင်ဘုရား၊ အကျွန်ုပ်၏ ဆရာ့ဝါဒ၌ 'ဤကား မြတ်သောအဆင်း၊ ဤကား မြတ်သောအဆင်းတည်း' ဟု အယူရှိပါ၏။"

"ဥဒါယီ၊ ထိုမြတ်သောအဆင်းဟူသည် အဘယ်နည်း။ အဘယ်ကို မြတ်သောအဆင်းဟု ဆိုသနည်း။"

"အရှင်ဘုရား၊ အကြောင်းအဆင်းတစ်မျိုးသည် ရှိ၏။ ထိုအဆင်းထက်သာလွန်ခြင်း မရှိသောအဆင်းသည် မြတ်သောအဆင်း ဖြစ်ပါသည်။"

"ဥဒါယီ၊ ယင်းအဆင်းထက် သာလွန်သော အခြားအဆင်း မရှိသည့် ထို မြတ်သောအဆင်းဟူသည် အဘယ်ပါနည်း။"

"အရှင်ဘုရား၊ အကြင်အဆင်းထက် သာလွန်သော အခြားအဆင်း မရှိ။ ထိုအဆင်းသည် မြတ်သောအဆင်း ဖြစ်ပါသည်ဘုရား။"

"ဥဒါယီ၊ သင့်စကား ရှည်လျားသော်လည်း ပြတ်သားခြင်း မရှိ။ 'အကြင် အဆင်းထက် သာလွန်သော အခြားအဆင်း မရှိ။ ထိုအဆင်းသည် မြတ်သော အဆင်းဖြစ်၏။' ဟု သင် ဆိုပေသည်။ သို့သော် ထိုမြတ်သောအဆင်းကိုမူ သင် သည် ထင်ထင်ရှားရှား ညွှန်ပြခြင်း မပြုနိုင်ခဲ့။ ဥပမာ၊ ဤနယ်ပယ်အတွင်း၌ အလှဆုံးအချောဆုံးဖြစ်သော သတို့သမီးကို လိုချင်ပါသည်ဆိုသော ယောကျ်ား အား ထိုမိန်းမ၏ မျိုးရိုးဇာတ်၊ ထိုမိန်းမ၏ မိဘအမည်၊ ဆွေမျိုးများ၏ အမည် နာမ စသည်ကိုမေးသော် မဖြေနိုင်သည်နှင့် တူချေ၏။"

ဗုဒ္ဓက ဤသို့ သင့်စကားသည် မည်မည်ရရ မရှိကြောင်း ဥပမာမာဖြင့် မိန့်တော်မူလျှင် ဥဒါယီကလည်း သူ့စကား မည်မည်ရရ ရှိပါကြောင်းကို ဥပမာ ဖြင့် တင်ပြလေ၏။

"အရှင်ဘုရား၊ ဥပမာ-အဖိုးတန် ကြောင်မျက်ရွဲ ရတနာကြီးကို နီထွေး သော ကမ္ဗလာပေါ်၌ ချထားပါလျှင် အရောင်တလက်လက်ထွက်၍ အလွန်တင့်တယ် ပါသည်။ ထို့အတူ အတ္တသည် ထိုကြောင်မျက်ရွဲ ရတနာသို့သောအဆင်း ရှိပါ ၏။ သေပြီးသည်၏နောက်၌လည်း ပျက်စီးခြင်း မရှိတော့ပါ" ဟူ၍ မြတ်သော အဆင်းဟူသော စကားနေရာတွင် အတ္တ ဟူသောစကားကို အစားထိုး၍ လျှောက် လေသည်။ ဗုဒ္ဓသည် သူ့စကားအတိုင်းလိုက်၍ မေးခွန်းထုတ်လိုက်၏။

"ကောင်းပြီ ဥဒါယီ။ သင့်စကားအရ သင့်ကို ငါ မေးဦးအံ့။ သင်ဆိုသော ကြောင်မျက်ရွဲရတနာ၏အရောင်နှင့် မှောင်မိုက်သော ညအခါများတွင် ထွက်လေ့ ရှိသည့် ပိုးစုန်းကြူး၏အရောင်၊ ဤအရောင်နှစ်မျိုးတွင် မည်သည်က သာသနည်း၊ မည်သည့်အရောင်က ပိုလွန်၍ အရောင်တလက်လက် ထွက်သနည်း။" ဟု လက် တွေ့ကျကျ မေးခွန်းထုတ်လိုက်သည့်အခါ "အရှင်ဘုရား၊ ကြောင်မျက်ရွဲ ရတနာ ၏ အရောင်ထက် ပိုးစုန်းကြူး၏အရောင်က ပို၍ တောက်ပြောင်လင်းလက်ပါ သည်ဘုရား။" ဟူ၍ ဖြေရလေ၏။

"ဥဒါယီ၊ သင့်စကား သင်တည်စေ။ သင့်အား ထပ်ဆင့်၍ ငါ မေးဦး အံ့။ ညမှောင်မှောင်တွင် တလက်လက် ထွန်းပြောင်တောက်ပနေသော ထိုပိုးစုန်းကြူး ၏ အရောင်နှင့် ထိုအချိန်တွင် ညှိထွန်းထားသော မီးရောင်၊ ဤအရောင်နှစ်မျိုး တွင် မည်သည့်အရောင်က သာလွန်သနည်း။"

"မီး၏အရောင်က သာလွန်ပါသည်ဘုရား။"

"အဲသည့်မီးရောင်နှင့် တဟုန်းဟုန်းတောက်လောင်နေသော မီးပုံကြီး၏ အရောင်၊ ဤအရောင်နှစ်မျိုးတွင်ကော မည်သည့်အရောင်က ပို၍ တောက်ပြောင်သနည်း။ သာလွန်ပါသနည်း။"

"မီးပုံကြီး၏အရောင်က သာလွန်၍ တောက်ပြောင်ပါသည်ဘုရား။"

"ဒါဖြင့်ကောင်းပြီ။ အဲသည့်မီးပုံကြီး၏အရောင်နှင့် သောက်ရူးကြယ်၏ အရောင်ကော မည်သည့်အရောင်က သာလွန်ပါသနည်း။ မည်သည့်အရောင်က တဝင်းဝင်းတလက်လက် ပို၍ အရောင်ထွက်ပါသနည်း။"

"သောက်ရူးကြယ်၏အရောင်က သာလွန်ပါသည်ဘုရား။"

"သောက်ရူးကြယ်၏အရောင်နှင့် လပြည့်ဝန်းကြီး၏အရောင် ဆိုလျှင်ကော။"

"လပြည့်ဝန်းကြီး၏အရောင်က သာလွန်ပါသည်ဘုရား။"

"လရောင်နှင့် နေရောင်ဆိုလျှင်ကော။"

"နေ၏အရောင်က သာလွန်ပါသည်ဘုရား။"

"ဥဒါယီ၊ လ၊ နေတို့၏အရောင်ကို မခံစားသော နတ်တို့သည် လ, နေ တို့၏အရောင်ကို ခံစားသော နတ်တို့ထက် ပို၍ များပြား၏။ ထိုနတ်တို့ကိုလည်း ငါသိ၏။ ယင်းသို့ သိသော်လည်း 'ဤအဆင်းထက် သာလွန်သည့် အခြားအဆင်း မရှိ' ဟူ၍ ငါ မဆို။ ဥဒါယီ၊ သင်ကား ပိုးစုန်းကြူးအောက် နိမ့်ကျသော အဆင်းကိုပင် မြတ်သောအဆင်းဟု ဆိုဘိ၏။ ထိုအဆင်းကိုလည်း သင်သည် ထင်ရှားအောင် သတ်မှတ်ညွှန်းပြခြင်း မပြုနိုင်။"

ဤသို့ ဗုဒ္ဓက အရောင်ချင်း ယှဉ်ကာယှဉ်ကာ မိန့်မြွက်တော်မူသောအခါ ဥဒါယီသည် တွေငိုင်ငိုင်နှင့် စဉ်းစား၏။ စဉ်းစားပြီးနောက် လက်အုပ်မြှောက်ချီ လျက် 'မိမိဆရာ့ဝါဒမှာ အချည်းနှီးသာဖြစ်ကြောင်း' ဝန်ခံလေ၏။ ဤတွင် ဗုဒ္ဓ က ဆက်၍ မိန့်ကြားသည်မှာ–

"ဥဒါယီ၊ စင်စစ်ချမ်းသာသောလောကသည် ရှိသလော။ စင်စစ်ချမ်းသာ သောလောကကို မျက်မှောက်ပြုရန် အကြောင်းအချက် ပြည့်စုံသောအကျင့်သည် ရှိသလော။" ဟု မေးတော်မူ၏။ ဥဒါယီသည် ထိုအမေးကို သွက်လက်စွာပင် ဖြေ၏။

"အရှင်ဘုရား၊ ကျွန်ုပ်၏ဆရာ့ဝါဒ၌ စင်စစ်ချမ်းသာသောလောကသည် ရှိပါ၏။ စင်စစ်ချမ်းသာသောလောကကို မျက်မှောက်ပြုရန် အကြောင်းအချက် ပြည့်စုံသောအကျင့်သည် ရှိပါ၏။"

"ကောင်းပြီ ဥဒါယီ။ သင့်စကားအရ ငါ မေးဦးအံ့။ စင်စစ်ချမ်းသာသော လောကကို မျက်မှောက်ပြုရန် အကြောင်းအချက် ပြည့်စုံသောအကျင့်ဟူသည် အဘယ်နည်း။"

"အရှင်ဘုရား၊ ပါဏာတိပါတ သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်ခြင်း၊ အဒိန္နာဒါန သူ့ဥစ္စာကို ခိုးယူခြင်းမှ ရှောင်ကြဉ်ခြင်း၊ ကာမေသုမိစ္ဆာစာရ ကာမဂုဏ်တို့၌ ဖောက်ပြန်စွာ ကျင့်ခြင်းမှ ရှောင်ကြဉ်ခြင်း၊ မုသာဝါဒ မမှန်သောစကား ဆိုခြင်းမှ ရှောင်ကြဉ်ခြင်း၊ အကျင့်ဂုဏ်တစ်မျိုးကို ဆောက်တည်၍ ကျင့်ခြင်းတို့သည် စင်စစ်ချမ်းသာသောလောကကို မျက်မှောက်ပြုရန် အကြောင်းအချက် ပြည့်စုံသောအကျင့် ဖြစ်ပါ၏။"

"ဥဒါယီ၊ သင် မည်သို့ ထင်သနည်း။ ပါဏာတိပါတမှ ရှောင်ကြဉ်သော အခါ အတ္တဘောသည် စင်စစ်ချမ်းသာခြင်းရှိသလော၊ သို့မဟုတ် ချမ်းသာ ဆင်းရဲ ဒွန်တွဲနေသလော။"

"ဒွန်တွဲနေပါသည် ဘုရား"

"ဥဒါယီ၊ ချမ်းသာဆင်းရဲ ဒွန်တွဲနေသောအကျင့်ကို အစွဲပြု၍ စင်စစ်ချမ်းသာသောလောကကို မျက်မှောက်ပြုရန် ဖြစ်နိုင်ပါမည်လော။ သင် မည်သို့ထင်သနည်း ဥဒါယီ။"

ဗုဒ္ဓက ဤသို့ မေးလိုက်သောအခါတွင်လည်း ဥဒါယီ ငိုင်ကျသွားလေ၏။ ဗုဒ္ဓစကားတော်ကို အလေးအနက်ထား၍ စဉ်းစားနေ၏။ အတန်ကြာ စဉ်းစားပြီးနောက် လက်အုပ်ချီမြှောက်လျက် 'မိမိဆရာ့ဝါဒမှာ အချည်းအနှီးသာ ဖြစ်ကြောင်း' ဝန်ခံပြန်လေ၏။ ပြီးလျှင် ဗုဒ္ဓအား ပြန်၍ ဤသို့ မေးလျှောက်လေသည်။

"အရှင်ဘုရား၊ စင်စစ်ချမ်းသာသောလောကသည် ရှိပါသလော။ ချမ်းသာသောလောကကို မျက်မှောက်ပြုရန် အကြောင်းအချက် ပြည့်စုံသောအကျင့်သည် ရှိပါသလော။"

"ရှိပေ၏ ဥဒါယီ။"

"အရှင်ဘုရား၊ ရှိလျှင် ထိုအကျင့်ကား အဘယ်ပါနည်း။"

"ဥဒါယီ၊ ဤသာသနာ၌ ရဟန်းသည် ကာမဂုဏ် ကိလေသာတို့မှ ကင်းဆိတ်၍ ကြံစည်ခြင်း၊ ဆင်ခြင်ခြင်း၊ သုံးသပ်ခြင်းနှင့်တကွဖြစ်သော ကိလေသာကင်းဆိတ်မှုကြောင့်ဖြစ်သည့် နှစ်သိမ့်ချမ်းသာခြင်းရှိသော ပထမဈာန်၊ ကြံစည်ခြင်း၊ ဆင်ခြင်ခြင်း၊ သုံးသပ်ခြင်းတို့ ငြိမ်းပျောက်၍ စိတ်တည်ကြည်မှုကြောင့်

ဖြစ်သည့် နှစ်သိမ့်ချမ်းသာခြင်းရှိသော ဒုတိယဈာန်၊ နှစ်သိမ့်ခြင်း ကင်းကွာ၍ လျစ်လျူရှုလျက် သတိရှိကာ ချမ်းသာစွာ နေရခြင်းရှိသော တတိယဈာန်ကို ဝင်စား၍ နေ၏။ ဤသို့ ပဌမဈာန်၊ ဒုတိယဈာန်၊ တတိယဈာန်တို့ကို ဝင်စား၍ နေခြင်းသည် စင်စစ် ချမ်းသာသော၊ လောကကို မျက်မှောက်ပြုရန် အကြောင်း အချက်နှင့် ပြည့်စုံသော အကျင့်ဖြစ်၏"ဟု မိန့်တော်မူလျှင် ဥဒါယီသည် အတန် ငယ် ငြိမ်သက်စွာ စဉ်းစားနေပြီးမှ—

"အရှင်ဘုရား၊ အဘယ်မျှသော အတိုင်းအတာဖြင့် စင်စစ် ချမ်းသာသော လောကကို မျက်မှောက်ပြုသည့် မည်ပါသနည်း။"ဟု လျှောက်လေ၏။

"ဥဒါယီ၊ ဤသာသနာ၌ ရဟန်းသည် ချမ်းသာဆင်းရဲကို ပယ်ခြင်း၊ ရှေး မဆွကပင် ဝမ်းသာခြင်း၊ ဝမ်းနည်းခြင်း ကင်းပျောက်ပြီး ဖြစ်ခြင်း၊ ချမ်းသာ ဆင်းရဲကင်း၍ လျစ်လျူရှုခြင်းကြောင့်ဖြစ်သော သတိ၏ စင်ကြယ်ခြင်းရှိသော စတုတ္ထဈာန်ကို ဝင်စား၍နေ၏။ စင်စစ် ချမ်းသာခြင်းရှိသော လောကသို့ ရောက် နေသော နတ်တို့နှင့် အတူတကွ ရပ်တည်၏။ စကားပြောဆို ဆွေးနွေး၏။ ဥဒါယီ၊ ဤမျှသော အတိုင်းအတာဖြင့် ထိုသူသည် စင်စစ် ချမ်းသာသော လောကကို မျက်မှောက်ပြုသည့် မည်၏။"

ထိုအခါ သကုလုဒါယီ ပရိဗိုဇ်သည် ဗုဒ္ဓ၏စကားကျကို ကောက်၍ မေး လျှောက်ပြန်လေ၏။

"အရှင်ဘုရား၊ အရှင်ဘုရား၏ တပည့် ရဟန်းတို့ကား စင်စစ် ချမ်းသာ သော လောကကို မျက်မှောက်ပြုလိုကြသောကြောင့် အရှင်ဘုရားထံ၌ အကျင့် မြတ်ကို ကျင့်သုံးနေကြပါသလော။"

"ဥဒါယီ၊ ဤသို့ကား မဟုတ်ကုန်။ ငါ့ထံ၌ အကျင့်မြတ်ကို ကျင့်သုံးနေ ကြသည့် ရဟန်းတို့ မျက်မှောက်ပြုရန် ရည်ရွယ်သည့် သာလွန်မွန်မြတ်သော အခြားတရားများရှိ၏။ ထိုတရားကိုသာ မျက်မှောက်ပြုလိုကြခြင်း ဖြစ်၏။"

"အရှင်ဘုရား၊ ထိုသာလွန်မွန်မြတ်သော တရားကား အဘယ်ပါနည်း။"

"ဥဒါယီ၊ ဤသာသနာ၌ ပူဇော်အထူးကို ခံထိုက်၍ တရားအားလုံးကို ကိုယ်ပိုင်ဉာဏ်ဖြင့် ထိုးထွင်း၍ သိမြင်တော်မူသော မြတ်စွာဘုရား ပွင့်ထွန်းလာ ၍ ထိုမြတ်စွာဘုရား ဟောကြားအပ်သည့် တရားကို ကြားနာရသော အမျိုးသား သည် လူ့ဘောင်၌ ငြီးငွေ့သဖြင့် တောထွက်၍ ရဟန်းပြု၏။ ထိုရဟန်းသည် အကျင့်သီလနှင့် ပြည့်စုံ၏။ ဣန္ဒြေတို့ကို စောင့်ထိန်း၏။ ဆိတ်ငြိမ်ရာ အရပ်သို့ ကပ်၍ ကာမဂုဏ်အာရုံသို့ ရှေးရှုသတိကို ဖြစ်စေသည်ရှိသော် နီဝရဏတို့မှ ကင်းကွာသောစိတ် ရှိသည်ဖြစ်၍ ဈာန်အဆင့်ဆင့်ကို ရရှိ၏။ ဈာန်၏အစွမ်း

အားဖြင့် သန့်ရှင်းဖြူစင် ကြည်လင်နူးညံ့ ကြံ့ခိုင်သောစိတ်ကို မိမိအလိုရှိရာသို့ ရှေးရှုညွတ်စေသည်ရှိသော် ရှေးက မိမိဖြစ်ခဲ့ဖူးသော ဘဝများစွာ ခန္ဓာအစဉ်တို့ကို ပြန်ပြောင်းအောက်မေ့နိုင်သော ပုဗ္ဗေနိဝါသာနုဿတိဉာဏ်၊ သေလွန်သော သတ္တဝါ၊ ဘဝသစ်၌ တစ်ဖန်ဖြစ်သော သတ္တဝါတို့ကို မြင်နိုင်သော ဒိဗ္ဗစက္ခုဉာဏ်နှင့် အာသဝေါတရားတို့ ကုန်ကြောင်းဖြစ်သော အရဟတ္တမဂ်ဉာဏ်တို့ကို မျက်မှောက်ပြုလေ၏။-

-ဥဒါယီ၊ ငါဆိုအပ်သော ဤတရားတို့သည် ငါ့ထံ၌ အကျင့်မြတ်ကို ကျင့်သော ရဟန်းတို့ ရည်ရွယ်မျှော်မှန်းသည့် သာလွန်၍ မြတ်သောတရား ဖြစ်၏။"

ချမ်းသာသော လောကကို မျက်မှောက်ပြုရန် အချက်နှင့် ပတ်သက်၍ သကုလုဒါယီ ပရိဗိုဇ်သည် များစွာနှစ်ခြိုက်သည့်အလျောက် "အကျွန်ုပ်အား ရဟန်းပြုပေးတော်မူပါ။"ဟူ၍ ဗုဒ္ဓထံ ပန်ကြားလေသည်။

သို့သော် သူ့ကံဟု ဆိုရလေမည်လား။ သူ့ပါရမီဟု ဆိုရလေမည်လား။ ရဟန်းပြုလိုပါလျက် အဖုအထစ်များ ရှိလာသည်။ ဖျက်လိုဖျက်ဆီး ဟန့်တားသူများ၊ ကန့်ကွက်သူများ ထိုမှ ဤမှ ပေါ်လာကုန်သည်။ ဤသို့ သူ့အား ဆိုပြောကန့်ကွက်လာကြကုန်သတည်း။

"မြတ်သောဆရာ၊ ရဟန်းဂေါတမ၏ လှည့်ပတ်ခြင်း၊ မာယာညို့ဓာတ်ဖြင့် သူ့အလိုသို့ ပါအောင် ဆွဲဆောင်တတ်ခြင်း သတင်းစကားကို မြတ်ဆရာလည်း ကြားပြီးပင် မဟုတ်ပါလော။ သို့ဖြစ်ပါလျက် ဆရာသည် အိုးစရည်းကြီးအဖြစ်မှ လက်ချင့်အိုးငယ်အဖြစ်သို့ မရောက်သင့်ပါ။ ရဟန်းဂေါတမထံ ရဟန်းပြု၍ သူ့ထံတွင် တပည့်ခံရန် မသင့်နိုးလှပါ။"ဟု ဝိုင်း၍ဟန့်တားနေကြကုန်၏။

ဗုဒ္ဓသည် ဤဘဝတွင် ဥဒါယီ ကျွတ်တမ်းမဝင်နိုင်ကြောင်းကို သိ၍ ဆွမ်းခံရန် သပိတ်ပိုက်၍ ပြန်ကြွတော်မူလေရာ ဥဒါယီမှာ ရဟန်းမပြုရန် တကြွတ်ကြွတ် ကန့်ကွက်ကြကုန်သော ပရိဗိုဇ်များကြားတွင် နစ်လျက် ကျန်ခဲ့လေသတည်း။

ဤဖြစ်ရပ်သည် မဇ္ဈိမနိကာယ်၊ မဇ္ဈိမပဏ္ဏာသ၊ သကုလုဒါယီသုတ်၌ လာ၏။ ဤသုတ်၏ အနှစ်ချုပ်ကား ကောင်းသောအကြံအစည်၊ ကောင်းသော လုပ်ငန်းများ၌ အဖျက်အဆီးများ ကြုံရတတ်သဖြင့် ယင်းအဖျက်အဆီးများကို သတိထားကြရန် ဟူပေ၏။

(မဇ္ဈိမပဏ္ဏာသ၊ သကုလုဒါယီသုတ်)



## အရှယ်နုပျို ရဟန်းကို
## မြူရျိဘယ်သူ ဆွယ်သနည်း

**ပြသနာ = ကာမဂုဏ်**
**မေးလျှောက်သူ = နတ်သမီးတစ်ယောက်**

အလွန်သပ္ပာယ်လှစွာသော ရဟန်းပျိုကလေးတစ်ပါးနှင့် နတ်သမီး တစ်ဦးတို့၏ ဘဝတစ်ကွက်မှ ချစ်ရေးကြိုက်ရေးနှင့် ပတ်သက်သည့် အဖြစ်အပျက်ဖြစ်ပေ၏။

မှန်၏။ ထိုအချိန်၌ ဗုဒ္ဓသည် ရာဇဂြိုဟ်ပြည် တပေါဒါရုံကျောင်း၌ သီတင်းသုံးလျက် ရှိတော်မူ၏။ တပေါဒါမြစ်သည် တပေါဒါရုံကျောင်းကို ရစ်ခွေလျက် တသွင်သွင် စီးနေ၏။

ထူးသည်ကား တပေါဒါ မြစ်ရေသည် အခြားမြစ်ရေကဲ့သို့ ရေအေးမဟုတ်။ ရေပူဖြစ်၏။ ပူသောရေများသည် မြစ်တစ်လျှောက်လုံး အမြဲထာဝစဉ် တသွင်သွင် စီးနေသောကြောင့် အချို့တို့က ရေပူမြစ်ဟူ၍ဝင် ခေါ်ကုန်၏။

အချိန်မှာ နံနက်ဝေလီဝေလင်း လင်းအားကြီးအချိန်ဖြစ်ရာ တပေါဒါရုံကျောင်းတိုက်မှ ကိုယ်တော်ကလေးတစ်ပါး ရေချိုးရန်အတွက် တပေါဒါ မြစ်ဆိပ်သို့ ဆင်းလာသည်။ ဘွဲ့မည်မှာ အရှင်သမိဒ္ဓိဟု တွင်၏။

အရှင်သမိဒ္ဓိ ကိုယ်တော်ကလေးသည် ရုပ်ရည် ရူပကာယ လွန်စွာသပ္ပာယ်လှ၏။ ရဟန်းသမဏာလောကတွင် သပ္ပာယ်သော ကိုယ်တော်ကလေး၊ သပ္ပာယ်သော ကိုယ်တော်ကလေးဟု သတင်းမွှေးသူဖြစ်၏။

အရှင်သမိဒ္ဓိသည် အငွေ့တလူလူ အခိုးအလျှံများ ထနေသော တပေါဒါမြစ်ထဲသို့ တဖြည်းဖြည်းဆင်း၍ ခါးလောက်ထိနက်သော နေရာတွင် ရပ်လျက် မျက်နှာသစ်ခြင်း၊ ကိုယ်ကိုနှံ့အောင် လက်ဖြင့် ရေသုံးသပ်ခြင်းများကို ပြုပြီးမှ ရေချိုးလေသည်။

ထိုအခါ နတ်သမီးတစ်ဦးသည် ရေချိုးနေသော အရှင်သမိဒ္ဓိကို အာရုံစူးစိုက်စွာ ကြည့်နေ၏။ သမိဒ္ဓိကိုယ်တော်ကလေး၏ လဝန်းစကြာ မျက်နှာ၏ အလှသည် နတ်သမီး၏မျက်စိထဲဝယ် ဝဲကဲ့သို့ လည်နေ၏။

ရေမိုးချိုးပြီးလေသောအခါ သမိဒ္ဓိကိုယ်တော်လေးသည် သင်္ကန်းလဲပြီးလျှင် ကိုယ်ရုံမလွှမ်း၊ သင်းပိုင်သင်္ကန်း တစ်ထည်တည်းဝတ်လျက် ကိုယ်မှရေများခြောက်အောင် ခေါက်တုံ့ခေါက်ပြန် လမ်းလျှောက်နေလေရာ ဝါဝင်းသော အသားရောင်မှာ အထူးထင်ရှားစွာ ပေါ်လွင်နေ၏။ ခါးအောက် ခြေသလုံးတိုင်အောင် ကိုယ်အင်္ဂါအစိတ်အပိုင်းကို မမြင်ရသော်လည်း ခါးအထက်ရှိ ရင်ညွန့် ရင်အုံ လက်ရုံးသားနှင့် လက်မောင်းသားများမှာ ရွှေသားကဲ့သို့ ဝင်းနေ၏။

နတ်သမီးသည် အရှင်သမိဒ္ဓိကိုယ်တော်ကလေး၏ လှပတင့်တယ် လွန်သပ္ပာယ်လှသော အဆင်းနှင့် ဝါဝင်းနေသော အသားအရေများကို ကြည့်ကာကြည့်ကာ ပီတိဖြာလာသည်။ 'ကာမစည်းစိမ်ကို ခံစားရန် အကောင်းဆုံးအရွယ်ပါကလား။' ဟူ၍ လည်း စိတ်ထဲတွင် မချင့်မရဲဖြစ်နေသည်။ နတ်သမီးသည် အရှင်သမိဒ္ဓိ ကိုယ်တော်ကလေး၏ ကိုယ်ကာယအလှကို တစိမ့်စိမ့်ကြည့်၍ အားရရောင့်ရဲခြင်း မရှိလေသည့်အလား အရှင်သမိဒ္ဓိ ကိုယ်တော်ကလေးထံသို့ ကိုယ်တိုင်သွားရောက်ချဉ်းကပ်ကာ ဤစကားကို လျှောက်လေသတည်း။

"သမိဒ္ဓိခေါ်တွင် သူတော်စင် အရှင်သူမြတ်ဘုရား၊ အရှင်၏အရွယ်တော်သည် နုသေး၏။ ရှုမငြီးနိုင်သော အဆင်း၏ ပိုင်ရှင်လည်း ဖြစ်ပေ၏။ ငါးပါးအာရုံ ကာမဂုဏ်ကို ခံစားရမည့် အရွယ်ကောင်းတုန်း အချိန်တွင် အရှင်မှာမူ ဦးပြည်းခေါင်းတုံးနှင့် သပိတ်ကြီးပိုက်ကာ ဆွမ်းခံနေသည်တကား။ ဤအရွယ်ကား သင်္ကန်းရောင် တဝင်းဝင်းနှင့် ဆွမ်းခံရမည့် အရွယ်မဟုတ်။ ကာမသုခကို ဝဝကြီး ခံစားရမည့် အခါပါတည်း။ ကာမဂုဏ်ကို ဝအောင်ခံစားပြီးမှ ရဟန်းပြုသင့်၏။ ယနေ့သည် အချိန်မလွန်သေးပါ။ အာရုံငါးပါး ကာမဂုဏ်တရားတို့သည် အရှင်ခံစားရန်အတွက် ငံ့လင့်လျက် ရှိနေပါကုန်၏။ အရှင်ခံစားလှည့်ပါလော့။"

အရှင်သမိဒ္ဓိသည် စင်္ကြံလျှောက်လျက်မှ အသံလာရာ ကောင်းကင်ပေါ်သို့ မော့်၍ကြည့်လိုက်သည်။ လက်စုံယှက်ပူး ရွှင်မြူးမြူး အမူအရာနှင့် နတ်သမီးကို မြင်လေသော် တည်ငြိမ်သော ဣန္ဒြေဖြင့် နတ်သမီးအား ခွန်းတုံ့ချေလေ၏။

"အဘယ်နတ်သမီး၊ ငါ့အား ဤစကားမျိုးကို မဆိုလာနှင့်။ ငါကား ဤသို့သော ကာမနှင့်စပ်သည့် စကားမျိုးကို မကြားလို။ ဘယ်တော့ သေရမည်ဟူ၍

သေရမည့်အခါကို ငါမသိ။ ထို့ကြောင့် ငါအသက်ရှည်နေသည့် အခိုက်တွင် သပိတ်ပိုက်၍ ဆွမ်းခံစားကာ တရားကိုသာ ငါ အားထုတ်လိုပေသည်။ တရားအားထုတ်ရမည့် အချိန်သည် ငါ့ကို လွန်မသွားပါစေနှင့် ဟူ၍သာ ငါ တောင့်တနေပါ၏။"

ထိုစကားကိုကြားလျှင် နတ်သမီးသည် အရပ်ကြီးပြွတ်သည့်ပမာ ကောင်းကင်ထက်မှ ရုတ်တရက် ဆင်းသက်လာပြီး အရှင်သမိဒ္ဓိ ကိုယ်တော်ကလေး၏ ရှေ့တွင် ကိုယ်ထင်ပြကာရပ်လျက် ဤသို့ဆိုပြန်၏။ ကာမဘောင်သို့ ပါလာအောင် ဆွဲဆောင်ပြန်၏။

"သခင်၊ သခင် ရဟန်းပြုခြင်းမှာ နှစ်သက်ဖွယ် ရှိပါ၏။ သို့သော် သခင်မှာ ငယ်ပါသေးသည်။ အသက်အရွယ် နုနယ်လှပါသေးသည်။ ရုပ်ရည်သန့်၏။ မြင်လျှင် နှစ်သက်စွဲမက်စေသည့် အဆင်းဂုဏ်နှင့်လည်း ပြည့်စုံ၏။ သို့ပါလျက် ရသထူးခြား လူတို့ခံစားနေကြသည့် ကာမစည်းစိမ်ကို သခင် မခံစားခဲ့။ ခံစားရစကောင်းစေဟူ၍ပင် မမှတ်ထင်ခဲ့။ စိတ်ကူးမလွဲပါနှင့်သခင်။ ကာမစည်းစိမ်ကို မြိန်မြိန်ကြီး ဝအောင်ခံစားပါလေဦး။ ကာမစည်းစိမ်ကို တင်းတိမ်အောင် ခံစားပါလေဦး။ မျက်မှောက်ဖြစ်သည့် ခံစားမှုတို့စွန့်၍ နောင်အနာဂတ်ကာလ၌ ဖြစ်လာမည့် နတ်ကာမဂုဏ်ကို မတောင့်တပါလင့်။" ဟု ဆို၏။

ဤသို့ နှုတ်စချိုချိုနှင့် ဆိုသော်ငြားလည်း နတ်သမီး၏စကားသည် အရှင်သမိဒ္ဓိ၏နားတွင် ငြိစွဲခြင်း မရှိပေ။

"အဘယ်နတ်သမီး၊ ငါကား မျက်မှောက်ခံစားမှုကိုလည်းကောင်း၊ အနာဂတ် နတ်ကာမဂုဏ် ခံစားမှုကိုလည်းကောင်း၊ မည်သည့်ခံစားမှုကိုမျှ ငါမတောင့်တ။ စင်စစ် ငါကား ကာမဂုဏ်အားလုံးကိုစွန့်၍ ကိုယ်တိုင်သိမြင်နိုင်သော လောကုတ္တရာအကျိုးကို တောင့်တ၏။ အဘယ်နတ်သမီး၊ နောင်ကာလမှ ဖြစ်မည့် ကာမဂုဏ်တို့ကို 'များသောဆင်းရဲခြင်း ရှိကုန်၏။ များသော ပင်ပန်းခြင်း ရှိကုန်၏။' ဟု မြတ်ဘုရားက ဟောကြားတော်မူအပ်ကုန်ပြီ။ ကာမဂုဏ်တို့၌ အပြစ်တို့သည် များလှကုန်၏။ လောကုတ္တရာ တရားတော်သည် ကိုယ်တိုင်သိမြင်နိုင်သော တရားတော် ဖြစ်ပေ၏။ အခါမလင့် အကျိုးပေး၏။ လာလှည့်ရှုလှည့်ဟု ဆောင်ပြထိုက်၏။ မိမိကိုယ်ထဲ စိတ်ထဲ၌ ဆောင်ထားထိုက်၏။ အရိယာ ပညာရှိတို့သာ ကိုယ်စီကိုယ်ငှ ထိုက်၏။" ဟု ဆိုလေသော်–

"သခင်၊ ကာမဂုဏ်တို့၌ အပြစ်များကြောင်းကို မြတ်ဘုရား မည်သို့ဟောပါသနည်း။ အဘယ်သို့အပြစ်များပါသနည်း။ လောကုတ္တရာ တရားသည်

အဘယ်သို့လျှင် ကိုယ်တိုင်မြင်နိုင်ပါသနည်း။ အခါမလင့် အကျိုးပေးနိုင်ပါသနည်း၊ လာလှည့်ရှုလှည့်ဟူ၍ အဘယ်သို့လျှင် ဆောင်ပြပါသနည်း။"ဟူ၍ အရှင်သမိဒ္ဓိအား ပြန်၍လျှောက်မေးလေ၏။ ထိုအခါ အရှင်သမိဒ္ဓိက နတ်သမီးအား ဗုဒ္ဓထံတော်သို့ ညွှန်ကြားလိုက်လေ၏။

"အဘယ်နတ်သမီး၊ ငါသည် ရဟန်းပြုသည်မှာ မကြာသေး။ သီတင်းငယ်မျှသာ ဖြစ်ပါ၏။ သာသနာ့ဘောင်သို့ ယခုမှ ရောက်ခါစသာ ဖြစ်သေး၏။ ထို့ကြောင့် ငါ့အနေဖြင့် တရားတော်ကို အကျယ်ပွား၍ မဟောပြနိုင်သေးပါ။ ပူဇော်အထူးကို ခံတော်မူထိုက်သော၊ အလုံးစုံသော တရားတို့ကို ကိုယ်တော်တိုင် မှန်ကန်စွာ သိတော်မူပြီးသော ရှင်တော်မြတ်ဘုရားသည် ဤတပေါဒါရုံကျောင်းတွင် သီတင်းသုံးလျက် ရှိနေ၏။ မြတ်ဘုရားထံ ချဉ်းကပ်၍ သင်သိလိုသော ထိုအကြောင်းများကို မေးလျှောက်ပါလော့။ မြတ်ဘုရားသည် သင့်အား ဖြေကြားတော်မူပါလိမ့်မည်။ မြတ်ဘုရား ဖြေကြားတော်မူသည့်အတိုင်းသာ အသင် မှတ်သားပါလေသော်။"

နတ်သမီးသည် အရှင်သမိဒ္ဓိ၏ ညွှန်ကြားချက်ကို ခြွင်းချက်မရှိ လက်ခံ၏။ သို့သော် အဟန့်အတားသဖွယ် ဖြစ်နေသည်ကား အခြံအရံပရိသတ်များခြင်း ဖြစ်၏။ များပြားလှစွာသော ပရိသတ်နှင့် ဗုဒ္ဓထံ မည်သို့ဝင်ရလေမည်နည်း။

"သခင်ရဟန်း၊ အကျွန်ုပ်မှာ ခြွေရံသင်းပင်း များလှ၏။ တန်ခိုးကြီးနတ်များသည် အကျွန်ုပ်အား ရံလျက်နေကုန်၏။ ထိုမျှ များပြားလှစွာသော ပရိသတ်များနှင့် မြတ်ဘုရားထံဝင်ရန် မလွယ်ကူပါ။ သို့သောကြောင့် အကျွန်ုပ်တို့ တရားနာလိုပါကြောင်းကို သခင်ကိုယ်တိုင် ကျေးဇူးပြု၍ မြတ်ဘုရားထံ ပန်ကြားစေလိုပါ၏။ သို့ပါမှ အကျွန်ုပ်တို့တစ်တွေ မြတ်ဘုရားကိုလည်း ဖူးမြော်ကြရမည်၊ တရားတော်ကိုလည်း ကြားနာကြရမည် ဖြစ်ပါသည်။"

အရှင်သမိဒ္ဓိသည် နတ်သမီးအား 'ကောင်းပြီ။'ဟု ဝန်ခံပြီးနောက် ဗုဒ္ဓထံသို့ချဉ်းကပ်ကာ နတ်သမီး၏ကိုယ်စား အကြောင်းစုံကို လျှောက်ထားလေ၏။ ဤသို့ လျှောက်ထားပြီးလျှင်–

"မြတ်စွာဘုရား၊ တပည့်တော် လျှောက်ထားသည့် ထိုနတ်သမီး၏စကား မှန်ခဲ့ပါမူ နတ်သမီးသည် မနီးမဝေးသော အရပ်တွင် ရှိပါလိမ့်မည်။"ဟု လျှောက်၏။ ဤသို့ လျှောက်သည်ရှိသော် ထိုနတ်သမီးသည် အရှင်သမိဒ္ဓိအား "အသင်ရဟန်း၊ မေးမြန်းပါလော့၊ မေးမြန်းပါလော့။ အကျွန်ုပ် ရောက်လျက်ရှိနေပါပြီ။"ဟူသော စကားဖြင့် လျှောက်ထားလေသည်။ ထိုအခါ မြတ်စွာဘုရားသည် ထိုနတ်သမီးအား ဂါထာဖြင့် ဟောကြားတော်မူ၏။

ခန္ဓာငါးပါးတို့၌ (ပုဂ္ဂိုလ် သတ္တဝါ စသည်) အမှတ်ရှိကုန်သည်ဖြစ်၍ ခန္ဓာငါးပါး၌ တည်ကုန်သော သတ္တဝါတို့သည် ခန္ဓာငါးပါးကို ပိုင်းခြား၍ မသိကုန်သောကြောင့် သေမင်း၏ အားထုတ်မှုသို့ လိုက်ရကုန်၏။

ရဟန္တာပုဂ္ဂိုလ်သည် ခန္ဓာငါးပါးကို ပိုင်းခြား၍ သိသောကြောင့် (ပုဂ္ဂိုလ် သတ္တဝါဟု) ပြောကြားဖွယ်ကို မမှတ်ထင်။ အကြင် ရာဂစသော အကြောင်းဖြင့် ထိုသူကို ဆိုငြားအံ့၊ ထိုရဟန္တာပုဂ္ဂိုလ်အား (ထိုအကြောင်းသည်) မရှိ။ မှန်၏။ ထို (ရာဂ စသော) အကြောင်းသည် ထိုရဟန္တာအား မဖြစ်။

"နတ်သမီး၊ အကယ်၍ သင် သိသည်ဖြစ်အံ့၊ ဆိုလော့"

"အရှင်ဘုရား၊ မြတ်စွာဘုရားသည် အကျဉ်းအားဖြင့် ဟောတော်မူသော ဤတရားတော်၏အနက်ကို အကျယ်အားဖြင့် အကျွန်ုပ် မသိနိုင်ပါ။ အရှင်ဘုရား၊ တောင်းပန်ပါ၏။ ဤတရား၏အနက်ကို အကျယ်အားဖြင့် အကျွန်ုပ် သိနိုင်ရာသော အခြင်းအရာအားဖြင့် အကျွန်ုပ်အား ဟောတော်မူပါလော့။"

ဤသို့ တောင်းပန်လတ်သော် ဗုဒ္ဓသည် အကျယ်အားဖြင့် ဟောကြားလေ၏။

အကြင်ပုဂ္ဂိုလ်သည် (မိမိကိုယ်ကို) တူသူဟူ၍ လည်းကောင်း၊ ထူးကဲသူဟူ၍ လည်းကောင်း၊ သို့မဟုတ် ယုတ်သူဟူ၍ လည်းကောင်း အောက်မေ့၏။ ထိုပုဂ္ဂိုလ်သည် ထိုမာန်ဖြင့် (အမျိုးအနွယ်ဂုဏ်ကို) ငြင်းခုံရာ၏။ အကြင်ပုဂ္ဂိုလ်သည် သုံးပါးကုန်သော မာန်တို့၌ တုန်လှုပ်ခြင်းမရှိ။ ထိုပုဂ္ဂိုလ်ကား တူသူ ဟူ၍လည်းကောင်း၊ ထူးကဲသူဟူ၍ လည်းကောင်း၊ ယုတ်သူဟူ၍ လည်းကောင်း မဖြစ်။

"နတ်သမီး၊ အကယ်၍ သိသည်ဖြစ်အံ့၊ ဆိုလော့။"

နတ်သမီးသည် ဗုဒ္ဓ၏ ထိုဟောမြွက်ချက်၏ အနက်အဓိပ္ပာယ်ကိုလည်း အကယ်ပင် မသိလေသောကြောင့် အကျယ်အားဖြင့် ဟောကြားပေးတော်မူပါရန် ထပ်မံ၍ တောင်းပန်ခြင်း ပြုလေ၏။ ဗုဒ္ဓလည်း နတ်သမီး၏ တောင်းပန်ချက်အရ အကျယ်အားဖြင့် ဟောကြားတော်မူ၏။

အကြင်ပုဂ္ဂိုလ်သည် (တပ်မက်သူ၊ ပြစ်မှားသူ၊ တွေဝေသူဟူသော) ပညတ်ကို ပယ်အပ်ပြီးပြီ။ ကိုးပါးသော ထောင်လွှားမှုမာန်တို့ မကပ်ရောက်။ ဤရုပ်နာမ်၌ တပ်မက်မှု တဏှာကို ဖြတ်ပြီးပြီ။ ထုံးဖွဲ့မှု ဂန္ထလေးပါးကို ဖြတ်ပြီးသော၊ ဆင်းရဲမရှိသော၊ တပ်ခြင်းကင်းသော ထိုပုဂ္ဂိုလ်

ကို ရှာဖွေကြည့်ရှုကြကုန်သော နတ်တို့သည်လည်းကောင်း၊ လူတို့သည် လည်းကောင်း၊ ဤလောက၌လည်းကောင်း၊ အခြားလောက၌ လည်းကောင်း၊ နတ်တို့၌ လည်းကောင်း၊ အလုံးစုံသော နေရာတို့၌ လည်းကောင်း မတွေ့မမြင်ရကုန်။

"နတ်သမီး၊ အကယ်၍ သိသည်ဖြစ်အံ့၊ ဆိုလော့"ဟု မိန့်တော်မူ၏။

"အရှင်ဘုရား၊ မြတ်စွာဘုရားသည် အကျဉ်းအားဖြင့် ဟောကြားအပ်သော ဤတရားတော်၏ အနက်ကို အကျယ်အားဖြင့် အကျွန်ုပ် ဤသို့သိပါ၏။"

အလုံးစုံသော လောက၌ ကိုယ်ဖြင့်လည်းကောင်း၊ နှုတ်ဖြင့်လည်းကောင်း၊ စိတ်ဖြင့်လည်းကောင်း၊ မကောင်းမှုကို စိုးစဉ်းမျှ မပြုရာ။ အောက်မေ့မှု သတိ၊ ဆင်ခြင်မှု သမ္ပဇဉ်နှင့် ပြည့်စုံသည်ဖြစ်၍ ကာမဂုဏ်တို့ကို ပယ်ပြီးလျှင် အကျိုးစီးပွားနှင့် မစပ်သော ဆင်းရဲကို မမှီဝဲရာ။ ဤသို့သိပါသည်ဘုရား။

ဟူ၍ လျှောက်ထားသတည်း။

ဤဖြစ်ရပ်ကား သဂါထာဝဂ္ဂသံယုတ်ပါဠိတော်၊ ဒေဝတာသံယုတ်၊ သမိဒ္ဓိသုတ်၌ လာ၏။ ယင်းသုတ်၏ ဆိုလိုချက် အနှစ်ချုပ်ကား ကံသုံးပါးကို လုံခြုံအောင် ထိန်းစောင့်ရန်နှင့် အရာရာတိုင်းတွင် သတိသမ္ပဇဉ် ဉာဏ်နှင့်ယှဉ်၍ လုပ်ရန် ဟူပေ၏။

(သဂါထာဝဂ္ဂ၊ ဒေဝတာသံယုတ်၊ သမိဒ္ဓိသုတ်)



## အာသဝေါကုန်ခန်း၊ ထွက်ရပ်လမ်း၊ ဘယ်ကျမ်း ဘယ်သို့ ညွှန်သနည်း

ပြဿနာ = အာသဝါတရား
မေးလျှောက်သူ = ----

လူတို့သည် တစ်စုံတစ်ခုသော အလှူဒါနကို ပြုပြီးသောအခါ 'ဤကောင်းမှုကြောင့် နိဗ္ဗာန်မဂ်ဖိုလ်ကို ရက်တိုတိုနှင့် ရောက်ရပါလို၏။ အာသဝေါကုန်ခန်း ရဟန္တာ ဖြစ်ရပါလို၏။'ဟု ဆုတောင်းလေ့ ရှိကြ၏။

ဤ၌ အာသဝေါဟူသည် အဘယ်နည်း။ အဘယ်ကြောင့် အာသဝေါကို ကုန်ခန်းစေလိုသနည်း။ အာသဝေါတို့၌ လူတို့စက်ဆုပ်ရွံရှာ နှလုံးနာလောက်အောင် မည်သို့သော အပြစ်များရှိနေပါသနည်းဟု မေးဖွယ်ရှိပေ၏။

အဖြေကား အာသဝ၌ ကြာမြင့်စွာ စိမ်ထုံအပ်သော အနက်ကြောင့် လည်းကောင်း၊ သတ္တဝါတို့အား မူးယစ်စေတတ်သော အနက်ကြောင့် လည်းကောင်း၊ စိမ်ရည် အရက်တို့သည် မုချအားဖြင့် အာသဝ မည်ကုန်၏။ လောဘ, ဒေါသ, မောဟ ဟူသော တရားကိုယ်သုံးပါးတို့သည် ကြာမြင့်စွာလည်း စိမ်ထုံအပ်ကုန်၏။ သတ္တဝါတို့အားလည်း မူးယစ်စေတတ်ကုန်၏။ ထို့ကြောင့် ယင်း တရားသုံးပါးတို့သည် စိမ်ရည်အရက်နှင့် တူကုန်၏။ ထို့ကြောင့်ပင်လျှင် ယင်းတို့သည် အာသဝ မည်ကုန်၏။

လောက၌ စိမ်ရည်အရက်တို့သည် သတ္တဝါတို့အား မူးယစ်စေတတ်သကဲ့သို့ လောဘစသော အာသဝတို့သည် အနမတဂ္ဂ သံသရာ၌ သတ္တဝါရှိသမျှတို့အား မူးယစ်စေကုန်၏။ အရိယာမဂ်ကို မရသေးသမျှ ကာလပတ်လုံး အာသဝေါ တည်းဟူသော အရက်ဖြင့် အမြဲမပြတ် မူးယစ်၍ နေကြကုန်၏။ ထို့ကြောင့် မနှစ်မြို့အပ်၊ မလိုလားအပ်၊ စက်ဆုပ်ရွံရှာအပ်သော အနက်သဘောကြောင့်

အာသဝမည်သော ထိုအရက်စိမ်ရည်တို့ ကုန်ခန်းပါစေဟူ၍ 'အာသဝေါကုန်ခန်း၍ ရဟန္တာဖြစ်ရပါလို၏။'ဟု ဆုတောင်းကြခြင်းတည်း။

ဤ၌ မြတ်ဗုဒ္ဓသည် အခြားတစ်စုံတစ်ယောက် မေးလျှောက်သူမရှိဘဲ ကိုယ်တိုင်မေး၍ ကိုယ်တိုင်ဖြေသော ကထေတုကမျတာ ပုစ္ဆာအနေဖြင့် ဟောတော်မူ၏။ ဤသုတ်ကား အာသဝေါကုန်ခန်းနည်း နိဿရည်းကို တိုတိုနှင့် သိမှတ်လွယ်အောင် ဖြတ်လမ်းက ပို့ဆောင်သောသုတ် ဖြစ်၏။

"ရဟန်းတို့၊ ဤတရားငါးပါးတို့ကို ပွားများအပ်၊ ကြိမ်ဖန်များစွာ ပြုအပ်သည်ရှိသော် အာသဝေါတရားတို့၏ ကုန်ခြင်းငှာ ဖြစ်ကုန်၏။ အဘယ်ငါးပါးတို့နည်းဟူမူကား–

–ရဟန်းတို့၊ ဤသာသနာတော်၌ ရဟန်းသည်

(၁) ကိုယ်ခန္ဓာ၌ မတင့်မတယ်ဟု ရှုလေ့ရှိသည်ဖြစ်၍နေ၏။

(၂) မျိုအပ်သောအစာ၊ အာဟာရ၌ စက်ဆုပ်ရွံရှာဖွယ်ဟု အမှတ်ရှိ၏။

(၃) လောကအားလုံး၌ မွေ့လျော်ဖွယ် မရှိဟု အမှတ်ရှိ၏။

(၄) အလုံးစုံသော သင်္ခါရတို့၌ မမြဲဟု ရှုလေ့ရှိ၏။

(၅) ထိုရဟန်းအား သေခြင်း၌ဖြစ်သော အမှတ်မရဏသညာသည် ထိုရဟန်း၏ အတွင်းသန္တာန်၌ ကောင်းစွာတည်၏။

–ရဟန်းတို့၊ ဤတရားငါးပါးတို့ကို ရှုပွားအပ်၊ ကြိမ်ဖန်များစွာ ပြုအပ်သည်ရှိသော် အာသဝေါတရားတို့၏ ကုန်ခြင်းငှာ ဖြစ်၏။"ဟု မိန့်တော်မူ၏။

အာသဝေါကုန်ခန်းခြင်းနှင့် ပတ်သက်၍ ဗုဒ္ဓ၏ ဟောကြားချက်သည် တိုတိုနှင့်ရှင်း၏။ ပြတ်သားလှ၏။ လွယ်လင့်တကူ ကျင့်သုံးရသောနည်း ဖြစ်၏။ အဓိပ္ပာယ်မှာ–

(၁) ကိုယ်ခန္ဓာ၌ တင့်တယ်သည် ထင်နေလျှင် အာသဝေါ ကုန်ခန်းမည် မဟုတ်။

(၂) အစာအာဟာရ၌ နှစ်သက်ဖွယ်ဟု ထင်နေလျှင် အာသဝေါ ကုန်ခန်းမည် မဟုတ်။

(၃) လောကအားလုံး၌ မွေ့လျော်ဖွယ် ထင်နေလျှင် အာသဝေါ ကုန်ခန်းမည် မဟုတ်။

(၄) အလုံးစုံသော သင်္ခါရတို့၌ မြဲသည်ဟု ထင်နေလျှင် အာသဝေါ ကုန်ခန်းမည် မဟုတ်။

(၅) မရဏသညာ ကောင်းစွာမတည်လျှင် အာသဝေါ ကုန်ခန်းမည် မဟုတ်ဟု ဆိုလိုသည်။

(အင်္ဂုတ္တိုရ်၊ ဂိလာနသုတ်)

———



## ဝေဖန်သုံးသပ်၊ နည်းတစ်ရပ်
## ဟောအပ် မည်သူ့ကိုပေနည်း

ပြဿနာ = သုံးသပ်မှု
လျှောက်ထားသူ = အရှင်အာနန္ဒာ

"ရဟန်းတို့၊ သင်တို့သည် အတွင်း၌ သုံးသပ်မှုကို သုံးသပ်ကြကုန်၏လော။"

ဗုဒ္ဓသည် ကုရုတိုင်း၊ ကမ္မာသဒမ္မအမည်ရှိသော နိဂုံး၌ သီတင်းသုံးစော်မူစဉ် ရဟန်းတို့အား အထက်ပါမေးခွန်း ထုတ်လိုက်၏။ ရဟန်းတို့သည် ဖြေလိုမှန်းနီးနီး၊ ငါဖြေလိုမှန်းနီးနီးဖြင့် အချင်းချင်း ကြည့်နေကြကုန်၏။ ခဏကြာသော် ရဟန်းတစ်ပါးက ထ၍လျှောက်လေသည်။

"အရှင်ဘုရား၊ တပည့်တော်သည် အတွင်း၌ သုံးသပ်ခြင်းကို သုံးသပ်ပါသည် ဘုရား။"

"ရဟန်း၊ သင်သည် အဘယ်သို့ သုံးသပ်သနည်း။"

ထိုအခါ ထိုရဟန်းက သူ၏ သုံးသပ်ချက်များကို ဗုဒ္ဓအား တင်ပြလျှောက်ထားရာ ထိုရဟန်း၏ လျှောက်ထားချက်ကို ဗုဒ္ဓက နှစ်သက်တော် မမူချေ။

ဤတွင် ဗုဒ္ဓက နှစ်သက်တော်မမူကြောင်းကို အရှင်အာနန္ဒာက ရိပ်စားမိသဖြင့် ဗုဒ္ဓအား ပန်ကြားလေ၏။

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ယခုအခါသည်ကား ထိုအတွင်း၌ သုံးသပ်ချက် တရားကို ဟောအပ်သော အခါပါတည်း။ ကောင်းသော စကားကို ဆိုတော်မူတတ်သော မြတ်စွာဘုရား၊ ယခုအခါသည်ကား ထိုအတွင်း သုံးသပ်ချက်တရားကို ဟောအပ်သော အခါပါတည်း။ ထိုတရားတော်ကို မြတ်စွာဘုရား ထံတော်မှ နာယူ၍ ရဟန်းတို့ ဆောင်ထားကြရပါလတ္တံ့။"

"အာနန္ဒာ၊ ယင်းသို့ဖြစ်ဘိသော် နာကြကုန်လော့။ ကောင်းစွာ နှလုံးသွင်းကြကုန်လော့။ ငါ ဟောကြားပေအံ့။"

"ကောင်းလှပါပြီ ဘုရား။"

ထိုအခါ ဗုဒ္ဓသည် အရှင်အာနန္ဒာ၏ တောင်းပန်ချက်အရ သမ္မသ ဟု ခေါ်တွင်သော အတွင်း၌ သုံးသပ်မှုတရားကို ဟောကြားတော်မူသတည်း။

"ရဟန်းတို့၊ သုံးသပ်သော ရဟန်းသည် လောက၌ များသောအပြား ရှိသော၊ အထူးထူးအပြားပြားသော အိုမှု၊ သေမှုဟူသော ဤဆင်းရဲသည် ဖြစ်၏။ ဤဆင်းရဲသည်-

- အဘယ်တရားလျှင် အကြောင်းရှိသနည်း။
- အဘယ်တရားလျှင် ဖြစ်ပေါ်ကြောင်း ရှိသနည်း။
- အဘယ်တရားကြောင့် ဖြစ်သနည်း။
- အဘယ်တရားလျှင် အမွန်ရှိသနည်း။
- အဘယ်တရားရှိသော် ဇရာ-မရဏ ဖြစ်သနည်း။
- အဘယ်တရား မရှိသော် ဇရာ-မရဏ မဖြစ်သနည်း။

ဟု အတွင်း၌ သုံးသပ်ခြင်းကို သုံးသပ်၏။ သုံးသပ်သော ထိုရဟန်းသည် များပြားသော အပြားရှိသော၊ အထူးထူး အပြားပြားသော အိုမှု, သေမှုဟူသော လောက၌ ဖြစ်ပေါ်သည့် ဤဆင်းရဲသည်ကား ခန္ဓာဟူသော ဥပဓိလျှင် အကြောင်း ရှိ၏။ ဥပဓိလျှင် ဖြစ်ပေါ်ကြောင်းရှိ၏။ ခန္ဓာဟူသော ဥပဓိရှိသော် အိုမှု, သေမှု ဖြစ်၏။ ခန္ဓာဟူသော ဥပဓိမရှိသော် သေမှု, အိုမှု မဖြစ်ဟု သိ၏။ ထိုရဟန်းသည် ဇရာမရဏကိုလည်း သိ၏။ ဇရာ မရဏ၏ အကြောင်းကိုလည်း သိ၏။ ဇရာမရဏ၏ ချုပ်ရာကိုလည်း သိ၏။ ဇရာမရဏ၏ ချုပ်ရာသို့ ရောက်ခြင်း ငှာ လျောက်ပတ်သော အကျင့်ကိုလည်း သိ၏။ ထိုသို့ သိသောအတိုင်းလည်း ကျင့်၏။ တရားသို့ အစဉ်လိုက်၍ ကျင့်လေ့ရှိ၏။

-ရဟန်းတို့၊ ဤရဟန်းကို အချင်းခပ်သိမ်း အိုခြင်း, သေခြင်း၏ ချုပ်ခြင်းငှာ၊ ဝဋ်ဆင်းရဲ၏ ကုန်ခြင်းငှာ ကောင်းစွာကျင့်သူဟု ဆိုအပ်၏။

-ထိုမှတစ်ပါး သုံးသပ်သော ရဟန်းသည် ဤခန္ဓာဟူသော ဥပဓိသည်ကား အဘယ်တရားလျှင် အကြောင်းရှိသနည်း၊ အဘယ်တရားလျှင် ဖြစ်ပေါ်ကြောင်း ရှိသနည်း။ အဘယ်တရားကြောင့် ဖြစ်သနည်း၊ အဘယ်တရားလျှင် အမွန်ရှိသနည်း၊ အဘယ်တရားရှိသော ဥပဓိ ဖြစ်သနည်း။ အဘယ်တရားမရှိသော် ဥပဓိ မဖြစ်သနည်းဟု အတွင်း၌ သုံးသပ်ခြင်းကို သုံးသပ်၏။ သုံးသပ်သော ထိုရဟန်းသည်-

– ခန္ဓာဟူသော ဥပဓိသည် တဏှာလျှင် အကြောင်းရှိ၏။
– တဏှာလျှင် ဖြစ်ပေါ်ကြောင်းရှိ၏။
– တဏှာကြောင်း ဖြစ်၏။
– တဏှာလျှင် အမွန်ရှိ၏။
– တဏှာရှိသော် ခန္ဓာဟူသော ဥပဓိဖြစ်၏။
– တဏှာမရှိသော် ခန္ဓာဟူသော ဥပဓိမဖြစ် ဟု သိ၏။

–ထိုရဟန်းသည် ခန္ဓာဟူသော ဥပဓိကိုလည်း သိ၏။ ဥပဓိ၏ အကြောင်းလည်း သိ၏။ ဥပဓိ၏ ချုပ်ရာကိုလည်း သိ၏။ ဥပဓိ၏ ချုပ်ရာသို့ ရောက်ခြင်းငှာ လျော်ကပ်သော အကျင့်ကိုလည်း သိ၏။ ထိုသို့ သိသောအတိုင်းလည်း ကျင့်၏။ တရားသို့ အစဉ်လိုက်၍ ကျင့်၏။ ရဟန်းတို့၊ ဤရဟန်းကို အချင်းခပ်သိမ်း ဥပဓိ၏ ချုပ်ခြင်းငှာ၊ ဝဋ်ဆင်းရဲ၏ ကုန်ခြင်းငှာ ကောင်းစွာကျင့်သူဟု ဆိုအပ်၏။

–ထိုမှတစ်ပါး၊ သုံးသပ်သောရဟန်းသည်
– ဤတဏှာဖြစ်သည်ရှိသော် အဘယ်၌ ဖြစ်သနည်း။
– တည်ရှိသော် အဘယ်၌ တည်သနည်း။

ဟု အတွင်း၌ သုံးသပ်ခြင်းကို သုံးသပ်၏။ သုံးသပ်သော ထိုရဟန်းသည် လောက၌ ချစ်အပ်, သာယာအပ်သော သဘောသည် ရှိ၏။ ဤတဏှာသည် ဖြစ်သည်ရှိသော် ဤချစ်အပ်, သာယာအပ်သော သဘော၌ ဖြစ်၏။ တည်သည်ရှိသော် ဤချစ်အပ်, သာယာအပ်သော သဘော၌ တည်၏။

–လောက၌ ချစ်အပ်၊ သာယာအပ်သော သဘောသည် အဘယ်နည်း။

–လောက၌ မျက်စိသည် ချစ်အပ်၊ သာယာအပ်သော သဘောတည်း။ ဤတဏှာဖြစ်သည်ရှိသော်၊ ဤချစ်အပ်၊ သာယာအပ်သော သဘော၌ ဖြစ်၏။ တည်သည်ရှိသော ဤချစ်အပ်၊ သာယာအပ်သော သဘော၌ တည်၏။

– လောက၌ နားသည် ချစ်အပ်၊ သာယာအပ်သောသဘောတည်း။
– လောက၌ နှာခေါင်းသည် ချစ်အပ်၊ သာယာအပ်သော သဘောတည်း။
– လောက၌ လျှာသည် ချစ်အပ်၊ သာယာအပ်သော သဘောတည်း။
– လောက၌ ကိုယ်သည် ချစ်အပ်၊ သာယာအပ်သော သဘောတည်း။
– လောက၌ စိတ်သည် ချစ်အပ်၊ သာယာအပ်သော သဘောတည်း။

ဤတဏှာသည် ဖြစ်သည်ရှိသော် ဤချစ်အပ်၊ သာယာအပ်သော သဘော၌ ဖြစ်၏။ တည်သည်ရှိသော် ဤချစ်အပ်၊ သာယာအပ်သော သဘော၌ တည်၏။

–ရဟန်းတို့၊ လွန်ပြီးအတိတ်ကာလ၀ယ် လောက၌ ချစ်အပ်၊ သာယာအပ်သော သဘောကို မြဲသောအားဖြင့် ရှုကုန်၊ ချမ်းသာသောအားဖြင့် ရှုကုန်။ အနှစ်သာရအားဖြင့် ရှုကုန်။ အနာကင်းသောအားဖြင့် ရှုကုန်၊ ဘေးကင်းသောအားဖြင့် ရှုကုန်ပြီးသော သမဏဗြာဟ္မဏ ဟူသမျှတို့သည် တဏှာကို ပွားစေကုန်၏။ တဏှာကို ပွားစေကုန်သော ထိုသူတို့သည် ပဋိသန္ဓေနေမှု၊ အိုမှု၊ သေမှု၊ စိုးရိမ်မှု၊ ငိုကြွေးမှု၊ ဆင်းရဲမှု၊ နှလုံးမသာယာမှု၊ ပြင်းစွာပင်ပန်းမှုတို့မှ မလွတ်နိုင်ကုန်။ ဆင်းရဲအပေါင်းမှ မလွတ်နိုင်ကုန်ဟု ငါဘုရား ဟောတော်မူ၏။

–ရဟန်းတို့၊ နောင်အနာဂတ်ကာလ၀ယ် လောက၌ ချစ်အပ်၊ သာယာအပ်သောသဘောကို မြဲသောအားဖြင့် ချမ်းသာသောအားဖြင့် ရှုကုန်၊ အနှစ်သာရအားဖြင့် ရှုကုန်၊ အနာကင်းသောအားဖြင့် ရှုကုန်၊ ဘေးကင်းသောအားဖြင့် ရှုကုန်မည့် သမဏ ဗြာဟ္မဏ ဟူသမျှတို့သည် တဏှာကို ပွားစေကုန်လတ္တံ့။ တဏှာကို ပွားစေကုန်မည့် ထိုသူတို့သည် ခန္ဓာဟူသော ဥပဓိကို ပွားစေကုန်လတ္တံ့။ ဆင်းရဲကို ပွားစေကုန်လတ္တံ့။ ဆင်းရဲကို ပွားစေကုန်မည့် ထိုသူတို့သည် ပဋိသန္ဓေနေမှု၊ အိုမှု၊ သေမှု၊ စိုးရိမ်မှု၊ ငိုကြွေးမှု၊ ဆင်းရဲမှု၊ နှလုံးမသာယာမှု၊ ပြင်းစွာပင်ပန်းမှုတို့မှ မလွတ်နိုင်ကုန်လတ္တံ့။ ဆင်းရဲ အပေါင်းမှ မလွတ်နိုင်ကုန်လတ္တံ့ဟု ငါဘုရား ဟောတော်မူ၏။

–ရဟန်းတို့၊ ယခု ပစ္စုပ္ပန်အခါ၀ယ် လောက၌ ချစ်ခင်အပ်၊ သာယာအပ်သော သဘောကို မြဲသောအားဖြင့် ရှုကုန်၊ ချမ်းသာသောအားဖြင့် ရှုကုန်၊ အနှစ်သာရအားဖြင့် ရှုကုန်၊ အနာကင်းသောအားဖြင့် ရှုကုန်၊ ဘေးကင်းသောအားဖြင့် ရှုကုန်ဆဲဖြစ်သော သမဏ ဗြာဟ္မဏ ဟူသမျှတို့သည် တဏှာကို ပွားစေကုန်၏။ တဏှာကို ပွားစေကုန်သော ထိုသမဏ ဗြာဟ္မဏတို့သည် ခန္ဓာဟူသော ဥပဓိကိုပွားစေကုန်၏။ ဥပဓိကို ပွားစေကုန်သော ထိုသမဏ ဗြာဟ္မဏတို့သည် ဆင်းရဲကို ပွားစေကုန်၏။ ဆင်းရဲကို ပွားစေကုန်သော ထိုသမဏ ဗြာဟ္မဏတို့သည် ပဋိသန္ဓေနေမှု။ပ။ ဆင်းရဲအပေါင်းမှ မလွတ်နိုင်ကုန်ဟု ငါဘုရား ဟောတော်မူ၏။

–ရဟန်းတို့၊ ဥပမာသော်ကား ကြေးခွက်တွင်းရှိ အရက်သည် အဆင်းနှင့် ပြည့်စုံ၏။ အနံ့နှင့် ပြည့်စုံ၏။ အရသာနှင့် ပြည့်စုံ၏။ သို့ပင်ဖြစ်သော်လည်း ထိုအရက်သည် အဆိပ်နှင့် ရောနှောနေ၏။ ထိုအခါ ယောကျ်ားသည် အလွန်ပူသောကိုယ် ရှိသည်ဖြစ်၍ အပူဖြင့် နှိပ်စက်အပ်သောကြောင့် ပင်ပန်းသည်ဖြစ်ရကား ရေမွတ်သိပ်သည်ဖြစ်၍ လာရ၏။ ထိုယောကျ်ားကို ဤသို့ဆို

ကုန်ရာ၏။ 'အချင်းယောကျ်ား၊ ကြေးခွက်တွင်းရှိ အရက်သည် အဆင်းနှင့် ပြည့်စုံ၏။ အနံ့နှင့်ပြည့်စုံ၏။ အရသာနှင့် ပြည့်စုံ၏။ သို့ပင်ဖြစ်သော်လည်း ထို အရက်သည် အဆိပ်နှင့် ရောနှောနေ၏။ သင်သည် အကယ်၍ အလိုရှိခဲ့မူ သောက်လော့။ သောက်သည်ရှိသော် သင့်ကို အဆင်းအားဖြင့်လည်းကောင်း၊ အနံ့အားဖြင့်လည်းကောင်း၊ အရသာအားဖြင့်လည်းကောင်း နှစ်သက်စေလတ္တံ့။ သောက်ပြီးသော်ကား ထိုအရက်ကို သောက်ခြင်းအကြောင်းကြောင့် သေခြင်းသို့ သော်လည်း ရောက်လတ္တံ့။ သေလောက်သော ဆင်းရဲသို့သော်လည်း ရောက်လတ္တံ့ ဟု ဆိုကုန်ရာ၏။ ထိုယောကျ်ားသည် ထိုကြေးခွက်တွင်းရှိ အရက်ကို အဆော တလျင် မဆင်ခြင်မူ၍ သောက်ရာ၏။ မစွန့်လွှတ်ရာ။ ထိုယောကျ်ားသည် ထို အရက်ကို သောက်ခြင်းအကြောင်းကြောင့် သေခြင်းသို့ဖြစ်စေ၊ သေလောက်သော ဆင်းရဲသို့ဖြစ်စေ ရောက်ရာ၏။

–ရဟန်းတို့၊ ဤအတူသာလျှင် လွန်ပြီးအတိတ်ကာလဝယ် ချစ်အပ်၊ သာယာအပ်သော သဘောကို ။ပ။ နောင်အနာဂတ်ကာလဝယ် ။ပ။ ယခုပစ္စုပ္ပန် ကာလဝယ် ချစ်အပ်၊ သာယာအပ်သော သဘောကို မြဲသောအားဖြင့် ရှုကုန်၊ ချမ်းသာသောအားဖြင့် ရှုကုန်၊ အနှစ်သာရအားဖြင့် ရှုကုန်၊ အနာကင်းသော အားဖြင့် ရှုကုန်၊ ဘေးကင်းသောအားဖြင့် ရှုကုန်သော သမဏ ဗြာဟ္မဏဟူသမျှ တို့သည် တဏှာကိုပွားစေကုန်၏။ တဏှာကို ပွားစေကုန်သော ထိုသူတို့သည် ခန္ဓာဟူသော ဥပဓိကို ပွားစေကုန်၏။ ဥပဓိကို ပွားစေကုန်သော ထိုသူတို့သည် ဆင်းရဲကို ပွားစေကုန်၏။ ဆင်းရဲကို ပွားစေကုန်သော ထိုသူတို့သည် ပဋိသန္ဓေနေမှု ။ပ။ ဆင်းရဲအပေါင်းမှ မလွတ်ကုန်ဟူ၍ ငါဘုရား ဟောတော်မူ၏။

–ရဟန်းတို့၊ လွန်ပြီးအတိတ်ကာလဝယ် ချစ်အပ်၊ သာယာအပ်သော သဘောကို မမြဲသောအားဖြင့် ရှုကုန်၊ ဆင်းရဲသောအားဖြင့် ရှုကုန်၊ အနှစ်သာရ မရှိသောအားဖြင့် ရှုကုန်၊ အနာရောဂါအားဖြင့် ရှုကုန်၊ ဘေးအားဖြင့် ရှုကုန်သော သမဏဗြာဟ္မဏ ဟူသမျှတို့သည် တဏှာကို မပွားစေကုန်။ တဏှာကို ပယ်စွန့် ကုန်သော ထိုသူတို့သည် ခန္ဓာဟူသော ဥပဓိကို ပယ်စွန့်ကုန်၏။ ဥပဓိကို ပယ် စွန့်ကုန်သော ထိုသူတို့သည် ဆင်းရဲကို ပယ်စွန့်ကုန်၏။ ဆင်းရဲကို ပယ်စွန့် ကုန်သော ထိုသူတို့သည် ပဋိသန္ဓေနေမှု၊ အိုမှု၊ သေမှု၊ စိုးရိမ်မှု၊ ငိုကြွေးမှု၊ ဆင်းရဲမှု၊ နှလုံးမသာယာမှု၊ ပြင်းစွာပူပန်မှုတို့မှ လွတ်မြောက်ကုန်၏။ ဆင်းရဲ အပေါင်းမှ လွတ်မြောက်ကုန်၏ဟု ငါဘုရား ဟောတော်မူ၏။

–ရဟန်းတို့၊ နောင်အနာဂတ်ကာလဝယ် ။ပ။ ငါဘုရား ဟောတော်မူ၏။

ရဟန်းတို့၊ ယခုပစ္စုပ္ပန်ကာလဝယ် ချစ်အပ်၊ သာယာအပ်သော သဘောကို မမြဲသောအားဖြင့်ရှုကုန် ။ပ။ ဘေးအားဖြင့် ရှုကုန်ဆဲဖြစ်သော သမဏဗြာဟ္မဏ ဟူသမျှတို့သည် တဏှာကို ပယ်စွန့်ကုန်၏။ တဏှာကို ပယ်စွန့်ကုန်သော ထိုသူတို့သည် ခန္ဓာဟူသော ဥပဓိကို ပယ်စွန့်ကုန်၏။ ။ပ။ ဆင်းရဲအပေါင်းမှ လွတ်မြောက်ကုန်၏ဟု ငါဘုရား ဟောတော်မူ၏။

–ရဟန်းတို့၊ ဥပမာသော်ကား ကြေးခွက်အတွင်းရှိ အရက်သည် အဆင်းနှင့် ပြည့်စုံ၏။ အနံ့နှင့် ပြည့်စုံ၏။ အရသာနှင့် ပြည့်စုံ၏။ သို့ပင်ဖြစ်သော်လည်း ထိုအရက်သည် အဆိပ်နှင့် ရောနေ၏။ ထိုအခါ ယောကျ်ားသည် အလွန်ပူသောကိုယ် ရှိသည်ဖြစ်၍ အပူဖြင့် နှိပ်စက်အပ်သောကြောင့် ပင်ပန်းသည်ဖြစ်ရကား ရေမွတ်သိပ်သည်ဖြစ်၍ လာရာ၏။ ထိုယောကျ်ားကို ဤသို့ဆိုရာ၏။ 'အချင်းယောကျ်ား၊ ကြေးခွက်အတွင်းရှိ အရက်သည် အဆင်းနှင့် ပြည့်စုံ၏။ပ။ သေလောက်သော ဆင်းရဲသို့သော်လည်း ရောက်ရလတ္တံ့။'ဟု ဆိုကုန်ရာ၏။

–ရဟန်းတို့၊ ထိုအခါ ထိုယောကျ်ားအား ဤသို့သောအကြံ ဖြစ်ရာ၏။ 'ငါသည် မွတ်သိပ်ခြင်းကို ရေဖြင့်သော်လည်းကောင်း၊ နို့ဓမ်းကြည်ဖြင့်သော်လည်းကောင်း၊ ဆားနှင့်ရောသော မုန့်ညက်ရေဖြင့်သော်လည်းကောင်း၊ လောဏသောဝီရကမည်သော ဆေးဖြင့်သော်လည်းကောင်း ပယ်ဖျောက်ခြင်းငှာ တတ်နိုင်၏။ ငါ့အား ရှည်စွာသော ကာလပတ်လုံး အစီးအပွား ရှိခြင်းငှာ၊ ချမ်းသာခြင်းငှာ မဖြစ်စေနိုင်သော ထိုအရက်ကို ငါမသောက်တော့အံ့။'ဟု အကြံဖြစ်ရာ၏။ ထိုယောကျ်ားသည် ထိုကြေးခွက်တွင်းရှိ အရက်ကို ဆင်ခြင်ပြီးလျှင် မသောက်မူ၍ စွန့်ပစ်ရာ၏။ ထိုယောကျ်ားသည် ထိုအကြောင်းကြောင့် သေခြင်းသို့သော်လည်း မရောက်ရာ။ သေလောက်သော ဆင်းရဲသို့သော်လည်း မရောက်ရာ။

–ရဟန်းတို့၊ ထို့အတူသာလျှင် လွန်ပြီးအတိတ်ကာလဝယ် ချစ်အပ်၊ သာယာအပ်သော သဘောကို မမြဲသောအားဖြင့် ရှုကုန်၊ ဆင်းရဲသောအားဖြင့် ရှုကုန်၊ အနှစ်သာရမရှိသောအားဖြင့် ရှုကုန်၊ အနာရောဂါအားဖြင့် ရှုကုန်၊ ဘေးအားဖြင့် ရှုကုန်သော သမဏဗြာဟ္မဏဟူသမျှတို့သည် တဏှာကို ပယ်စွန့်ကုန်၏။ တဏှာကို ပယ်စွန့်ကုန်သော ထိုသူတို့သည် ခန္ဓာဟူသော ဥပဓိကို ပယ်စွန့်ကုန်၏။ ဥပဓိကို ပယ်စွန့်ကုန်သော ထိုသူတို့သည် ဆင်းရဲကို ပယ်စွန့်ကုန်၏။ ဆင်းရဲကို ပယ်စွန့်ကုန်သော ထိုသူတို့သည် ပဋိသန္ဓေနေမှု၊ အိုမှု၊ စိုးရိမ်မှု၊ ငိုကြွေးမှု၊ ဆင်းရဲမှု၊ နှလုံးမသာယာမှု၊ ပြင်းစွာပင်ပန်းမှုတို့မှ လွတ်မြောက်ကုန်၏။ ဆင်းရဲအပေါင်းမှ လွတ်မြောက်ကုန်၏ဟူ၍ ငါဘုရားဟောတော်မူ၏။

–ရဟန်းတို့၊ နောင်အနာဂတ် ကာလဝယ် ။ပ။ ယခုပစ္စုပ္ပန်ကာလဝယ် ချစ်အပ်၊ သာယာအပ်သော သဘောကို မမြဲသောအားဖြင့် ရှုကုန်၊ ဆင်းရဲသောအားဖြင့် ရှုကုန်၊ အနှစ်သာရမရှိသောအားဖြင့် ရှုကုန်၊ အနာရောဂါအားဖြင့် ရှုကုန်၊ ဘေးအားဖြင့် ရှုကုန်သော သမဏဗြာဟ္မဏ ဟူသမျှတို့သည် တဏှာကို ပယ်စွန့်ကုန်၏။ တဏှာကို ပယ်စွန့်ကုန်သော ထိုသူတို့သည် ခန္ဓာဟူသော ဥပဓိကို စွန့်ကုန်၏။ ဥပဓိကို စွန့်ကုန်သော ထိုသူတို့သည် ဆင်းရဲကို ပယ်စွန့်ကုန်၏။ ဆင်းရဲကို ပယ်စွန့်ကုန်သော ထိုသူတို့သည် ပဋိသန္ဓေနေမှု ။ပ။ ဆင်းရဲအပေါင်းမှ လွတ်မြောက်ကုန်၏ဟု ငါဘုရား ဟောတော်မူ၏။”

ဤသမ္မာသသုတ်၏ အနှစ်ချုပ်ကား မိမိကိုယ်ပိုင်ဉာဏ်ဖြင့် အရှိကို အရှိအတိုင်းဖြစ်အောင် သုံးသပ်ဝေဖန်တတ်ရန် ဗုဒ္ဓရည်ညွှန်းတော်မူ၏။ စာကိုဖတ်၍ဖြစ်စေ၊ တရားနာရ၍ ဖြစ်စေ၊ ‘ဤခန္ဓာကောင် ကိုယ်ကောင်ကြီးကာ· အနိစ္စတုံးကြီးပါတကား၊ ဒုက္ခတုံးကြီးပါတကား၊ အနတ္တတုံးကြီးပါတကား။’ဟု သိသောအသိမျိုးမှာ စာသိသာဖြစ်၏။ တကယ့်နှလုံးသားထဲ၊ အူထဲ၊ အသည်းထဲက လှိုက်လှိုက်လှဲလှဲ စူးစူးစိုက်စိုက် သိသောအသိမဟုတ်။ စူးစူးစိုက်စိုက် တကယ့်အသိရိုက်အောင် မိမိကိုယ်တွင်း၌ သုံးသပ်ပါ၊ ဝေဖန်ပါ။ သုံးသပ်ဝေဖန်မှ အဖြေမှန် ထွက်လာမည်။ အဖြေကို အခြေခံလျက် အားထုတ်သွားလျှင် ဆင်းရဲခပ်သိမ်း ငြိမ်းမည်ဟု ဆိုလိုပါသတည်း။

(သံယုတ်ပါဠိတော်၊ သမ္မသသုတ်)



## မယားအပြား၊ ခုနစ်ပါး
## မြတ်ဘုရား မည်သူ့ ဟောသနည်း

**ပြဿနာ = လင့် ယောက္ခမ မရိုသေမှု**
**မေးလျှောက်သူ = သုဇာတာ**

"သူကြွယ်၊ သင့်အိမ်၌ လူတို့သည် ငါးကို လုယက်ကြသော တံငါသည်တို့ကဲ့သို့ အဘယ်အကြောင်းကြောင့် ပြင်းပြကျယ်လောင်သောအသံ ရှိကုန်ကြသနည်း။"

မေးသူမှာ ဗုဒ္ဓ၊ အမေးခံရသူကား အနာထပိဏ်သူဌေး ဖြစ်လေသည်။ တစ်နေ့သောအခါ အနာထပိဏ်သူဌေးအိမ်သို့ ဗုဒ္ဓ ကြွလာတော်မူလာစဉ် လူတို့သည် ကြွက်ကြွက်ညံအောင် တစ်အိမ်လုံး အော်ကြီးဟစ်ကျယ် ဆိုပြောနေကြသဖြင့် အထက်ပါအတိုင်း အနာထပိဏ် သူဌေးအား ဗုဒ္ဓက မေးမြန်းတော် မူခြင်း ဖြစ်၏။

အနာထပိဏ်သူဌေးမှာ ဗုဒ္ဓ၏အမေးကို မည်သို့ဖြေရမှန်းမသိ ဖြစ်နေသည်။ ဟုတ်တိုင်းမှန်ရာကို လျှောက်ရန် သင့် မသင့် ချိန်ဆနေဟန်တူ၏။ နောက်တွင်မူ 'မထူးတော့ပါဘူး။ မှန်ရာအတိုင်း လျှောက်ထားတာပဲ ကောင်းပါတယ်။'ဟု ဆုံးဖြတ်ပြီး ဤသို့လျှောက်ထားလေ၏။

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ တပည့်တော်မှာ ချွေးမတစ်ယောက် ရှိပါသည်။ အမည်မှာ သုဇာတာဟု ခေါ်ပါသည်။ ဆွေကြီးမျိုးကြီး သူကြွယ်မျိုး ဖြစ်ပါသည်။ သို့သော် ထိုချွေးမသည် ဆွေကြီးမျိုးကြီး၊ မိကောင်းဖခင်တို့မှ ဖွားသော သမီးပီပီ လိမ္မာရေးခြားရှိ၍ ယဉ်ပါးမည့်အစား လူနှင့်မလိုက်အောင် မိုက်ရိုင်းလှပါ၏။ လင်ကိုလည်း လင်မှန်းမသိ၊ ယောက္ခမကိုလည်း ရိုသေလေး

စားရမှန်း မသိ။ သူ၏ဆက်ဆံမှုများမှာ လူမဆန်အောင် အလွန်ပင် ရိုင်းပျလှပါ၏။ လက်အောက်ငယ်သား အစေအပါးများကိုလည်း ဆူလား၊ ပူလား၊ ကြိမ်းလား မောင်းလား လုပ်သည့်အတွက် သူ့ခမျာများမှာ ဘာလုပ်ရမည်မသိ ဖြစ်နေကြရာ ထိုအခါ သူ၏အော်ကြီးဟစ်ကျယ် ဆူပူမှုကြောင့် မြတ်ဘုရား ကြားသိတော်မူရသည့်အတိုင်း ဆူညံနေကြောင်းပါဘုရား။''ဟု လျှောက်လေ၏။

ထိုအခါ မြတ်စွာဘုရားသည် ရှေ့တွင် အနာထပိဏ်သူဌေး ရှိနေဆဲမှာပင် ''သုဇာတာ လာခဲ့ဦး။''ဟု သုဇာတာအား ခေါ်လိုက်၏။ သုဇာတာလည်း မြတ်ဘုရား ခေါ်တော်မူသံကိုကြားလျှင် လန့်သလိုလို ဖြစ်သွားပြီးမှ ''ကောင်းလှပါပြီဘုရား။''ဟူ၍ လျှောက်ထားသံနှင့် မရှေးမနှောင်း အတွင်းဆောင်မှ ထွက်လာခဲ့ပြီး မြတ်ဘုရားရှေ့တွင် ရိုသေစွာ ထိုင်လာ၏။

ထိုအခါ မြတ်စွာဘုရားသည် အခြားတစ်စုံတစ်ရာကို မေးမြန်းခြင်း မပြုလေဘဲ အိမ်ထောင်ရေးကိုသာ ဦးတည်၍ အောက်ပါအတိုင်း မေးတော်မူ၏။

''သုဇာတာ၊ လင်ယောကျ်ား၏ မယားတို့သည် ဤခုနစ်မျိုးတို့တည်း။ အဘယ်ခုနစ်မျိုးတို့နည်း ဟူမူ သူသတ်နှင့်တူသောမယား၊ ခိုးသူနှင့်တူသောမယား၊ အရှင်နှင့်တူသောမယား၊ အမိနှင့်တူသောမယား၊ နှမနှင့်တူသော မယား၊ အဆွေခင်ပွန်းနှင့်တူသောမယား၊ ကျွန်မနှင့်တူသောမယားတို့တည်း။ ထိုခုနစ်မျိုးသော မယားတို့တွင် သင်သည် အဘယ်မယားမျိုးနည်း။''

ဤသို့မေးတော်မူလိုက်သောအခါ သုဇာတာမှာ မည်သို့ဖြေရမည်မသိ၊ ကြောင်တက်တက် ဖြစ်နေသည်။ ဘစ်ချက်တစ်ချက် ယောက္ခမကြီးမျက်နှာကို ကြည့်နှင့် ဖြစ်နေသည်။ ''ချစ်သမီး၊ မြတ်ဘုရားက မေးတော်မူနေသည်ကို သင်မကြားသလော။''ဟု အနာထပိဏ်သူဌေးက သတိပေးလေမှ ဗုဒ္ဓ၏အမေးကို မဝံ့မရဲနှင့် ဖြေကြားလေ၏။

''အရှင်ဘုရား၊ အကျဉ်းအားဖြင့် မြတ်ဘုရား မြွက်ကြားတော်မူလိုက်သည့် စကား၏အဓိပ္ပာယ်ကို ဉာဏ်မမီ၍ တပည့်တော်မ နားမလည်နိုင်ပါဘုရား။ တပည့်တော်မ တောင်းပန်ပါ၏။ တပည့်တော်မ နားလည်မှတ်သားရအောင် ထိုတရားကို အကျယ်အားဖြင့် ဟောကြားပေးတော်မူပါဘုရား။''

''သုဇာတာ၊ ယင်းသို့ဖြစ်လျှင် နာကြားလော့။ ကောင်းစွာနှလုံးသွင်းလော့။ သင့်အား ငါ ဟောကြားအံ့။''ဟု မိန့်တော်မူပြီးနောက် မယားခုနစ်မျိုးကို ခွဲခွဲခြားခြား အကျယ်အားဖြင့် အောက်ပါအတိုင်း ဟောကြားတော်မူသတည်း။

သုဇာတာ–

(၁) လင်ယောကျ်ား၏ အကြင်မယားသည် ဒေါသဖျက်ဆီးအပ်သောစိတ် ရှိသည်ဖြစ်၍ အစီးအပွားကို အစဉ်စောင့်ရှောက်လေ့ မရှိဘဲ မိမိလင်မှ တခြားသော ယောကျ်ားတို့၌ တပ်မက်မောလျက် မိမိလင်ကို မရိုမသေ၊ မထီမဲ့မြင် အောက်မေ့၏။ ဥစ္စာဖြင့် ဝယ်သူကို သတ်ရန် အားထုတ်သကဲ့သို့ အားထုတ်၏။ ဤသို့သဘောရှိသော ထိုမယား ကို သူသတ်မ ဟူ၍လည်းကောင်း၊ မယားဟူ၍လည်းကောင်း ဆိုအပ်၏။

(၂) လင်ယောကျ်ား၏ အကြင်မယားသည် မိမိ၏အရှင်သခင်ဖြစ်သူ လင်ယောကျ်ားသည် ကုန်သွယ်ခြင်းကိုလည်းကောင်း၊ လယ်လုပ် ခြင်းကို လည်းကောင်း ဆောက်တည်စီရင်၍ ရအပ်သောအနက် အနည်းငယ်မျှသော ဥစ္စာကိုသော်လည်း အပြင်သို့ ဆောင်ယူခြင်း ငှာ အလိုရှိ၏။ ဤသို့သဘောရှိသော ထိုမယားကို ခိုးသူမ ဟူ၍ လည်းကောင်း၊ မယားဟူ၍လည်းကောင်း ဆိုအပ်၏။

(၃) လင်ယောကျ်ား၏ အကြင်မယားသည် အလုပ်အကိုင်လုပ်ရန် အလို မရှိ၊ ပျင်းရိ၏။ အစားကြီး၏။ စိတ်လည်းကြမ်းတမ်း၏။ ကိုယ် အမူအရာလည်း ကြမ်းတမ်း၏။ ကြမ်းတမ်းသော စကားကိုလည်း ဆိုတတ်၏။ လုံ့လဝီရိယရှိသော လင်ကိုလည်း နှိပ်စက်လွှမ်းမိုး၍ ကျင့်တတ်၏။ ဤသို့သဘောရှိသော ထိုမယားကို အရှင်သခင်မ ဟူ၍လည်းကောင်း၊ မယားဟူ၍လည်းကောင်း ဆိုအပ်၏။

(၄) လင်ယောကျ်ား၏ အကြင်မယားသည် အခါခပ်သိမ်း အစီးအပွား ကို အစဉ်စောင့်ရှောက်လေ့ရှိ၏။ အမိသည် သားကို အစဉ်စောင့် ရှောက်သကဲ့သို့ လင်ကို အစဉ်စောင့်ရှောက်တတ်၏။ ထို့ကြောင့် ထိုလင်ယောကျ်ား ဆည်းပူးရှာဖွေအပ်သော ဥစ္စာကို စောင့်ရှောက် ၏။ ဤသို့သဘောရှိသော ထိုမယားကို အမိဟူ၍ လည်းကောင်း၊ မယားဟူ၍လည်းကောင်း ဆိုအပ်၏။

(၅) လင်ယောကျ်ား၏ အကြင်မယားသည် အစ်မကြီး၊ နှမငယ်သည် မောင်၌ရှိသောသကဲ့သို့ ထို့အတူ မိမိလင်၌ ရှိသော၏။ အရှက်နှင့် ယှဉ်သောစိတ် ရှိ၏။ လင်၏အလိုသို့ လိုက်တတ်၏။ ဤသို့

သဘောရှိသော ထိုမယားကို အစ်မ, နှမဟူ၍ လည်းကောင်း၊ မယားဟူ၍လည်းကောင်း ဆိုအပ်၏။

(၆) လင်ယောကျ်ား၏ အကြင်မယားသည် ဤလောက၌ အဆွေခင်ပွန်းသည် ကြာမြင့်မှ ရောက်လာသော အဆွေခင်ပွန်းကိုမြင်၍ လွန်စွာ ဝမ်းမြောက်သကဲ့သို့ လင်ကိုမြင်၍ လွန်စွာဝမ်းမြောက်၏။ အမျိုးနှင့် ပြည့်စုံ၏။ သီလရှိ၏။ လင်၌ ရိုသေစွာ ကျင့်တတ်၏။ ထိုကဲ့သို့သော မယားကို အဆွေခင်ပွန်းဟူ၍လည်းကောင်း၊ မယားဟူ၍ လည်းကောင်း ဆိုအပ်၏။

(၇) လင်ယောကျ်ား၏ အကြင်မယားသည် လင်ယောကျ်ားက တုတ်၊ နှင်တံကို ကိုင်၍ သတ်ပုတ်ခြင်းဖြင့် ခြိမ်းခြောက်အပ်သော်လည်း အမျက်ထွက်ခြင်း၊ ထိတ်လန့်ခြင်းမရှိ။ ဒေါသဖြင့် မပြစ်မှားသော စိတ် ရှိ၏။ အမျက်ထွက်ခြင်းမရှိ။ လင်၏အလိုကိုလိုက်တတ်၏။ ထိုကဲ့သို့သော သဘောရှိသော မယားကို ကျွန်မဟူ၍လည်းကောင်း၊ မယားဟူ၍လည်းကောင်း ဆိုအပ်၏။

ဤလောက၌ အကြင်မယားကို သူသတ်နှင့်တူသောမယား၊ ခိုးသူနှင့်တူသောမယား၊ အရှင်နှင့်တူသော မယားဟု ဆိုအပ်၏။ သီလမရှိသော သဘောရှိ၏။ ကြမ်းကြုတ်သောသဘော ရှိ၏။ လင်ကို ရိုသေခြင်းမရှိ။ ထိုမယားမျိုးတို့သည် ကိုယ်ခန္ဓာ ပျက်စီး၍ သေပြီးသည်မှ နောင်၌ ငရဲသို့လားရကုန်၏။

ဤလောက၌ အကြင်မယားကို အမိနှင့်တူသောမယား၊ နှမနှင့်တူသောမယား၊ အဆွေခင်ပွန်းနှင့်တူသောမယား၊ ကျွန်မနှင့်တူသော မယားဟု ဆိုအပ်၏။ သီလ၌တည်သော သဘောရှိ၏။ ကြာမြင့်စွာသော ကာလပတ်လုံး စောင့်စည်းတတ်၏။ ထိုမယားမျိုးတို့သည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှ နောက်၌ ကောင်းသော လားရာဖြစ်သော နတ်ပြည်သို့ လားရကုန်၏။ (ပိဋကမြန်မာပြန်)

–သုဇာတာ၊ လင်ယောကျ်ား၏ မယားတို့သည် ဤခုနစ်မျိုးတို့တည်း။ ထိုမယား ခုနစ်မျိုးတို့တွင် သင်သည် အဘယ်အမျိုးအစားနည်း"ဟု မေးတော်မူ၏။

"အရှင်ဘုရား၊ မြတ်စွာဘုရားသည် ယနေ့မှစ၍ တပည့်တော်မအား ကျွန်မနှင့်တူသော မယားဟု မှတ်တော်မူပါ"ဟု လျှောက်ပြီတည်း။

"ဤဖြစ်ရပ်ကား အင်္ဂုတ္တိုရ်ပါဠိတော်၊ သတ္တကနိပါတ်၊ ဘရိယာသုတ်၌ လာ၏။ အိမ်ထောင်တစ်ခု သာယာမှုကို ရှေးရှု၍ မယားများသည် လည်းကောင်း၊ နောင်တစ်နေ့တွင် မယားဖြစ်လာမည့် အမျိုးသမီးများသည် လည်းကောင်း မှတ်သားပြီးလျှင် လိုက်နာကျင့်သုံးထိုက်လှ၏။

(အင်္ဂုတ္တိုရ်ပါဠိတော်၊ သတ္တကနိပါတ်၊ ဘရိယာသုတ်)



## ငယ်ပင်ငယ်လျှ၊ လေးစားရ
## လေး၀ အဘယ်သည်တို့နည်း

ပြဿနာ = သဗ္ဗညု
မေးလျှောက်သူ = ကောသလမင်း

"အရှင်ဂေါတမသည် အတုမရှိသော သဗ္ဗညုတ ဉာဏ်ကို ထိုးထွင်း၍ သိ၏ဟု ဝန်ခံပါသလော"

"မင်းကြီး၊ အတုမရှိသော သဗ္ဗညုတ ဉာဏ်တော်ကို ထိုးထွင်း၍ သိ၏ဟု သောစကားကို ကောင်းစွာဆိုလိုသူသည် ငါ့ကိုသာလျှင် ရည်ညွှန်း၍ ပြောသည် ဖြစ်ရာ၏။ မင်းကြီး၊ မှန်၏။ ငါသည် အတုမရှိသော သဗ္ဗညုတ ဉာဏ်ကို ထိုးထွင်း၍ သိပေ၏"

မေးလျှောက်သူမှာ ကောသလမင်းကြီး ဖြစ်ပေသည်။ ဗုဒ္ဓ၏အဖြေကို ကြားရသောအခါ ကောသလမင်းကြီးမှာ 'အထင်နှင့်အမြင်' ကွာလှသဖြင့် များစွာ အံ့အားသင့်နေ၏။ မင်းကြီးအနေဖြင့် အရှင်ဂေါတမသည် နုနယ်ငယ်လျှသေး၏။ ရဟန်းပြုသစ်စမျှသာ ရှိသေး၏။ သဗ္ဗညုတဉာဏ်ကို ရအံ့ဟု မထင်။ နားရှိသဖြင့် ဗုဒ္ဓက ဝန်ခံမြွက်ကြား၍သာ ကြားလိုက်ရသည်။ သူ၏ နှလုံးသားထဲကမူ လှိုက်လှိုက်လှဲလှဲကြီး လက်ခံချင်ဟန် မတူ။ 'နုနုနယ်နယ် သည်အသက်သည်အရွယ်နှင့် အတုမရှိ သဗ္ဗညုတဉာဏ်ကို ရသည်ဆိုသည်မှာ ဟုတ်နိုင်ပါ့မလား၊ ယုံတမ်းစကားများ ဖြစ်နေမည်လား' ဟူ၍ သူ့စိတ်တွင် မတင်မကျ ဒွိဟ ဖြစ်နေ၏။ ထို့နောက် ကောသလမင်းကြီးသည် သူ့ခံစားချက်ကို ဝမ်းခေါင်းတွင်း၌ အောင်းမထားလေဘဲ ဗုဒ္ဓအား ထိုအကြောင်းကို ပွင့်လင်းစွာပင် မေးလျှောက်လေတော့သည်။

"အရှင်ဂေါတမ၊ အခြားခြားသော သမဏဗြာဟ္မဏတို့သည်လည်း အရှင်ဂေါတမကဲ့သို့ပင် သံဃာနှင့် ပြည့်စုံကုန်၏။ ဂိုဏ်းနှင့် ပြည့်စုံကုန်၏။ ဂိုဏ်းဆရာ ဖြစ်ကုန်၏။ ထင်ရှားကုန်၏။ များသော အခြံအရံ ရှိကုန်၏။ အယူဝါဒကို တီထွင်ကုန်၏။ လူအများက သူတော်ကောင်းဟု သမုတ်အပ်ကုန်၏။ ဤသမဏဗြာဟ္မဏတို့သည် အဘယ်သူတို့နည်းဆိုသော် ပူရဏကဿပ၊ မက္ခလိဂေါသာလ၊ နိဂဏ္ဌနာဋပုတ္တ၊ ဗေလဋ္ဌ၏သား သိဉ္စည်း၊ မကုဓကစ္စာယန၊ လူတို့၏ ဆံပင်ဖြင့်ရက်သော ကမ္ဗလာကိုဆောင်သော အဇိတတို့တည်း။ ထိုသမဏဗြာဟ္မဏတို့သော်မှလည်း 'အတုမရှိသော သမ္မာသမ္ဗောဓိဉာဏ်ကို ထိုးထွင်း၍ သိ၏' ဟူ၍ ဝန်ခံပါသလောဟု မေးအပ်ကုန်သည်ရှိသော ဝန်မခံကြကုန်။ အရှင်ဂေါတမသည် ဓာတ်အနွယ်အားဖြင့် ငယ်၏။ ရဟန်းပြုသစ်စလည်း ဖြစ်၏။ သို့ဖြစ်ပါလျက် အဘယ့်ကြောင့် ဝန်ခံပါသနည်း" ဟူ၍ မှင့်လင်းစွာ မေးလျှောက်သည်ရှိသော် ကောသလမင်းကြီး၏ မေးလျှောက်ချက်ဆုံးသည်နှင့်တစ်ပြိုင်နက် ဗုဒ္ဓ၏နှုတ်တော်မှ အဖြေထွက်လာသတည်း။

"မင်းကြီး၊ ငယ်၏ဟူ၍ မထေမဲ့မြင် မပြုအပ်၊ ငယ်၏ဟူ၍ ပြက်ရယ် မပြုအပ်ကုန်သော အရာတို့ကား ဤလေးပါးတို့တည်း။-

(၁) 'မင်းကြီး၊ မင်းသားကို ငယ်၏ဟူ၍ မထေမဲ့မြင် မပြုအပ်။ ငယ်၏ဟူ၍ ပြက်ရယ်မပြုအပ်။
(၂) 'မင်းကြီး၊ မြွေကို ငယ်၏ဟူ၍ မထေမဲ့မြင် မပြုအပ်။ ငယ်၏ဟူ၍ ပြက်ရယ်မပြုအပ်။
(၃) 'မင်းကြီး၊ မီးကို သေးငယ်၏ဟူ၍ မထေမဲ့မြင် မပြုအပ်။ ငယ်၏ဟူ၍ ပြက်ရယ်မပြုအပ်။
(၄) 'မင်းကြီး၊ ရဟန်းကို ငယ်၏ဟူ၍ မထေမဲ့မြင် မပြုအပ်။ ငယ်၏ဟူ၍ ပြက်ရယ်မပြုအပ်။

-မင်းကြီး၊ ငယ်၏ဟူ၍ မထေမဲ့မြင် မပြုအပ်ကုန်၊ ပြက်ရယ်မပြုအပ်ကုန်သော အရာတို့ကား ဤလေးပါးတို့ပေတည်း။"

ဤသို့ မိန့်တော်မူသောအခါ ကောသလမင်းကြီးသည် 'ငါ လျှောက်ထားမိသည့်စကား လွန်များသွားရှော့သလား' ဟူ၍ ဝမ်းတွင်းနှလုံးက တအုံနွေးနွေးဖြစ်နေ၏။ ဗုဒ္ဓသည် ကောသလမင်းကြီးအား မထေမဲ့မြင် မပြုအပ်သော အရာလေးပါးကို အကျယ်အားဖြင့် ဆက်၍ ဟောကြားတော်မူလေ၏။

"မင်းကြီး၊ လူသည် ဓာတ်အမျိုးနှင့်ပြည့်စုံသော၊ ဓာတ်သုံးမျိုးကိုလွန်၍ ဖြစ်သော၊ များသောအခြံအရံရှိသော မင်းသားကို ငယ်၏ဟူ၍ မထေမဲ့မြင် မပြုရာ၊ ပြက်ရယ် မပြုရာ။–

–အကြောင်းမူကား လူတို့ထက်မြတ်သော ထိုမင်းသားသည် မင်းအဖြစ်ကို ရသည်ရှိသော် အမျက်ထွက်သည်ဖြစ်၍ ရာဇဒဏ်ဖြင့် ထိုသူအား ပြင်းစွာလုံ့လပြုတတ်၏။ ထို့ကြောင့် မိမိအသက်ကို စောင့်ရှောက်လိုသူသည် ထိုသို့ မထေမဲ့မြင် ပြုခြင်းမှ ရှောင်ကြဉ်ရာ၏။–

–လူသည် ရွာ၌လည်းကောင်း၊ သို့မဟုတ် တော၌လည်းကောင်း အကြင် အရပ်၌ မြွေကိုမြင်ရာ၏။ ထိုအရပ်၌ ထိုမြွေသည် ငယ်၏ဟူ၍ မထေမဲ့မြင် မပြုရာ၊ ပြက်ရယ် မပြုရာ။–

–တန်ခိုးရှိသော မြွေသည် အထူးထူး အပြားပြားသော အဆင်းသဏ္ဌာန်တို့ဖြင့် လှည့်လည်တတ်၏။ ထိုမြွေသည် တစ်ခါတစ်ရံ မိမိအနားသို့ရောက်၍ မလိမ္မာသော လူယောကျ်ားကို လည်းကောင်း၊ လူမိန်းမကိုလည်းကောင်း ကိုက်ရာ၏။ ထို့ကြောင့် မိမိအသက်ကို စောင့်ရှောက်လိုသူသည် ထိုသို့ မထေမဲ့မြင်ပြုခြင်းမှ ရှောင်ကြဉ်ရာ၏။–

–မင်းကြီး၊ လူသည် များသော လောင်စာရှိသော၊ အလျှံရှိသော၊ မည်းနက်သည့် သွားရာလမ်းရှိသော ထိုမီးကို ငယ်၏ဟူ၍ မထေမဲ့မြင် မပြုရာ၊ ပြက်ရယ် မပြုရာ။ ထိုမီးသည် လောင်စာကိုရသော် ကြီးမားသည်ဖြစ်၍ တစ်ခါတစ်ရံ မိမိအနီးသို့ ရောက်လာသော မလိမ္မာသော လူယောကျ်ားကိုလည်းကောင်း၊ လူမိန်းမကိုလည်းကောင်း လောင်ရာ၏။ ထို့ကြောင့် မိမိအသက်ကို စောင့်ရှောက်လိုသောသူသည် ထိုသို့ မထေမဲ့မြင်ပြုခြင်းမှ ရှောင်ကြဉ်ရာ၏။–

–လောင်သည့်၏ အစွမ်းဖြင့် သုတ်သင်တတ်သော၊ မည်းနက်သော သွားရာလမ်းရှိသော မီးသည် အကြင်တောကို လောင်၏။ ထိုတော၌ မြက်၊ သစ်ရွက် စသည်တို့သည် နေ့ရက်များစွာ လွန်ကုန်မှသာလျှင် ပေါက်ရောက်နိုင်ကုန်၏။–

–မင်းကြီး၊ သီလနှင့်ပြည့်စုံသော ရဟန်းသည် သီလတည်းဟူသော တန်ခိုးဖြင့် အကြင် မထေမဲ့မြင်ပြုအပ်သောသူကို လောင်တတ်၏။ ထိုသူအား သားသမီးတို့သည်လည်းကောင်း၊ အခြေလေးခုရှိ ကျွဲ၊ နွား စသော သားတို့သည်လည်းကောင်း မဖြစ်ထွန်းကုန်။ အမွေခံတို့သည်လည်း အမွေဥစ္စာကို မရကုန်။ ထိုသူတို့သည် သားသမီး မရှိကုန်၊ အမွေခံ မရှိကုန်သည်ဖြစ်၍ ထန်းပင်ငုတ်နှင့် တူကုန်၏။–

– ထို့ကြောင့်သာလျှင် မိမိအကျိုးစီးပွားကို ကောင်းစွာသိမြင်သော ပညာရှိသော ပုဂ္ဂိုလ်သည် မြွေကိုလည်းကောင်း၊ မီးကိုလည်းကောင်း၊ များသောအခြံအရံရှိသော မင်းကိုလည်းကောင်း၊ သီလနှင့်ပြည့်စုံသော ရဟန်းကိုလည်းကောင်း ကောင်းစွာသာလျှင် ကျင့်ရာ၏။

ဤသို့ မိန့်တော်မူသည်ရှိသော် ပသေနဒီကောသလမင်းသည် မြတ်စွာဘုရားအား ဤစကားကို လျှောက်လေတော့သည်။

"အရှင်ဘုရား၊ တရားတော်သည် အလွန်နှစ်သက်ဖွယ် ရှိပါ၏။ အရှင်ဘုရား၊ တရားတော်သည် အလွန်နှစ်သက်ဖွယ် ရှိပါ၏။ အရှင်ဘုရား၊ ဥပမာသော်ကား မှောက်ထားသော ဝတ္ထုကို လှန်ဘိသကဲ့သို့လည်းကောင်း၊ ဖုံးထားသော ဝတ္ထုကို ဖွင့်လှစ်ဘိသကဲ့သို့လည်းကောင်း၊ မျက်စိလည်နေသောသူအား လမ်းမှန်ကို ပြောကြားဘိသကဲ့သို့လည်းကောင်း၊ မျက်စိအမြင်ရှိသော သူတို့သည် အဆင်းကို မြင်ကြလိမ့်မည်။ အမိုက်မှောင်၌ ဆီမီးတန်ဆောင်ကို ဆောင်ပြဘိသကဲ့သို့လည်းကောင်း၊ ဤအတူသာလျှင် မြတ်စွာဘုရားသည် အကြောင်းအမျိုးမျိုးတို့ဖြင့် တရားတော်ကို ပြတော်မူ၏။ အရှင်ဘုရား၊ အကျွန်ုပ်သည် မြတ်စွာဘုရားကို ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏။ တရားတော်ကိုလည်းကောင်း၊ သံဃာတော်ကိုလည်းကောင်း ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏။ မြတ်စွာဘုရားသည် အကျွန်ုပ်ကို ယနေ့မှစ၍ အသက်ထက်ဆုံး ကိုးကွယ်ဆည်းကပ်သော ဥပါသကာဟု မှတ်ယူတော်မူပါဘုရား"ဟူ၍ လျှောက်ကာ ဗုဒ္ဓထံ၌ ရာသက်ပန် ဥပါသကာအဖြစ် ခံယူလေသတည်း။

ဤဖြစ်ရပ်မှာ သဂါထာဝဂ္ဂ သံယုယ်ပါဠိတော်၊ ကောသလသံယုတ်၊ ဒဟရသုတ်၌ လာ၏။ ဤသုတ်၏ အနှစ်ချုပ်ကား မင်း၊ မြွေ၊ မီး၊ ရဟန်း ဤလေးပါးတို့အား ငယ်၏ဟူ၍ မလောက်လေး မလောက်စား မပြုအပ်၊ ပြက်ရယ်မပြုအပ်ဟူပေ၏။

(သဂါထာဝဂ္ဂ၊ ကောသလသံယုတ်၊ ဒဟရသုတ်)



## သူတော်ကောင်းတရား ခုနစ်ပါး
## မြတ်ဘုရား ဘယ်မှာဟောသနည်း

ပြသနာ = ပစ္စည်းဥစ္စာ
မေးလျှောက်သူ = ဥဂ္ဂအမတ်

ပသေနဒီ ကောသလမင်း၌ ဝဿကာရအမတ်၊ သုနိဓအမတ်ကြီးတို့ကဲ့သို့သော အမတ်တစ်ဦး ရှိ၏။ အမည်မှာ ဥဂ္ဂအမတ်ဟု တွင်၏။ ဗုဒ္ဓမြတ်ဘုရားထံ အဝင်အထွက်၊ အသွားအလာ၊ အရောက်အပေါက်များသူ ဖြစ်၏။

တစ်နေ့သောအခါ ထိုဥဂ္ဂအမတ်သည် မြတ်စွာဘုရားထံသို့ သွားပြန်လေပြီ။ ကိစ္စကား ဘုရားသခင်အား ဖူးမြော်၍ မြတ်ဘုရား ဟောကြားသော တရားကို နာရန်မှတစ်ပါး ထူးထူးထွေထွေ မရှိချေ။

ဤနေ့တွင်မူ ဥဂ္ဂအမတ်သည် ထူးထူးခြားခြား မိဂါရသူဌေး ချမ်းသာကြောင်း၊ ပစ္စည်းဥစ္စာ ကြွယ်ဝလှကြောင်းများကို မြတ်စွာဘုရားအား အားပါးတရ စိတ်လိုလက်ရ လျှောက်ထားနေ၏။

"အရှင်ဘုရား၊ အံ့ဖွယ်ကောင်းလှပါ၏။ အရှင်ဘုရား၊ မဖြစ်ဖူးမြဲ ဖြစ်ပါ၏"

"ဥဂ္ဂအမတ်၊ သင့်စကား ရှည်လွန်းလှချေ၏။ သင် အဘယ်ကို ဆိုလိုသနည်း"

"သည်လိုပါဘုရား။ ရောဟဏသူဌေးကြီး၏ မြေးဖြစ်သူ မိဂါရသူဌေးသည် အလွန်ကြွယ်ဝလှပါ၏။ အလွန်များသောဥစ္စာ ရှိပါ၏။ အလွန်များသော အသုံးအဆောင် ရှိပါ၏။ ဤမိဂါရသူဌေး၏ ကြွယ်ဝချမ်းသာကြောင်းကို လျှောက်ထားလိုခြင်းပါဘုရား" ဟု လျှောက်လျှင် ဗုဒ္ဓသည် သူ့စကားအလိုက်ပင် မေးမြန်းတော်မူ၏။

"ဥဂ္ဂအမတ်၊ ရောဟဏသူဌေး၏ မြေးဖြစ်သူ မိဂါရသူဌေးသည် အဘယ်မျှ

လောက် ကြွယ်ဝသနည်း။ အဘယ်မျှလောက် များသောဥစ္စာ ရှိသနည်း။ အဘယ်မျှလောက် အသုံးအဆောင် ရှိသနည်း"

"အရှင်ဘုရား၊ ထိုသူ့ဌေးမှာ ရွှေတို့သည်ပင် သိန်းပေါင်းတစ်ရာ ရှိပါ၏။ ငွေအရေအတွက်အားဖြင့်ကား အဘယ်ဆိုဖွယ်ရာ ရှိတော့အံ့နည်း" ဟူ၍ လျှောက်ထားလတ်သော် ဥဂ္ဂအမတ်အား ဤသို့ မြွက်ကြားတော်မူသတည်း။

"ဥဂ္ဂအမတ်၊ ထိုရွှေငွေစသော ဥစ္စာသည် လောက၌ ရှိသည်သာတည်း။ မရှိဟု ငါ မဆို။ ဥဂ္ဂအမတ်၊ ထိုဥစ္စာသည်ကား မီး၊ ရေ၊ မင်း၊ ခိုးသူ၊ မချစ်မနှစ်သက်သော အမွေခံတို့နှင့် ဆက်ဆံ၏။ ဥဂ္ဂအမတ်၊ ဤရတနာ (၇) မျိုးသည်ကား မီး၊ ရေ၊ မင်း၊ မချစ်မနှစ်သက်သော အမွေခံတို့နှင့် မဆက်ဆံကုန်။ အဘယ် (၇) မျိုးတို့နည်းဟူမူ–

(၁) ယုံကြည်မှု သဒ္ဓါဥစ္စာ၊
(၂) စောင့်ထိန်းမှု သီလဥစ္စာ၊
(၃) ရှက်မှု ဟိရီဥစ္စာ၊
(၄) ကြောက်လန့်မှု ဩတ္တပ္ပဥစ္စာ၊
(၅) အကြားအမြင် သုတဥစ္စာ၊
(၆) စွန့်ကြဲမှု စာဂဥစ္စာ၊
(၇) သိမှု ပညာဥစ္စာတို့ပေတည်း။

–ဥဂ္ဂအမတ်၊ ဤဥစ္စာ (၇) မျိုးတို့သည်ကား မီး၊ ရေ၊ မင်း၊ ခိုးသူ၊ မချစ်မနှစ်သက်သော အမွေခံတို့နှင့် မဆက်ဆံကုန်" ဟု ဟောတော်မူ၏။

သတ္တကအင်္ဂုတ္တိုရ်ပါဠိတော်၌လာသော ဤဥဂ္ဂသုတ်၏ အနှစ်ချုပ်တို့မှာ–

ယုံကြည်မှုသဒ္ဓါဥစ္စာ၊ စောင့်ထိန်းမှုသီလဥစ္စာ၊ ရှက်မှုဟိရီဥစ္စာ၊ ကြောက်လန့်မှု ဩတ္တပ္ပဥစ္စာ၊ အကြားအမြင် သုတဥစ္စာ၊ စွန့်ကြဲမှု စာဂဥစ္စာ၊ သိမှု ပညာဥစ္စာတို့သည် ရန်သူမျိုးငါးပါးနှင့် မဆက်ဆံကုန်။

အကြင်မိန်းမသားဖြစ်စေ၊ အကြင်ယောကျ်ားသားဖြစ်စေ၊ ထိုသူတော်ကောင်းဥစ္စာတို့သည် ရှိကုန်၏။ ထိုသူတော်ကောင်း ဥစ္စာရှိသော ယောကျ်ားမိန်းမကို မဆင်းရဲသောသူဟူ၍ ပညာရှိတို့ ဆိုကုန်၏။ ထိုသူ၏ အသက်ရှင်ခြင်းကို အချည်းအနှီးမဟုတ်ဟု ဆိုကုန်၏။

ထို့ကြောင့် ပညာရှိသည် ဘုရားရှင် အဆုံးအမတော်ကို အောက်မေ့လျက် ကြင်လင်စေတတ်သော သဒ္ဓါတရားကိုလည်းကောင်း၊ သစ္စာလေးပါးတရားကို မြင်ကြောင်းဖြစ်သော သီလကိုလည်းကောင်း အဖန်ဖန် အားထုတ်ရာသတည်းဟူပေ၏။ (သတ္တကနိပါတ်၊ အင်္ဂုတ္တိုရ်၊ ဥဂ္ဂသုတ်)



## ကမ္ဘာအသက်၊ ရှည်လျားချက် ဟောမြွက်မည်သူ့ကိုပေနည်း

**ပြဿနာ = ကမ္ဘာ့သက်တမ်း**
**မေးလျှောက်သူ = ရဟန်းများနှင့် ပုဏ္ဏားတစ်ဦး**

ကမ္ဘာ၌ သိသူလူဦးရေနှင့် မသိသူလူဦးရေကို နှိုင်းယှဉ်ကြည့်လျှင် မသိသူလူဦးရေက များလေသည်။ သိသူတို့အနေဖြင့် မိမိမသိသောအကြောင်းအရာများကို သိချင်ကြ၏။ သိချင်သောကြောင့် မိမိသိလိုသော အချက်အလက်များကို ရှင်းပြနိုင်မည့် ပုဂ္ဂိုလ်များထံ ချဉ်းကပ်မေးမြန်းခြင်း ပြုကြကုန်၏။

ဗုဒ္ဓသည် အစစ်ခပ်သိမ်းကိုသိတော်မူသည့် သဗ္ဗညုဖြစ်သောကြောင့် မေးခွန်းအရပ်ရပ်၊ ပြဿနာအထွေထွေတို့သည် ဗုဒ္ဓ၏အထံတော်သို့ ရောက်ရှိလာကြသဖြင့် ဗုဒ္ဓမှာ မေးခွန်းပြဿနာများ၏ တည်ရာဖြစ်နေ၏။

ထင်ရှားစေအံ့။ နိဒါနဝဂ္ဂသံယုတ်ပါဠိတော်၊ အနမတဂ္ဂသံယုတ်၌ ကမ္ဘာသက်တမ်းအကြောင်းကိုမေးသော သုတ်လေးသုတ်ကို ယှဉ်လျက် ပြထား၏။ ယင်းလေးသုတ်တို့မှာ ပဗ္ဗတသုတ်၊ သာသပသုတ်၊ သာဝကသုတ်နှင့် ဂင်္ဂါသုတ်တို့ ဖြစ်လေသည်။

"အရှင်ဘုရား၊ ကမ္ဘာသည် အဘယ်မျှလောက် ရှည်ပါသနည်း"

ထိုမေးခွန်းကို ရဟန်းတစ်ပါးက သာဝတ္ထိပြည်တွင် ဗုဒ္ဓအား မေးလျှောက်၏။ ဗုဒ္ဓက ထိုမေးခွန်းကိုဖြေရာမှ ပဗ္ဗတသုတ်ဟူ၍ ဖြစ်လာသည်။ အခြားရဟန်းတစ်ပါးကလည်း သာဝတ္ထိပြည်မှာပင် ထိုမေးခွန်းအတိုင်း မေးလျှောက်၏။ ထိုမေးခွန်းကိုဖြေရာမှ သာသပသုတ်ဟူ၍ ဖြစ်လာသည်။

"ရဟန်း၊ ကမ္ဘာသည် ရှည်လျားလှ၏။ ထိုကမ္ဘာကို ဤမျှသောနှစ်တို့ဟူ၍လည်းကောင်း၊ ဤမျှသော နှစ်အရာတို့ဟူ၍လည်းကောင်း၊ ဤမျှသော နှစ်

အထောင်တို့ဟူ၍လည်းကောင်း၊ ဤမျှသော နှစ်အသိန်းဟူ၍လည်းကောင်း ရေတွက်ခြင်းငှာ မလွယ်"

ဤသို့ မိန့်တော်မူ၏။ သို့သော် ဤသို့ မြွက်ကြားကာမျှဖြင့် ပွင့်ပွင့်လင်းလင်း အသိဉာဏ်၌ မရှင်းသောကြောင့် ထိုရဟန်းသည် ဗုဒ္ဓအား အသိဉာဏ်ရောက်သဘောပေါက်လွယ်အောင် ဥပမာဖြင့် ဟောကြားတော်မူပါရန် တောင်းပန်၏။ ထိုရဟန်း၏ တောင်းပန်ချက်အရ ကမ္ဘာ့သက်တမ်း အလွန်ရှည်လှကြောင်းကို–

## (၁). ပဗ္ဗတသုတ်

"ရဟန်း၊ ဥပမာသော်ကား မကွဲမပြတ်သော၊ အခေါင်းမရှိသော၊ တစ်ခဲနက်ဖြစ်သော ကျောက်တောင်ကြီးသည် အလျားအားဖြင့် တစ်ယူဇနာ၊ အနံအားဖြင့် တစ်ယူဇနာ၊ အစောက်အားဖြင့် တစ်ယူဇနာ ရှိ၏။ ထိုကျောက်တောင်ကြီးကို ယောကျ်ားသည် အနှစ်တစ်ရာ၊ အနှစ်တစ်ရာလွန်သောအခါ၌ ကာသိတိုင်းဖြစ် အဝတ်ဖြင့် တစ်ကြိမ်တစ်ကြိမ်သာ ပွတ်တိုက်ရာ၏။–

–ရဟန်း၊ ထိုကျောက်တောင်ကြီးသည် ဤလုံ့လဖြင့် လျင်စွာသာလျှင် ကုန်ခြင်းသို့ ရောက်ရာ၏။ ကမ္ဘာသည် ကုန်ခြင်း၊ ဆုံးခြင်းသို့ မရောက်ရာ။ ရဟန်း၊ ကမ္ဘာသည် ဤသို့ ရှည်လှစွာ၏။ ဤသို့ ရှည်လျားလှသောကမ္ဘာတို့၏ တစ်ခုသောကမ္ဘာဟူ၍ မပြောဆိုအပ်။ ကမ္ဘာတစ်ရာဟူ၍ မပြောဆိုအပ်။ ထိုသို့ဖြစ်ခြင်းသည် အဘယ့်ကြောင့်နည်း။–

–ရဟန်း၊ ဤသံသရာ၏အဆုံးကို မသိနိုင်။ မသိမှုအဝိဇ္ဇာဖြင့် ဖုံးလွှမ်းအပ်ကုန်သည်။ တဏှာတည်းဟူသော နှောင်ကြိုးဖြင့် ဖွဲ့ချည်အပ်ကုန်သည်ဖြစ်၍ ဤဘဝမှ ထိုဘဝ၊ ထိုဘဝမှ ဤဘဝသို့ ပြေးသွားကျင်လည်ကြရကုန်သော သတ္တဝါတို့၏ ရှေ့အစွန်းသည် မထင်သောကြောင့်ပင်တည်း။" ဟု ကျောက်တောင် ဥပမာကိုအစွဲပြု၍ ထိုသုတ်ကို **ပဗ္ဗတသုတ်**ဟူ၍ သံဂါယနာတင်ကြကုန်၏။

အခြားရဟန်းတစ်ပါး၏အမေးကိုကား မုန်ညင်းစေ့ဥပမာဖြင့် ဟောတော်မူ၏။

## (၂) သာသပသုတ်

"ရဟန်း၊ ဥပမာသော်ကား အလျားတစ်ယူဇနာ၊ အနံတစ်ယူဇနာ၊ အစောက်တစ်ယူဇနာရှိသော မုန်ညင်းစေ့တို့ဖြင့် အစိုင်အခဲဖွဲ့လျက် ပြည့်သော၊ သံဖြင့်ပြီးသော မြို့သည်ရှိရာ၏။ ယောကျ်ားသည် ထိုမြို့တွင်းရှိ မုန်ညင်းစေ့ပုံမှ အနှစ်တစ်ရာ အနှစ်တစ်ရာကိုလွန်သောအခါ မုန်ညင်းစေ့ တစ်စေ့စီ တစ်စေ့စီ ထုတ်ယူ

ရာ၏။ ရဟန်း၊ ထိုကြီးစွာသော မုန်ညင်းစေ့အစုသည် ဤလုံ့လဖြင့် ကုန်ခြင်းသို့ ရောက်ရာ၏။ ကမ္ဘာသည် ကုန်ခြင်းသို့ မရောက်နိုင်ရာ။ ရဟန်း၊ ကမ္ဘာသည် ဤသို့ ရှည်လျားလှစွာ၏။" ဟု မုန်ညင်းစေ့ ဥပမာဖြင့် ဟောတော်မူ၏။ မုန်ညင်းစေ့ကို အကြောင်းပြု၍ ဤသုတ်ကို သာသပသုတ်ဟူ၍ သံဂါယနာတင်ကြကုန်၏။

ထိုမှတစ်ပါး၊ သာဝတ္ထိပြည်မှာပင် ရဟန်းများကလည်းကောင်း၊ ရာဇဂြိုဟ်ပြည်တွင် ပုဏ္ဏားတစ်ဦးကလည်းကောင်း ကမ္ဘာအကြောင်းကိုပင် ဗုဒ္ဓအား မေးလျှောက်ကြကုန်၏။ မေးခွန်းမှာ အထက်ပါမေးခွန်းနှင့် အဓိပ္ပာယ်တူပင် ဖြစ်၏။ ထူးခြားသည်ကား အတိတ်ဟူသော စကားလုံး ပါလာခြင်းပင်တည်း။

"အရှင်ဘုရား၊ ရှေး၌ ကျော်လွန်ကုန်ပြီးသော ကမ္ဘာတို့သည် အဘယ်မျှလောက် များပြားပါကုန်သနည်း။"

ဤမေးခွန်းကို ရဟန်းတို့ကလည်း မေးလျှောက်ကြသည်။ တစ်ဦးသော ပုဏ္ဏားကလည်း မေးလျှောက်သည်။ ယင်းမေးခွန်းကို ဖြေတော်မူရာ၌ ရဟန်းတို့အား ကမ္ဘာရှည်လျားပုံကို သာဝက ဥပမာဖြင့် ရှင်းပြ၍ ပုဏ္ဏားတို့ကား ဂင်္ဂါ ဥပမာဖြင့် ရှင်းပြတော်မူသည်။

## (၃) သာဝကသုတ်

"ရဟန်းတို့၊ ဤသာနာ၌ အနှစ်တစ်ရာသက်တမ်းရှိသည်ဖြစ်၍ တပည့်သာဝက လေးယောက်တို့သည် နေ့တိုင်းနေ့တိုင်း ကမ္ဘာကပ်ပေါင်းတစ်သိန်းကို အောက်မေ့ကုန်ရာ၏။ ထိုသို့ အောက်မေ့စဉ် အနှစ်တစ်ရာ အသက်တမ်းရှိသည်ဖြစ်၍ အနှစ်တစ်ရာ အသက်ရှည်ကုန်သော ဤတပည့် သာဝကလေးယောက်တို့သည် အနှစ်တစ်ရာကို လွန်သော်အခါ၌ သေခြင်းကို ပြုကုန်ရာ၏။–

–ရဟန်းတို့၊ ထိုတပည့်သာဝက လေးယောက်တို့သည် ကမ္ဘာတို့ကိုကုန်အောင် မအောက်မေ့နိုင်သည်သာတည်း။ ရဟန်းတို့၊ ရှေး၌ကျော်လွန်ကုန်ပြီးသော ကမ္ဘာတို့သည် ဤသို့ များလှကုန်၏။" ဟု သာဝက ဥပမာဖြင့် ဟောတော်မူလေသည်။ ဤသည်ကို အကြောင်းပြု၍ ဤသုတ်ကို **သာဝကသုတ်**ဟူ၍ သံဂါယနာတင် အရှင်မြတ်တို့ သံဂါယနာ တင်ကြကုန်၏။

## (၄) ဂင်္ဂါသုတ်

ပုဏ္ဏားအား ကမ္ဘာရှည်လျားကြောင်းကိုဟောရာ၌လည်း အဓိပ္ပာယ် အချက်အနက်မပေါ်နိုင်သဖြင့် 'ဥပမာဖြင့် ဟောပြတော်မူပါ' ဟူ၍ ပန်ကြားချက်အရ ဟောတော်မူသည်ကား–

"ပုဏ္ဏား၊ ဥပမာသော်ကား ဤဂင်္ဂါမြစ် စ၍စီးရာမှ မဟာသမုဒ္ဒရာသို့ စီးဝင်ရာအရပ်တိုင်အောင် ထိုအကြား၌ ဤမျှသော သဲတို့ဟူ၍လည်းကောင်း၊ ဤမျှသော သဲအရာတို့ဟူ၍လည်းကောင်း၊ ဤမျှသော သဲအထောင်တို့ဟူ၍လည်းကောင်း၊ ဤမျှသော သဲအသိန်းတို့ဟူ၍လည်းကောင်း ရေတွက်ခြင်းငှာ မလွယ်။ ပုဏ္ဏား၊ ထိုသို့ဖြစ်ခြင်းသည် အဘယ့်ကြောင့်နည်း" ဤသို့ စသည်ဖြင့် ဂင်္ဂါမြစ်ကို သာကေပြ၍ ဟောတော်မူ၏။ ဤသည်ကို အကြောင်းပြု၍ပင် ဤသုတ်ကို ဂင်္ဂါသုတ်ဟူ၍ သံဂါယနာတင် အရှင်သူမြတ်တို့ သံဂါယနာတင်ကြကုန်၏။

ဤမျှဖြင့် ကမ္ဘာသက်သည် အဘယ်မျှရှည်လျားကြောင်း သိသာပေါ်လွင်လေပြီ။

(သံယုတ်ပါဠိတော်၊ ဂင်္ဂါသုတ်)



## ထောင်လွှားမာန၊ ကြိုးနှံ့ကြအောင်
## ဗုဒ္ဓ မည်သို့ဟောသနည်း

**ပြဿနာ = မာန**
**မေးလျှောက်သူ = မာနထဒ္ဓပုဏ္ဏား**

သူ့အမည်နှင့် သူ့သဘောသဘာဝသည် အလွန်လိုက်ဖက်လှ၏။ သူ၏ အမည်နာမကပင် သူ၏သဘာဝ စိတ်နေစိတ်ထားသရုပ်ကို ထုတ်ဖော်ရင့်ကျူး၍ ပြနေသကဲ့သို့ ရှိနေ၏။

သူကား ပုဏ္ဏားလူမျိုးတည်း။ အမည်အားဖြင့် မာနထဒ္ဓဟု တွင်သတည်း။ မာန+ထဒ္ဓ=မာနထဒ္ဓ၊ စကားနှစ်လုံးကို တွဲစပ်ထားသောအမည် ဖြစ်၏။ ယင်း မာနထဒ္ဓကို စကားတစ်လုံးချင်း ဘာသာပြန်သော် မာန=မာန်၊ မောက်မာခြင်း၊ ထဒ္ဓ=ကြမ်းကြုတ်ခက်ထန်သော။ မာနထဒ္ဓ=အလွန်မာနခက်ထန်သူ။ မိမိကိုယ်ကို 'ငါသာလျှင် မြတ်သူ' ဟု အထင်ကြီး၊ ဘဝင်မြင့်လျက် အခြားသူများအား 'ငါ့လောက် မမြတ်၊ အလကားလူတွေ' ဟု သူတစ်ပါးကို အထင်သေးနေသော ပုဏ္ဏား ဖြစ်လေသည်။

ထိုပုဏ္ဏားသည် အဘယ်မျှ သူတစ်ပါးအား အထင်သေးလေသနည်းဆိုသော် မိဘများကိုပင် သူ့လို မြတ်သူမဟုတ်သောကြောင့်ဟု ရှိမခိုးချေ။ ဆရာသမား သက်ကြီးဝါကြီးများကိုလည်း ထို့အတူပင် ရှိမခိုးချေ။ သူသည် ဗုဒ္ဓကိုပင် ထီမထင်သူပေတည်း။

မှန်၏။ ထိုအချိန်တွင် ဗုဒ္ဓသည် ပရိသတ်များစွာရံလျက် တရားဟောနေ၏။ ဤသည်ကိုအကြောင်းပြု၍ ယုတ်မာသောအကြံ ဖြစ်လာလေသည်။ 'ရဟန်းဂေါတမ တရားပွဲသို့ ငါသွားလျှင် ကောင်းမည်။ ရဟန်း ဂေါတမနှင့် ငါ တွေ့ဆုံအံ့။ သူက ငါ့ကို နှုတ်ခွန်းဆက်စကားပြောလျှင် ငါက ပြန်ပြောမည်။ သူ

မပြောသော် ငါမပြော။' ဤသို့သောအကြံနှင့် မာနထဒ္ဓပုဏ္ဏားသည် ဗုဒ္ဓတရားပွဲသို့သွားပြီး ဗုဒ္ဓထံတော်ပါးအရောက် ချဉ်းကပ်လေ၏။

ဗုဒ္ဓသည် မာနထဒ္ဓပုဏ္ဏားရှေ့မှောက် ရောက်လာသည်ကို မြင်၏။ ပုဏ္ဏားကလည်း သူ့ကို နှုတ်ဆက်နိုးနိုး မျှော်လင့်နေ၏။ သို့သော် ဗုဒ္ဓသည် စကားမပြောလေဘဲ တုံ့ဏှိဘာဝေ ဆိတ်ဆိတ်သာ နေလေသော် မာနထဒ္ဓပုဏ္ဏားသည် ရှုံ့ရှုံ့ရှားရှား ဖြစ်လာသည်။ 'ဤရဟန်း ဂေါတမကား လူမှုရေးရာ ဘာမှနားမလည်ပါကလား။' ဟူ၍ ထ၍ပြန်မည်ပြုလေ၏။ ဗုဒ္ဓသည် ပုဏ္ဏား၏ စိတ်ထားကို ရိပ်စားသိရှိတော်မူသဖြင့် ပြန်ရန် ဖင်တကြွကြွဖြစ်နေသော မာနထဒ္ဓပုဏ္ဏားအား– .

"ပုဏ္ဏား၊ ဤလောက၌ မာန်မူခြင်းသည် မကောင်း။ ပုဏ္ဏား၊ အကျိုးစီးပွားကို အလိုရှိသောသူအား အကြင်အကျိုးစီးပွားကြောင့် ငါ့ထံလာ၏။ ထိုအလိုရှိသော အကျိုးစီးပွားကိုသာလျှင် တိုးပွားစေရာ၏"

ဤသို့ မြွက်ကြားလိုက်သော် မာနထဒ္ဓပုဏ္ဏားသည် လွန်စွာအံ့အားသင့်သွား၏။ 'ငါ၏စိတ်အကြံကိုပင် ရဟန်းဂေါတမ သိနေပါကလား' ဟု ဗုဒ္ဓအပေါ်၌ အထင်သေးစိတ်များ ပျောက်ပြယ်သွားရုံမက ဗုဒ္ဓအား ပြင်းစွာ ကြည်ညိုခြင်း ဖြစ်လာသည့်အလျောက် ပရိသတ်ရှေ့မှောက်မှာပင် ဗုဒ္ဓ၏ခြေတော်ကို ဦးခေါင်းဖြင့်လည်း တိုက်လေ၏။ လက်ဖြင့်လည်း ဆုပ်နယ်လေ၏။ ခံတွင်းဖြင့်လည်း စုပ်လေ၏။ "အရှင်ဂေါတမ၊ အကျွန်ုပ်သည် မာနထဒ္ဓ ပုဏ္ဏားပါတည်း။ အရှင်ဂေါတမ၊ အကျွန်ုပ်သည် မာနထဒ္ဓပုဏ္ဏားပါတည်း။" ဟု လျှောက်ကြားလေ၏။

ထိုအခါ မိဘကိုပင် ရှိမခိုးသော မာနထဒ္ဓပုဏ္ဏားသည် ယခုအခါ ဗုဒ္ဓကို ဦးတိုက်ရုံမက ခံတွင်းဖြင့် ခြေကို စုပ်ကာစုပ်ကာ လျှောက်ထားနေသော အမူအရာများကို မြင်ကြရလေသော် များစွာ အံ့အားသင့်ကုန်လေ၏။ တစ်သက်လုံး မာန်တလှလှ တံခွန်ထူလာခဲ့သော မာနထဒ္ဓပုဏ္ဏားသည် ယခုအခါတွင် မာန်စွယ်ကျိုးကာ ဤသို့ရှိခိုး၍ မေးလျှောက်ပါလေ၏။

"အရှင်ဂေါတမ၊ အဘယ်ပုဂ္ဂိုလ်တို့၌ မာန်မာနကိုမပြုရာသနည်း။ အဘယ်ပုဂ္ဂိုလ်တို့၌ အလေးအမြတ်ပြုရာသနည်း။ အဘယ်ပုဂ္ဂိုလ်တို့ကို အရိုအသေ ပြုအပ်ကုန်သနည်း။ အဘယ်ပုဂ္ဂိုလ်တို့ကို ကောင်းစွာ ပူဇော်အပ်ကုန်သနည်း"

"ပုဏ္ဏား၊ အမိ၌လည်းကောင်း၊ အဖ၌လည်းကောင်း၊ အစ်ကို၌လည်းကောင်း၊ ဆရာ၌လည်းကောင်း၊ ထိုပုဂ္ဂိုလ်တို့၌ မာန်မာနကို မပြုရာ။ ထိုပုဂ္ဂိုလ်တို့၌ အလေးအမြတ် ပြုရာ၏။ ထိုပုဂ္ဂိုလ်တို့ကို အရိုအသေ ပြုအပ်ကုန်၏။ ထိုပုဂ္ဂိုလ်တို့ကို ကောင်းစွာ ပူဇော်အပ်ကုန်ရာ၏။–

–ပူဇော်အထူးကို ခံတော်မူထိုက်လျက် ငြိမ်းအေးကုန်သော၊ အာသဝေါကင်း၍ ပြုအပ်ပြီးသောကိစ္စ ရှိကုန်သော၊ အတုမဲ့ဖြစ်သည့် ထိုရဟန္တာပုဂ္ဂိုလ်တို့ကို မာန်နှိမ့်ချလျက် မခက်ထန်သည်ဖြစ်၍ ရှိခိုးရာ၏။"

ဤသို့မိန့်တော်မူပြီးသည့်အဆုံးတွင် မာနထဒ္ဓပုဏ္ဏားသည် ဗုဒ္ဓထံ၌ ရာသက်ပန် ဥပါသကာအဖြစ် ခံယူလေသတည်း။

ဤဖြစ်ရပ်ကား သဂါထာဝဂ္ဂသံယုတ်ပါဠိတော်၊ ဗြာဟ္မဏဝဂ်၊ မာနထဒ္ဓသုတ်၌ လာ၏။ အနှစ်ချုပ်မှာ ရိုင်းသူကို ယဉ်ပါးစေသောသုတ် ဖြစ်၏။ မိမှန်းဘမှန်းမသိအောင်၊ ဆရာမှန်း သမားမှန်း မသိအောင်၊ အစ်ကိုမှန်းအစ်မမှန်း မသိအောင် မိုက်သော မိုက်တုံးတားကောင်အား လူလိမ္မာ၊ လူယဉ်ပါး ဖြစ်လာစေသော ဟူပေ၏။

(သံယုတ်ပါဠိတော်၊ ဗြာဟ္မဏဝဂ်၊ မာနထဒ္ဓသုတ်)



## အမြတ်ဥစ္စာ၊ ဤလူ့ရွာ
## ဘယ်ဟာဘယ်သင်း ဖြစ်သနည်း

**ပြဿနာ = အထွေထွေ**
**မေးလျှောက်သူ = အာဠာဝကဘီလူး**

ဘီလူးသည် အလွန်ကြောက်စရာကောင်းသော သတ္တဝါတစ်မျိုးဖြစ်၏။ ကြောက်စရာကောင်းသောကြောင့်လည်း ဘီလူးကို လူတို့က ကြောက်ကြသည်။ ရွံ့ကြသည်။ လန့်ကြသည်။ ဘီလူးသံ ကြားကာမျှနှင့်ပင် လန့်ဖျားဖျားတော့ မတတ် ဆတ်ဆတ်တုန်လာကုန်၏။ ဘီလူးကို မကြောက်သူဟူ၍ မရှိ။

အာဠာဝကဟူသည် ဘီလူးကြီးတစ်ဦး၏အမည် ဖြစ်၏။ အာဠာဝက ဘီလူးကြီးဟူပေ၏။ ဤတွင် ဘီလူးကြီး အာဠာဝကအကြောင်းနှင့်ပတ်သက်၍ မှတ်ဖွယ်မှတ်ရာများကို တတ်နိုင်သမျှ လေ့လာပြီး တင်ပြထားပါသည်။

အာဠာဝကသည် အဘယ်သို့သော ဘီလူးဖြစ်လေသနည်း။

ပုသိမ်မြို့၊ သဘော်ကျောင်း၌ သီတင်းသုံးနေထိုင်တော်မူသော မိုလ်ကုန်း ဆရာတော်ပြုစုသည့် 'အဘိဓမ္မတ္ထ ဒီပကကျမ်း' ၌ ဆိုရာတွင် အာဠာဝက ဘီလူး ကြီးကို ထည့်၍ အနက်ဖွင့်ထားသည်မှာ–

သောဘဂဝါ=ထိုမြတ်စွာဘုရားသည်၊ ဣတိပိဣမိနာစ ကာရဏေန=ဤ သို့ တစ်စုံတစ်ယောက် ပြိုင်ထောက်သင့်သူ အတူမရ ဘက်မမျှသော အသဒိသ ပုဂ္ဂလအစစ် လူမွန်ဖြစ်၍ အလွန်ရိုင်းပျ ကြမ်းကြုတ်လှစွာ အာဠာဝက၊ အင်္ဂုလိ မာလ၊ ဗကဗြဟ္မာ၊ နာဠာဂီရိ၊ သူစိလောမ၊ အမ္ဗဋ္ဌနှင့် သစ္စကပရိဗိုဇ် အမိုက် တိုက်တို့ကို အမြိုက်ရေအေး တရားဆေးဖြင့် တိုက်ကျွေးတော်မူ ယဉ်ကျေးသူဟု ကြည်ဖြူဝမ်းမြောက် သဒ္ဒါပေါက်သဖြင့် ထက်အောက်မကျန် ဘီရှည်ဟန်နှင့် သုံး တန်ယောကျ်ား လူနတ်များအား တရားညွှန်ပြ မာန်မထအောင် ဆုံးမတော်မူတတ်

သည်၏ အဖြစ်ကြောင်းလည်း=အနုတ္တရော ပုရိသ ဒမ္မသာရထိ၊ အနုတ္တရော ပုရိသဒမ္မသာရထိဟု နှံ့သိထင်ပေါ် သညာတော်ဖြင့် ကျော်စောတော်မူပါပေ၏။

ဟူ၍ အာဠာဝကကို "အမိုက်တိုက်၊ အရိုင်းကောင်အဖြစ် အနက်ဖွင့်ထား၏။ အာဠာဝကသည် ကြမ်းကြုတ်သောအရာတွင် နှစ်ယောက်မရှိ။ ခက်ထန်သောအရာ၊ အမျက်စောင်းမာန်ကြီးသောအရာတွင် သူ့ကို မီသူမရှိ။ ရက်စက်သောအရာတွင် ပြိုင်ဘက်ကင်း၏။ ရေတွက်မှန်းဆ ဂဏန်းချ၍ မပြနိုင်လောက်အောင် များလှစွာသော ဘီလူးတို့အနက်တွင် အာဠာဝကလောက် ကြမ်းကြုတ်သောဘီလူး၊ အာဠာဝကလောက် အမျက်စောင်းမာန်ကြီးသောဘီလူး၊ ရက်စက်သောဘီလူး မရှိ။ ရက်စက်ကြမ်းကြုတ်လှပါသည်ဆိုသော ထိုထိုဘီလူးအပေါင်းတို့သည် အာဠာဝကအောက် ဒူးထောက်ကြရသူချည်း ဖြစ်လေသည်။

ဤမျှ အမျက်ဒေါသ စောင်းမာန်ကြီးလှသော အာဠာဝကအား မိုက်လုံးကြီးထွားသည်ထက် ထွားအောင်၊ ပို၍ ဆိုးသည်ထက်ဆိုးအောင် သူပိုင်လက်နက်ဆန်းကြီးတစ်မျိုးက သူ့ကို မြှောက်ထိုးပင့်ကော် လုပ်ပေးနေသကဲ့သို့ ထင်ရသည်။ ပမာဆိုသော် အလွန်ဆိုးသော၊ လူမြင်ကရာ ကိုက်တတ်သော ခွေးဆိုးကြီးတစ်ကောင်အား ကျားရိုးကိုသွေး၍ တိုက်လျှင် ထိုခွေးသည် ပို၍ ဆိုးသကဲ့သို့၊ ထိုအတူ အာဠာဝကသည်လည်း နဂိုက မိုက်လုံးကြီးထွားရသည့်အထဲတွင် ဘယ်သူမျှ မကိုင်နိုင်သော လက်နက်ဆန်းကြီးတစ်မျိုးကို စိုးပိုင်သော လက်နက်စကြာသခင် ဖြစ်လေသည့်အတွက်ကြောင့်လည်း မိုက်၍မဆုံး မိုက်ခဲတုံးကြီး ဖြစ်နေသည်။ သူ၏ လက်နက်ဆန်းကား စုလျားပုဆိုး (ဘွဲ့ပြု) လက်နက်ဖြစ်၏။ ထိုလက်နက်၏ တန်ခိုးကား-

အာဠာဝကဘီလူး အမျက်ထွက်၍ သူ၏ကိုယ်၌ ရုံထားသော စုလျားပုဆိုးကို ကောင်းကင်သို့ အကယ်၍ ပစ်တင်လိုက်မိမူကား ၁၂ နှစ်တို့ ကာလပတ်လုံး မိုးမရွာသည်ဖြစ်ရာ၏။ မြေ၌တည်း ပစ်မူကား ခပ်သိမ်းသော မြက်သစ်ပင် ဟူသမျှတို့သည် သွေ့ခြောက်ကုန်ပြီး ၁၂ နှစ်လွန်လေမှ အညွန့်အညှောက် ပေါက်ကုန်၏။ သမုဒ္ဒရာတွင်းသို့ ပစ်ချလျှင်မူကား မီးအိုးကင်းပူတွင် ရေပေါက်ကျသကဲ့သို့ သမုဒ္ဒရာဟူသမျှကို ရေခန်းခြောက်ကုန်ရာ၏။ မြင်းမိုရ်တောင်ကို ပစ်ငြားအံ့။ ထိုတောင်ကြီးသည် အတုံးလိုက်၊ အခဲလိုက် အစိတ်စိတ်မြွှာမြွှာ ပြိုကွဲကုန်ရာ၏။

ထို့ကြောင့် ဝါ- ထိုဘွဲ့ပြု လက်နက်စက်ကွင်း မိမည်စိုးသောကြောင့် မည်သူမျှ အာဠာဝကကို ရင်မဆိုင်ရဲကြ။ ဖိန့်ဖိန့်တုန်အောင် ရွံ့ကြ၊ ကြောက်ကြ

ကုန်၏။ သူ၏နေရာကား အာဠဝီပြည် ဩောင်ပင်ကြီး ဖြစ်၏။ အာဠဝကသည် ထိုဩောင်ပင်ကြီးကို ဗိမာန်ပြု၍ ထိုဩောင်ညိုနန်း၌ စံမြန်းကာ သူ့အား လူဘုရင် မင်းတရားက နေ့စဉ် ပွဲတော်အုပ်များ ဆက်သရသတည်း။ မင်းနှင့်တကွသော အာဠဝီပြည်သားတို့မှာ အာဠဝက အန္တရာယ်ကြောင့် အသက်ကို မှန်မှန် မရှူ နိုင်ကြကုန်ဘဲ 'ဘယ်နေ့မှာ ငါတို့ ဘီလူးစာ ဖြစ်မည်မသိ။' ဟူ၍ တထိတ်ထိတ် တလန့်လန့်နှင့် နေကြရရှာကုန်၏။

မဟာကရုဏာတော်သခင် ဖြစ်တော်မူသော ဗုဒ္ဓသည် အာဠဝက ဘီလူး ဘေးကြောင့် စိတ်လက်မဖြောင့်၊ ဒုက္ခကြီးစွာ ခံစားနေရသည်ကို မြင်တော်မူ၍ ယင်းအာဠဝီပြည်သားတို့အား ကယ်တင်တော်မူလိုသည်ကတစ်ကြောင်း၊ ၎င်းပြင် အာဠဝက ဘီလူးမိုက်အား ကျွတ်ခွင့်ဆိုက်လေပြီကို မြင်တော်မူ၍ အာဠဝက အား တရားရေစင်ဖြင့်ဖျန်း၍ ကျွတ်လမ်းသို့ ပို့ဆောင်တော်မူလိုသည်တစ်ကြောင်း၊ ဤအကြောင်းကြောင်းတို့ကြောင့် သာဝတ္ထိပြည်၊ ဇေတဝန်ကျောင်းမှ အာဠဝီပြည် သို့ အဖော်မမှီး တစ်ပါးတည်း ကြွတော်မူလေ၏။

အာဠဝက၏ စံနန်းတော် ဩောင်ပင်ကြီးကား လွင်တီးခေါင်အလယ်တွင် ထီးရွက်ကို ဖြန့်ထားသည့်နှယ် တည်ရှိနေ၏။ လေခတ်သဖြင့် ဩောင်ရွက်တို့ သည် တဖျပ်ဖျပ်နှင့် ရှိနေကုန်၏။ အချိန်ကား ညနေစောင်းလေပြီ။ နေဝင်ဆည်း ဆာအောက်တွင် ဗုဒ္ဓသည် အာဠဝီပြည်၊ အာဠဝက၏ ဩောင်ညိုနန်းသို့ ရောက် သွား၏။ သို့သော် အာဠဝကမှာ နတ်သဘင်အစည်းအဝေးသို့ တက်ရောက်နေ သဖြင့် ရည်စူးသူ အာဠဝကကို မတွေ့ရဘဲ တံခါးမှူးဖြစ်သူ ဂဒြဘကိုသာ တွေ့ ရ၏။ ဗုဒ္ဓသည် သာဝတ္ထိသို့ပြန်ရန် အချိန်မလှ၊ စကောစကဖြစ်နေသဖြင့် တံခါး မှူးအား ဤစကားကို ဆိုတော်မူ၏။

"ဂဒြဘ၊ အကယ်၍ သင့်အား ဝန်မလေးလျှင် ဤဗိမာန်၌ တစ်ညတာ မျှ တည်းခိုလို၏။ ငါ့အား တည်းခိုခွင့် ပေးစေလို၏။" ဗုဒ္ဓနှင့် တံခါးမှူး ဂဒြဘ မှာ ရှေးကပင် သိကျွမ်းပြီးဖြစ်၏။ ဗုဒ္ဓ၏စကားကို ကြားလတ်သော် ဘဝင်တုန် ရင်ခုန်သံဖြင့် ဗုဒ္ဓအား ဤစကားကို လျှောက်သတည်း။

"အရှင်ဘုရား၊ အကျွန်ုပ်ကား ဤဩောင်နန်း၏ ပိုင်ရှင်မဟုတ်။ အကျွန်ုပ် အနေဖြင့် ခွင့်ပြုရန် ဝန်မလေးသော်လည်း ဤဩောင်နန်းကို စိုးပိုင်သူ အာဠဝက ကို ကျော်၍ ခွင့်မပြုဝံ့ပါ။ အရှင်ဘုရား၊ အာဠဝကသည် အလွန် ကြမ်းကြုတ် ခက်ထန်လှပါသည်။ မိဘတို့အား ရိုသေလေးစားရမှန်း သိတတ်သူ မဟုတ်ပါ။ ကြမ်းကြုတ်ခက်ထန်သူနှင့် အရှင်ဘုရားကို မျက်နှာချင်း မဆိုင်စေလိုပါ။" ဟု

တောင်းပန်လျှောက်ထားလေသော် "ဂဒ္ဒရဘာ၊ အာဋ္ဌာဝက၏သဘောကို ငါသိ၏။ သင် စိုးရိမ်ဘိသကဲ့သို့ အန္တရာယ်ဟူသည် ငါ့အား စိုးစဉ်မျှ ဖြစ်ဖွယ်မရှိ။ ငါ့ကို သာ တည်းခိုခွင့် ပြုပါလော့။"

"အရှင်ဘုရား၊ အာဋ္ဌာဝကဘီလူးကား အိုးကင်းပူကို ကိုင်တွယ်ရန်ခက်သကဲ့သို့ အာဋ္ဌာဝကကို ကိုင်တွယ်ရန် လွန်စွာခက်လှပါသည်။ မိဘမှန်းလည်းမသိ၊ ဆရာသမားမှန်းလည်းမသိ၊ ရဟန်းပုဏ္ဏားမှန်းလည်း မသိပါ။ ဤဗြောင်ညိုနန်းသို့ ရောက်ရှိသူတို့အား လိပ်ပြာလွင့်စဉ်အောင် ပြုတတ်ပါ၏။ ရင်ကိုသော်လည်း ထက်ခြမ်းကွဲအောင် ခွဲတတ်ပါ၏။ ခြေနှစ်ချောင်းကို ကိုင်၍သော်လည်း သမုဒ္ဒရာထဲသို့ ပစ်ချတတ်ပါ၏။ ထို့ကြောင့် အရှင်ဘုရား၊ ဤတွင် တည်းခိုရန် မသင့်ပါ။" ဟု အာဋ္ဌာဝက၏ ကြမ်းကြုတ်ပုံများကို ရိုသေစွာ နားတော်လျှောက်၏။

ဗုဒ္ဓက ဂဒ္ဒရဘာထံ တည်းခိုခွင့်ပြုရန် သုံးကြိမ်တိုင်တိုင် တောင်းသော်လည်း ဂဒ္ဒရဘာကလည်း တည်းခိုရန်မသင့်ပုံကို အကြောင်းပြကာ လက်မခံဝံ့ဘဲ ငြင်းဆန်နေ၏။ ဗုဒ္ဓက အတန်တန်တောင်းပန်လေသောအခါ–

"အရှင်ဘုရား၊ အာဋ္ဌာဝက၏ ခွင့်ပြုချက်မရှိဘဲ လက်ခံမဝံ့ပါ။ ခွင့်ပြု၊မပြုကို အာဋ္ဌာဝကထံ အကြောင်းကြားပါရစေဦး။ အကျွန်ုပ် တာဝန်ကျေကုန်အောင် ဆောင်ရွက်ပါရစေဦး။" ဟု ရိုသေစွာလျှောက်ထားပြီး ထွက်သွားလေ၏။

ထိုအချိန်တွင် အာဋ္ဌာဝကသည် ဟိမဝန္တာ နတ်သဘင်အစည်းအဝေးသို့ ရောက်ရှိနေလေရာ တံခါးမှူး ဂဒ္ဒရဘာသည် သူ၏သခင် အာဋ္ဌာဝကရှိရာသို့ ချဉ်းကပ်ပြီး အကျိုးအကြောင်း ပြောပြလေ၏။ အာဋ္ဌာဝကသည် အမျက်ဒေါသ ခြောင်းခြောင်းထလေ၏။ "ဟေ့–ဂဒ္ဒရဘာ၊ တိုးတိုးပြောပါဘိ။ အခြားသူတို့ ကြားသွားချေက အာဋ္ဌာဝက ဗိမာန်ကိုပင် ကျူးကျော်ဝင်ရောက်နိုင်စွမ်းသူများ ရှိသေး၏တကားဟု ငါ့ကို အခြားသူတို့ အထင်သေး၊ အမြင်သေး ဖြစ်ကုန်လိမ့်မည်။ တိုးတိုးသာသာ ပြောပါဘိ" ဟု တံခါးမှူးအား ဟန့်တားလိုက်သောခဏဝယ် သာတာဂိရိနတ်မင်းကြီးနှင့် ဟေမာဝတနတ်မင်းကြီးတို့ နတ်သဘင်သို့ ရောက်လာကြ၏။ အာဋ္ဌာဝကဘီလူးကိုမြင်သော် ဝမ်းမြောက်သောအမူအရာဖြင့် အာဋ္ဌာဝကအား ဤသို့ဆိုကုန်၏။

"အချင်း အာဋ္ဌာဝက၊ အသင်ကား အရတော်လှလေစွ။ ကုသိုလ်ထူးလှလေစွ။ သဗ္ဗညုဗုဒ္ဓသည် အသင်၏ ဗိမာန်ဝယ် စံပယ်တော်မူလျက် ရှိချေ၏။ လာဘ်ကောင်းဝင်ခြင်းပင်တည်း။ မြတ်ဗုဒ္ဓအား ရိုသေစွာ ဆည်းကပ်ပါလေ"

ဤသို့ နတ်မင်းကြီးနှစ်ယောက်တို့က ဝမ်းမြောက်ဝမ်းသာ ဆိုပြော တိုက်

တွန်းကြပြီးသော်လည်း လူမိုက်နားတွင် 'ပညာရှိစကား အလွန်ခါး၏' ဆိုသော အတိုင်း အာဠာဝကသည် ပို၍ ဒေါသအမျက်ခြောင်းခြောင်းထွက်လာပြီး နေရာမှ ရုတ်ခြည်းထကာ နတ်သဘင်မှ ရှူးရှူးရှားရှား ထွက်သွားလေ၏။ 'ငါ့ဗိမာန်သို့ ဘုရား ရောက်နေသတဲ့။ ဘယ်က ဘုရားလဲ။ ဘာဘုရားလဲ။ ငါ့အကြောင်းကို သိစေအုံး။' ဟူ၍ ဒေါသကို မချုပ်တည်းနိုင်သည့်အလျောက် ဆေးဒန်းမြင်းသီလာ တောင်ကြီးကို ဖနှောင့်ဖြင့်ပေါက်လိုက်ရာ တောင်ကြီးမှာ ကျောက်ဖရုံသီးကြီးကို မြေကြီး၌ ရိုက်ခွဲလိုက်သည့်ပမာ အစိတ်စိတ်အမြွာမြွာ ကွဲသွားလေ၏။

အာဠာဝကသည် ဒေါသအဟုန်ကြောင့် တစ်ကိုယ်လုံး ဆတ်ဆတ်တုန်ပြီး ဆေးဒန်းမြင်းသီလာတောင်မှ မိမိဗိမာန်ကို တန်ခိုးဖြင့်လှမ်းကြည့်ရာ မိမိ၏မိဖုရားနှင့်တကွ မောင်းမမိဿံများမှာ မြတ်ဗုဒ္ဓအပါးဝယ် ခစားလျက်ရှိနေကြပုံ မြင်လေသောအခါ 'အာဠာဝကတဲ့ဟေ့၊ ငါ့အကြောင်း သိစေအုံး။' ဟု ကြုံးဝါးကာ မြတ်ဗုဒ္ဓအား လေထဲတွင် သစ်ရွက်ခြောက်ပမာ လွင့်ပါသွားစေအုံး။ အရိုးအသား ရှာမရအောင် မုန်တိုင်းလက်နက်ဖြင့် ဖျက်ဆီးပစ်အုံးဟူ၍ လေပြင်းမုန်တိုင်းကြီး ထစေ၏။ မုန်တိုင်းဒဏ်သည် အဘယ်မျှ ပြင်းထန်သနည်းဆိုသော် သစ်ပင်ကြီးများ သာမက ကျောက်တောင်ထွတ်များသည်ပင် ခါးပြတ်ကုန်၏။

အာဠာဝကဟေ့ဟူသော ကြုံးဝါးသံကြီးကား ဇမ္ဗူဒိပ်ကျွန်းအပြင်၌ အိမ်တိုင်းစေ့ တံခါးဝက ပြောဘိသကဲ့သို့ အားလုံးကြားကြကုန်၏။ အာဠာဝက၏ ကြုံးဝါးသံကား မီးတောင်ကြီး ပေါက်ကွဲသည့်အလား ကြောက်ဖွယ်လိလိ သို့စဉ်မျှ ကြီးမားလှသောဟူပေ၏။

အာဠာဝက၏ မောင်းမမိဿံတို့သည် အာဠာဝက၏ ကြုံးဝါးသံကြီးကို ကြားကြရသောအခါ အထိတ်တလန့် ဖြစ်ကုန်လေ၏။

'ဒုက္ခပဲ၊ ဘုရားသခင်အား သူ နှိပ်စက်ချေမှုန်းဖြစ်တော့မှာပဲ။' ဟူသော စိုးရိမ်စိတ်ဖြင့် 'အရှင်ဘုရား၊ ဤဗိမာန်တွင်နေခြင်းဖြင့် အန္တရာယ်ကျရောက်နိုင်ပါသည်။ အချိန်မီ အလျင်အမြန် ဖယ်ရှားတော်မူပါဘုရား။' ဟူ၍လည်း မလျှောက်ရက်ကြ။ တစ်ယောက်မျက်နှာကိုတစ်ယောက် အချင်းချင်းကြည့်သူက ကြည့်၊ ဗုဒ္ဓ၏ မျက်နှာတော်ကို မော်၍ ဖူးသူကဖူးနှင့် ဂနာမငြိမ် ဣန္ဒြေမရ ဖြစ်နေကြကုန်၏။

"ချစ်သမီးတို့၊ စိုးရိမ်ခြင်း မဖြစ်ကြကုန်လင့်။ ငါ့အား တစ်စုံတစ်ခု အန္တရာယ်ဖြစ်ဖွယ် မရှိ" ဟူ၍ ဗုဒ္ဓက မြွက်ကြားကာ နှစ်သိမ့်စေတော်မူ၏။ ဗုဒ္ဓ မြွက်ကြားတော်မူသည့်အတိုင်းပင် အာဠာဝကသည် တန်ခိုးလက်နက်ကြီး ကိုးမျိုးဖြင့် ဗုဒ္ဓအား ထိုးနှက်တိုက်ခိုက်ခြင်းပြုသော်ငြားလည်း-

(၁) အာဠာဝက၏ မုန်တိုင်းလက်နက်သည် အဘယ်မျှပင် ပြင်းထန်စေကာမူ ဗုဒ္ဓ၏ ခြေတော်ရင်းသို့ရောက်လျှင် သင်္ကန်းတော် အနားစွန်းကိုမျှ မလှုပ်ရှားစေနိုင်။

(၂) ရေတွင်နှစ်၍ သတ်အံ့ဟူ၍ မိုးကြီးသည်းထန်စွာ ရွာချသော်လည်း ဆီးနှင်းပေါက်မျှ ဗုဒ္ဓထံသို့ ကျရောက်ခြင်း မရှိ။

(၃) ကျောက်ခဲ မိုးရွာချလျက် ဗုဒ္ဓအား လုပ်ကြံသော်လည်း သံတွေခဲပမာ အလျှံနှင့်ရဲရဲ ကျောက်ခဲတို့သည် ဗုဒ္ဓ၏ ရှေ့တော်သို့ရောက်လျှင် ပန်းပေါက်ပေါက်သဖွယ် ဖြစ်ကုန်ရလေ၏။

(၄) ဓားမိုး၊ လှံမိုး၊ လက်နက်မျိုးစုံ မိုးကြီးရွာစေလျက် တိုက်ဖျက်ရာတွင်လည်း ထိုလက်နက်အားလုံးကား ဗုဒ္ဓရှေ့တွင် နတ်ပန်းကုံးသဖွယ် ဖြစ်ကုန်ရလေ၏။

(၅) ထို့နောက် ဇရဲမီးသောက် ပူဟုန်ပြင်းလှသည့် မီးကျီးမိုးဖြင့် တိုက်ခိုက်သော အခါတွင်လည်း ထိုမီးကျီးခဲတို့သည် ဗုဒ္ဓရှေ့တွင် ကန်တော့ပန်း ဖြစ်ကုန်ရလေ၏။

(၆) တစ်ဖန် ဗုဒ္ဓအပေါ်သို့ ပြာပူမိုးရွာချလျက် အသက်ဆုံး စီရင်ရာတွင်လည်း ထိုပြာပူတို့မှာ နံ့သာမှုန့်အလား မြတ်ဘုရားရှေ့တွင် ဖြစ်တည်လာရကုန် လေ၏။

(၇) ထို့နောက် ဗုဒ္ဓအား လုပ်ကြံတိုက်ခိုက်လာသော သဲဖြူမိုးမှာလည်း တန်ခိုးအညွန့်ကျိုးကာ နတ်ပန်းဖြစ်၍ ဗုဒ္ဓရှေ့၌ တည်လာကုန်လေ၏။

(၈) ထိုမှတစ်ပါး ဗွက်၊ ညွံ့ပျောင်းမိုးဖြင့် သတ်ကြံသော်လည်း ထိုညွံ့ပျောင်းတို့မှာ နတ်၌ဖြစ်သော နံ့သာပျောင်း ဖြစ်ကုန်ရလေ၏။

(၉) 'သေပေရော့' ဟူ၍ ဗုဒ္ဓအား မှောင်ကြီးချ၍ လုပ်ကြံရာတွင်လည်း အရာမရောက်ချေ။

ဤသို့ တန်ခိုးလက်နက်ကြီး ကိုးမျိုးတို့ဖြင့် ဗုဒ္ဓထံ စေလွှတ်လုပ်ကြံပြီးမှ အာဠာဝကသည် ဟင်းခနဲ သက်ပြင်းရှည်ကြီး ချလိုက်၏။ သူ၏ သက်ပြင်းချလိုက်ခြင်းကား အဓိပ္ပာယ်ရှိလှသည်။ သူသည် လုပ်ကြံတိုက်ခိုက်မှုကြောင့် ခလောက်ဆိုလျှင် ဗုဒ္ဓခန္ဓာတော်စဲ၍ သေပွဲဝင်လောက်ပြီ၊ တစ်ကိုယ်လုံး ပြာဖြစ်သွားလောက်ပြီဟူ၍ အောင်ပွဲရသောမျက်နှာတွင် ပီတိအပြည့်နှင့် ချလိုက်သော သက်ပြင်းရှည်ကြီး ဖြစ်လေသည်။

ထို့ကြောင့် အန္တရာယ်ကင်းရှင်းပြီဟူသော အမှတ်ဖြင့် အာဠာဝကသည်

သူ၏ဗိမာန်သို့ အေးဆေးစွာ ပြန်လာခဲ့လေ၏။ သို့သော် ဗိမာန်သို့ ရောက်သော အခါ အထင်နှင့်အမြင် တခြားစီဖြစ်နေကြောင်းကို တွေ့ရလေ၏။ သူထိုင်နေကျ ဖြစ်သည့် ပလ္လင်ပေါ်၌ မြတ်ဗုဒ္ဓ ထိုင်နေသည်ကိုလည်းကောင်း၊ သူ၏ မောင်းမ မိသံမျိုးက ဗုဒ္ဓအား ရိုသေခစားနေကြသည်ကိုလည်းကောင်း၊ ဘွားခနဲ တွေ့ လိုက်ရသောအခါ ဒေါသအမျက် ခြောင်းခြောင်းထွက်လာပြီး တစ်ကိုယ်လုံး ဆတ်ဆတ်တုန်လာသည်။

ဗုဒ္ဓအား ပစ်အံ့ဟူ၍ ဘွဲ့ဖြူပုဆိုးလက်နက်ကို ဆွဲကိုင်လိုက်သော် မောင်းမ မိသံမျိုးက လန့်၍ သံပြိုင်အော်ကြကုန်သော်လည်း ဗုဒ္ဓမှာမူ တည်ငြိမ်ကျန်ရှိ ဖြင့်သာ စံနေတော်မူ၏။ ထိုဘွဲ့ဖြူလက်နက်ကား သမုဒ္ဒရာထဲပစ်သော် သမုဒ္ဒရာ ကြီး ခန်းခြောက်သွားစေ၏။ မြင်းမိုရ်တောင်ကြီးပစ်သော် အစိတ်စိတ် အမြွှာမြွှာ ကွဲပြို၍ အတုံးအတုံး ဖြစ်စေ၏။ မောင်းမမိသံတို့သည် ဘွဲ့ဖြူလက်နက်၏ အစွမ်းသတ္တိကို သိပြီးဖြစ်သဖြင့် ကြောက်ရွံ့စိတ်ဖြင့် အထိတ်တလန့် အော်ကြ ခြင်း ဖြစ်၏။ မာန်တဟူးဟူး၊ တရှူးရှူးဖြစ်နေသော ဘီလူးကြီး အာဠဝကသည် 'နင်လားဟဲ့ ဗုဒ္ဓ၊ လက်နက်ကိုးပါးဖြင့် မသေ၊ ဒီတစ်ခါ ဘွဲ့ဖြူလက်နက်တန်ခိုး ဖြင့် အရိုးအသားရှာ၍မရအောင် မွမွကြေ၍ သေပေတော့။' ဟု ကြုံးဝါးကာ ဗုဒ္ဓ ကို တည့်တည့်ချိန်ရွယ်လျက် ဘွဲ့ဖြူလက်နက်ဖြင့် တအားလွှဲ၍ အားပါးတရ ပစ်လေသတည်း။ ဘွဲ့ဖြူလက်နက်ကား မိုးကြိုးစက်ကဲ့သို့ ကောင်းကင်ပြင်၌ ကြောက်မက်ဖွယ် မြည်ဟီးလျက် ဗုဒ္ဓ၏ရှေ့တော်မှောက်သို့ ရောက်လျှင်ကား 'ခြေသုတ်ကြိုးဝန်းသဖွယ်ကဲ့သို့ ဖြစ်လျက်' ခြေတော်ရင်း၌ ကျလေ၏။

အံ့ဖွယ်သရဲ ထူးကဲလှသည့် ဤဖြစ်ရပ်ကို တပ်အပ်သေချာ မြင်တွေ့နေရ သောအခါတွင်ကား အာဠဝကမှာ ဦးချိုကျိုးသော နွားလား၊ အစွယ်ကျိုးသော မြွေပွေးမြွေဟောက်ကြီးပမာ အရှိန်အစော်မဲ့လျက် ယောကျ်ားတကာတို့၏ မာန် စောင်တည်းဟူသော အလံတံခွန်ကြီးလည်း လဲလေသည်ဖြစ်၍ ဤသို့ ကြံ၏။ 'ငါ့ဘွဲ့ဖြူပုဆိုးလက်နက်သည်ပင်လျှင် ဤရှင်ရဟန်းကို မနှိပ်စက်နိုင်ခဲ့။ အကြောင်း ကား အဘယ့်ကြောင့် ငါ့လက်နက်မျိုးတို့ မတိုးမဖောက်နိုင်လေသနည်း။' ဟု စူးစမ်းလေသတည်း။

ဤအရှင်ရဟန်းကား မေတ္တာဖြင့်နေခြင်းဖြစ်လိမ့်မည်။ သူ့သန္တာန်၌ မေတ္တာ ဓာတ် ကိန်းဝပ်တည်စွဲနေသမျှ ငါ လုပ်ကြံ၍ ရမည်မဟုတ်။ ဤရဟန်းအား အမျက်ထွက်အောင်၊ သူ စိတ်ဆိုးအောင်လုပ်သော် မေတ္တာသည် သူနှင့် ကွာလေ ရာ၏။' ဟု ဤသို့ကြံပြီးလျှင် ဗုဒ္ဓအား အမျက်ထွက်စိတ်ဆိုးအောင်ပြုခြင်းငှာ

ဗုဒ္ဓထံသို့ ဘောက်ဆတ်ဆတ် ချဉ်းကပ်ကာ တင်းမာခက်ထန်သော အသံကြီးဖြင့် ဗုဒ္ဓအား "အို–ရဟန်း၊ ထွက်လော့။ ထွက်ဆို ချက်ချင်း ခုအမြန်ထွက်" ဟု နှင်ထုတ်လေသတည်း။

ဤသို့ နှင်ထုတ်လေသော် ဗုဒ္ဓသည် "အချင်း အာဠာဝက၊ ကောင်းစွ။" ဟု ချစ်ဖွယ်သောစကားဖြင့် ဝန်ခံတော်မူ၍ ထွက်ပေးတော်မူလေ၏။ ထိုအခါ အာဠာဝကအဖို့ အထင်နှင့်အမြင် လွဲသွားပြန်၏။ ဒေါသမထား အမျက်မပွား သည့်ပြင် ချိုသာစကားကို ကြားနေရသဖြင့် 'ဤရဟန်းကား ဆိုလွယ်ပေစွ။ ထွက်ဆိုလျှင် စကားတစ်ခွန်း ဆိုကာမျှဖြင့် ထွက်ပလေ၏။ သို့စဉ်မျှ ဆိုလွယ် ပြောလွယ်သော ရဟန်းအား စစ်မက် ငါ ပြုချေမိသည်တကား။' ဟု စိတ်နှလုံး နူးညံ့စ ပြုလာ၏။

သို့သော် တစ်ကြိမ်တည်းဖြစ်၍ ဆိုပြောရလွယ်ကူခြင်း ဖြစ်ကောင်းဖြစ်မည်။ ဖြစ်နိုင်သည်။ ထပ်ခါတလဲလဲ ဝင်ထွက်ခိုင်းချေသော် မည်သို့နေမည်နည်း။ ငါ စူးစမ်းဦးအံ့ဟူ၍ "အို–ရဟန်း၊ ငါ့ဗိမာန်တွင်းသို့ ပြန်ဝင်လော့" ဟု အာဏာ သံဖြင့် ခိုင်းကြည့်ပြန်လေ၏။ ဗုဒ္ဓသည် "အချင်း အာဠာဝက၊ ကောင်းစွ" ဟု ချိုသာစွာဆိုလျက် ပြန်ဝင်လေ၏။ အာဠာဝကသည် ဤနည်းအတိုင်း 'ထွက်လော့၊ ဝင်လော့' သုံးကြိမ်တိုင်တိုင် ခိုင်း၏။ ဗုဒ္ဓလည်း အာဠာဝက ခိုင်းတိုင်း သုံးကြိမ် တိုင်တိုင်ပင် ဝင်ထွက်ခြင်း ပြုတော်မူ၏။

ဤသည်ကို မြင်ရသောအခါ အာဠာဝကသည် ရပ်လျက်စဉ်းစား၏။ 'ဤ ရဟန်းကား ဆိုလွယ်ပေ၏။ ထွက်လေဆိုလျှင် ထွက်ပေ၏။ ဝင်လေဆိုလျှင် ဝင် ပေ၏။ ဤရဟန်းအား တစ်ညလုံး ဝင်ထွက်ခိုင်း၍ ညှဉ်းပန်းပြီးမှ ဤရဟန်း အား ခြေနှစ်ချောင်းကိုင်၍ သမုဒ္ဒရာထဲသို့ ငါ ပစ်ချအံ့။' ဟု ကြံပြီးလျှင် ဗုဒ္ဓ အား တစ်ညလုံးလုံး ဝင်ထွက်ခိုင်းပြီး နောက်ဆုံးအကြိမ်တွင် "အို–ရဟန်း၊ ထွက် လေဦး" ဟု ဆိုလတ်သော် ဤတစ်ကြိမ်တွင်မူ ဗုဒ္ဓသည် "အချင်း အာဠာဝက၊ ငါ မထွက်တော့ပြီ။ ငါ ထွက်ခဲ့သော် ငါ့ကို သမုဒ္ဒရာထဲ ပစ်ချအံ့။ မကောင်း သော အကြံကို သင်ကြံ၏။ ငါ့ကို သင်ပြုလိုသရွေ့ ပြုလော့။ ငါကား မထွက် ပြီ။"

ဗုဒ္ဓ၏စကားကို ကြားရသောအခါ တအံ့တဩ ဗုဒ္ဓအား စိုက်ကြည့်လိုက် ပြီးနောက် 'ဤနည်းဖြင့် လုပ်ကြံမှု မအောင်မြင်ဖြစ်ရပြန်ပြီကော။ အခြား နည်း လမ်းတစ်ခုရှာ၍ မဖြစ်လျှင်ဖြစ်အောင် ဤရဟန်းအား ငါ လုပ်ကြံအံ့။' ဟု စဉ်းစားကာ အာဠာဝကသည် ဗုဒ္ဓအား လုပ်ကြံနည်းလမ်းသစ် လက်နက်သစ်ကို

ရှာဖွေသောအခါ လက်နက်တစ်ခုကို တွေ့ရှိလေ၏။ ထိုလက်နက် ပြဿနာ လက်နက် ဖြစ်သတည်း။ 'ရဟန်းအား ပြဿနာတင်ပြ၍ မေးမည်။ မဖြေနိုင်ခဲ့သော် ဤရဟန်းအား ငါ ရှုးအောင်လုပ်မည်။ ထို့နောက် သမုဒ္ဒရာ၌ ငါ ပစ်ချအံ့။' ဤသို့ ကြံပြီးလျှင် အာဠာဝကသည် ဗုဒ္ဓအား ဤစကားကို ဆိုလေသတည်း။

"အို-အရှင်ရဟန်း၊ သင့်ကို ငါ ပြဿနာမေးအံ့။ မဖြေနိုင်ခဲ့သော် သင်၏ နှလုံးကိုသော်လည်း ရှူးမူးစေအံ့။ ရင်ကိုသော်လည်း ငါ ထက်ခြမ်းခွဲအံ့။ သမုဒ္ဒရာသို့သော်လည်း ငါ ပစ်ချအံ့။" ဟု ခက်ထန်မာကြောကြောနှင့် ပြောလေသော်-

"အချင်း အာဠာဝက၊ လူ့ပြည်နတ်ရပ် ခေတ်သုံးထပ်တွင် နတ်ဖြစ်စေ၊ ဗြဟ္မာဖြစ်စေ၊ လူဖြစ်စေ၊ ရဟန်းဖြစ်စေ၊ ပုဏ္ဏားဖြစ်စေ၊ မည်သူတစ်ဦးတစ်ယောက်မျှ ငါ၏နှလုံးကို ပျံ့လွင့်စေနိုင်သူလည်း မရှိ။ ငါ့ရင်ဘတ်ကို ခွဲနိုင်သူလည်း မရှိ။ ငါ့ခြေကိုကိုင်၍ သမုဒ္ဒရာ၌ ပစ်ချနိုင်သူကိုလည်း ငါ မမြင်။ မေးသောပြဿနာကို မဖြေနိုင်ငြားအံ့။ ငါ့အား အပြစ်ပေးအံ့ဟု သင်ဆိုရာ၌ ငါ့အား အပြစ်ပေးနိုင်သူမရှိဟု ငါဆို၏။ ငါ မဖြေနိုင်သောပြဿနာလည်း မရှိ။ မည်သည့်ပြဿနာမဆို သင်မေးလိုရာပြဿနာကိုသာ မေးဘိလော့။ သင် မေးတိုင်းကို အကြွင်းမဲ့ ငါ ဖြေအံ့။" ဟု သဗ္ဗညုတဘုရားသခင်တို့သာ ခွင့်ပေးရာသော အမိန့်တော်ဖြင့် အာဠာဝကအား ခွင့်ပေးတော်မူသတည်း။

ဤသို့ ခွင့်ပေးတော်မူလျှင် အာဠာဝကသည် ဗုဒ္ဓအား ညှဉ်းဆဲလိုသောစေဖြင့် ဤဂါထာကို နှုတ်ဖြင့် တွတ်တွတ်ရွတ်၍ ပြဿနာလေးရပ်ကို သွက်လက်စွာ မေးလေတော့သည်။

## အာဠာဝကဘီလူး၏ အမေး လေးတွေ

(၁) ငါ့ရှင်ရဟန်း၊ ဤလူ၌ ယောကျ်ားတော်တကာတို့၏ အဘယ်မည်သော ဥစ္စာသည် နှစ်လိုခြင်းကို ပြုတတ်သောဥစ္စာဖြစ်၍ မြတ်သနည်း။

(၂) အဘယ်မည်သောအကျင့်သည် ကောင်းစွာကျင့်အပ်သည်ဖြစ်၍ ကိုယ်ချမ်းသာ၊ စိတ်ချမ်းသာကို ဆောင်ပေတတ်သနည်း။

(၃) အဘယ်မည်သော အရသာသည် အရသာဟူသမျှတို့တွင် မြိန်စွာသော အရသာ မည်သနည်း။

(၄) အဘယ်သို့ အသက်မွေးခြင်းဖြင့် အသက်မွေးသူ၏ အသက်ရှင်ခြင်းကို မြတ်သောအသက်ရှင်ခြင်းဟု ပညာရှိတို့ဆိုကုန်သနည်း။

ဤပြဿနာလေးရပ်ကား နှယ်နှယ်ရရ ပြဿနာမဟုတ်။ သေရေး

ရှင်ရေးတမျှ အရေးကြီးလှသော ပြဿနာဖြစ်၏။ ယင်းပြဿနာများကို မည်သည့်နည်းနှင့်မျှ ဖြေနိုင်မည်မဟုတ်ဟု အာဠဝကက ထင်သဖြင့် ဗုဒ္ဓအား သမုဒ္ဒရာ၌ ပစ်ချရန် လက်တပြင်ပြင်နှင့် ရှိနေ၏။ အာဠဝက၏ မောင်းမမိဿံများကား စိုးရိမ်သောစိတ်ဖြင့် မြတ်ဘုရား၏ မျက်နှာတော်ကို မော်၍ဖူးမြော်လျက် ရှိနေကြကုန်၏။ 'အကယ်၍ မဖြေနိုင်ခဲ့သော်' သူတို့သည် ရှေ့ဆက်၍ မတွေးဝံ့ကုန်။ အာဠဝက မေးမြန်းချက်ကို မဖြေဆိုနိုင်သော ပညာရှိများအား ခြေနှစ်ချောင်းကိုင်၍ သမုဒ္ဒရာ၌ ပစ်ချဖူးသော ရက်စက်မှုများကို မြင်ယောင်ကာ ဗုဒ္ဓအတွက် စိုးတဖိတ်ဖိတ် တထိတ်ထိတ်နှင့်သာ ရှိနေကြကုန်စဉ် ဗုဒ္ဓ၏ အဖြေစကားကို သူတို့ ကြားကြလေပြီ။

## ဗုဒ္ဓ၏ အဖြေ လေးရပ်

(၁) အာဠဝက၊ ဤလူ့ဌာ ယောက်ျားတော်တကာတို့၏ သဒ္ဓါတရားမည်သော ဥစ္စာသည် နှစ်လိုခြင်းကို ပြုတတ်သည်ဖြစ်၍ ဥစ္စာမြတ်မည်။

(၂) ကုသိုလ်ဆယ်ပါးတရားသည် ကောင်းစွာကျင့်အပ်သည်ဖြစ်၍ ကိုယ်ချမ်းသာ၊ စိတ်ချမ်းသာ၊ ဤချမ်းသာနှစ်ပါးကို ဆောင်တတ်၏။

(၃) စကားမှန်အစရှိသော သစ္စာတရားသည်ကား အရသာဟူသမျှတို့တွင် မြိန်ရှက်လှစွာ၏။

(၄) ပညာဖြင့် အသက်မွေးသောသူ၏ အသက်ရှင်ခြင်းကို မြတ်သော အသက်ရှင်ခြင်းဟု ဘုရားအစရှိသော ပညာရှိတို့ ဆိုတော်မူကုန်၏။

ဗုဒ္ဓ၏ အဖြေစကားကို ကြားလိုက်ရသည်တွင် အာဠဝကသည် အတိတ်ကို ပြန်၍သတိရလာသည်။ အာဠဝက၏ မိဘနှစ်ပါးတို့သည် ကဿပဘုရားသခင်၏ အထံတော်မှ အမေးနှင့်တကွ အဖြေကိုပါ ရရှိ၍ ထိုဂါထာကို အာဂုံဆောင်ထားပြီး သားဖြစ်သူ အာဠဝကကိုလည်း 'ဓမ္မအမွေ' အဖြစ် သင်ကြားပေးထားလေသည်။ အာဠဝကသည် မိဘများ မရှိတော့သည့်နောက်တွင် အမေးဂါထာကိုသာ မှတ်မိပြီး အဖြေကိုကား မသိတော့ချေ။ ထို့ကြောင့် ပညာရှိများအား အကြိမ်ကြိမ် မေးသော်ငြားလည်း အဖြေကို မရရှိဘဲ ဖြစ်နေသည်။ ဗုဒ္ဓ၏ အဖြေစကား ကြားသိလိုက်ရသည်တွင်မှ ယခင်က မေ့နေသော၊ မမှတ်မိတော့သော အဖြေများ ဘွားခနဲ ပေါ်လာလေတော့ရာ သံချောင်းကဲ့သို့မာသော အာဠဝက၏ စိတ်ဓာတ်သည် ဖော့ဖယောင်းပမာ နူးညံ့ပျော့ပျောင်းလာလေ၏။

ဗုဒ္ဓအား သမုဒ္ဒရာ၌ ပစ်ချလိုသောစိတ်များမှာလည်း တဖြည်းဖြည်း ခေါင်းပါး သွားလေပြီတည်း။ (မှတ်ချက်။ အရှင်မဟာသီလဝံသ၏ ပါရာယနဝတ္ထု၌ အဖြေ လေးပါးအကျယ်ကို အောက်ပါအတိုင်း ဖွင့်ပြတော်မူ၏။ အဓိပ္ပာယ်နှင့်တကွ ရှေးကျသော မြန်မာစကားပြေ ရေးနည်းများမှာ မှတ်သားဖွယ်ကောင်းလှသဖြင့် အရှင်မဟာသီလဝံသ၏ မူအတိုင်း ဖော်ပြလိုက်ပါသည်။)

သဒ္ဓါတရားဟူသည် အဘယ်သို့သဘောရှိသနည်း။ အဘယ့်ကြောင့် သဒ္ဓါ တရားကိုလျှင် ဥစ္စာမြတ်ဟူသနည်း။

သဒ္ဓါတရားဟူသည်ကား ချမ်းသာအကြောင်း ကုသိုလ်ကြမ္မာတည်းဟု နှလုံးသွင်းသည်။ ကုသိုလ်ကြမ္မာကြောင့် ချမ်းသာရသတည်းဟု နှလုံးသွင်းသည်။ ဤသို့ ကြမ္မာနှင့် ကြမ္မာအကျိုးကို နှလုံးသွင်းတုံသည်လည်း သဒ္ဓါ၊ ရတနာသုံးပါး ကျေးဇူးကို ယုံကြည်စွာ နှလုံးသွင်းတုံသည်လည်း သဒ္ဓါ။ ဤသို့ ယုံကြည်ခြင်း၊ နှလုံးသွင်းခြင်း ရှိမှသာလျှင် ဘုရား၊ တရား၊ သံဃာကို ဖူးမြင်ချင်၍ ဆည်းကပ် ၏။ တရားနာချင်၍ ဆည်းကပ်၏။ မချိတ်မငင် သက်သက် လှူချင်သော နှလုံး ရှိ၏။

ဤသို့ ဖူးမြင်ချင်သည်၊ တရားနာချင်သည်၊ လှူချင်သည်၊ ဤသုံးပါး ပြည့်စုံသောသူကိုလျှင် သဒ္ဓါတရားနှင့် ပြည့်စုံသည်ဟူသတည်း။ ဤကား 'သဒ္ဓါ တရားဟူသည် အဘယ်နည်း။' ဟူရာ၌ ညွှန်ပေရာသော စကားတည်း။

'အဘယ့်ကြောင့် သဒ္ဓါကို ဥစ္စာမြတ်ဟူသနည်း။' ဟူရာ၌သော်ကား ခပ် သိမ်းသော ရတနာ၊ လာဘ်သပ်ပကာကို ရသောထက် ရတနာသုံးပါးအား ကြည် ညိုသော သဒ္ဓါရထားကို ရခြင်းသည်လျှင် သာလွန်မြတ်စွာသော လာဘ်ကို ရသည်မည်၏ဟု 'လာဘာနုတ္တရိယတရား' ကို မြတ်စွာဘုရား ဟောတော်မူ၏။ သဒ္ဓါတရားကို ရခြင်းသည် မြတ်သောကြောင့်လျှင် နတ်ပြည်၌ နတ်တို့သော် လည်း လူ့ပြည်၌ ဖြစ်လေအံ့သော နတ်တို့ကို 'ရွှေ၊ ငွေ၊ ဥစ္စာ၊ ရတနာရအောင် ကြံလေ' ဟု မှာထားလိုက်သည်ကား မရှိ။ လူဖြစ်၍ မိမိသည် သဒ္ဓါလေစေ၊ သူတစ်ပါးအားလည်း သဒ္ဓါအောင် နှိုးဆော်ပါလေ။ သဒ္ဓါခြင်းနှင့် စပ်သော ကျေးဇူးကို ချီးမွမ်းသော အလေ့ရှိသည် ဖြစ်လေစေ။' ဤသို့လျှင် နတ်တို့သော် လည်း (စီးပွားလိုသဖြင့်) လူ့ပြည်သို့ ဖြစ်လိမ့်သသူကို မှာထားလိုက်မြဲဟု ဟောတော်မူ၏။

ဤသို့လျှင် သဒ္ဓါတရားကို ရခြင်းသည်လျှင် ခပ်သိမ်းသော ရတနာကို ရသောထက် မြတ်စွာသောရခြင်း မည်၏။ စီးပွားလိုသသူသည် မှတ်သားအောင်

မှာထားထိုက်သော စကားလည်း စကားကောင်း မည်၏။ ဤသို့သော်လည်း သဒ္ဓါတရားကိုလျှင် နှစ်လိုခြင်းကို ပြုတတ်သည့် ဥစ္စာမည်သည်ဖြစ်၍ ဥစ္စာမြတ် မည်၏ဟု ဘုရားသဗ္ဗညုတို့ ဟောတော်မူသတည်း။

ခပ်သိမ်းသော ရတနာကား ကိုယ်နှင့်ကွာတတ်၏။ ငါ့၌ဖြစ်တုံ သူ့၌ဖြစ်တုံ (ငါ့ဟာဖြစ်လိုက်၊ သူ့ဟာဖြစ်လိုက်) တစ်ပါးနှင့် ဆက်ဆံ၏။ သဒ္ဓါတရားသော်ကား ကိုယ်နှင့်မကွာ။ တစ်ပါးနှင့် မဆက်ဆံ။ ဤသို့ဖြစ်၍သော်လည်း သဒ္ဓါတရားလျှင် ဥစ္စာမြတ် မည်၏။ သဒ္ဓါကြည်ညိုစွာ ပေးကမ်းဖူးသောသူကား သံသရာဘဝအဆက်ဆက်၌ ကြွယ်ဝချမ်းသာ များစွာသော ပစ္စည်းရှင်ဖြစ်၍ သူ့ထက်လွန်သော အဆင်းသဏ္ဌာန် တင့်တယ်စွာလျက် သူတစ်ကာတို့မြင်လျှင် ကြည်လင်သည်သာ ဖြစ်ရာသတည်းဟု သပ္ပုရိသ ဒါနငါးပါးကို ဟောတော်မူရာ၌ သဗ္ဗညု မိန့်တော်မူ၏။

ဤသို့ဖြစ်၍လည်း သဒ္ဓါတရားကို ကိုယ်မကွာသော ဥစ္စာ၊ သူ မဆက်ဆံသော ဥစ္စာဟူ၍ နှစ်လိုအပ်၏။ သူတစ်ပါးတို့ နှစ်လိုကြည်ညိုအပ်သော ကိုယ်အဖြစ်ကို ရသောကြောင့်မူလည်း သဒ္ဓါတရားကား နှစ်လိုခြင်းကို ပြုတတ်သောဥစ္စာ မည်သတည်း။ မ,သဒ္ဓါသောသူကား 'တစ်လက်ဘက်ကို ပေးပိမ့်။' ဟု ဆိုအံ့သည် ခဲယဉ်းစွာသတည်း။ ရန်သူနှစ်ပါး ဆိုင်ကြသော စစ်မြေအရပ်၌ သွားဝံ့ခဲ၏သို့ မ,သဒ္ဓါသူကို 'ပေးပိမ့်' ဟူသည်ကို ဆိုခဲစွာသော စကားဟူ၍ မှတ်သတည်း။ ထိုသို့ မ,သဒ္ဓါသူတို့ ဆိုခဲသည်ကို 'သဒ္ဓါသင့်သည်၊ ပေးပိမ့်။' ဟု ဆိုရသည် တကားဟု နှစ်လိုခြင်းကို ပြုတတ်သည်ဖြစ်၍ မြတ်သောဥစ္စာမည်၏ဟု သဗ္ဗညု ဘုရားကား အာဠဝကဘီလူးအား ဖြေတော်မူသတည်း။ ဤကား ရှေးဦးစွာ သော အမေးတစ်ခွန်း၏ အဖြေတည်း။

## အကျင့်ကောင်းဟူသည် ကုသိုလ်တရား

ကုသိုလ်ဆယ်ပါး တရားသည်လျှင် ကောင်းစွာကျင့်အပ်သည်ဖြစ်၍ ကိုယ်၏ ချမ်းသာ၊ နလုံး၏ချမ်းသာကို ဆောင်ပေတတ်၏ဟု ဖြေတော်မူရာ၌သော်ကား အလှူပေးခြင်းကုသိုလ်၊ သီတင်းခြင်းကုသိုလ် စသော ကုသိုလ်ဆယ်ပါး တရားကိုလျှင် ကုသိုလ်မပြုမီ ရှေးဦးသောအခါ ကုသိုလ်ပြုဆဲ ဆဲသောအခါ ကုသိုလ်ပြုပြီးမှ နောင်ပြီးအခါသုံးပါး၌ ကြည်လင်သန့်ရှင်းစွာ ဖြစ်သည်လျှင် ကောင်းစွာ ကျင့်အပ်သည်မည်၏။ ဤသို့ သန့်ရှင်းစွာသော ကုသိုလ်တရား ဆယ်ပါးသည်ကား လူချမ်းသာ၊ နတ်ချမ်းသာ၊ နိဗ္ဗာန်ချမ်းသာတည်းဟူသော

ချမ်းသာသုံးပါးကို ဆောင်တတ်၏။ ဤကား ကုသိုလ်ဆယ်ပါး ချမ်းသာကို ဆောင်တတ်၏ဟု ဖြေတော်မူရာ၌ အကျဉ်းတည်း။ အကျယ်ကား ဤသို့တည်း။

အဘယ်သည်လျှင် ကုသိုလ်ဆယ်ပါးနည်း။

ချမ်းသာသုံးပါးကား အဘယ်နည်း။

ဟု မေးမူကား ဤသို့ ညွှန်ပေ။

(၁) အန္နံပါနံ၊ ဃရံဝတ္ထံ၊
ယာနံမာလာ ဝိလေပနံ။
ဂန္ဓာသေယျာ ပဒီပေယျံ၊
ဒါနဝတ္ထူ ဣမေဒသ။ ။

ဟူသော ဆယ်ပါးကို ဆိုခဲ့ပြီးသောအခါ သုံးမျိုး၌ သန့်ရှင်းစွာ သက်သက် စွန့်ခြင်းသည်ကား အလှူပေးသော ကုသိုလ်။

အန္နံ=ထမင်း၊ ပါနံ=အဖျော်၊ ဃရံ=အိမ်၊ ကျောင်း၊ ဇရပ်၊ ဝတ္ထံ=အဝတ် သက်န်း၊ ယာနံ=ယာဉ်၊ ဖိနပ်၊ မာလာ=ပန်း၊ ဝိလေပနံ=နံ့သာပျောင်း၊ ဂန္ဓာ=နံ့ သာမှုန့်၊ သေယျာ=အိပ်ရာနေရာ၊ ပဒီပေယျံ=ဆီမီး၊ ဒသဒါနဝတ္ထူ=လှူဖွယ် ဝတ္ထုဆယ်ပါး။

(၂) ကိုယ်နှုတ်ဖြင့် အပြစ်ရှိသော ကျင့်ခြင်းကို ရှောင်သည်။ မှားသော အသက်မွေးခြင်းမှ ရှောင်သည်။ ဤသို့ ရှောင်ကြဉ်ခြင်းသည်လျှင် သီတင်းသုံးသော ကုသိုလ်။

(၃) နှလုံးညစ်ခြင်းအကြံကို ပျောက်စေလိုသောကြောင့် ကမ္မဋ္ဌာန်းစီးဖြန်း ခြင်းသည်ကား ဘာဝနာဟူသော ကုသိုလ်။

(၄) အလှူဝတ္ထုဆယ်ပါးကို မိမိပို့ရမည့်သူ ပို့ရည်၍ စွန့်ခြင်းသည်ကား အလှူပို့ဝေသော ကုသိုလ်။

(၅) မင်းကြီး ဝေဿန္တရာ လှူပြီးသည်ကို မဒ္ဒီမိဖုရား အနုမောဒနာ ခေါ်သကဲ့သို့ ဒေဝါနံ ပိယတိဿမင်းကြီး နိဂြောသာမဏေ ကဲ့သို့လည်းကောင်း၊ လှူလေပြီးနောက်၌ ဝမ်းမြောက်စွာ အနုမောဒနာ ခေါ်ခြင်းသည်ကား အနုမောဒနာ ကုသိုလ်။

(၆) ဂုဏ်ကျေးဇူးရှိသသူ မအိမ်သာ ဖြစ်သောအခါ၊ သူတစ်ပါး ကုသိုလ် ကောင်းမှုပြုသောအခါ၊ မိမိလျှင် အဖော်ဖြစ်ပါသည် လုပ်ကျွေးပါသည် ကား အမှုကြီးငယ် ကုသိုလ်။

(၇) ဂုဏ်ကျေးဇူးနှင့်ယှဉ်သော ပုဂ္ဂိုလ်တို့၌ မြတ်နိုးတနာ လေးမြတ်စွာ ပြုသည်ကား အကြီးအား ရိုသေသော ကုသိုလ်။

စပယ်ဦးစာပေ

---

(၈) စီးပွားချမ်းသာရှာသော နှလုံးဖြင့် သူတစ်ပါးအကျိုးစီးပွားရှိအံ့သော တရားကို ဟောပေခြင်းသည်ကား တရားဟောသော ကုသိုလ်။

(၉) နှလုံးမကွက် အကျိုးရှိသတည်းဟု ဆောက်တည်လျက် ကောင်းစွာ တရားတော်ကို နာခြင်းသည်ကား တရားနာသော ကုသိုလ်။

(၁၀) သရဏဂုံ ဆောက်တည်ခြင်း၊ ရတနာသုံးပါး ကျေးဇူးကို အောက်မေ့ခြင်း၊ ကောင်းမှုကုသိုလ်ဟူသမျှကို ချီးမွမ်းထောမနာမှုလျက် နှလုံးရှင်ခြင်းသည်ကား အယူဖြောင့်သော ကုသိုလ်တည်း။

ဤသို့-

(၁) အလှူပေးသည်၊
(၂) သီတင်းသုံးသည်၊
(၃) ဘာဝနာမှုသည်၊
(၄) အလှူပို့ဝေသည်၊
(၅) အနုမောဒနာ ခေါ်သည်၊
(၆) အမှုကြီးငယ် ပြုသည်၊
(၇) အရိုအသေ ပူဇော်သည်၊
(၈) တရားဟောသည်၊
(၉) တရားနာသည်၊
(၁၀) အယူဖြောင့်သည်။

ဤဆယ်ပါးကိုသာလျှင် ကုသိုလ်ဆယ်ပါး တရားဟူသတည်း။ ဤကုသိုလ်ဆယ်ပါး တရားသည်လျှင် ချမ်းသာသုံးပါးကို ဆောင်တတ်ပေ၏။ ချမ်းသာသုံးပါးကား-

(၁) လူချမ်းသာ၊
(၂) နတ်ချမ်းသာ၊
(၃) နိဗ္ဗာန်ချမ်းသာတည်း။

လူချမ်းသာဟူသော်ကား လေးကျွန်းသနင်း စကြာမင်း၏ ချမ်းသာ၊ မဟာသောကမင်းကြီး၏ ချမ်းသာကဲ့သို့ တစ်ကျွန်းလုံးကို အစိုးရသော ဒီပရာဇ်မင်း၏ ချမ်းသာ၊ ထီးဖြူတစ်စင်းဆောင်းသော တိုင်းအလုံးကို အစိုးရသော ပဒေသရာဇ်မင်း၏ ချမ်းသာ၊ ဤကား လူမင်းတို့၏ ချမ်းသာသုံးပါး။

တစ်နေ့တစ်နေ့သော် အတင်း နှစ်ဆယ်မျှလောက် ငွေအသပြာ ဝင်၏။ ထိုမျှလည်းကောင်း၊ အသုံးအစွဲထုတ်သော ခတ္တိယမဟာသာလမည်သော မင်းချမ်း

လည်းကောင်း၊ တစ်နေ့တစ်နေ့သော် ငွေဆယ်တင်း ဝင်၏။ ဆယ်တင်းလည်းကောင်း အသုံးအစွဲ ထုတ်သော ဖြဟ္မဏ မဟာသာလမည်သော ပုဏ္ဏားအ၏ ချမ်းသာလည်းကောင်း၊ တစ်နေ့တစ်နေ့သော် ငွေငါးတင်းဝင်၏။ ငါးတင်းလည်းကောင်း အသုံးအစွဲထုတ်သော ဂဟပတိမဟာသာလဟုတွင်သော အသည်သူကြွယ် ချမ်းသာလည်းကောင်း၊ ဤသို့သော သူကြွယ်ချမ်းသာ သုံးပါး။

ဤသို့လျှင် လူ့အရပ်၌ မင်း၏ချမ်းသာသုံးပါ၊ သူကြွယ်ချမ်းသာ သုံးပါး၊ ဤသို့သော လူ့ချမ်းသာကို ဆိုခဲ့ပြီးသော ကုသိုလ်ဆယ်ပါး တရားကို ကောင်းစွာ ကျင့်သောသူသည် ရ၏။ လူချမ်းသာနှင့် သိကြားနတ်မင်း အစရှိသော နတ်မင်းတို့၏ ချမ်းသာနှင့် နှိုင်းယှဉ်စရာ မရှိ။ ဇမ္ဗူဒီပါကျွန်း သူထက် တာဝတိံသာ နတ်မှာ သုံးပါးလွန်လေ၏။ အသက်ဖြင့်လည်း လွန်လေ၏။ ချမ်းသာခြင်းဖြင့်လည်း လွန်လေ၏။ အစိုးရခြင်းဖြင့်လည်း လွန်လေ၏။

ဘုရားသခင့် လက်တော်နှင့် ကျောက်ခဲတစ်လုံးကို ကိုင်တော်မူ၍ ဆုပ်လောက်ရုံသော ကျောက်ခဲနှင့် ယူဇနာကိုးထောင် လုံးပတ်ရှိသော ဟိမဝန္တာတောင်ကြီးကို အနှိုင်းအဆ မမူအပ်သကဲ့သို့ လူ့ဝယ်ဖြစ်သော စကြဝတေးမင်း ချမ်းသာနှင့်လည်း နတ်ချမ်းသာကို မနှိုင်းယှဉ်ကောင်းသော နတ်မင်းစည်းစိမ်ကိုသော်လည်း ဆိုပြီးသော ကုသိုလ်ဆယ်ပါးတရားကို ကောင်းစွာကျင့်သောသူသည် ရရာသတည်း။

ပဒုမ်ဝတီမိဖုရား သားတော် မဟာပဒုမ မည်သော မင်းကြီးသည်ကား နတ်ချမ်းသာနှင့်တူသော မင်း၏ချမ်းသာကို ခံစားဦး၍ ပစ္စေကဗုဒ္ဓါ ဖြစ်တော်မူသော်လည်း အမြိုက်နိဗ္ဗာန်ချမ်းသာကို ခံစားတော်မူ၏။ အမြိုက်နိဗ္ဗာန်ချမ်းသာကို ခံစားပြီးသော ပုဂ္ဂိုလ်တို့သည် ဘုံသုံးပါး၌ဖြစ်သော လူချမ်းသာ၊ နတ်ချမ်းသာဟူသမျှကို ချမ်းသာ မဟုတ်။ သေတတ်၊ ပျက်တတ်၊ ဆင်းရဲတတ်သည်သာဟု ဆိုခဲ့ပြီးသော လူ့ချမ်းသာ၊ နတ်ချမ်းသာကိုသော်လည်း ငြီးငွေ့လေသည် နှင်နှင်တည်း။

လူသုံးပါးတို့ ချမ်းသာမှတ်သည်ကို 'ချမ်းသာမဟုတ်၊ ဆင်းရဲသာတည်း။' ဟု ငြီးငွေ့လေသော ပုဂ္ဂိုလ်တို့သည် ခံစားသော အမြိုက်နိဗ္ဗာန်ချမ်းသာကို ခံစားပြီးသော ပုဂ္ဂိုလ်တို့သည်သာ ချမ်းသာမှန်း သိသတည်း။ မခံစားရသော ပုထုဇဉ်တို့သည် မသိနိုင်ရာ။ ထိုသို့ မသိနိုင်ရာသော အမြိုက်နိဗ္ဗာန်ချမ်းသာကိုသော်လည်း ကုသိုလ်ဆယ်ပါးတရားကို ကောင်းစွာကျင့်သသူသည် ခံစားရလေရာ၏။ ဤသို့ဆိုပြီးသော အစီအစဉ်အားဖြင့် ကုသိုလ်ဆယ်ပါးတရားသာလျှင် ကောင်းစွာကျင့်အပ်သည်ဖြစ်၍ ကိုယ်ချမ်းသာ၊ နှလုံးချမ်းသာကို ဆောင်ပေတတ်သတည်းဟု အာဠာဝကဘီလူးအား သဗ္ဗညုမြတ်စွာဘုရား ဟောတော်မူပေသတည်း။

စပယ်ဦးစာပေ

ဤကား 'ကိံသုစိဏ္ဏံ သုခမာဝဟာတိ' ဟုလာသည်ကို 'ဓမ္မော သုစိဏ္ဏော သုခမာဝဟာတိ' ဟု ဖြေတော်မူရာ၌ အကျဉ်းအကျယ် ညွှန်ပေရာသော စကားတည်း။

## အရသာဟူသည် သစ္စာတရား

ကိံ သုဟဝေ သာဓုတရံ ရသာနံ' ဟူ၍ မေးသည်ကို 'သစ္စံ ဟဝေ သာဓုတရံ ရသာနံ' ဟု ဖြေတော်မူရာ၌ 'အရသာဟူသမျှတို့တွင် သစ္စာအရသာလျှင် အဟုတ်အဟုတ် စင်စစ် မြိန်စွာ၏။' ဟူသတည်း။

အဘယ်ကား သစ္စာအရသာနည်း။

အရသာဟူသမျှကား အဘယ်နည်း။

အဘယ်သို့ကား မြိန်စွာသနည်းဟူမူ–

အမှန်ဆိုသည်လည်း သစ္စာ၊ မမှန်ကို ရှောင်ကြဉ်သည်လည်း သစ္စာ၊ အမြိုက်နိဗ္ဗာန်ချမ်းသာလည်း ချမ်းသာ၊ ဤသုံးပါးလျှင် သစ္စာအရသာမည်၏။

အရသာဟူသမျှသည်ကား ရူပါရုံ၊ သဒ္ဒါရုံ အစရှိသော အာရုံတို့ကို မြင်ရသော အရသာ၊ ကြားရသော အရသာ၊ စားရသော အရသာ အစရှိသည်တို့ကို ဆိုသတည်း။ ဤအရသာတို့တွင် အမှန်ဆိုသော အရသာ၊ မမှန်ကို ရှောင်ကြဉ်ရသော အရသာ၊ နိဗ္ဗာန် အရပဟတ္တဖိုလ်ချမ်းသာကို ခံစားရသော အရသာ၊ ဤအရသာ သုံးပါးသည်လျှင် မြတ်၏ဟူသတည်း။ မြင်ရသော အရသာ စသည်ကား ကိုယ်၏ သာယာခြင်းကိုလျှင် ပွားစေတတ်သောကြောင့် တပ်ခြင်းနှင့်တကွ ညစ်ညူး၏။ ဤသုံးပါးသော သစ္စာ အရသာသော်ကား ညစ်ညူးခြင်း မရှိသောကြောင့် မြတ်၏။ ဤသို့မြတ်၍ အရသာတို့တွင် သစ္စာ အရသာလျှင် မြတ်၏ဟု ဟောတော်မူသတည်း။ ဤကား အကျဉ်း။

အကျယ်သော်ကား ယောက်ျားတော်တကာတို့ မမှန်ကို ရှောင်ကြဉ်ရာ၏။ အမှန်ကို သုံးစွဲရာ၏။ 'ဤအကျင့်ကို မကွာမကင်းစေအပ်။' ဟု ဘုရားအလောင်း ဝိဓူရဆို၏။ 'မင်းကြီး၏ ကျွန် ငါ ဟုတ်ပေ၏။' ဟူသော စကားအမှန်ကို ဝိဓူရ သုခမိန်ဆိုကတည်းကလျှင် ပါရမီအပြားသုံးဆယ်ကို ဖြည့်ဆည်းရာ၏ဟူ၍လည်း ကျမ်းဆရာတို့ ချီးမွမ်းဖူးသည် ရှိ၏။ သစ္စာနှင့်တူ၍ ကိုးကွယ်ရာ ဖြစ်ဖူးသည်လျှင် မရှိ။ သစ္စာနှင့်တူ၍ အံ့ဖွယ်သရဲသောအကျိုးကို ဆောင်ဖူးသည် မရှိ။

ကပ္ပိနမင်းကြီး တောထွက်သောအခါ မြစ်သုံးတန်ကို သစ္စာစကား သုံးဂါထာဖြင့် မြေပြင်ကဲ့သို့စီးသော မြစ်ပြင်ကို သွားစေနိုင်၏။ ကဏှာဒီပါယန

ရသေ့ကား သစ္စာစကားဖြင့် မြွေဆိပ်ကိုကုစ၍ ဒကာ၏ သားငယ်ကို ရှင်စေ၏။ ငရုံ့နက်ဖစ် (ငရုံ့မျိုး) ဖြစ်သောအခါ ဘုရားလောင်းကား သစ္စာစကားဖြင့် မိုး ခေါင်သည်ကို ထန်စွာရွာစေ၏။ ဘုရားအလောင်း သုပါရဏာမည်သော သင်္ဘော မှူးသည် ဗလဝါမုခ သမုဒ္ဒရာသို့ ကူးလေပြီးသော သင်္ဘောလှေကို သစ္စာစကား ဖြင့် အိမ်လှေကားရင်းသို့တိုင်အောင် ရောက်စေဖူး၏။ သုဝဏ္ဏသျှံဖာတ်၌လည်း သစ္စာစကားဖြင့် မိဘတို့ကို မျက်စိမြင်ပြန်စေ၏။ သိဝရာဇ်မင်းကြီးကို မျက်လုံး နှစ်ဘက်မရှိ။ မျက်ကွင်းချည်းဖြစ်လျက် သစ္စာစကားဖြင့် မျက်စိအသစ်ရပြန်၏။ ဤကား ပါရမီရင့်သော သူမြတ်တို့၌ အံ့ဖွယ်သရဲရောက်သော အကျိုးတည်း။

ဓမ္မာသောကမင်းကြီးလက်ထက် ပြည့်တန်ဆာမတစ်ယောက်သည် မင်းကြီး နှင့်တကွ ပရိသတ်ဗိုလ်ပုံမှောက်၌ သစ္စာစကားဖြင့် မှန်စွာဆို၍ ဂင်္ဂါမြစ်ရေအလုံး ကို အညာသို့ဆန်၍ စီးစေသောဟူ၏။ ဤသို့နှင်နှင် သစ္စာစကားအားဖြင့် ရောက်သောအကျိုးသည် အားရနှစ်သက်စွာ ဖြစ်ရကား သစ္စာကြောင့် အရသာ မြတ်သည်ဆိုလျှင် 'သစ္စာအရသာမြတ်၏။' ဟု ဖြေသတည်း။ ဤသည်ကား ကိံ သုဟဝေ ရသတရံ ရသာနံဟု ဖြေရာ၌ အကျယ်စကားတည်း။

## အသက်မွေးကြောင်းဟူသည် ပညာ

ကထံ ဇီဝိံ ဇီဝိတမာဟု သေဋ္ဌ ဟု မေးသည်ကို 'ပညာဇီဝိံ ဇီဝိတ မာဟု သေဋ္ဌံ။' ဟု ဖြေတော်မူရာ၌သော်ကား အပြစ်အကျိုးကို ခွဲခြမ်းနိုင်ခြင်းဉာဏ်တည်း။ ပညာဖြင့် အသက်မွေး၏ဟူရာ၌သော်ကား အပြစ်ရှိသော မကောင်းသော အလုပ် အကြံ၊ အပြစ်ရှိသော ဆေးဝါးမန္တန်အတတ်ဟူသမျှတို့ကိုလျှင် ကြည့်၍ အပြစ် မရှိ ကျင့်သောသူကား တရားနှင့်လျော်စွာ အသက်မွေးသည်မည်၏။ တရားနှင့် လျော်စွာ အသက်မွေးသောသူကိုလျှင် ပညာဖြင့် အသက်မွေးသူ ဟူသတည်း။

တရားနှင့်မလျော် အသက်ရှင်၏။ တရားကိုကျင့်လျက် သေ၏။ ထိုအသက် ရှင်သသူထက် သေသသူက မြတ်၏။ တရားနှင့်မလျော် အသက်ရှင်သည်တည်း ဖြစ်ရကား အပြစ်အတိရှိ၍ မကောင်းမှုကို ဆည်းပူးလျက် သေ၍ အပါယ်လေးပါး ၌ ဦးမပြူနစ်လေ၍ ဘုရားတို့သော်လည်း ရေတွက်နိုင်ခဲသော ဆင်းရဲကို ခံရလိမ့် သတည်း။ တရားနှင့်မလျော် အသက်ရှင်သောအခါကား အတိုင်းသာ။ ထိုအခါ၌ ပြုသော မကောင်းမှုကြောင့် တစ်မှုကား အတိုင်းမသိသော ဆင်းရဲတာရှည်၏။

ဤသို့ အကြောင်းအကျိုးကို ခွဲခြမ်း၍ သိနိုင်သော ပညာရှိသသူကိုလျှင် ပညာဖြင့် အသက်မွေးသူဟူသတည်း။ 'ဤသို့ အသက်မွေးသူလျှင် မြတ်၏။' ဟု ဖြေတော်မူသတည်း။

(၁) သူ့စီးပွား၊ မိမိစီးပွားကို မသိသသူကား မျက်စိနှစ်ဖက်လုံး ချို့သည် မည်၏။

(၂) မိမိစီးပွားကိုသာ သိ၍ သူ့စီးပွားကို မသိသသူကား မျက်စိတစ်ဖက် ချို့သည် မည်၏။

(၃) နှစ်ပါးစုံကို သိသသူကား မျက်စိနှစ်ဖက် ရှိသည်မည်၏။

ဤသို့ မျက်စိနှစ်ဖက်ရှိသောသူကား လူတော်တည်း။ အိမ်ထောင်အမှုခွဲ လုံ့လ အထအကြွ ရှိသောအကျင့်၊ သရဏဂုံ ဆောက်တည်သောအကျင့်၊ တတ်အားသမျှ လှူဒါန်းပါသော အကျင့်၊ ပဉ္စသီဆောက်တည်သောအကျင့်၊ ဥပုသ် ဆောက်တည်သော အကျင့်၊ ဤသို့ အကျင့်အစရှိသော ဆိုခဲ့ပြီးသော ကုသိုလ်ဆယ်ပါးတရားကိုကျင့်လျက် အသက်မွေးသည်လျှင် ပညာဖြင့် အသက်မွေးသည် မည်သတည်း။

ရဟန်းတုံ့သော်လည်း သီတင်းလေးပါး အစရှိသော သီလဝိသုဒ္ဓိ၊ စိတ္တဝိသုဒ္ဓိ နှစ်ပါးကို ပြီးစေ၍ ဝိပဿနာဉာဏ်ဆယ်ပါးကို စီးဖြန်းသည်လျှင် ပညာဖြင့် အသက်မွေးသည်မည်သတည်း။ ဤသို့လျှင်လည်း လူအကျင့်၊ ရဟန်းအကျင့်ကို ကျင့်၍ အသက်မွေးသောသူလျှင် အသက်မွေးသောသူဟူသမျှထက် မြတ်သည်ဟု သဗ္ဗညုဘုရား ဖြေတော်မူ၏။

ဤကား အမေးလေးခွန်းမေးရာ၌ 'အဘယ်သို့သော အသက်မွေးခြင်းသည် မြတ်သနည်း။' ဟု မေးသည်ကို ဖြေတော်မူသော အကျယ်စကားတည်း။

ရှေးဦး အမေးလေးပါး၊ အဖြေလေးပါး ပြီး၏။

အာဠာဝကၡ မိဘများသည် ကဿပမြတ်စွာဘုရားအထံတော်မှာ ရရှိခဲ့သော အမေးရှစ်ပါး၊ အဖြေရှစ်ပါး ဂါထာများကို မပျောက်အောင် အရကျက်၍ နှုတ်ငုံဆောင်ကာ စောင့်ရှောက်လာခဲ့ကြသည်။ သားဖြစ်သူ အာဠာဝကသည်လည်း ထိုအမေးပြဿနာရှစ်ဂါထာတို့ကို အဖြေနှင့်တကွ မိဘအမွေအဖြစ် ဆက်ခံစောင့်ရှောက်လာခဲ့ကြသည်။ သားဖြစ်သူ အာဠာဝကသည်လည်း ထိုအမေးပြဿနာ ရှစ်ဂါထာတို့ကို အဖြေနှင့်တကွ မိဘအမွေအဖြစ် ဆက်ခံစောင့်ရှောက်လာခဲ့ရာက ကြာသော် မေ့ပျောက်မည်စိုးသောကြောင့် အမေးရှစ်ဂါထာကို ပေရွက်တွင်ရေး၍လည်းကောင်း၊ အဖြေရှစ်ဂါထာကို ပေရွက်တွင်ရေး၍လည်းကောင်း၊ အမေးသန့်သန့်၊ အဖြေသန့်သန့် အက္ခရာတင်လျက် ဆောင်လာခဲ့သည်။

အာဠာဝကသည် ထိုဂါထာများကို မိဘများကဲ့သို့ နှုတ်တက်အာဂုံ ဆောင်နိုင်ခဲ့သော်လည်း ၎င်း၏ ခက်ထန်ကြမ်းကြုတ်မှု၊ ဒေါသစရိုက် အားကြီးမှုတို့

ကြောင့် အချို့ဂါထာများ မေ့ကုန်လေ၏။ ကြာသော် ဂါထာအားလုံး လုံး၀ သတိမရတော့ဘဲ မေ့ကုန်လျှင် မိဘအမွေ ဆုံးရှုံးမည်ဟု စဉ်းစားမိကာ အထက်ပါအတိုင်း မမေ့မပျောက်နိုင်အောင် ပေတွင်ရေး၍ စောင့်ရှောက်ထိန်းသိမ်းလာခဲ့သည်။ ကာလကြာလတ်သော် ပေထုပ်နှစ်ခုအနက်မှ အမေးပုစ္ဆာ ရှစ်ဂါထာ ပေထုပ်သာ ကျန်ပြီး အဖြေရှစ်ဂါထာပါသော ပေထုပ်မှာ လုံး၀ပျောက်ဆုံးသွားလေ၏။

ထို့ကြောင့် အကြောင်းအားလျော်စွာ မမျှော်လင့်ဘဲ ဗုဒ္ဓနှင့်တွေ့ရလေသောအခါ အမေးရှစ်ဂါထာအနက် လေးဂါထာကို ဗုဒ္ဓအား အဖြေခိုင်းလေသည်။ ဗုဒ္ဓ၏ ဖြေဆိုချက်သည် မိမိ ရေးက ကျက်မှတ်သိရှိထားသော အဖြေနှင့် တစ်သားတည်း၊ တစ်ထပ်တည်း၊ တစ်ထေရာတည်း တူညီနေသည်ကို တွေ့ရသောအခါ အတိုင်းမသိ ၀မ်းသာသွားလေသည်။ ကျန်လေးဂါထာ၏ အဖြေကိုလည်း သိလိုစိတ်များ တဘွားဘွား ဖြစ်ပေါ်လာသည်။ ထို့ကြောင့် အာဠာ၀ကသည် ယခင်ပြဿနာမေးစဉ်ကကဲ့သို့ ဗုဒ္ဓအပေါ်၌ အမျက်လည်း မပွား၊ မရိုမသေ မထေလေးစားလည်း မပြုလေဘဲ ဗုဒ္ဓ၏ ရှေ့မှောက်တွင် သက္ကစ္စဂါရ၀ဖြင့် ရိုသေစွာ ဒူးထောက်လျက် ကျန်ရှိသော လေးဂါထာကို ဗုဒ္ဓထံတွင် လျှောက်ထားပြီးလျှင် အဖြေကို တောင်းခံလေသတည်း။

## အာဠာ၀က၏ ဒုတိယအမေးလေးတွေ

(၁) အရှင်ရဟန်း၊ အရှင့်အား အကျွန်ုပ် တောင်းပန်ပါ၏။ အဘယ်သို့သော အကြောင်းကြောင့် အယဉ်ကို ကူးနိုင်ရာပါနည်း။

(၂) အဘယ်သို့သော အကြောင်းကြောင့် သမုဒ္ဒရာဟူသော သံသရာကို ကူးနိုင်အံ့သနည်း။

(၃) အဘယ်သို့သော အကြောင်းကြောင့်ကား ကာမဘုံ၌ဖြစ်သော ဆင်းရဲကို လွန်နိုင်ရာသနည်း။

(၄) အဘယ်သို့သော အကြောင်းကြောင့် စင်ကြယ်ရာသနည်း။

ဤပြဿနာလေးချက်ကို ဗုဒ္ဓထံ တင်ဆက်ပြန်၏။ ဗုဒ္ဓလည်း အာဠာ၀က၏ ခက်ထန်သောစိတ်ကို ဖယောင်းကဲ့သို့ နူးညံ့လာစေခြင်းငှာ သူ့အကြိုက်ကို လိုက်၍ဖြေပေ၏။

ဗုဒ္ဓ၏ ဒုတိယ အဖြေ လေးရပ်

(၁) အာဇ္ဈာဝက၊ သဒ္ဓါကြောင့် အယဉ်ကို ကူးနိုင်၏။

(၂) မမေ့မလျော့သော နှလုံးဖြင့်ကား သမုဒ္ဒရာဟူသော သံသရာကို ကူးနိုင်၏။

(၃) မပျင်းသောသူကား လုံ့လကြောင့် ကာမဘုံဒြဖြစ်သော ဆင်းရဲကို လွန်နိုင်၏။

(၄) ပညာရှိသောသူသည်ကား ပညာကြောင့် စင်ကြယ်၏။

ဤသို့ လေးခွန်းဖြေခြင်း၏ အလိုသော်ကား (၁) သဒ္ဓါရှိသော သူသည် လျှင် သောတာပန်ဖြစ်၍ အယူမှားခြင်းပျောက်၏။ (၂) သောတာပန်ဖြစ်ပြီးတုံ အမေ့အလျော့နေ၍ ခုနစ်ဖြစ်တိုင်အောင် တပြောင်းပြန်ပြန် ဖြစ်လတ္တံ့သော ဖြစ်ဘဝတို့ကို သကဒါဂါမိပုဂ္ဂိုလ်ဖြစ်၍ လွန်၏။ (၃) သကဒါဂါမိပုဂ္ဂိုလ် ဖြစ်ပြီးတုံ ကာမဘုံဒြ မဖြစ်ပြန်လိုပြီဟူသော လုံ့လအားထုတ်ခြင်းဖြင့် အနာဂါမိပုဂ္ဂိုလ် ဖြစ်၍ ကာမဘုံဒြဖြစ်သော ဆင်းရဲကို လွန်နိုင်၏။ (၄) အနာဂါမိပုဂ္ဂိုလ်ဖြစ်၍ မပျောက်နိုင်သေးသော အမိုက်မှောင် အညစ်အကြေးကို အရဟတ္တမဂ်ပညာဖြင့် ရဟန္တာဖြစ်၍ စင်၏။ ဤသို့လျှင် အဓိပ္ပာယ် ယူလိုသတည်း။ ဤအမေးလေးပါး၊ အဖြေလေးပါးကား မင်္ဂလေးတန်ကို ရည်သတည်း။

(၁) သောတာပတ္တိမဂ်ဖြင့်ကား ခန္ဓာငါးပါးကို နှစ်ဆယ်သောအပြားဖြင့် ကိုယ်ဟုမှတ်သော အယူမှားခြင်း ဒိဋ္ဌိအယူကို ဖျောက်၏။ ထို့ကြောင့် သဒ္ဓါသောသူသည် သောတာပန်ဖြစ်၍ သောတာပတ္တိမဂ်ဖြင့်ကား ဒိဋ္ဌောဃမည်သော အယူမှားခြင်း ပျောက်၏။ သောတာပန်ပုဂ္ဂိုလ် သည်တုံ နှလုံးလွတ်၍ မေ့လျော့သည်တည်းဖြစ်မှုကား ခုနစ်ဖြစ်တိုင် လူဖြစ်တုံ၊ နတ်ဖြစ်တုံ တပြောင်းပြန်ပြန် အဖြစ်ဘဝ ကျင်လည် ပြန်ရာ၏။

(၂) မမေ့မလျော့တည်း ဖြစ်မှုကား သကဒါဂါမိပုဂ္ဂိုလ်ဖြစ်၍ ဘဝေါဃ မည်သော အကြိမ်ကြိမ်အဖြစ်ဖြင့် သံသရာအယဉ်ကို သကဒါဂါမိမဂ် ဖြင့် လွန်နိုင်၏။ သကဒါဂါမိပုဂ္ဂိုလ်ဖြစ်ပြီးတုံ အနာဂါမ်ဖြစ်အောင် အားမထုတ်ဘဲ ပျင်းမိချေသည်တည်း ဖြစ်မှုကား ဤလူ့ပြည်သို့ အကြိမ်ကြိမ်ပြန်လာသော် ကာမဘုံဆင်းရဲကို ခံရရာ၏။

(၃) လုံ့လအားထုတ်သော်တစ်မှုကား ကာမောဃမည်သော ကာမဘုံဆင်းရဲ အယဉ်ကို အနာဂါမိမဂ်ဖြင့် လွန်နိုင်၏။

(၄) အနာဂါမိပုဂ္ဂိုလ်သည်တစ်မူကား အရဟတ္တမဂ်ဉာဏ်ဖြင့် အဝိဇ္ဇာဩဃ မည်သော အမိုက်မှောင် အညစ်အကြေးကို စင်နိုင်ရာ၏။

ဤသို့ဖြစ်၍ ဤအမေးအဖြေ လေးပါးကား ဩဃလေးပါးကို ဖျောက်တတ်သော မဂ်လေးပါးကို ရည်သတည်း။ ဤပြဿနာလေးပါးကို ဖြေဆိုသော အဆုံးတွင် အာဠာဝကဘီလူးလည်း အကျွတ်တစ်ဖန် သောတာပန်ဖြစ်၍ အစ မထင်သော ရေးသံသရာအဖြစ်အပျက်များ၌ အိပ်မက်တွင်မျှ မက်ဖူးသည် မရှိရာသော သစ္စာလေးပါးတရားကို သိမြင်လျှင်သတည်း။

ဤပြဿနာတို့၏ တန်ခိုးကား အကျိုးကြီးပေစွ။ ကမ္ဘာပေါ်တွင် နှစ်ယောက်မပြို ဘီလူးကြမ်းကြီးအဖြစ် သူတစ်ဦးတည်း အောင်လံထူခဲ့သော အာဠာဝကသည် ဗုဒ္ဓ၏ထံတော်တွင် ခက်ထန်ကြမ်းကြုတ်သော မာန်တံခွန်ကို လှဲကာ ယဉ်ပါးလိမ္မာ သောတာပန် ဖြစ်သွားရှာပြီတည်း။

အာဠာဝကသည် သက္ကာယဒိဋ္ဌိကိုပယ်၍ သောတာပန်နယ်သို့ ရောက်ရှိလာသောအခါ ဘဝအသစ် ပြောင်းလဲခြင်း မရှိသော်လည်း သူ၏ စိတ်နေသဘောထားမှာကား အသစ်အသစ်ဖြစ်ကာ နူးညံ့ပျော့ပျောင်း ဖယောင်းသားကဲ့သို့ ဖြစ်လာသည်။

အထက်၌ မေးခဲ့သော ပြဿနာရှစ်ချက်ကား ကဿပဘုရားသခင်၏ လက်ထက်က ပြဿနာဖြစ်ရာ ယင်းပြဿနာရပ်များကို ဗုဒ္ဓသည် ကဿပဘုရားသခင်၏အဖြေနှင့် ထပ်တူဖြေဆိုတော်မူသဖြင့် အာဠာဝကသည် ဗုဒ္ဓအား အတိုင်းမသိ ကြည်ညိုလာသည်။ 'ယခု ငါ မေးသော ပြဿနာများကား ပြဿနာဟောင်းများသာ ဖြစ်ပေ၏။ လောကအကျိုးပြု ပြဿနာရပ်များကို ငါ့အသိ၊ ငါ့အတွေးဖြင့် မေးရသော် ကောင်းလေစွ။' ဤသို့ စဉ်းစားမိသည့်အလျောက် ပြဿနာအသစ်များကို ဆက်၍ ဗုဒ္ဓအား မေးလျှောက်ပြန်သတည်း။

## နောက်ဆက်တွဲ အာဠာဝက၏ ပြဿနာငါးရပ်

"ဘုန်းတော်ခြောက်ဆူ၊ အောင်လံထူလျက်၊ ပြိုင်သူကင်းလွတ်၊ အထွတ်ဆုံး အမြတ်ဆုံး ဖြစ်တော်မူသော မြတ်စွာဘုရား၊ ပညာဖြင့် စင်ကြယ်၏ဟု မြတ်ဘုရား ဟောကြားတော်မူပါ၏။ ပညာဖြင့်ပြီးသော အကျိုးတရားကိုလည်း မှတ်ရပါ၏။ တပည့်တော် လျှောက်လိုပါသေးသည်ကား–

(က) ပညာရအံ့သော အကြောင်းကား အဘယ်နည်း။

၁၆ (ခ) လောကီ လောကုတ္တရာဥစ္စာ ရအံ့သော အကြောင်းကား အဘယ် နည်း။

(ဂ) ကျော်စောအံ့သော အကြောင်းကား အဘယ်နည်း။

(ဃ) မိတ်၊ ခင်ပွန်း ရအံ့သော အကြောင်းကား အဘယ်နည်း။

(င) သံသရာ၌ မစိုးရိမ်ရာသော အကြောင်းကား အဘယ်နည်း။

"မှတ်သားဘိ အာဠဝက၊ ပညာရအံ့သော အကြောင်းကား လေးပါး ရှိသတည်း။–

## (က) ပညာ

(၁) ပညာရှိသော သူမြတ်တို့ နိဗ္ဗာန်အလို့ငှာ ဟောသောတရားကိုသော်လည်း သဒ္ဒါ ယုံကြည်၏။

(၂) ထိုတရားကို ကောင်းစွာ နားထောင်၍ နာ၏။

(၃) ကြားပြီးသောတရားကို မမေ့မလျော့ ဆောင်ရာ၏။

(၄) ဆောင်ပြီးသော တရား၏အနက်အဓိပ္ပာယ်ကို စူးစမ်းဆင်ခြင်ရာ၏။

— ဤသို့လျှင် သဒ္ဒါသည် နာခံသည်၊ မှတ်မိသည်၊ ဆင်ခြင်သည်။ ဤအကြောင်းလေးပါးကြောင့် ပညာရရာ၏။ ဤပညာဟူသော်ကား ကြား၍ သိသောပညာ၊ ကြံ၍ သိသောပညာ၊ ဘာဝနာဖြင့် ပြီးသောပညာ ဤသို့သော ပညာအပြားကို ဆိုသတည်း။

## (ခ) ဥစ္စာ

ဘုံသုံးပါး၌ အကျိုးစီးပွားကို သိသည်ကား လောကီပညာမည်၏။ မဂ်ဖိုလ် နိဗ္ဗာန်ရသော်ကား လောကုတ္တရာပညာ မည်၏။

(၁) သင့်တင့်စွာသော အရပ်အရာ ကြိုက်လသော်လည်းကောင်း၊

(၂) သင့်တင့်စွာသော အခါကာလ ကြိုက်လသော်လည်းကောင်း၊

(၃) သင့်တင့်စွာသော အမှီတံကဲ ကြိုက်လသော်လည်းကောင်း၊

လောကီ လောကုတ္တရာ ဥစ္စာရအံ့သောအကြောင့် ဥပါယ်တမျဉ်နှင့်လျော်စွာ ပြုသောအလေ့ ရှိသည်လည်း ဖြစ်စေသော၊ နှလုံးမလျော့ အားမထုတ်သည်လည်း ဖြစ်စေသော၊ အပူအချမ်းခံလျက် လုံ့လထကြွသည်လည်း ဖြစ်စေသော၊ ဤသို့လျှင် ဥပါယ်တမျဉ် သိသည်၊ နှလုံးကို မလျော့ဘဲ ထောင်ထားသည်၊ ကိုယ်ထူကိုယ်ထ လုံ့လကောင်းသည်။ ဤအကြောင်း သုံးပါးကြောင့် လောကီ လောကုတ္တရာ ဥစ္စာ ရရာ၏။

## သင့်တင့်စွာသော အခါကာလ ကြုံကြိုက်လသော်

ကြွက်သေတစ်ခု အရင်းပြု၍ တစ်ချင်ရွေး (ပဲဝက်) ဥစ္စာ ရ၏။ တစ်ချင်ရွေးဖြင့်ကား ရှစ်သပြာရ၏။ ရှစ်သပြာဖြင့်ကား တစ်ဆင့်ခြောက်သပြာ ရ၏။ တစ်ဆယ့်ခြောက်သပြာဖြင့်ကား နှစ်ဆယ့်လေးသပြာ ရ၏။ နှစ်ဆယ့်လေးသပြာဖြင့်ကား တစ်ထောင်ရ၏။ ဤသို့ ပွားစီးသည့် အစီအစဉ်ဖြင့် လေးလအတွင်း ဝယ် နှစ်သိန်းမျှ ပေါက်ပွားသော စူဠသူဌေးကို ဤအကြောင်းသုံးပါးဖြင့် လောကီဥစ္စာ ရသည်ဟူ၏။

လောကုတ္တရာဥစ္စာအတွက်ကိုကား မာလကတိဿမထေရ်ကို သက်သေထူရာ၏။ ထိုမထေရ်၏အကြောင်းကား ဤသို့တည်း။ ထိုမထေရ်သည် လူဖြစ်သောအခါ၌ သူ့အသက်ကို သတ်၍ တံငါမုဆိုးအလုပ်ဖြင့် အသက်မွေး၏။

တစ်နေ့သော် ကွန်၌မိသော ငါးများကို ဖုတ်ကင်၍ စားခဲ့ပြီးနောက် တောအုပ်သို့ ဝင်လေသော် ရေငတ်သဖြင့် ဘုန်းကြီးကျောင်းတစ်ကျောင်းသို့ ဝင်လေ၏။ ရေသောက်အံ့ဟု ရေအိုးကို ဖွင့်၍ ကြည့်လေ၏။ ရေအိုး၌ ရေအပြည့် ရှိပါလျက်ကို သူ့စိတ်တွင်မူ ရေမရှိဟု ထင်လေ၏။ ထိုဆင်းရဲသားသည် ရေမသောက်ရသဖြင့် အမျက်ထွက်ကာ အနီးတွင်ရှိသော အရှင်တစ်ပါးကို "အရှင်၊ အရှင်တို့ကား နေနိုင်ဘိစွ။ လူတို့ လှူဒါန်းသော ဆွမ်းကိုစားကာ အိပ်ကာနေကုန်သည်တကား။ သောက်ရေအိုးတွင် တစ်မှုတ်စာမျှသောရေကိုပင် လောင်းဖော်မရပါတကား။" ဟု ရေမသောက်ရသောကြောင့် စိတ်ပေါက်ပေါက်နှင့် ရဟန်းအား မောင်းမဲခြင်း ပြုလေ၏။

ထိုအခါ ရဟန်းသည် ရေအိုးကို ဖွင့်ကြည့်၏။ "ဒကာ၊ အိုးတွင် ရေအပြည့် ရှိပေ၏။ သင် သောက်ဘိလော့။" ဟူ၍ ကိုယ်တိုင်ခပ်၍ ဆင်းရဲသားအား ရေတိုက်လေသည်။ ထိုဆ[illegible]သားသည် ရေတော်တော်နှင့် နှစ်ခွက်သုံးခွက်နှင့်လောက်အောင် သောက်လိုက်ပြီးနောက် ဤသို့ စဉ်းစားလေ၏။

'သြော်–ငါ့ကြမ္မာကား အယုတ့်ကို ရှန့်ရင်းလေစွ။ မသေခင်ကပင် ငါကား လူပြိတ္တာ ဖြစ်နေပြီကော။ ရေအိုး၌ ရေအပြည့်ရှိပါလျက်ကိုပင် ငါ့ကြမ္မာယုတ်သောကြောင့် အိုးကင်းသဖွယ် ဖြစ်ခဲ့၏။ သေလေပြီး နောင်အခါအဖြစ်သော်ကား အဘယ်ဆိုဖွယ် ရှိတော့မည်နည်း။' ဟု ထိတ်လန့်ခြင်းပြင်းစွာဖြစ်၍ စွဲကိုင်ထားသော လေးမြားလက်နက်များကို စွန့်ပစ်လိုက်ပြီးလျှင် ထိုတောကျောင်းနေ အရှင်သူမြတ်ကို ဒူးတုပ်ရှိခိုးလျက် "အရှင်ဘုရား၊ တပည့်တော်အား ရဟန်းပြုပေးတော်မူပါ" ဟု တောင်းပန်လေသတည်း။

ထိုအခါ အရှင်သူမြတ်က "အသင်ကဲ့သို့သော မုဆိုးတစ်ပိုင်း ရိုင်းလေသူကား ရဟန်းပြုသူလော" ဟူ၍ အမိန့်ရှိလေ၏။ ရဟန်းပြုနိုင်မည့်သူမဟုတ်ဟူသော အဓိပ္ပာယ်ဖြင့် မြွက်ကြားသည့်စကားကို ကြားရသောအခါ ထိုသူဆင်းရဲသည် 'ဤသို့ တွေး၏။ 'ငါ့ကြမ္မာကား ဆိုးလေစွ။ ရဟန်းပြုပေးရန် ပန်ကြားသည်ကို ငါ့အား ရဟန်းပြုပေးလိုဟန် မတူ။ ငါကား ရဟန်းပြုရန် သန္နိဋ္ဌာန် ချပြီးပြီ။ ငါ၏ ဝမ်းရေးအတွက် အထောက်အကူ ပြုလာခဲ့သော လေးမြား လက်နက်များကိုပင် ငါ စွန့်လိုက်ပြီးဖြစ်၏။ အင်း–ငါ့ကြမ္မာနှယ် ဆိုးလေခြင်း။' ဟု သက်ပြင်းကြီးတချချနှင့် ဖြစ်နေပြီးမှ–

"အရှင်သူမြတ်ဘုရား၊ စွန့်ပစ်ပြီးသော လေးမြားလက်နက်တို့ကို အရှင်ဘုရား မြင်တော်မူသည် မဟုတ်ပါလော။ ရဟန်းပြုရန် တပည့်တော် ပိုင်းဖြတ်ပြီးပါပြီ။ တပည့်တော်ကဲ့သို့သောသူကိုမှ ရဟန်းပြုမပေးသော် အဘယ်သူကို ရဟန်းပြုပေးတော်မူမည်နည်း။" ဟု အနူးအညွတ် ထပ်မံတောင်းပန်ချက်ကို လက်ခံ၍ ထိုသူအား ရဟန်းပြုပေးလိုက်၏။ ရဟန်းတော်ဘွဲ့မည် 'မာလကတိဿ' ဟု တွင်သတည်း။

သို့သော် ထိုမာလကတိဿရဟန်းသည် ရှေးလူဖြစ်စဉ်အခါ နှစ်ပေါင်းငါးဆယ်လောက် အလေ့အကျင့်ပြုခဲ့ဖူးသော မုဆိုးအလုပ်၊ တံငါအလုပ်၊ သားကောင်လိုက်မှု၊ ငါးဖမ်းမှုများကို တရေးရေး ထင်မြင်ယောင်ကာသာ နေဘိသောကြောင့် ဆရာသင်ပေးသော ကမ္မဋ္ဌာန်းကို ဖြောင့်ဖြောင့်တန်းတန်း မစီးဖြန်းနိုင်ဘဲ ဖြစ်နေသတည်း။

ထို့ကြောင့်ပင် "အရှင်ဘုရား၊ တပည့်တော် ရဟန်းတရားကို အားမထုတ်နိုင်ပါ။ မကျင့်နိုင်ပါ။" ဟူ၍ ဆရာကို ရှိခိုး၍ ဆို၏။

"မာလကတိဿ၊ သို့ဖြစ်ဘိသော် ထင်းစိမ်းများစွာ ခွေ၍ စုပါဦး။" ဟု ဆရာက ခိုင်း၏။ မာလကတိဿလည်း ဆရာစေခိုင်းသည့်အတိုင်း စိုသော ထင်းများကို ခွေ၍ စုပုံထား၏။

"မာလကတိဿ၊ ဤထင်းပုံကြီးကို မီးတိုက်ဘိလော့။" ဟု ဆရာက ခိုင်းပြန်၏။ မာလကတိဿသည် ဆရာခိုင်းသည့်အတိုင်း ထင်းအစိုပုံကြီးကို မီးတိုက်လေ၏။ သို့သော် စိုသောကြောင့် ထင်းပုံမှာ မီးမလောင်ချေ။

"အရှင်ဘုရား၊ ထင်းပုံကို မီးမစွဲပါဘုရား။" ဟု လျှောက်၏။ ထိုအခါ အရှင်သူမြတ်သည် မြေကို ထက်ဝက်ခွဲ၍ အဝီစိမှ ပိုးစုန်းကြူးမျှလောက်ရှိသည့် မီးကို ယူခဲ့ပြီး ထင်းပုံတွင်းသို့ ပစ်သွင်းလိုက်ရာ ထင်းပုံကြီးမှာ ဟုန်းကနဲ ထ၍ မီးလောင်လေ၏။

"မာလကတိဿ၊ ဤသည်ကိုလျှင် သင် ကြည့်တော့။ အကယ်၍ တံငါ မုဆိုး ဒုစရိုက်အမှုမျိုးကို ပြုခဲ့သော် သို့စဉ်မှုလောက် အရှိန်အဟုန် တောက်လောင် ပြင်းပြလှသည့် အစီစိတ္တ ကျက်ရအံ့။" ဟု ဆေးကိုပြ၍ ကြောက်လန့်စေ၏။ မာလကတိဿသည် သစ်ရွက်ခြောက်များကို လောင်ကျွမ်းလေသည့်အလား ထင်း အစိုပုံကြီးကို အဝီစိမီးက မျိုဝါးကာ ရေ့တွင်မျက်မှောက် ပြာဘဝသို့ ရောက်ရှိ သွားပုံများကို မြင်ရသောအခါ လွန်စွာ ထိတ်လန့် ရွံ့ကြောက်လျက် "အရှင် ဘုရား၊ သာသနာ့ကား ဆင်းရဲဝဋ်မှ အမှန်လွတ်မြောက်စေနိုင်ပါသလား။" ဟူ၍ မေး၏။ ဆရာကလည်း "လွတ်မြောက်စေနိုင်ပေ၏။" ဟု ဆို၏။

ထိုစကားကို ကြားတည်းလျှင် မာလကတိဿမှာ အားတက်လာသည်။ "အရှင်ဘုရား၊ သခင် ဆုံးမတော်မူသောအတိုင်း ဆင်းရဲဝဋ်မှ လွတ်မြောက်စေနိုင် သည် မှန်သော်ကား တပည့်တော်သည် အဘယ်ကြောင့် မကျင့်နိုင်တုံအံ့နည်း။ ဆင်းရဲဝဋ်မှ လွတ်မြောက်အောင် တပည့်တော် ကျင့်အံ့။ အငဲ့အကွက် ရှိအံ့ သည်ဟု တပည့်တော်အပေါ် ထင်မှတ်တော်မမူပါလင့်။" ဟု အာမဘန္တေ ဝန်ခံ လေ၏။

ထိုအခါမှစ၍ မာလကတိဿသည် ဆရာသင်ပေးသော ကမ္မဋ္ဌာန်းကို စီးဖြန်းလျက် ကျောင်းတိုင်းကျောင်းတိုင်း သောက်ရေ၊ ခြေဆေးရေတို့ကို ဝတ် ကုန်အောင် ဆောင်တည်လျက် ကုရိယပုတ်လေးပါးတွင် အိပ်ခြင်း ကုရိယာပုထ် ကို မရှိစေဘဲ အကျင့်ဝတ်ကို ဆောက်တည်လေ၏။ ဤသို့နှင်နှင် အားထုတ်လာခဲ့ သည်မှာ ဆယ်နှစ်ကျော်သတည်း။

တစ်နေ့သ၌ မာလကတိဿသည် သောက်ရေအိုးများကို ရေဖြည့်ရန်အတွက် ရေအိုးကိုထမ်း၍လာခိုက် ကျောင်းပေါ်မှ ကြားလိုက်ရသောအသံကြောင့် ရပ်လျက် နားထောင်မိလေ၏။ အသံကား သာမဏေငယ်အား ဆရာက တရား သင်ပေး နေသောအသံ ဖြစ်၏။

'ဥဋ္ဌာနဝတော သတိမတော၊
သုစိကမ္မဿ နိသမ္မကာရိနော။
သညတဿစ ဓမ္မဇီဝိနော၊
အပ္ပမတ္တဿ ယသော ဘိဝဍ္ဎတိ။ ။

ဥဋ္ဌာနဝတော=ကိုယ်တိုင်ကိုယ်ထ လုံ့လလည်း ရှိထသော၊ သတိမတော= ကောင်းသော အောက်မေ့ခြင်းလည်း ရှိထသော၊ သုစိကမ္မဿ=အပြစ်မဲ့သော အမှုအကျင့်လည်း ရှိထသော၊ နိသမ္မကာရိနော=စူးစမ်းဆင်ခြင်၍သာ ပြုမူခြင်း

အလေ့လည်း ရှိထသော၊ သညတသ=သိတင်းစောင့်သုံးခြင်းအလေ့လည်း ရှိထသော၊ ဓမ္မဇီဝိနော=တရားနှင့်လျော်သော အသက်မွေးခြင်းအလေ့လည်း ရှိထသော၊ အပ္ပမတ္တဿ=မမေ့လျော့သောသူအား၊ ယသော=စည်းစိမ်ချမ်းသာသည်၊ အဘိဝဍ္ဍတိ=လွန်စွာပွားစီးရာ၏။

မာလကတိဿသည် ရေအိုးထမ်း၍ ရပ်လျက်မှ ထိုအသံကိုကြားလျှင် စဉ်းစားလေသည်။ 'ဤသို့သော ဂါထာကို မြတ်စွာဘုရား ဟောတော်မူသည်ကား–

ငါကဲ့သို့သောသူကို ရည်၍ ဟောတော်မူသည် ဖြစ်လတ္တံ့။–

ကိုယ်ထူကိုယ်ထ လုံ့လရှိသောသူဟူသည်လည်း ငါနှင့်တူသောသူလျှင် ဖြစ်အံ့သတည်း။–

ကောင်းစွာ အောက်မေ့ခြင်း သတိရှိသောသူဟူသည်လည်း ငါနှင့်တူသောသူသည်လျှင် ဖြစ်ရာ၏'

ဤသို့နှင်နှင် ဂါထာအနက်ကုန်အောင် မိမိကိုယ်၌ ရှိကောင်းသည်ချည်း ဖြစ်စေ၏။

ဤသို့ ဂါထာတစ်ပုဒ်လုံးအနက်ကို မိမိကိုယ်၌ ဆောင်စဉ်လျှင် ရေအိုးကို ထမ်းထားလျက်မှ နေရာမလှဲ သောတာပန် အစရှိသော အကျွတ်သုံးတန်ကျွတ်၍ အနာဂါမ် ဖြစ်လေသတည်း။

ဤမာလကတိဿမထေရ်ကား ဆင်းရဲမှလွတ်မြောက်စေနိုင်သော ဘုရားသခင် သာသနာအခါကို 'သင့်တင့်စွာ အခါတည်း' ဟု သိ၍ ဆင်းရဲမှ လွတ်မြောက်အောင် လုံ့လမလျှော့ဘဲ အားထုတ်၍ ဝတ်ကြီးဝတ်ငယ်ဖြည့်သော ကိုယ်အလေ့ရှိလျက် အလွန်ရခဲစွာသော လောကုတ္တရာဥစ္စာကို ရသတည်း။

ထို့ကြောင့် ဥစ္စာရအံ့သောအကြောင်းကို အာဠာဝကဘီလူး မေးလတ်ရကား သင့်တင့်သော အရပ်၊ အခါ၊ အမှီ စသော ရအံ့သော အကြောင်းဥပါယ်တမျဉ်ကို သိ၍ နှလုံးမလျှော့ အားထုတ်သည့် ကိုယ်ထူကိုယ်ထ လုံ့လရှိသည်။ 'ဤသို့သော သုံးပါးသော အကြောင်းကြောင့် ဥစ္စာရသည်။' ဟု ဖြေတော်မူသတည်း။

## (ဂ) ကျော်စောခြင်း

စကားမှန်ကို ဆိုသဖြင့်ကား 'အဟုတ်အဟတ် အမှန်အကန်ကိုသာ ဆိုသောသူ' ဟူ၍ ကျော်စောရာ၏။ နိဗ္ဗာန် အရဟတ္တဖိုလ်ဟူသော ပရမတ္ထသစ္စာအားဖြင့်သော်လည်း ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ အရိယာဟု ကျော်စောရာ၏။

စကားအမှန်ကို ဆိုသဖြင့်ဟူရာ၌ အမှန်စကားဟူသည်ကား အာရုံခြောက်

ပါးကို မြင်တိုင်း၊ ကြားတိုင်း၊ သိတိုင်း မမြင်၊ မကြား၊ မသိသော အတိုင်း ဆိုသည်ကိုလျှင် အမှန်ဆိုသသူ ဟူသတည်း။

အဟုတ်ကို အဟုတ်အတိုင်းပင်ဆိုအံ့ဟု မဆိုမီက ဆောက်တည်သည်လည်း အဓိဋ္ဌာန်။ မဟုတ်ကို မဟုတ်အတိုင်းပင် ဆိုအံ့ဟု မဆိုမီက ဆောက်တည်သည်လည်း အဓိဋ္ဌာန်။ ဟုတ်တိုင်း၊ မဟုတ်တိုင်း ဆိုသည်ကား သစ္စာ။ ဤကား အဓိဋ္ဌာန်သစ္စာနှစ်ပါး အထူးတည်း။

ဘုရားအလောင်း ဝိဓူရပညာရှိသော်ကား 'အကျွန်ုပ်သည် အရှင်၏ ကျွန်ဟုတ်ပေ၏။' ဟု စကားမှန်တစ်ခွန်းကိုဆိုသဖြင့် ပါရမီအပြားသုံးဆယ်ကိုဖြည့်လျက် ဆိုတော်မူသည် မည်သောဟူ၏။ အဘယ်သို့ဖြည့်သည်မည်အံ့သနည်းဟူမူကား–

(၁) ဥစ္စာစည်းစိမ်၊ ခြေလက်အင်္ဂါကြီးငယ်၊ အသက်ရှည်ခြင်း၊ ဤသုံးပါးကို စွန့်တော်မူ၍ ကျေးဇူးရှင်မင်းကြီးကို ဝန်မဖြစ်စေဘဲ ဆိုခြင်းသည်လျှင် ဒါနပါရမီကို ဖြည့်သည် မည်၏။

(၂) မုသားမှ ရှောင်ကြဉ်လျက် ဆိုတုံသည်ကား သီလပါရမီ ဖြည့်သည် မည်၏။

(၃) အထွေအပြား စဉ်းလဲမှုဆိုအံ့သော အမှုကြမ်းမှ ထွက်သည်မည်သောကြောင့် နိက္ခမပါရမီ ဖြည့်သည် မည်၏။

(၄) အကျိုးအပြစ်ကို စူးစမ်း၍ ဆိုသောကြောင့် ပညာပါရမီကို ဖြည့်သည် မည်၏။

(၅) ဤသည့် သူ့ကျွန် ငါ အဘယ်သို့ ဖြစ်လိမ့်နည်းဟု နှလုံးမလျှော့သဖြင့်ကား ဝီရိယပါရမီကို ဖြည့်သည် မည်၏။

(၆) အစိုးရလေပြီးကား ကလူလိုသရွေ့ ကလူအံ့သည်သာဟု ဖြစ်လတ္တံ့သော ဆင်းရဲကိုသိလျက် အောင့်အည်း၍ ဆိုသဖြင့်ကား ခန္တီပါရမီ ဖြည့်သည် မည်၏။

(၇) အမှန်စင်စစ် ဆိုသည် ဖြစ်သောကြောင့်ကား သစ္စာပါရမီကို ဖြည့်သည် မည်၏။

(၈) မဟုတ်တိုင်းကို ငါ မဆို၊ အဟုတ်ကိုသာ ငါ ဆိုအံ့ဟု ဆောက်တည်သည် မှန်သောကြောင့် အဓိဋ္ဌာန်ပါရမီကို ဖြည့်သည် မည်၏။

(၉) ငါ့သခင်မင်းကြီးနှင့် ဆန့်ကျင်ဘက်ဟု အမျက်မရှိ ဆိုတုံသောကြောင့် မေတ္တာပါရမီကို ဖြည့်သည် မည်၏။

(၁၀) ဤသူ ငါ့ကို ရလေ၍ အလိုရှိရာ ပြုပစေကာမူတုံ ဖြစ်ကောင်းသရွေ့ ဖြစ်ပစေကာမူ မင်းကြီး အချစ်ကိုမူလည်း မလိုက်၊ ဘီလူး ညှဉ်းဆဲ လတ္တံ့သည်ကိုမူလည်း မကြောက်၊ အလယ်တည့်စွာသောကြောင့် ဥပေက္ခာပါရမီကို ဖြည့်သည်မည်၏။

ဤဆယ်ပါးကား အကျွန် ဟုတ်ပေ၏ဟူသော စကားတစ်ခွန်းကိုဆိုသော ခဏာလျှင် ပြီးသတည်း။ ဥစ္စာစည်းစိမ်ကိုစွန့်၍ ဆယ်ပါးပါရမီကို ဖြည့်သည်မည်သော ကြောင့် ပါရမီဆယ်ပါး ဖြစ်၏။ ခြေလက်အင်္ဂါကိုစွန့်၍ ဆယ်ကြိမ်ဖြည့်သည် မည်သောကြောင့် ဥပပါရမီဆယ်ပါးလည်း ရကောင်း၏။ ကိုယ်အသက်ကိုစွန့်၍ ဆယ်ပါးပါရမီကို ဖြည့်သည်မည်သော်ကြောင့် ပရမတ္ထပါရမီဆယ်ပါးကို ရကောင်း ၏။

ဤသို့လျှင် စကားတစ်ခွန်းဖြင့် ပါရမီအပြားသုံးဆယ်ကို ဖြည့်သည်မည်၏ ဟူသတည်း။ ဤသို့သောအားဖြင့် သစ္စာအကျိုးများသည်ဖြစ်၍ သစ္စာအားဖြင့် ကျော်စောရာ၏ဟု ဖြေတော်မူသတည်း။

## (ဃ) မိတ်ခင်ပွန်း

– မိတ်ဆွေခင်ပွန်း ဖြစ်စေလိုမူကား ပေးကမ်းရာ၏။

– ပေးကမ်းခြင်းသည် မိတ်ဆွေခင်ပွန်း ရအံ့သောအကြောင်းအကျင့်တည်း။

ပေးကမ်း၏ ဟူသော်တစ်မူကား သူတောင်းသောအတိုင်းမူလည်း ပေးရာ၏။ မိမိ မရက်မစက်သော ဥစ္စာကိုလည်း ပေးရာ၏။ ချစ်ဖွယ်ဆိုသည်၊ စီးပွားကျင့်သည်၊ မြတ်နိုးတနာအရာ အတူးပြုသည်။ ဤသုံးပါး သော သင်္ဂြိုဟ်ခြင်းအကျင့်နှင့်တကွ ပေးအပ်သောဥစ္စာကို ပေးကမ်းသောသူသည်လျှင် မိတ်ဆွေခင်ပွန်း ရ၏။

(၁) ဤသို့လျှင်တည်း အကြောင်းလေးပါးကြောင့် ပညာရရာ၏။

(၂) အကြောင်းသုံးပါးကြောင့် ဥစ္စာရရာ၏။

(၃) သစ္စာဖြင့် ကျော်စောရာ၏။

(၄) အပေးအကမ်းကြောင့် မိတ်ခင်ပွန်းရရာ၏။

ဟု အဖြေလေးပါးကို ဖြေတော်မူပြီးမဟ သံသရာအဖြစ်ဘဝသို့ရောက်၍ မငြိမ်းရာ သောအမေးကို ဖြေတော်မူပေတုံ၏။

"အာဠာဝက၊ ဤငါဆိုခဲ့ပြီးသော ကျော်စောအံ့သည် အကြောင်းသစ္စာ၊ စင်ကြယ်အံ့သောအကြောင်း ပညာ၊ ဥစ္စာရအံ့သောအကြောင်း လုံ့လ၊ မိတ်ခင်ပွန်း ရအံ့သောအကြောင်း အပေးအကမ်းစွန့်ကြဲခြင်း၊ ဤတရားလေးပါးတို့ကို အကြင်သူ

သည် ပြည့်စုံအောင်ကျင့်၏။ သဒ္ဓါဥစ္စာ မြတ်မည်ဟုဆိုခဲ့ပြီးသော သဒ္ဓါတရားဥစ္စာနှင့်တကွဖြစ်လျက် အိမ်ရာထောင်သော လူတို့ဘောင်၌ နေသောသူသည်ကား ဤတရားလေးပါးနှင့်ပြည့်စုံလျက် အဆက်ဆက်သော သံသရာဘဝသို့ ရောက်သော်လည်း မစိုးရိမ်ရာပြီ။"

အဓိပ္ပာယ်ကား လူဟူသမျှလျှင် သံသရာဘဝ၌ မစိုးရိမ်ရာသောအကြောင်းကား:-

(၁) သဒ္ဓါခြင်းနှင့်တကွ စကားမှန်သည်။
(၂) အကျိုးအကြောင်းသိသော ပညာ ရှိသည်။
(၃) ကောင်းသော လုံ့လ ရှိသည်။
(၄) အပေးအကမ်း စွန့်ကြဲခြင်း ရှိသည်။

ဤအကျင့်လေးပါးလျှင် မစိုးရိမ်အံ့သောအကြောင်းဟု ဖြေတော်မူသတည်း။

(၁) ဤသို့လျှင် 'အဘယ်သို့သော အခြင်းအရာဖြင့် ပညာ ရရာသနည်း။' ဟု မေးသည်ကို ယုံကြည်သည်၊ နားထောင်၍ နာသည်၊ ကြားသည်ကို မမေ့မလျော့ မှတ်မိသည်။ မှတ်မိသည်ကို အနက်အဓိပ္ပာယ် အဆုံးအဖြတ်ရအောင် ဆင်ခြင်သည်။ ဤသို့သော အကြောင်းလေးပါးကြောင့် ပညာရရာ၏ဟု ဖြေတော်မူပေသည်။
(၂) 'အဘယ်သို့သောအကြောင်းဖြင့် ဥစ္စာရရာသနည်း။' ဟု မေးသည်ကို ဥစ္စာရအံ့သောအကြောင်း ဥပါယ်တမျဉ်ကို သိသည်။ နှလုံးမည့် (ဆုတ်နစ်ခြင်း မရှိ) အားထုတ်သည်။ ကိုယ်ထ လုံ့လ ရှိသည်။ ဤသုံးပါးသောအကြောင်းအားဖြင့် ဥစ္စာရရာ၏ဟု ဖြေတော်မူပေသည်။
(၃) 'အဘယ်သို့သော အခြင်းအရာဖြင့် ကျော်စောရာသနည်း။' မေးသည်ကို စကားမှန်သဖြင့် ကျော်စောရာ၏ဟု ဖြေတော်မူပေသည်။
(၄) 'အဘယ်သို့သော အခြင်းဖြင့် မိတ်ခင်ပွန်း ရရာသနည်း။' မေးသည်ကို ပေးကမ်းခြင်းဖြင့် ရရာ၏ဟု ဖြေတော်မူပေသည်။
(၅) သံသရာသို့ရောက်၍ 'အဘယ်သို့သော အကြောင်းဖြင့် မစိုးရိမ်ရာသနည်း'ဟု မေးသည်ကို သဒ္ဓါကြည်ညိုသောသူသည် သစ္စာ၊ ပညာ၊ လုံ့လ၊ စွန့်ကြဲခြင်း၊ ဤတရားလေးပါးကြောင့် သံသရာ အဆက်ဆက်၌ မစိုးရိမ်ရပြီဟု ဖြေတော်မူပေသည်။

စပယ်ဦးစာပေ

ဤသို့ အမေးငါးပါးကို အဖြေငါးပါးဖြင့် ဖြေတော်မူပြီးမှ ပစ္စုပ္ပန် သံသရာအကျိုးကို နားဝင်လေပြီးသောအဖြစ်ကို သိတော်မူ၍ အာဠ္ဌဝကဘီလူး ကို ဤသို့ တိုက်တွန်းနှိုးဆော်တော်မူသတည်း။

"အာဠ္ဌဝက၊ ငါ ယခုဖြေပြီးသော ပညာ၊ စွန့်ကြဲခြင်း၊ လုံ့လ၊ သစ္စာ ဤ လေးပါးမှတစ်ပါး သံသရာ၌ မစိုးရိမ်အံ့သောအကြောင်း ရှိသေးနိုးမူကား ငါ သဗ္ဗညုဘုရားဟု မိမိကိုယ်ကိုဝန်ခံသော အပါးများစွာရှိသော ရဟန်း၊ ပုဏ္ဏားတို့ ကိုလည်း အမေး ငါ တိုက်တွန်း၏။ သံသရာ၌ မစိုးရိမ်အံ့သောအကြောင်းကို ဘီလူး မေးပါဦးလော့" ဟု မေးရန် တိုက်တွန်းတော်မူ၏။

ဆိုလိုသည်မှာ အာဠ္ဌဝက၊ သင်၏ မေးမြန်းချက်အရ သံသရာတစ်ခွင် မည်သို့ပင် ကျင်လည်ရစေဦးတော့။ စိုးရိမ်ကြောင့်ကြ၊ ပူပင်သောကရောက်စရာ မရှိသော အကြောင်းလေးချက်ကို ငါ ဖြေခဲ့ပြီ။ ဤလေးချက်မှတစ်ပါး စိုးရိမ်စရာ များ ရှိသေးခဲ့ပါမူ လောကတစ်လွှားတွင် ဘုရားဟု အမည်ခံနေသူများထံ ချဉ်း ကပ်၍ သင် မေးကြည့်ပါလေဦးဟု ငါ တိုက်တွန်း၏ဟူလို။

သောတာပန်ပုဂ္ဂိုလ်မည်သည်ကား ခန္ဓာငါးပါးကို နှစ်ဆယ်သောအပြားဖြင့် 'မိမိကိုယ်' ဟု မှတ်ထင်သော သက္ကာယဒိဋ္ဌိလည်း မရှိ။ အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန်၊ ကာလသုံးပါး၌ ယုံမှားရှိလေရာသော တစ်ဆယ့်ခြောက်ပါး ယုံမှားခြင်း လည်း မရှိ။ ဤသို့သော အယူမှားခြင်းလည်း မရှိရာပြီဖြစ်၍ အာဠ္ဌဝကဘီလူး လည်း သောတာပန် ဖြစ်ခဲ့ရကား ယုံမှားမရှိပြီးသောအကြောင်းကို နားတော် လျှောက်တုံ၏။

"အရှင်ဘုရား၊ ပစ္စုပ္ပန်၊ သံသရာ စီးပွားသောအကြောင်းကို ဟောတော်မူ သည်ကိုကြား၍ ယခုနေ့ကို အစမူ၍လျှင် ယုံမှားမရှိ။ အကျွန် သိရပြီ။ ဤသို့ သိပြီးသော အကျွန်ုပ်သည် အဘယ်သို့ ယုံမှားခြင်းဖြစ်၍ သူတစ်ပါးကို မေးလတ္တံ့ အံ့နည်း။ အကျွန် မေးဖွယ်မရှိလေပြီ။" ဟု လျှောက်၏။

ဤသို့ လျှောက်ထားပြီးနောက် အာဠ္ဌဝကသည် ကျေးဇူးတရားကို စဉ်း စားလေသည်။ ရှေးအခါက အမိုက်မှောင်ဖုံး၍ လုံးဝမသိနားမလည်ခဲ့သော ပစ္စုပ္ပန်စီးပွားအကြောင်း၊ သံသရာစီးပွားအကြောင်းများကို ယခု ငါ သိရပြီ။ ဤသို့ သိရခြင်းမှာ ဗုဒ္ဓကြောင့် ဖြစ်၏။ ဗုဒ္ဓ ဟောပြောတော်မူချက်အရ ပြက်ပြက်ထင်ထင် ငါ မြင်လာရ၏။ ဗုဒ္ဓ၏ ကျေးဇူးတရားကား ကြီးမားပေစွ ဟု ဝမ်းမြောက်ရွှင်မြူး ဥဒါန်းကျူးစကားဖြင့် နားတော်လျှောက်သည်ကား–

"အရှင်ဘုရား၊ အကြင်ပုဂ္ဂိုလ်ကား လှူရသောအကျိုးများ၏။ ထိုသို့

များသောအကျိုးကို ဖြစ်စေတတ်သည်ကား အရှင်မြတ်စွာလျှင်တည်းဟု ယနေ့ကစ၍ အကျွန် သိရပြီ။ ဤသို့သိရသော အကျွန်ုပ်၏ အကျိုးဌာသာလျှင် ဤ အာဠဝီ ပြည်သို့ ကြွတော်မူပေသည်ကား ဘုရားမြတ်စွာ အာဠဝီပြည်သို့လာခြင်းကြောင့် သိရခဲသောတရားကို သိရပေသည်တကား။" ဟူပေ၏။

ဗုဒ္ဓသမိုင်းတွင် အောင်နိုင်ခဲလှစွာသော ထူးခြားသော အောင်ပွဲကြီးရှစ်မျိုး အနက် အာဠာဝကဟူသော အမည်သညာ တစ်ခုပါ၏။ ထိုအာဠာဝကဟူသော အမည်ကား လူအမည်မဟုတ်၊ နတ်ဗြဟ္မာအမည်မဟုတ်၊ ဘီလူး၏ အမည်တည်း။

ထိုဘီလူးကား ယခု ဗုဒ္ဓနှင့် ရင်ဆိုင်တွေ့နေရသော ဘီလူးတည်း။ အာဠာဝကဘီလူးသည် အဘယ်မျှပင် ခက်ထန်ကြမ်းကြုတ်စေကာမူလည်း ဗုဒ္ဓက သွန်းလောင်းပက်ဖျန်းလိုက်သော မေတ္တာရေချမ်းစင်အောက်တွင် ဒူးထောက်ကာ နူးညံ့စွာသော ဘီလူးလိမ္မာကြီး ဖြစ်လာသတည်း။

ဤအာဠာဝက၏ အတ္ထုပ္ပတ္တိသမိုင်းကြောင်းကို ကြည့်ခြင်းအားဖြင့် ကဿပ ဘုရားသခင်၏ ဒေသနာတော် ပြဿနာရှစ်ချက်သည် ဤဂေါတမဗုဒ္ဓသာသနာ တော်တိုင်အောင် အရောင်တလက်လက်၊ ပြက်ပြက်ထင်ထင် လင်းထိန်လျက် ရှိကြောင်း တွေ့ရ၏။ ကဿပရှင်တော်မြတ်ဘုရားသည် နောင်သောအခါ ဗုဒ္ဓ ဂေါတမလက်ထက်၌ အလွန်ကြမ်းကြုတ်သော ဘီလူးကြီး အာဠာဝက သောင်း ကျန်းလိမ့်မည်။ ထိုဘီလူးကြီးအာဠာဝကသည် ငါ၏ ပြဿနာရှစ်ချက်ကို ဂေါတမ ဘုရားအား မေးလျှောက်သောအခါ အာဠာဝကသည် ရှိုင်းရာမှ ယဉ်ပါးလာပြီး သောတာပန်ဖြစ်၍ ကျွတ်တမ်းဝင်လိမ့်မည်ဟူ၍ ဗျာဒိတ်တော် ထားခဲ့ယောင်ပေ တကား။



## ဇနီးလိမ္မာ၊ ဖြစ်စိမ့်ငှာ
## မြတ်စွာ မည်သူ့ကို ဟောသနည်း

**ပြဿနာ = သမီးပျိုများ**
**မေးလျှောက်သူ = ဥဂ္ဂဟသူဌေး**

ဥဂ္ဂဟသည် နာမည်ကျော် မေဏ္ဍကသူဌေးကြီး၏မြေး ဖြစ်၏။ မေဏ္ဍကသူဌေးကြီး၏သမီးက မွေးသောသား၊ သို့မဟုတ် မေဏ္ဍကသူဌေးကြီး၏သားက မွေးသောသားဟူ၍ ခွဲခြား၍မဆို။ မေဏ္ဍကသူဌေး၏မြေးဟူ၍ သာမန်မျှသာ ဆိုပေ၏။

ထိုမေဏ္ဍကသူဌေးကြီး၏ မြေးဖြစ်သူ ဥဂ္ဂဟ၌ သမီးများရှိလေရာ ထိုသမီးများအနက် အချို့က အပျိုပေါက်၊ အချို့က အပျိုကြီးဖားဖား အရွယ်လောက်ရောက်လာကြပြီ ဖြစ်၏။ ဖခင်ဖြစ်သူသည် သီးချိန်တန်သီး၊ ပွင့်ချိန်တန်ပွင့် ဆိုသကဲ့သို့ သမီးများ အရွယ်ရောက်လာလေလေ သမီးတစ်ကောင် နွားတစ်ထောင်ဆိုသောအတိုင်း သမီးများ အိမ်ထောင်ရေးအတွက် သောကမအေး နေ့စဉ်နှင့်အမျှ ရင်တလေးလေးနှင့် ရှိနေရ၏။

အခါတစ်ပါး၌ မြတ်ဗုဒ္ဓသည် ဘဒ္ဒိယမြို့သို့ ရောက်လာပြီး မုလေးတော၌ သီတင်းသုံးနေတော်မူ၏။ သမီးပျိုများ၏ နောင်ရေးအတွက် သောကမအေး တအုံနွေးနွေး ဖြစ်နေသော ဥဂ္ဂဟသည် ဘုရားသခင်၏ထံတော်သို့ သွားရောက်ချဉ်းကပ်ပြီး ဘုရားသခင်အပါအဝင် သံဃာငါးပါးကို မိမိအိမ်သို့ ဆွမ်းအလှူခံကြွတော်မူပါရန် ပင့်လျှောက်လေသည်ကို ဗုဒ္ဓက လက်ခံတော်မူ၏။

နောက်တစ်နေ့တွင် မြတ်ဗုဒ္ဓသည် သံဃာလေးပါးရံလျက် ဥဂ္ဂဟအိမ်သို့ ကြွတော်မူ၏။ ဥဂ္ဂဟလည်း ဘုရားအမှူးရှိသော သံဃာတော်များအား မိမိကိုယ်တိုင် ရိုသေစွာ လုပ်ကျွေးခြင်းပြု၍ ဆွမ်းစားခြင်းကိစ္စ ပြီးလေသောအခါ မိမိသမီး

များကိုခေါ်ပြီး ဗုဒ္ဓအား ရိုသေစွာ ရှိခိုးစေ၏။ ထိုအခါ ဥဂ္ဂဟသည် ဗုဒ္ဓအား ဤသို့ လျှောက်ထားသတည်း။

"အရှင်ဘုရား၊ ဤသတို့သမီးများသည် တပည့်တော်၏ သမီးများ ဖြစ်ပါသည်။ သူတို့သည် တစ်နေ့သောအခါတွင် လင်ယောက်ျားအိမ်သို့ လိုက်ကြရမည် ဖြစ်ပါ၏။ အရှင်ဘုရား၊ တပည့်တော် တောင်းပန်ပါ၏။ တပည့်တော်၏ သမီးများကို လိမ္မာရေးခြားရှိအောင် သွန်သင်တော်မူပါ။ ဆုံးမတော်မူပါ။ မြတ်ဘုရား၏ သွန်သင်ဆုံးမ၊ ဩဝါဒပေးခြင်းသည် သမီးများအဖို့ ကာလကြာမြင့်စွာ စီးပွားဖြစ်ထွန်းရန်အတွက်၊ ချမ်းသာရန်အတွက် ဖြစ်လိုပါ၏။" ဟု သမီးပျိုများ၏ နောင်ရေးကို စိတ်အေးရအောင် ဗုဒ္ဓထံ ဩဝါဒ ခံယူလေ၏။

ထိုအခါ မြတ်ဗုဒ္ဓသည် ဖခင်ဖြစ်သူ ဥဂ္ဂဟ၏ တောင်းပန်ချက်အရ ထိုသမီးပျိုများအား အိမ်ထောင်တစ်ခု၏ စီးပွားဖြစ်ထွန်းမှု၊ ချမ်းသာမှုအတွက် လိုက်နာရမည့်အချက်များကိုပြ၍ ဆုံးမတော်မူသည်ကား–

"သတို့သမီးတို့၊ သင်တို့ဖခင်က သင်တို့၏ ကောင်းကျိုးကိုမျှော်ကိုး၍ ငါ့အား လျှောက်ထားသောကြောင့် ဤအိမ်ထောင်မှုအရာ၌ သင်တို့ ဤသို့ ကျင့်ကြလေကုန်။–

(၁) ငါတို့သည် အိပ်သောအခါ လင်ယောက်ျား၏ ရှေးဦးစွာ ထလေ့ရှိသူ၊
–အိပ်ရာမှ ထသောအခါ လင်ယောက်ျား၏ နောက်မှ ထလေ့ရှိသူ၊
–အဘယ်အရာကို ပြုရအံ့နည်းဟု နာခံလေ့ရှိသူ၊
နှစ်ခြိုက်ဖွယ် ပြုလုပ်လေ့ရှိသူ၊
–ချစ်ခင်ဖွယ်စကားကို ဆိုလေ့ရှိသူတို့ ဖြစ်ကုန်အံ့။ ဟု သင်တို့ ဤအတိုင်းသာ ကျင့်ကြရမည်။–

သတို့သမီးတို့၊ ထို့ပြင် ဤသို့ ကျင့်ကြရမည်။

(၂) မိမိခင်ပွန်း လင်က ရိုသေလေးစားအပ်သည့် အမိ၊ အဖ၊ သမဏ၊ ဗြာဟ္မဏဖြစ်သော ပုဂ္ဂိုလ်တို့ကို အရိုအသေပြုကုန်အံ့၊ မြတ်နိုးကုန်အံ့၊ ပူဇော်ကုန်အံ့၊ မိမိထံသို့လာသူတို့ကိုလည်း နေရာထိုင်ခင်းပေးခြင်း၊ ရေတည်ခြင်းဖြင့် ပူဇော်ကုန်အံ့။ ဟု သင်တို့သည် ဤအတိုင်းသာ ကျင့်ကြရမည်။–

သတို့သမီးတို့၊ ထို့ပြင် ဤသို့လည်း ကျင့်ကြရမည်။

(၃) လင်ယောက်ျား၏ အိမ်တွင်းမှုတို့၌ ကျွမ်းကျင်၍ မပျင်းရိဘဲ ထို အိမ်တွင်း၌ အကြောင်းဥပါယ်ဖြစ်သော စူးစမ်းမှုပညာနှင့် ပြည့်စုံ သည့်ပြင် ကိုယ်တိုင်ပြုလုပ်ရန်၊ စီမံရန် စွမ်းနိုင်သူ ဖြစ်ကုန်အံ့။ ဟု သင်တို့သည် ဤအတိုင်းသာလျှင် ကျင့်ကြရမည်။–

သတို့သမီးတို့၊ ထို့ပြင် ဤသို့လည်း ကျင့်ကြရမည်။

(၄) အိမ်တွင်းသားဖြစ်သည့် လင်ယောက်ျား၏ ကျွန်၊ အစေခံ၊ အလုပ် သမားဖြစ်သော အတွင်းလူအပေါင်း၏ ပြုလုပ်ပြီးသည်ကိုလည်း ပြုလုပ်ပြီးပြီဟု သိကုန်အံ့။ မပြုလုပ်ရသေးသည်ကိုလည်း မပြုလုပ် ရသေးဟု သိကုန်အံ့။

–မမာမကျန်းသူတို့၏လည်း အားရှိသည်၊ မရှိသည်ကို သိကုန်အံ့။

–ထိုအတွင်း လူအပေါင်းအား ခဲဖွယ်ကိုလည်းကောင်း၊ ဘောဇဉ်ကို လည်းကောင်း အသီးသီး မိမိတို့ ရထိုက်သော အဖို့အစုဖြင့် ဝေဖန် ကုန်အံ့။ ဟု သင်တို့သည် ဤအတိုင်း အမှန်ကျင့်ကြရမည်။–

သတို့သမီးတို့၊ ထို့ပြင် ဤသို့လည်း ကျင့်ကြရမည်။

(၅) လင်ယောက်ျား ဆောင်ယူလာမည့် ဥစ္စာစပါး၊ ရွှေငွေကို စောင့် ရှောက်လုံခြုံစေသဖြင့် ပြီးစီးပြည့်စုံစေကုန်အံ့။

–ထိုပစ္စည်းအပေါ်၌ အပျော်မကြူး၊ မခိုးမဝှက်၊ အရက်မသောက် ကုန်သည် ဖြစ်အံ့။ ဟု ဤအတိုင်းသာ သင်တို့ ကျင့်ကြရမည်။–

–သတို့သမီးတို့၊ ဤတရားငါးပါးတို့နှင့် ပြည့်စုံသော မာတုဂါမသည် ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်ကာလ၌ နှစ်သက်ဖွယ်ကိုယ်ရှိသော နတ် တို့၏ အသင်းဝင်အဖြစ်သို့ ရောက်ရ၏။" ဟု သွန်သင်ဆုံးမ ဩဝါဒပေးတော် မူသတည်း။

ဤဖြစ်ရပ်သည် အင်္ဂုတ္တိုရ်၊ ပဉ္စကနိပါတ်၊ ဥဂ္ဂဟသုတ်၌လာ၏။ မေဏ္ဍက သူဌေး၏မြေး ဥဂ္ဂဟ တောင်းပန်သည့်ကျေးဇူးကြောင့် ဓနီးလောင်းလျာများနှင့် ဓနီးများ လိုက်နာကျင့်ကြံဖွယ် အိမ်ထောင်မှု သင်ခန်းစာများ ရရှိပေသည့်အတွက် သမီးရှင်များ ဥဂ္ဂဟအား ကျေးဇူးတင်ထိုက်လှ၏။



## အသည်းဖောက်ထွင်း၊ ခြောင့်တံသင်း
## နုတ်ခြင်း မည်သို့နည်း

ပြဿနာ = သောက၊ ပရိဒေဝ
မေးလျှောက်သူ = မုဏ္ဍာမင်း

"အချင်း ပိယက၊ ခေါင်းတစ်လုံးကို အမြန်စီမံလော့။ ငါ့မိဖုရားအလောင်းကို မပုပ်မသိုးရအောင် ခေါင်းထဲ၌ ဆီစိမ်၍ ထားအံ့။"

စေခိုင်းသူမှာ မုဏ္ဍာမင်း။ စေခိုင်းခြင်း ခံရသူကား ရွှေတိုက်စိုး။ အလောင်းကား မိဖုရား၏အလောင်း ဖြစ်သတည်း။

မုဏ္ဍာမင်းသည် ချစ်မြတ်နိုးလှစွာသော ဘဒ္ဒါမိဖုရား ကွယ်လွန်သွားရာသည့်အတွက် ပရိဒေဝမီး ညီးတပြောင်ပြောင် တဟုန်းဟုန်း တောက်လောင်သဖြင့် စက်ပါသော်လည်း မပျော်၊ ပွဲတော်ကိုလည်း မတည်နိုင်။ မှုကြီးမှုသေး နိုင်ငံတော်အရေးများကိုလည်း မကိုင်နိုင် မတွယ်နိုင်၊ မစီမံနိုင်ရှာတော့ဘဲ မှိုင်တတွေတွေနှင့်သာ ပူပင်လယ်ဝေနေ၏။

ထို့ကြောင့် ဘဒ္ဒါမိဖုရား၏မျက်နှာကို တစိမ့်စိမ့် ရှုစားလိုသဖြင့် သင်္ဂြိုဟ်၍ မပစ်ရက်ဘဲ အလောင်းကို ခေါင်းသွင်းပြီး ဆီစိမ်ထားရန် လက်သုံးတော် ရွှေတိုက်စိုး ပိယကအား စေခိုင်းခြင်း ဖြစ်၏။

ရွှေတိုက်စိုးလည်း အမိန့်တော်အတိုင်း ဘဒ္ဒါမိဖုရား၏အလောင်းကို ကောင်းစွာ ခေါင်းထဲသွင်း၍ ဆီစိမ်ပေးရလေ၏။ မုဏ္ဍာမင်းမှာ ဘဒ္ဒါမိဖုရား၏အလောင်း ခေါင်းနားက မခွာလေဘဲ တစိမ့်စိမ့် ရှုစားကာသာ နေလေ၏။

ရွှေတိုက်စိုး ပိယကမှာလည်း 'အိမ်ရှေ့ပူ၊ အိမ့်နောက် မချမ်းသာ' ဆိုသောအတိုင်းပင် မိဖုရားအတွက် ရတက်မအေး အတွင်းဆွေးဆွေးနေသော မုဏ္ဍာမင်း၏ ဖြစ်အင်ကိုရှုကာ ကိုယ်လက်ရှိန့်မမ်း မချမ်းမသာ ဖြစ်နေ၏။ 'ကျေးဇူးရှင်

မင်းတရားကြီးအား သည်အပူဘေးမှ ကင်းဝေးလွတ်မြောက်အောင် ငါ မည်သို့ ကယ်တင်ရပါမည်နည်း။' ဟု မင်းကြီး၏ ချမ်းသာရေးကို ရှေးရှုကာ လွတ်မြောက်ရန် နည်းလမ်းကို အမြဲတစေ ရှာကြံ၍ နေလေ၏။

ဤသို့ စူးစမ်းရှာဖွေရာမှ ရွှေတိုက်စိုး ပိယကသည် နာရဒ မထေရ်ကြီး၏ မျက်နှာကို ကွက်ခနဲ မြင်ယောင်လာလေသည်။ ပါဋလိပုတ်ပြည် ကုက္ကုဋရာရုံ ကျောင်း၌ သီတင်းသုံးနေတော်မူသော ဤအရှင်မြတ် နာရဒ မထေရ်မြတ်ကြီးကား အထူးသဖြင့် ကျော်စောထင်ရှား၏။ ပညာရှိ၏။ ကျွမ်းကျင်လိမ္မာလှ၏။ ထက်မြက်သောဉာဏ် ရှိ၏။ အကြားအမြင်များ၏။ ဆန်းကြယ်စွာ ဆိုပြောတတ်၏။ အသက်သိက္ခာလည်း ကြီး၏။ ရဟန္တာဟူ၍လည်း အထူးထင်ရှားကျော်စောသော အရှင်မြတ်ဖြစ်၏။ မုဏ္ဍမင်းသည် အကယ်၍ အရှင်နာရဒမထေရ်မြတ်ထံ ချဉ်းကပ်ခဲ့ပါမူ ထိုအရှင်သူမြတ်၏စကားကို ကြားနာရ၍ နှလုံးသား၌ စူးဝင်နေသော သောကတည်းဟူသော ငြောင့်ကို နုတ်ပယ်နိုင်ကောင်း နုတ်ပယ်နိုင်ရာ၏။

ဤသို့ အကြံဖြစ်ပေါ်လာသဖြင့် ရွှေတိုက်စိုးသည် ထိုအကြောင်းကို မုဏ္ဍမင်းအား တင်ပြပြီး နာရဒအရှင်သူမြတ်ကြီးထံ ချဉ်းကပ်သင့်ကြောင်း အကြံပေး တိုက်တွန်းခြင်း ပြုလေ၏။ ထိုအခါ မုဏ္ဍက အမိန့်ရှိလေသည်ကား–

"အချင်း ပိယက၊ ငါသို့သောမင်းသည် နိုင်ငံတော်၌ နေထိုင်သော သမဏဗြာဟ္မဏကို ရှေးဦးစွာ ကြိုတင်ပန်ကြားခြင်းမပြုလေဘဲ ချဉ်းကပ်သင့်သည်ဟု အသို့လျှင် မှတ်ယူနိုင်အံ့နည်း။ ထို့ကြောင့် အချင်း ပိယက၊ သင် အကြံပေးချက်အတိုင်း အရှင်သူမြတ်ထံ ငါ ချဉ်းကပ်အံ့။ ထိုအကြောင်းကို အရှင်သူမြတ်အား ကြိုတင်၍ သင် လျှောက်ထားပါလေဘိ။"

ဤသည့်နောက်ပိုင်းတွင်မူကား မုဏ္ဍမင်းသည် ရွှေတိုက်စိုး၏ အကြံပေးတိုက်တွန်းချက်အရ နာရဒအရှင်သူမြတ်ထံသို့ ချဉ်းကပ်ရောက်ရှိသွားလေသော အခါ နာရဒအရှင်သူမြတ်သည် အပူဘုရင် မုဏ္ဍမင်း၏ဖြစ်အင်ကို သိမြင်ထားပြီးဖြစ်သည့်အလျောက် မင်းကြီး၏ အသည်းနှလုံးတွင် စုံးစုံးမြုပ် စူးဝင်နေသော သောကငြောင့်ကို နုတ်ပယ်ရန် ဤတရားကို ဟောကြားတော်မူပေသတည်း။

"မင်းကြီး၊ အာရုံစူးစိုက်စွာ နာဘိလော့။ လောက၌ သမဏဖြစ်စေ၊ ဗြာဟ္မဏဖြစ်စေ၊ နတ်ဖြစ်စေ၊ မာန်နတ်ဖြစ်စေ၊ ဗြဟ္မာဖြစ်စေ မည်သူတစ်ဦး တစ်ယောက်မျှ တောင့်တ၍ မရစကောင်းသောအရာ ငါးမျိုးရှိပေသည်။ မင်းကြီး၊ ယင်းငါးမျိုးသည်ကား–

(၁) အိုတတ်သောသဘောတရားသည် 'မအိုပါစေနှင့်။' ဟု မည်သူ တစ်ဦးတစ်ယောက်မျှ တောင့်တ၍ ရစကောင်းသောအရာ မဟုတ်။

(၂) နာတတ်သောသဘောတရားသည် 'မနာပါစေနှင့်။' ဟု မည်သူ တစ်ဦးတစ်ယောက်မျှ တောင့်တ၍ ရစကောင်းသောအရာ မဟုတ်။
(၃) သေတတ်သောသဘောတရားသည် 'မသေပါစေနှင့်။' ဟု မည်သူ တစ်ဦးတစ်ယောက်မျှ တောင့်တ၍ ရစကောင်းသောအရာ မဟုတ်။
(၄) ကုန်တတ်သောသဘောတရားသည် 'မကုန်ပါစေနှင့်။' ဟု မည်သူ တစ်ဦးတစ်ယောက်မျှ တောင့်တ၍ ရစကောင်းသောအရာ မဟုတ်။
(၅) ပျက်တတ်သောသဘောတရားသည် 'မပျက်ပါစေနှင့်။' ဟု မည်သူ တစ်ဦးတစ်ယောက်မျှ တောင့်တ၍ ရစကောင်းသောအရာ မဟုတ်။

မုဏ္ဍမင်းသည် နာရဒအရှင်သူမြတ် ဟောအပ်သော အရှည်စွဲ၍ တည်မြဲခြင်း မရှိသည့် 'အနိစ္စ' သဘောကို စူးစိုက်စွာ ကြားနာ၏။ ရှေ့တိုက်စိုး ပိယက လည်း စူးစိုက်စွာ နာယူနေသော မိမိ၏ အရှင်သခင် မုဏ္ဍမင်းတရား၏အသွင်ကို ရှု ကာ အားရလျက် ရှိနေ၏။ နာရဒအရှင်သူမြတ်က မုဏ္ဍမင်းအား ဆက်၍ ဟော လေသည်ကား-

"မင်းကြီး၊ အကြားအမြင်မရှိသော ပုထုဇဉ်အား အိုတတ်သော သဘော တရားသည် အိုခဲ့၏။ အိုတတ်သော သဘောတရား အိုလေသည်ရှိသော ပုထုဇဉ် သည် ဤသို့ မဆင်ခြင်နိုင်။

-အိုတတ်သော သဘောတရားသည် ငါတစ်ယောက်တည်းသာ အို သည် မဟုတ်။ စင်စစ်မူကား တစ်ဘဝမှတစ်ဘဝသို့ သွားခြင်း၊ လာခြင်း၊ ပဋိသန္ဓေနေခြင်း၊ စုတေခြင်းရှိသည့် သတ္တဝါဟူသမျှ အားလုံးတို့အား အိုတတ်သောသဘောသည် အို၏။ အိုတတ်သော သဘောတရားသည် အိုသည်ရှိသော် ငါသည်သာ ပူဆွေးခဲ့မူ၊ ပင်ပန်းခဲ့မူ၊ ငိုကြွေးခဲ့မူ၊ ရင်ဘတ်စည်တီး မြည်တမ်းခဲ့မူ၊ တွေဝေ မိန်းမောခြင်းသို့ ရောက်ခဲ့မူ၊ ငါသည် ထမင်းလည်း မစားလိုရာ၊ ခန္ဓာကိုယ်သည်လည်း အဆင်းမလှခြင်းသို့ ရောက်ရာ၏။ အလုပ်အကိုင်တို့လည်း မဖြစ်နိုင်ကုန်ရာ။ ရန်သူတို့လည်း ဝမ်းမြောက်ကုန်ရာ၏။ မိတ်ဆွေတို့လည်း ဝမ်းနည်းကုန်ရာ၏ဟု မဆင် ခြင်နိုင်။-

-'မင်းကြီး၊ အိုတတ်သောသဘော အိုသည်ရှိသော် ထိုပုထုဇဉ်သည် ပူဆွေး၏၊ ပင်ပန်း၏၊ ငိုကြွေး၏၊ ရင်ဘတ်စည်တီး မြည်တမ်း၏။ အကြားအမြင် နည်းသော ဤပုထုဇဉ်ကို အဆိပ်ရှိသော 'သောကငြောင့်' စူးဝင်သည်ဖြစ်၍ မိမိကိုယ်ကိုလျှင် ပူပန်စေတတ်သူဟု ဆိုအပ်၏။-

–မင်းကြီး၊ နောက်တစ်မျိုးကား အကြားအမြင် မရှိသော ပုထုဇဉ်အား–
နာတတ်သော သဘောတရားသည် နာခဲ့၏။
သေတတ်သော သဘောတရားသည် သေခဲ့၏။
ကုန်တတ်သော သဘောတရားသည် ကုန်ခဲ့၏။
ပျက်တတ်သော သဘောတရားသည် ပျက်ခဲ့၏။

ထိုပုထုဇဉ်သည် 'ငါတစ်ယောက်တည်းသာ ပျက်သည်မဟုတ်။ စင်စစ်မူကား ထိုဘဝမှ ဤဘဝ၊ ဤဘဝမှ ထိုဘဝသို့ ကူးသန်းသွားလာခြင်း၊ စုတေခြင်း၊ ပဋိသန္ဓေနေခြင်းရှိသည့် သတ္တဝါအားလုံး ပျက်တတ်သော သဘောတရားသည် ပျက်၏။' စသည်ဖြင့် ဤသို့ မဆင်ခြင်နိုင်။–

–မင်းကြီး၊ အကြားအမြင်ရှိသော အရိယာတပည့်အား၊ အိုတတ်သော သဘောတရားသည် ရှိခဲ့၏။ အိုတတ်သော သဘောတရားသည် အိုသည်ရှိသော် ထို အရိယာ၏ တပည့်သည် ဤသို့ ဆင်ခြင်၏။–

အိုတတ်သော သဘောတရားသည် ငါတစ်ယောက်တည်းအားသာ အိုသည် မဟုတ်။
နာတတ်သော သဘောတရားသည် ငါတစ်ယောက်တည်းအားသာ နာသည် မဟုတ်။
သေတတ်သော သဘောတရားသည် ငါတစ်ယောက်တည်းအားသာ သေသည် မဟုတ်။
ကုန်တတ်သော သဘောတရားသည် ငါတစ်ယောက်တည်းအားသာ ကုန်သည် မဟုတ်။
ပျက်တတ်သော သဘောတရားသည် ငါတစ်ယောက်တည်းအားသာ ပျက်သည် မဟုတ်။

–စင်စစ်မူကား သတ္တဝါအားလုံးတို့အား အိုတတ်သောသဘောတရားသည် အို၏။ နာတတ်သော သဘောတရားသည် နာ၏။ သေတတ်သော သဘောတရားသည် သေ၏။ ကုန်တတ်သော သဘောတရားသည် ကုန်၏။ ပျက်တတ်သော သဘောတရားသည် ပျက်၏။

– အိုတတ်သော သဘောတရား အိုသည်ရှိသော်–
နာတတ်သော သဘောတရား နာသည်ရှိသော်–
သေတတ်သော သဘောတရား သေသည်ရှိသော်–
ကုန်တတ်သော သဘောတရား ကုန်သည်ရှိသော်–
ပျက်တတ်သော သဘောတရား ပျက်သည်ရှိသော်–

–ငါသည်သာ ပူဆွေးခဲ့မူ၊ ပင်ပန်းခဲ့မူ၊ ငိုကြွေးခဲ့မူ၊ ရင်ဘတ်စည်တီး မြည်တမ်းခဲ့မူ၊ တွေဝေခြင်းသို့ ရောက်ခဲ့မူ၊ ငါသည် ထမင်းလည်း မစားလိုရာ၊ ခန္ဓာကိုယ်သည်လည်း အဆင်းမလှခြင်းသို့ ရောက်ရာ၏။ အလုပ်အကိုင်တို့လည်း မဖြစ်ကုန်ရာ။ ရန်သူတို့လည်း ဝမ်းမြောက်ကုန်ရာ၏။ မိတ်ဆွေတို့လည်း ဝမ်းနည်းကုန်ရာ၏ဟု ဤသို့ ဆင်ခြင်နိုင်၏။–

–အိုတတ်၊ နာတတ်၊ သေတတ်၊ ကုန်တတ်၊ ပျက်တတ်သော သဘောပျက်သည်ရှိသော်၊ ထိုအရိယာတပည့်သည် မပူဆွေး၊ မပင်ပန်း၊ မငိုကြွေး၊ ရင်ဘတ်စည်တီး မငိုညည်း၊ မမြည်တမ်း၊ တွေဝေခြင်းသို့မရောက်။–

–မင်းကြီး၊ အကြားအမြင်ရှိသော ဤအရိယာတပည့်ကို 'အဆိပ်ရှိသော သောကငြောင့်ကို ထုတ်နုတ်သူ' ဆိုအပ်၏။ ယင်းသောကငြောင့် စူးဝင်သော အကြားအမြင် နည်းပါးသော ပုထုဇဉ်သည် မိမိကိုယ်ကိုပင်လျှင် ပူလောင်စေ၏။ သောကငြောင့် မစူးဝင်သော အရိယာတပည့်သည် မိမိကိုယ်ကိုပင် ငြိမ်းအေးစေ၏။–

–မင်းကြီး၊ သမဏဖြစ်စေ၊ ဗြာဟ္မဏဖြစ်စေ၊ နတ်ဖြစ်စေ၊ မာရ်နတ်ဖြစ်စေ၊ ဗြဟ္မာဖြစ်စေ မည်သူတစ်ဦးတစ်ယောက်မျှ တောင့်တ၍ မရစကောင်းသော အရာငါးမျိုးကား ဤငါးမျိုးတို့ပင်တည်း။"

တရားဒေသနာတော်ကား ဤတွင် နိဂုံးချုပ်၏။ အသည်းနှလုံးတွင် မြားတန်းလန်းနှင့် တရားနာနေသော မုဏ္ဍမင်း၏မျက်နှာမှာ တိမ်စင်လပမာ ကြည်လင်၍ လာ၏။ အရှင်မြတ်အား လက်အုပ်ချီလျက် "အရှင်ဘုရား၊ ဤ တရားဒေသနာတော်သည် အဘယ်အမည် ရှိပါသနည်း။" ဟု လျှောက်ထားလေသည်။ အဖြေကား–

"မင်းကြီး ဤတရားဒေသနာတော်ကား စူးဝင်နေသော မြား၊ စူးဝင်နေသော သောကငြောင့်ကို ထုတ်နုတ်ရာဖြစ်သောကြောင့် 'သောကသလ္လဟရဏဒေသနာ' ဟု ခေါ်ပေသတည်း။"

"အရှင်ဘုရား၊ ဤတရားကား သောကငြောင့်ကို အကယ်ပင် ထုတ်နုတ်နိုင်စွမ်း ရှိပါပေသည်ဘုရား။ တပည့်တော်၌ စူးဝင်နေသော သောကငြောင့်ကို တပည့်တော် နုတ်ပြီးပါပြီ ဘုရား" ဟူ၍ လျှောက်လေ၏။

ထို့နောက် မုဏ္ဍမင်းသည် ရွှေတိုက်စိုးအား ဤသို့ အမိန့်ပေးလေသတည်း။ "အချင်း ပိယက၊ ငါ၏မိဖုရားအလောင်းကို မီးသဂြိုဟ်လိုက်ပေတော့။" ဟူပေ၏။

(အင်္ဂုတ္တိုရ်၊ ပဉ္စကနိပါတ်၊ နာရဒသုတ်)



## ကိုးဖွယ်လျာထား၊ ကိုယ်တော်စား ထားခဲ့ ဘယ်သူ့ကိုပေးနည်း

ပြဿနာ = အနာဂတ်သာသနာ
မေးလျှောက်သူ = မောဂ္ဂလာနပုဏ္ဏား

ဗုဒ္ဓခေတ်၌ အဇာတသတ်မင်းသည် ရာဇဝင်တွင် သူမတူအောင် လျှမ်းလျှမ်းတောက် ထင်ရှားသော ဘုရင်တစ်ပါး ဖြစ်၏။ ထိုမင်းနှင့် ထီးပြိုင်နန်းပြိုင်မင်း ပြုလျက်ရှိသော (ဥဇ္ဇေနီပြည်မှ) ပဇ္ဇောတမင်း၏ အရှိန်အဝါ၊ ဘုန်းအာဏာကလည်း မသေးလှချေ။ ထို့ကြောင့်လည်း အဇာတသတ်မင်းသည် 'ငါ့နိုင်ငံကိုများ ထိပါးလာလေမည်လား။' ဟူ၍ ပဇ္ဇောတမင်းအား စိတ်မချနိုင် ဖြစ်နေ၏။

ထို့ကြောင့် အမြော်အမြင်ကြီးသော အဇာတသတ်မင်းသည် 'မိုးမပြိုဘူး၊ ပြိုခဲ့သော်' ဟူ၍ ကြိုတင်ကာကွယ်မှုများ ပြုလေ၏။ ပဇ္ဇောတမင်း၏ အန္တရာယ်ကို ခုခံကာကွယ်နိုင်ရန်အလို့ငှာ ခံတပ် တည်ဆောက်ခြင်း၊ ဆင်ခလုတ်၊ မြင်းခလုတ် စသည် ပြုလုပ်ခြင်း စသော အမှုများကို ပြုလုပ်ရာတွင် ဂေါပက မောဂ္ဂလာန ပုဏ္ဏားအား အကြီးအမှူး ခန့်အပ်ထားလေသည်။

မောဂ္ဂလာနပုဏ္ဏားသည် မိမိအား ယုံကြည်၍ လွှဲအပ်ထားသော တာဝန်အရ ခံတပ်တည်ဆောက်မှုများကို နေ့ညမစဲ ကိုယ်တိုင်ကွပ်ကဲကာ တာဝန်ကို ကျေပွန်စွာ ထမ်းဆောင်လျက်ရှိနေ၏။

တစ်နေ့သောအခါ အရှင်အာနန္ဒာသည် ရာဇဂြိုဟ်မြို့၌ ဆွမ်းခံရန်အလို့ငှာ သပိတ်ကိုပိုက်လျက် ဝေဠုဝန်ကျောင်းမှ ထွက်လာ၏။ ဆွမ်းခံရန် အချိန်စောသေးသဖြင့် ဂေါပကမောဂ္ဂလာနပုဏ္ဏားထံသို့ ခေတ္တဝင်လေ၏။

ထိုအချိန်တွင် မောဂ္ဂလာနပုဏ္ဏားမှာ အလုပ်သမားများအား ကိုယ်တိုင်ကြီးကြပ်ဆော်သြလျက် ရှိနေစဉ် ကြွတော်မူလာသော အရှင်အာနန္ဒာကိုမြင်လျှင်

'ကြွတော်မူပါ။' ဟု ရိုသေစွာပင့်၍ နေရာများ ခင်းပေးလေသည်။ အရှင်အာနန္ဒာလည်း ခင်းပေးနေရာတွင် သပိတ်ပိုက်လျက် ထိုင်တော်မူ၏။

မောဂ္ဂလာနပုဏ္ဏားသည် အရှင်အာနန္ဒာအား လက်အုပ်ချီ၍ ကန်တော့ရင်း စဉ်းစား၏။ 'အခွင့်အခါ ကြုံကြိုက်တုန်း မေးရရင်' ဤသို့ အတွေးရောက်ပြီးနောက် မိမိ သိလိုသော အချက်အလက်များကို မေးလျှောက်၏။ အရှင်အာနန္ဒကလည်း ဖြေ၏။

ဤသို့ မောဂ္ဂလာနပုဏ္ဏားနှင့် အရှင်အာနန္ဒာတို့ မေးဖြေပြုနေကြစဉ် အမှတ်မထင် ဝဿကာရပုဏ္ဏားကြီး ဆိုက်ရောက်လာလေရာ မောဂ္ဂလာနပုဏ္ဏားသည် မိမိထက် ရာထူးအဆင့် ကြီးမြင့်သော ဝဿကာရပုဏ္ဏားအား မိမိ ထိုင်နေသောနေရာကို ဖယ်၍ပေးလေ၏။

ဝဿကာရပုဏ္ဏားသည် အရှင်အာနန္ဒာကို လက်အုပ်ချီလျက် လျှောက်လာလျက်မှ "အရှင်ဘုရားတို့ မင်္ဂလာနံ့နက်ခင်းအချိန်မှာ မည်သည့်အကြောင်းအရာများကို ဆွေးနွေးနေကြပါသလဲဘုရား။" ဟူ၍ အရှင်အာနန္ဒာရှေ့တွင် ဦးချ၍ ထိုင်လေ၏။

အရှင်အာနန္ဒာလည်း မိမိအား မောဂ္ဂလာနပုဏ္ဏားက မေးမြန်းပုံ၊ မိမိက မောဂ္ဂလာနပုဏ္ဏားအား ဖြေခဲ့ပုံများကို ဝဿကာရအား ဤသို့ ပြောပြလေသတည်း။

"ဒကာ ဝဿကာရ၊ ဆွမ်းခံရန် အချိန်စောသေးသည်နှင့် သည်ကို ငါ ခဏဝင်၏။ ထိုအခါ မောဂ္ဂလာနက ငါ့အား ဤသို့ မေးပေသည်။-

'အရှင်ဘုရား၊ ဂေါတမ ရှင်တော်မြတ်ဘုရားသည် ဘုန်းတော်အနန္တ၊ ကံတော်အနန္တ၊ ဉာဏ်တော်အနန္တ နှင့် ပြည့်စုံတော်မူလှပါပေ၏။ ဂေါတမ ရှင်ပင် မြတ်ဘုရားကြီးအလား ကျေးဇူးဂုဏ်ကြီးမားလှသည့် ရဟန်းတစ်ပါးပါး သံဃာ့လောကထဲမှာ ရှိပါ၏လား ဘုရား'

ဟူ၍ ခရီးရောက်မဆိုက်ပင် ငါ့အား သူ မေးပေသည်။ သူ၏အမေးကို ငါကလည်း ဤသို့ဖြေခဲ့၏။-

-ဒကာမောဂ္ဂလာန၊ ငါတို့ သံဃာ့လောကတွင် မြတ်ဘုရားကဲ့သို့ ကျေးဇူးဂုဏ်အနန္တနှင့် ပြည့်စုံသော ရဟန်းတစ်ပါးမျှ မရှိ။ ငါတို့၏ ထိပ်ခေါင်တင် ရှင်တော်မြတ်ဘုရားကြီးသည်ကားဆိုလျှင်-

မဖြစ်သေးသော မဂ်တရားကို ဖြစ်စေတော်မူတတ်၍ မပေါ်သေးသော မဂ်တရားကို ပေါ်စေတော်မူတတ်၏။

မဟောအပ်သေးသော မဂ်တရားကို ဟောတော်မူတတ်၏။

မဂ်တရားကို ဟောတော်မူတတ်၏။

မဂ်တရား၌ ကျွမ်းကျင်လိမ္မာတော်မူလှပေ၏။

–ဒကာ မောဂ္ဂလာန၊ ယခုအခါ မြတ်ဗုဒ္ဓ၏ သာဝကတို့မှာလည်း မြတ်ဗုဒ္ဓဟောအပ်သော မဂ်တရားသို့ အစဉ်တစိုက် လိုက်နာအားထုတ်ကြသဖြင့် နောက်ကာလများတွင် မဂ်တရားနှင့် ပြည့်စုံစွာ နေကြရပေကုန်၏ဟူ၍ မောဂ္ဂလာနအား ငါ ရှင်းလင်းပြောပြနေဆဲတွင် အသင်ရောက်ရှိလာသဖြင့် ငါတို့ ပြောနေသောစကား တန့်သွားရပေသည်။"

အရှင်အာနန္ဒာ၏စကားကို ကြားရသောအခါ ဝဿကာရအား မောဂ္ဂလာန မေးသကဲ့သို့ မေးလိုသောစိတ်များ ဖြစ်ပေါ်လာသည့်အလျောက် သူသိလိုသော အချက်အလက်များကို အရှင်အနန္ဒာအား မေးမြန်း၏။

"အာနန်အရှင်သူမြတ်၊ ခွင့်ပြုတော်မူစေချင်၏။ အကျွန်ုပ်လည်း မောဂ္ဂလာန်ကဲ့သို့ပင် မေးလိုပါ၏။ မေးပါရစေလား အာနန်အရှင်သူမြတ်ဘုရား။ တပည့်တော် မေးလိုသည်မှာ–

–ဘုန်းတော်ကြီးလှသော ထိပ်ခေါင်တင် ရှင်ပင်မြတ်ဘုရားက ငါမရှိတော့သည့်နောက်ပိုင်းအချိန်တွင် 'ဤရဟန်းသည် ငါ၏ကိုယ်စား သင်တို့၏ ကိုးကွယ်ရာအဖြစ် ရပ်တည်ရစ်လတ္တံ့'ဟူ၍ ဗျာဒိတ်တော် ထားခဲ့သော ရဟန်းတစ်ပါးပါး ရှိပါသလား ဘုရား။ သို့မဟုတ်–

–သံဃာကသော် လည်းကောင်း၊ မထေရ်ကြီးများကသော် လည်းကောင်း မြတ်ဗုဒ္ဓ မရှိသည့်နောက်တွင် ဤရဟန်းကား၊ ငါတို့၏ ကိုးကွယ်ရာဟူ၍ လျာထားသည့် ရဟန်းတစ်ပါးပါး ရှိပါသလားဘုရား"

ဝဿကာရ၏ ဤမေးခွန်းကို အရှင်အာနန္ဒာ ဖြေဆိုသည်ကား–

"ဒကာ ဝဿကာရ၊ ဗုဒ္ဓကသော်လည်းကောင်း၊ သံဃာကသော်လည်းကောင်း၊ မထေရ်ကြီးတို့ကသော်လည်းကောင်း ကိုးကွယ်ရာအဖြစ် သမုတ်အပ်၊ လျာထားအပ်သော ရဟန်းဟူ၍ တစ်ပါးမျှ မရှိပါ။"

"အရှင်အာနန်၊ ယင်းသို့ ကိုးကွယ်ရာအဖြစ် လျာထားခြင်း မရှိခဲ့သော် ကိုးကွယ်ရာမဲ့ဖြစ်ကာ သာသနာ၌ စည်းလုံးညီညွတ်ခြင်း၏အကြောင်း ရှိနိုင်ပါတော့မည်လော။ ရှိလျှင် ထိုအကြောင်းကို အမိန့်ရှိပါ။ သိလိုလှပါ၏ အရှင်အာနန်။"

"ရှိပေသည် ဝဿကာရ၊ ဗုဒ္ဓမရှိလျှင်လည်း ငါတို့ကား ကိုးကွယ်ရာမဲ့သူများ မဟုတ်ကုန်။ အကွပ်မရှိသောကြမ်း၏အလား ကစဉ့်ကလျား ဖြစ်ကုန်သူများ မဟုတ်ကုန်။ စင်စစ် ငါတို့မှာ ကိုးကွယ်ရာသည် အမြဲရှိနေပါ၏။"

ဤသို့ဖြေရုံမျှဖြင့် ဝဿကာရသည် နှစ်သိမ့်ပုံမရ။ တိတိကျကျ သိလိုသဖြင့် ထပ်ဆင့်၍ မေးပြန်လေသည်။

"အို-အရှင်အာနန်၊ အရှင်၏စကားကို အဘယ်သို့ မှတ်ရပါမည်နည်း။ ဘုရားသခင်က 'ငါ မရှိသည့်နောက်တွင် ဤရဟန်းအား ငါ၏ကိုယ်စား သင်တို့ ကိုးကွယ်ရာ ဖြစ်လတ္တံ့။' ဟူ၍ ဗျာဒိတ်ထားခဲ့သော ရဟန်းတစ်ပါးပါး ရှိပါသလားဟု မေးသောအခါ 'မရှိ' ဟု ဖြေခဲ့၏။ တစ်ဖန် သံဃာကဖြစ်စေ၊ မထေရ်ကြီးများကဖြစ်စေ 'ဤရဟန်းကား ငါတို့၏ ကိုးကွယ်ရာ ရဟန်း။' ဟူ၍ ကိုးကွယ်ရာအဖြစ် လျာထားသော ရဟန်းတစ်ပါးပါး ရှိပါသလားဟု မေးသောအခါတွင်လည်း 'ငါတို့မှာ ကိုးကွယ်ရာ မရှိမဟုတ်။ ကိုးကွယ်ရာ ရှိပေသည်။ မည်သူ့ကိုမျှ ကိုးကွယ်ရာအဖြစ် လျာထားစရာ မလို။' ဟု အရှင်ဘုရားပင် ဆိုခဲ့ပါသည်။ အရှင့်စကားကို နားမလည်ပါ။ အဓိပ္ပာယ် မယူတတ်ပါ။ သို့ပါ၍ ဤအချက်ကို ကွက်ကွက်ကွင်းကွင်း ရှင်းပြစေချင်ပါသည်။" ဟု တောင်းပန်ခြင်း ပြုလေသော် အရှင်အာနန္ဒာသည် ဝဿကာရအား အဓိပ္ပာယ် အပြည့်အဝ နားလည်အောင် ဤသို့ ရှင်းပြတော်မူသတည်း။

"ဒကာ၊ ဝဿကာရ၊ ငါတို့၏ ကိုးကွယ်ရာကို သင် ဤသို့ မှတ်ဘိလော့။ မြတ်ဗုဒ္ဓသည် ငါတို့လိုက်နာရန် သိက္ခာပုဒ်များ ပညတ်ထားတော်မူခဲ့ပေ၏။ အကျဉ်းရွတ်ဆိုအပ်သော ပါတိမောက်သည် ငါတို့မှာ ရှိပေ၏။ ထိုပါတိမောက်ကို လပြည့်လကွယ် ဥပုသ်နေ့တိုင်း အာဂုံတွတ်တွတ်ရွတ်ဆိုရန် ရဟန်းတစ်ပါးအား သံဃာက တိုက်တွန်းပေ၏။ ပါတိမောက်ကို ထိုရဟန်းက အာဂုံတွတ်တွတ် ရွတ်ဆိုသည်ရှိသော် သံဃာ့ပရိသတ်ထဲတွင် အကယ်၍ အာပတ်သင့်သော ရဟန်း တစ်ပါးပါးပါချေက ထိုအာပတ်သင့်သော ရဟန်းအား အာပတ်အား လျော်စွာ ဝိနည်းဓမ္မကံဖြင့် ငါတို့ပြုစေကုန်၏။ သိက္ခာပုဒ်တော်များသည် ငါတို့၏ ကိုးကွယ်ရာပေတည်း။"

အရှင်အာနန္ဒာက ဤသို့ ဆိုပါလျက်ကိုပင် ဝဿကာရ ကောင်းကောင်း သဘောပေါက်သေးဟန် မတူ။ အနည်းငယ် စဉ်းစားပြီးမှ ထပ်ဆင့်ကွန့်ကာ အတွန့်တက်လိုက်ပြန်လေသည်။

"အို-အရှင်အာနန်၊ အာပတ်သင့်သောရဟန်းအား အာပတ်အား လျော်စွာ ဝိနည်းဓမ္မကံဖြင့် ငါတို့ပြုစေကုန်၏ဟု အရှင်ဆိုခြင်းမှာ သင့်မြတ်ပါ၏လား ဘုရား။ စင်စစ် အရှင်တို့သည် ပြုနိုင်သူများ ဟုတ်မည်မထင်ပါ။ တရားကသာ လျှင် ပြုသည်မဟုတ်ပါလား။ ရှိပါစေတော့။ ထားလိုက်ပါတော့။ အို-အရှင်

အာနန်၊ ယခုမျက်မှောက်ကာလတွင် အရှင်ဘုရားတို့က အရိုအသေပြုအပ်၊ အလေးပြုအပ်သော ရဟန်း ရှိပါသလား။" ဟု မေးလျှောက်လေ၏။

"ဝဿကာရ၊ ထိုရဟန်းမျိုးကား ငါတို့မှာမရှိ။ သို့သော် ငါတို့ ထိပ်ခေါင်တင် မြတ်ဘုရားသည် 'ကြည်ညိုဖွယ် တရား ဆယ်ပါး' ကို ဟောကြားထားခဲ့၏။ ထိုကြည်ညိုဖွယ် (ပသာဒနီယ) တရားဆယ်ပါးတို့၌တည်သော ရဟန်းအား ယခုအခါ ငါတို့ အရိုအသေပြုနေကြပါကုန်၏။ အလေးပြုနေကြပါကုန်၏။ ထိုကြည်ညိုဖွယ် (ပသာဒနီယ) တရား ဆယ်ပါးတို့ကား-

(၁) အကျင့်သီလ ကောင်းမွန်ခြင်း၊
(၂) အကြားအမြင် ဗဟုသုတနှင့် ပြည့်စုံခြင်း၊
(၃) ပစ္စည်းလေးပါးဖြင့် ရောင့်ရဲခြင်း၊
(၄) ဈာန်ဝင်စားနိုင်ခြင်း၊
(၅) အမျိုးမျိုး ဖန်ဆင်းနိုင်သောတန်ခိုး ရှိခြင်း၊
(၆) နတ်တို့၏အသံမျိုးစုံကို ဒိဗ္ဗသောတဖြင့် ကြားနိုင်ခြင်း၊
(၇) သူတစ်ပါး၏စိတ်ကို သိစွမ်းနိုင်သော စေတောပရိယ အဘိညာဉ် ရှိခြင်း၊
(၈) အတိတ်က မိမိဖြစ်ခဲ့သမျှကို ပုဗ္ဗေနိဝါသနုဿတိ အဘိညာဉ်ဖြင့် သိခြင်း၊
(၉) သတ္တဝါအားလုံး၏ ဘဝဖြစ်ရပ်ကို ဒိဗ္ဗစက္ခု အဘိညာဉ်ဖြင့် မြင်ခြင်း၊
(၁၀) စေတောဝိမုတ္တိ၊ ပညာဝိမုတ္တိတို့ကို အထူးထူးသောဉာဏ်ဖြင့် မျက်မှောက်ပြု၍ နေနိုင်ခြင်းတို့ပေတည်း။"

ဤသို့ အရှင်အာနန္ဒာက ရဟန်းတို့၏ ကြည်ညိုဖွယ် တရားဆယ်ပါးကို တစ်ခုချင်းတစ်ခုချင်း အသေးစိတ် ရှင်းပြလိုက်သည်တွင်မှ ဝဿကာရပုဏ္ဏားသည်-

"သြ-သကျပုတ္တမြတ်ဗုဒ္ဓ၏ တပည့်သာဝကတို့ကား အမှန်တကယ် ရိုသေထိုက်သူများ ရှိသေး၍ အလေးပြုထိုက်သူကို အလေးအမြတ်ပြုကာ နေကြကုန်သည်တကား" ဟူ၍ ချီးကျူးသံ ရင့်ကြွေးလျက် ကောင်းချီးပေးလေသတည်း။

(ဥပရိပဏ္ဏာသ၊ ဒေဝဒဟဝဂ်၊ ဂေါပက မောဂ္ဂလ္လာနသုတ်)



## များပြားဆန်းကြယ်၊ ပညတ်ဖွယ် ဘယ်ကိုဘယ်သို့ ပညတ်သနည်း

ပြဿနာ = ပုဂ္ဂလ
မေးဖြေပြု = သက္ကဝါဒီနှင့် ပရဝါဒီ

လေးဆယ်ငါးဝါတို့ ကာလပတ်လုံး မြတ်ဗုဒ္ဓ ဟောကြားသွားတော်မူခဲ့သော ရှစ်သောင်းလေးထောင်သော ဓမ္မက္ခန္ဓာများအနက် အကျဉ်းသခေ်ပအားဖြင့် ဟောကြားတော်မူသော ဒေသနာတော်များလည်း ပါရှိပေ၏။

ထိုဒေသနာတော်များ၏ ဆိုလိုချက်အနက်အဓိပ္ပာယ်များကို အသိရခက်သဖြင့် အကျယ်ပွား၍ ဟောကြားတော်မူပါရန် မြတ်ဗုဒ္ဓအား တိုက်ရိုက်လျှောက်ထားတောင်းပန်ခြင်းပြုသဖြင့် ဗုဒ္ဓကိုယ်တော်တိုင် အကျယ်ဖွင့်၍ ဟောကြားပေးရသည်လည်း ရှိခဲ့၏။

ထိုမှတစ်ပါး ဓမ္မသေနာပတိ ဖြစ်တော်မူသော အရှင်သာရိပုတ္တရာအားလည်းကောင်း၊ ဓမ္မဒေသနာအရာတွင် လွန်စွာ ကျော်စောထင်ရှားလှသော အရှင်ကစ္စာယနအားလည်းကောင်း၊ ဗုဒ္ဓ၏ သခေ်ပတရားတော်များအား အကျယ်ဟောကြားပေးတော်မူပါရန် တောင်းပန်ကြသဖြင့် ထိုအရှင်မြတ်ကြီးများက ဗုဒ္ဓ၏ အလိုတော်ကျ ဗုဒ္ဓ၏အလိုတော်နှင့် မဆန့်ကျင်အောင် တစ်ဆင့် ဟောကြားပေးရသော ဒေသနာတော်များလည်း ရှိခဲ့၏။

ထင်ရှားစေပါအံ့။ ဗုဒ္ဓမြတ်ဘုရား ဟောကြားသွားတော်မူခဲ့သော အဘိဓမ္မာ (၇) ကျမ်းအနက်တွင် ကထာဝတ္ထုကျမ်း ပါဝင်ပေ၏။ ငါးခုမြောက်ကျမ်း ဖြစ်၏။ ယင်းကျမ်းကား အကျဉ်းသခေ်ပအားဖြင့် ဟောကြားသောကျမ်း ဖြစ်လေသည်။ ထိုကျမ်း၏အကျယ် ဝိတ္ထာရကို ဗုဒ္ဓကိုယ်တော်တိုင်လည်း ဖွင့်ဆိုဟောကြားခြင်း ပြုတော်မမူခဲ့။ ထိုကျမ်း၏ အဓိပ္ပာယ်နက် သိရခက်သဖြင့် အကျယ်

အားဖြင့် ဟောကြားတော်မူပါရန် ဗုဒ္ဓအား တောင်းပန်သူ မရှိခဲ့ပေ။ ထို့ကြောင့် ဗုဒ္ဓသာ ပရိနိဗ္ဗာန် ပြုသွားတော်မူသည့်တိုင်အောင် ကထာဝတ္ထုကျမ်းမှာ ဟောတော်မူရင်းအတိုင်း အကျဉ်းသခေ်ပအားဖြင့်သာ တည်ရှိလာခဲ့သတည်း။

ဗုဒ္ဓ ပရိနိဗ္ဗာန်ပြုပြီးနောက် နှစ်ပေါင်း (၃၀၀) ကျော်ခေတ်တွင်းသို့ ချဉ်းနင်း ရောက်ရှိလာသောအခါ အဆိုပါ ကထာဝတ္ထုကျမ်းမှာ အညွန့်အတက်များနှင့် အခက်ဝေလာတော့သည်။

မှန်၏။ ထိုအချိန်တွင် သာသနာ၌ မမျှော်လင့်ဘဲ အတွင်းအန္တရာယ်များ ပေါ်ပေါက်လာလေ၏။ အချို့ရဟန်းတို့က ဓမ္မကို အဓမ္မဟု ပြလာကြကုန်သည်။ ဝိနယကိုလည်း အဝိနယဟု ပြလာကြကုန်သည်။ ထို့ကြောင့် သာသနာမှာ အညစ်အကြေးကွက်ကြီး စွန်းထင်းလာ၏။ 'သံကိုသံဖျက်၊ သံချေးတက်' ကိန်းမျိုး ဆိုက်လာ၏။

သာသနာတော်၏ ဆူးငြောင့်သဖွယ်ဖြစ်သော ထိုအန္တရာယ်ကြီးကို မြင်တော်မူသဖြင့် သီရိဓမ္မာသောကမင်းကို အမှီပြု၍ အရှင်မောဂ္ဂလိပုတ္တတိဿမထေရ် အမှူးပြုသော ရဟန္တာအရှင်မြတ်တို့သည် ပါဋလိပုတ်ပြည်၌ တတိယသံဂါယနာတင်တော်မူကြကုန်၏။

ထိုတတိယသံဂါယနာတင်ပွဲတွင် ရဟန္တာ အရှင်မောဂ္ဂလိပုတ္တတိဿသည် နှစ်ပေါင်းသုံးရာကျော်သည့်တိုင်အောင် အကျဉ်းသခေ်ပအားဖြင့်သာ တည်ရှိလာခဲ့သော ထိုကထာဝတ္ထုကျမ်းကို ဘုရားသခင် ဟောတော်မူသွားသော မာတိကာစဉ်အတိုင်း သကဝါဒီ၌ သုတ်ပေါင်း ၅၀၀၊ ပရဝါဒီ၌ သုတ်ပေါင်း ၅၀၀၊ ဤသို့ ၅၀၀ စီ အညီအမျှပြုလျက် သုတ်ပေါင်းတစ်ထောင်တို့ဖြင့် တန်ဆာဆင်ကာ အကျယ်အားဖြင့် ဟောကြားတော်မူလေသည်။ ထိုအခါ ကထာဝတ္ထုကျမ်းသည် နေလအသွင် အထူးထင်ရှားလာသတည်း။

ကထာဝတ္ထုကျမ်းတွင်ပါသော အကြောင်းအရာ၊ အချက်အလက်များနှင့် ပတ်သက်၍ ဆဋ္ဌသံဂါယနာတင် ပိဋကတ်တော်၊ အဘိဓမ္မာပိဋက 'ကထာဝတ္ထုပါဠိတော် မြန်မာပြန်' ကျမ်းဦးရှုဖွယ်၌ ဤသို့ဖော်ပြထားပေသည်။

သို့ဖြစ်ရကား ဗုဒ္ဓဝါဒကို အပြည့်အစုံပြု၍ သာသနာပအညတိတ္ထိယတို့၏ ဝါဒအမျိုးမျိုး၊ မိစ္ဆာတရားဆိုးတို့ကို သုတ်သင်ရာဖြစ်သော ဗုဒ္ဓရှင်တော်မြတ်ဘုရားကိုယ်တော်တိုင် သခေ်ပဒေသနာ၊ မာတိကာအနေဖြင့် ဟောခဲ့၍ သာဝက၊ သာဝိကာ၊ ရဟန္တာ အရှင်သူမြတ်များပင် မပြတ်လေ့လာ သုတ်သင်ရာဖြစ်သော ပဋိသမ္ဘိ ဒါပတ္တိ၊ ဗုဒ္ဓသာဝက၊ ဗုဒ္ဓသာဝိကာ၊

တတိယသံဂါယနာ သံဃာ့နာယက အရှင်မဟာမောဂ္ဂလိပုတ္တတိဿ မထေရ်မြတ် အကျယ်ဟောကြားတော်မူခဲ့သည့် ဤကထာဝတ္ထုကျမ်းသည် အနက်ဇွမ်း ပြင်ကျယ် ဗုဒ္ဓဝါဒတည်းဟူသော သမုဒ္ဒရာပင်လယ်တွင် ခံ့ထယ်သော သင်္ဘောကြီးအဖြစ်ဖြင့် လွန်စွာအရေးကြီးလှသော ကျမ်းကြီးတစ်ကျမ်း ဖြစ်ပေသတည်း။

သိစေလိုသည်မှာ ဤကထာဝတ္ထုကျမ်းကြီး၏အဆိုအမိန့်များအနက် ဤတွင် အချို့အဝက်ကိုသာ ကောက်နုတ်၍ တင်ပြမည်ဖြစ်ပါသည်။ ဤကျမ်းတွင် သကဝါဒီပုဂ္ဂိုလ်နှင့် ပရဝါဒီပုဂ္ဂိုလ်၊ ဤပုဂ္ဂိုလ်နှစ်ဦး၏ ဆွေးနွေးခန်းများဖြင့် ဓမ္မအဆိအနှစ်ကို ညှစ်ထုတ်၍ ဖော်ပြထားသည်ဖြစ်ရာ ထိုပုဂ္ဂိုလ်နှစ်ဦးတို့၏ သဘောသကန် မှတ်သားရန်ကိုလည်း 'ကထာဝတ္ထု မြန်မာပြန်' တွင်-

> အမှန်ကိုသာယူ၍ အမှန်ကိုသာ ပြောဆိုလေ့ရှိသောသူကို သကဝါဒီဆရာဟု ခေါ်သည်။ အမှန်ကို မယူနိုင်မူ၍ အမှားကိုသာ ယူဆပြောဆိုလေ့ရှိသော သူကို ပရဝါဒီဆရာဟု ခေါ်ဆိုရသည်။

ဟူ၍ ညွှန်းဆိုထား၏။ ဘာသာရေးလိုက်စားကြသော ဓမ္မသုတေသီတို့အနေဖြင့် ကထာဝတ္ထုကျမ်း၌ ပါရှိသည့်မေးပုံ၊ ဖြေပုံ အချက်အလက်များကို မပင်မပန်းချမ်းချမ်းသာသာ လေ့လာနိုင်ခြင်းငှာ ကျမ်းရင်းအတိုင်း ဖော်ပြထားပါသည်။ တင်ပြထားချက်များမှာလည်း 'ဆဋ္ဌမူ၊ ကထာဝတ္ထု မြန်မာပြန်' အတိုင်း ဖြစ်ပါသတည်း။

## ပညတ်ပုံများ

သကဝါဒီ။ ရုပ်ကိုစွဲ၍ ပုဂ္ဂိုလ်ကို ပညတ်ပါသလော။

ပရဝါဒီ။ ဩော်-ပညတ်ပါ၏။

သကဝါဒီ။ ရုပ်သည် မမြဲသော အနိစ္စ၊ ပြုပြင်အပ်သော သင်္ခတ၊ အကြောင်းကိုစွဲ၍ ဖြစ်သော ပဋိစ္စသမုပ္ပန္န၊ ကုန်ခန်းခြင်းသဘော ခယဓမ္မ၊ ပျက်စီးခြင်းသဘော ဝယဓမ္မ၊ ကင်းပြတ်ခြင်းသဘော ဝိရာဂဓမ္မ၊ ချုပ်ငြိမ်းခြင်းသဘော နိရောဓဓမ္မ၊ ဖောက်ပြန်ခြင်းသဘော ဝိပရိဏာမဓမ္မ ဖြစ်ပါသလော။

ပရဝါဒီ။ ဩော်- ဖြစ်ပါ၏။

သကဝါဒီ။ ပုဂ္ဂိုလ်သည် မမြဲသော အနိစ္စ၊ ပြုပြင်အပ်သော သင်္ခတ၊ အကြောင်းကို

စွဲ၍ဖြစ်သော ပဋိစ္စသမုပ္ပန္န၊ ကုန်ခန်းခြင်းသဘော ခယဓမ္မ၊ ပျက်စီးခြင်းသဘော ဝယဓမ္မ၊ ကင်းပြတ်ခြင်းသဘော ဝိရာဂဓမ္မ၊ ချုပ်ငြိမ်းခြင်းသဘော ဝိရောဓ ဓမ္မ၊ ဖောက်ပြန်ခြင်းသဘော ဝိပရိဏာမဓမ္မ ဖြစ်ပါသလော။

ပရဝါဒီ။ ဤသို့ကား မဖြစ်သင့်ပါ။

## ဖြူ နီ ညို ပြာသည် ရုပ်လော

သကဝါဒီ။ ရုပ်ကိုစွဲ၍ ပုဂ္ဂိုလ်ကို ပညတ်ပါသလော။

ပရဝါဒီ။ သြော်-ပညတ်ပါ၏။

သကဝါဒီ။ ညိုသော ရုပ်ကိုစွဲ၍ ညိုသောရုပ်ကို ပညတ်ပါသလော။

ပရဝါဒီ။ ဤသို့ကား မဆိုသင့်ပါ။

သကဝါဒီ။ ရွှေသောရုပ်ကိုစွဲ၍၊ နီသောရုပ်ကိုစွဲ၍၊ ဖြူသောရုပ်ကိုစွဲ၍၊ မြင်ခြင်းနှင့်တကွ မြင်သောရုပ်ကိုစွဲ၍၊ ထိခိုက်ခြင်းနှင့်တကွ သော ရုပ်ကိုစွဲ၍၊ ထိခိုက်ခြင်းမရှိသော ရုပ်ကို ပညတ်ပါသလော။

ပရဝါဒီ။ ဤသို့ကား မဆိုသင့်ပါ။

## မျက်စိချုပ်နှင့် ပုဂ္ဂိုလ်ချုပ်

သကဝါဒီ။ မျက်စိကိုစွဲ၍ မျက်စိရှိသောပုဂ္ဂိုလ်ဟူ၍ ပြောဆိုသင့်ပါ သလော။

ပရဝါဒီ။ သြော်-ပြောဆိုသင့်ပါ၏။

သကဝါဒီ။ မျက်စိချုပ်လတ်သော် မျက်စိရှိသောပုဂ္ဂိုလ်သည် ချုပ်၏ဟူ၍ ပြောဆိုသင့်ပါသလော။

ပရဝါဒီ။ ဤသို့ကား မဆိုသင့်ပါ။

သကဝါဒီ။ စိတ်ကိုစွဲ၍ စိတ်ရှိသော ပုဂ္ဂိုလ်ဟူ၍ ပြောဆိုသင့်ပါသလော။

ပရဝါဒီ။ ဤသို့ကား မဆိုသင့်ပါ။

## သစ်ပင်ရိပ်နှင့် ရုပ်

သကဝါဒီ။ သစ်ပင်ကိုစွဲ၍ အရိပ်ကို ပညတ်သကဲ့သို့ ဤနည်းတူ ရုပ် ကိုစွဲ၍ ပုဂ္ဂိုလ်ကို ပညတ်ပါသလော။

ပရဝါဒီ။ သြော်-ပညတ်ပါ၏။

သကဝါဒီ။ သစ်ပင်ကိုစွဲ၍ အရိပ်ကို ပညတ်သည်ဖြစ်ရကား သစ်ပင်သည်လည်း မမြဲ၊ အရိပ်သည်လည်း မမြဲသကဲ့သို့ ဤအတူ ရုပ်ကိုစွဲ၍ ပုဂ္ဂိုလ်ကို ပညတ်ရကား ရုပ်သည်လည်း မမြဲ၊ ပုဂ္ဂိုလ်သည်လည်း မမြဲသလော။

ပရဝါဒီ။ ဤသို့ကား မဆိုသင့်ပါ။

သကဝါဒီ။ သစ်ပင်ကိုစွဲ၍ ရုပ်ကို ပညတ်ရကား သစ်ပင်သည် အရိပ်မှ တစ်မျိုးတခြား၊ အရိပ်သည် သစ်ပင်မှ တစ်မျိုးတခြား ဖြစ်သကဲ့သို့ ဤအတူ ရုပ်ကိုစွဲ၍ ပုဂ္ဂိုလ်ကို ပညတ်ရကား ရုပ်သည် ပုဂ္ဂိုလ်မှတခြား၊ ပုဂ္ဂိုလ်သည် ရုပ်မှတစ်မျိုးတခြား ဖြစ်သလော။

ပရဝါဒီ။ ဤသို့ကား မဆိုသင့်ပါ။

## အဆင်းနှင့်ပုဂ္ဂိုလ်

သကဝါဒီ။ မြတ်စွာဘုရားသည် အထူးသဖြင့် စင်ကြယ်သော၊ လူတို့၏ မျက်စိထက် သာလွန်သော၊ နတ်မျက်စိနှင့်တူသော ဒိဗ္ဗစက္ခုအဘိညာဉ်ဖြင့် အဆင်းရူပါရုံကို မြင်တော်မူ သလော။ ပုဂ္ဂိုလ်ကို မြင်တော်မူသလော။

ပရဝါဒီ။ အဆင်းရူပါရုံကို မြင်တော်မူပါသည်။

သကဝါဒီ။ အဆင်းရူပါရုံသည် ပုဂ္ဂိုလ်လော။ အဆင်းရူပါရုံသည် စုတေသလော။ အဆင်းရူပါရုံသည် ပဋိသန္ဓေနေသလော။ အဆင်းရူပါရုံသည် ကံအားလျော်စွာ ထိုထိုဘဝသို့ ကပ် ရောက်ပါသလော။

ပရဝါဒီ။ ဤသို့ကား မဆိုသင့်ပါ။

သကဝါဒီ။ မြတ်စွာဘုရားသည် ဒိဗ္ဗစက္ခုအဘိညာဉ်ဖြင့် အဆင်းရူပါရုံကို မြင်တော်မူသလော၊ ပုဂ္ဂိုလ်ကို မြင်တော်မူသလော။

ပရဝါဒီ။ နှစ်မျိုးစလုံးကို မြင်တော်မူပသည်။

သကဝါဒီ။ နှစ်မျိုးစလုံးတို့သည် အဆင်းလော။ ရူပါယတနလော။ ရူပဓာတ်လော။ နှစ်မျိုးစလုံးတို့သည် အညိုတို့လော။ အရွှေတို့လော။ အနီ၊ အဖြူတို့လော။ နှစ်မျိုးစလုံးတို့ကို မျက်စိဖြင့် သိအပ်ကုန်သလော။ နှစ်မျိုးစလုံးတို့သည် မျက်စိ၌ ထိခိုက်ကုန်သလော။ မျက်စိအားထင်ခြင်းသို့ ရောက်ကုန်သလော။ နှစ်မျိုးစလုံးတို့သည် စုတေကုန်သလော။ ပဋိသန္ဓေ နေကုန်သလော။ ကံအားလျော်စွာ ထိုထိုဘဝတို့သို့ ကပ်ရောက်ကုန်သလော။

ပရဝါဒီ။ ဤသို့ကား မဆိုသင့်ပါ။ (မြန်မာပြန်၊ ပ၊ ၆၉)

စပယ်ဦးစာပေ

## အာကာသနှင့် ဖြူနီညိုပြာ

သကဝါဒီ။ အာကာသသည် မြင်အပ်သောသဘော ရှိပါသလော။

ပရဝါဒီ။ ဩော်-ရှိပါ၏။

သကဝါဒီ။ အာကာသသည် ရူပါရုံလော။ ရူပါယတနလော။ ရူပဓာတ် လော။ အညိုလော၊ အရွှေလော၊ အနီလော၊ အဖြူလော။ မျက်စိဖြင့် မြင်ထိုက်ပါသလော။ မျက်စိ၌ ထိခိုက်ပါသလော။ မျက်စိအား ထင်ခြင်းသို့ ရောက်ပါသလော။

ပရဝါဒီ။ ဤသို့ကား မဆိုသင့်ပါ။

သကဝါဒီ။ အာကာသသည် မြင်အပ်သောသဘော ရှိပါသလော။

ပရဝါဒီ။ ဩော်-ရှိပါ၏။

သကဝါဒီ။ စက္ခုကိုလည်းကောင်း၊ အာကာသကိုလည်းကောင်း စွဲ၍ စက္ခုဝိဉာဉ် ဖြစ်သလော။

ပရဝါဒီ။ ဩော်-ဖြစ်ပါ၏။

သကဝါဒီ။ စက္ခုကိုလည်းကောင်း၊ အာကာသကိုလည်းကောင်း စွဲ၍ စက္ခုဝိညာဉ် ဖြစ်သလော။

ပရဝါဒီ။ ဩော်-မရှိပါ။

သကဝါဒီ။ စက္ခုကိုလည်းကောင်း၊ ရူပါရုံကိုလည်းကောင်း စွဲ၍ စက္ခု ဝိညာဉ်သည် ဖြစ်၏ဟူသော သုတ္တန် (ပါဠိ) သည် ရှိသည် မဟုတ်ပါလော။

ပရဝါဒီ။ ဩော်-ရှိပါ၏။

သကဝါဒီ။ အရှင် ပရဝါဒီ၊ စက္ခုကိုလည်းကောင်း၊ ရူပါရုံကိုလည်းကောင်း စွဲ၍ စက္ခုဝိညာဉ် ဖြစ်၏ဟူသော သုတ္တန် (ပါဠိ) ရှိခဲ့ပါမူ စက္ခုကို လည်းကောင်း၊ အာကာသကို လည်းကောင်း စွဲ၍ စက္ခုဝိညာဉ်သည် ဖြစ်၏ဟု မဆိုသင့်။

ပရဝါဒီ။ အာကာသသည် မြင်အပ်သောသဘောရှိ၏ဟု မဆိုသင့်ပါလော။

သကဝါဒီ။ ဩော်-မဆိုသင့်ပါ။

ပရဝါဒီ။ သစ်ပင်နှစ်ပင်တို့၏ အကြားကိုလည်းကောင်း၊ တိုင်နှစ်လုံးတို့၏ အကြားကိုလည်းကောင်း၊ သံကောက် (သော့) ပေါက်ကို လည်းကောင်း၊ လေသာပြူတင်းပေါက်ကို လည်းကောင်း မြင်ရသည် မဟုတ်ပါလော။

သကဝါဒီ။ ဩော်-မြင်ရပါ။

ပရဝါဒီ။ အရှင် သကဝါဒီ၊ သစ်ပင်နှစ်ပင်တို့၏အကြားကို လည်းကောင်း၊ တိုင်နှစ်လုံးတို့၏ အကြားကို လည်းကောင်း၊ သံကောက် (သော့) ပေါက်တို့ကိုလည်းကောင်း၊ လေသာပြတင်းပေါက်ကိုလည်းကောင်း မြင်အပ်သောသဘော ရှိ၏ဟု ဆိုသင့်၏။ (မြန်မာပြန်၊ ဒု၊ ၃၉)

## လှူဖွယ်ဝတ္ထုနှင့် တမလွန်

သကဝါဒီ။ ဤဘဝ၌ ပေးလှူအပ်သောဝတ္ထုဖြင့် ထိုနောက်ဘဝ၌ မျှတပါကုန်သလော။

ပရဝါဒီ။ ဪ–မျှတပါကုန်၏။

သကဝါဒီ။ ဤဘဝမှ သင်္ကန်းပေးလှူကုန်၏။ ထိုသင်္ကန်းကို နောက်ဘဝ၌ ရပါကုန်သလော။

ပရဝါဒီ။ ဤသို့ကား မဆိုသင့်ပါ။

သကဝါဒီ။ ဤဘဝမှ ဆွမ်းကို ပေးလှူကုန်၏။ ကျောင်းကို ပေးလှူကုန်၏။ ဤဘဝမှ သူနာ၏ အထောက်အပံ့၊ အသက်၏ အရံ အတားဖြစ်သော ဆေးကို ပေးလှူကုန်၏။ ဤဘဝမှ ခဲဖွယ်ကို ပေးလှူကုန်၏။ ဤဘဝမှ ဘောဇဉ်ကို ပေးလှူ ကုန်၏။ ဤဘဝမှ သောက်ဖွယ်ကို ပေးလှူကုန်၏။ ထို သောက်ဖွယ်တို့ နောက်ဘဝ၌ သုံးဆောင်ရပါကုန်သလော။

ပရဝါဒီ။ ဤသို့ကား မဆိုသင့်ပါ။

သကဝါဒီ။ ဤဘဝမှ ဆွမ်းကို ပေးလှူကုန်၏။ ဤဘဝမှ ကျောင်းကို၊ ဤဘဝမှ ဆေးကို၊ ဤဘဝမှ ခဲဖွယ်ကို၊ ဤဘဝမှ ဘောဇဉ်ကို၊ ဤဘဝမှ သောက်ဖွယ်ကို ပေးလှူကုန်၏။ ထို သောက်ဖွယ်ကို နောက်ဘဝ၌ သုံးဆောင်ရပါသလော။

ပရဝါဒီ။ ဤသို့ကား မဆိုသင့်ပါ။

သကဝါဒီ။ ဤဘဝမှ ပေးအပ်၊ လှူအပ်သော ဝတ္ထုဖြင့် နောက်ဘဝ၌ မျှတပါကုန်သလော။

ပရဝါဒီ။ ဪ–မျှတပါကုန်၏။

သကဝါဒီ။ အခြားသူသည် အခြားသူ အကျိုးငှာ ပြုအပ်ပါသလော။ ချမ်းသာ ဆင်းရဲကို သူတစ်ပါး ပြုအပ်ပါသလော။ အခြားသူ ပြုလုပ်ပါသလော။ အခြားသူသည် ခံစားပါသလော။

ပရဝါဒီ။ ဤသို့ကား မဆိုသင့်ပါ။ ဤဘဝမှ ပေးလှူအပ်သောဝတ္ထုဖြင့် ထို နောက်ဘဝ၌ မျှတကုန်၏ဟူ၍ မဆိုသင့်ပါလော။

သကဝါဒီ။ သြော်–မဆိုသင့်ပါ။

ပရဝါဒီ။ ပြိတ္တာတို့သည် မိမိ၏အကျိုးငှာ ပေးလှူအပ်သော အလှူဒါနကို ဝမ်း မြောက်ကုန်သည် မဟုတ်ပါလော။ စိတ်ကို ကြည်လင်စေကုန်သည် မဟုတ်ပါလော။ နှစ်သက်မှုကို ဖြစ်စေကုန်သည် မဟုတ်ပါလော။ စိတ်ချမ်းသာ ဝမ်းမြောက်မှုကို ရကြကုန်သည် မဟုတ်ပါလော။

သကဝါဒီ။ သြော်–ဟုတ်ပါ၏။

ပရဝါဒီ။ အရှင် သကဝါဒီ၊ ပြိတ္တာတို့သည် မိမိအကျိုးငှာ လှူအပ်ကုန်သော အလှူဒါနကို ဝမ်းမြောက်ခဲ့ကုန်လျှင်၊ စိတ်ကို ကြည်လင်စေခဲ့ကုန်လျှင်၊ နှစ်သက်မှု ဖြစ်စေခဲ့ကုန်လျှင်၊ စိတ်ချမ်းသာ ဝမ်းမြောက်မှုကို ရခဲ့ ကုန်လျှင် ထိုအကြောင်းကြောင့် ဤဘဝမှ ပေးလှူအပ်သော ဝတ္ထုဖြင့် နောက်ဘဝ၌ မျှတကုန်၏ဟူ၍ ဆိုသင့်၏။

ပရဝါဒီ။ ဤဘဝမှ ပေးလှူအပ်သော ဝတ္ထုဖြင့် နောက်ဘဝ၌ မျှတကုန်၏ဟူ၍ မဆိုသင့်ပါလော။

သကဝါဒီ။ သြော်–မဆိုသင့်ပါ။

ပရဝါဒီ။ မြင့်ရာအရပ်၌ ရွာသောမိုးရေသည် နိမ့်ရာအရပ်သို့ စီးဆင်းသကဲ့သို့၊ ဤအတူ ဤဘဝမှ လှူအပ်သောဝတ္ထုသည် ပြိတ္တာတို့အား ကပ် ရောက်၏။ ထိုနောက်ဘဝ၌ လယ်ထွန်မှုသည် မရှိ။ နွားမွေးမှုသည် မရှိ။ ထိုသို့သဘောရှိသော ကုန်သွယ်မှုသည်လည်းကောင်း၊ ငွေဖြင့် ရောင်းဝယ်မှုသည် လည်းကောင်း မရှိ။ ဤဘဝမှ ပေးလှူအပ်သော ဝတ္ထုဖြင့် သေလွန်ကုန်သော ပြိတ္တာတို့သည် ထိုဘဝ၌ မျှတကုန်၏ ဟု မြတ်စွာဘုရား ဟောအပ်သော သုတ္တန် (ပါဠိ) ရှိ သည်သာ မဟုတ်ပါလော။ ထို့ကြောင့်ပင် ဤဘဝမှ ပေးလှူအပ်သော ဝတ္ထုဖြင့် ထိုဘဝ၌ မျှတကုန်၏ဟူ၍ မဆိုသင့်ပါလော။

သကဝါဒီ။ သြော်–မဆိုသင့်ပါ။

ပရဝါဒီ။ ရဟန်းတို့၊ ဤအကြောင်းငါးပါးတို့ကို မြော်မြင်ကုန်လျက် မိဘတို့ သည် အိမ်၌မွေးဖွားသော သားသမီးကို အလိုရှိကုန်၏။ အဘယ် အကြောင်း ငါးပါးတို့နည်း။ ငါတို့မွေးမြူအပ်သော သားသမီးတို့သည် ငါတို့အား (တစ်ဖန်) မွေးမြူကုန်လတ္တံ့။ ငါတို့၏ ပြုဖွယ်ကိစ္စကိုလည်း

ပြုလုပ်ကုန်လတ္တံ့။ အမျိုးအနွယ်သည် ကြာမြင့်စွာ တည်လတ္တံ့။ ငါတို့၏ အမွေခံအမွေစားအဖြစ်ကို ပြုကုန်လတ္တံ့။ ထို့ပြင် ကွယ်လွန်ကုန်သော၊ တမလွန်ဘဝသို့ ရောက်ကုန်သော ငါတို့အား အလှူကို ပေးလှူလတ္တံ့။ ရဟန်းတို့၊ ဤ အကြောင်းငါးပါးတို့ကို မြော်မြင်ကုန်လျက် မိဘတို့သည် (အိမ်၌) မွေးသော သားသမီးကို အလိုရှိကုန်၏။

အဆုံးအမကို လိုက်နာပြုကျင့်လေ့ ရှိကုန်သော၊ မွေးမြူအပ်သော မိဘတို့ကို လုပ်ကျွေးလေ့ ရှိကုန်သော၊ အမျိုးအနွယ်ကို မဆုတ်ယုတ်စေတတ်သော သဒ္ဓါတရား ရှိသည်ဖြစ်၍ အကျင့်သီလနှင့် ပြည့်စုံကုန်သော သားသမီးတို့သည် ချီးကျူးထိုက်သူ ဖြစ်ကုန်၏။ ဤသို့လျှင် မြတ်စွာဘုရား ဟောကြားအပ်သော သုတ္တန် (ပါဠိ) ရှိသည်သာ မဟုတ်ပါလော။

သကဝါဒီ။ ဩော်-ရှိပါ၏။

ပရဝါဒီ။ ထို့ကြောင့်ပင် ဤဘဝမှ ပေးလှူအပ်သော ဝတ္ထုဖြင့် နောက်ဘဝ၌ မျှတကုန်၏။ (မြန်မာပြန်၊ ၃၊ ၅၇)

ဤသည်တို့ကား ကထာဝတ္ထုကျမ်းထွက် တိုက်ရိုက်စကားများ ဖြစ်ကုန်၏။ သာမန်သုတေသီတို့အဖို့ ဤစကားများသည် စိတ်ဝင်စားဖွယ် ဖြစ်ချင်မှ ဖြစ်ပေမည်။ အဘိဓမ္မာသုတေသီတို့အဖို့တွင်ကား ပြည်တန်ပတ္တမြားတလုံးကြီးကို ရရှိသည့်အလား ဖြစ်တန်ရာပါသည်။



## ယုတ်သူမြတ်သူ၊ ဤနှစ်လူ
## ပြိုင်တူဘာ့ကြောင့် အကျိုးပေးသနည်း

**ပြဿနာ = လားရာဂတိ**
**မေးလျှောက်သူ = မိဂသာလာ (ဥပါသိကာမ)**

ဆွမ်းခံရာမှ ပြန်လာသော အရှင်အာနန္ဒာ၏ခြေသည် သည်နေ့အဖို့တွင် ခါတိုင်းနေ့များထက် ပို၍သွက်နေသည်။ ခြေလှမ်းကို ခပ်မြန်မြန်လှမ်းကာ ကြွနေသည်။ အဘယ်ကြောင့်ပါနည်း။

ခြေလှမ်းသွက်မည်ဆိုကလည်း သွက်လောက်စရာပင်။ ဆွမ်းခံရာတွင် မိဂသာလာအမည်ရှိသော ဥပါသိကာမက လျှောက်ထားလိုက်သော စကားသည် သူ့နားထဲက မထွက်။ အလွန်လေးနက်သောစကား၊ မြတ်ဘုရား သိထိုက်သော စကားဟု ယူဆသည့်အလျောက် ဗုဒ္ဓအား လျှောက်ထားရန် ခြေကို သွက်သွက် လှမ်းကာ ကျောင်းတော်သို့ ပြန်လာနေခြင်း ဖြစ်၏။

ကျောင်းသို့ရောက်လျှင် သပိတ်ကို ကျောင်းရှေ့တွင်ချန်ထားခဲ့ပြီးနောက် ဗုဒ္ဓထံတော်သို့ချဉ်းကပ်ကာ ဤသို့ နားတော်လျှောက်လေသတည်း။

"အရှင်ဘုရား၊ ယနေ့နံနက် ဆွမ်းခံရာတွင် မိဂသာလာမည်သော ဥပါသိကာမက အကျွန်ုပ်အား ဤစကားကိုလျှောက်လိုက်ပါသည် ဘုရား။ သူ လျှောက်လိုက်သည်ကား–

'အရှင်ဘုရား အာနန္ဒာ၊ အဘယ်မည်သောအကြောင်းအားဖြင့် မြတ်စွာဘုရား ဟောကြားတော်မူအပ်သော ဤတရားကို သိအပ်ပါသနည်း။–

ယင်းတရား၌ 'မေထုန်မှ ရှောင်ကြဉ်မှု' မြတ်သောအကျင့်ရှိသူနှင့် 'မရှောင်ကြဉ်မှု' မြတ်သောအကျင့်မရှိသူ ဤနှစ်ဦးတို့သည် တမလွန်ဘဝ၌ ထပ်တူညီမျှ ဂတိလားရာ ရှိကြပါကုန်၏။

စပယ်ဦးစာပေ

–အရှင်ဘုရား၊ ပုရာဏမည်သော အကျွန်ုပ်၏ဖခင်သည် မြတ်သောအကျင့်ကို ကျင့်ပါ၏။ မေထုန်အကျင့်မှ ဝေးစွာကျင့်ပါ၏။ ရွာသူတို့၏ အကျင့်ဖြစ်သော မေထုန်မှ ရှောင်ကြဉ်ပါ၏။ ထိုအကျွန်ုပ်၏ဖခင် သေလွန်သည်ရှိသော် သကဒါဂါမိဖိုလ်သို့ရောက်လျက် တုသိတာနတ်ပြည်၌ဖြစ်သည်ဟု မြတ်ဘုရား မိန့်ကြားအပ်ပါသည်။–

–အရှင်ဘုရား၊ ဣသိဒတ္တမည်သော အကျွန်ုပ်၏အဘိုးသည်လည်း မိမိမယားဖြင့် ရောင့်ရဲသည်ဖြစ်၍ မြတ်သောအကျင့်ကို မကျင့်သူ ဖြစ်ပါ၏။ ထိုအဘိုးသည်လည်း ကွယ်လွန်သည်ရှိသော် သကဒါဂါမိဖိုလ်သို့ရောက်လျက် တုသိတာနတ်ပြည်၌ဖြစ်သည်ဟု မြတ်စွာဘုရား မိန့်ကြားတော်မူအပ်ပါသည်။–

–အရှင်ဘုရား အာနန္ဒာ၊ အဘယ်အဘယ်မည်သောအကြောင်းအားဖြင့် မြတ်စွာဘုရား ဟောကြားတော်မူအပ်သော ဤတရားကို သိအပ်ပါသနည်း။ ယင်းတရား၌ 'မေထုန်မှ ရှောင်ကြဉ်မှု' မြတ်သောအကျင့်ရှိသူနှင့် 'မရှောင်ကြဉ်မှု' မြတ်သော အကျင့်မရှိသူ၊ ဤနှစ်ဦးတို့သည် တမလွန်ဘဝ၌ ထပ်တူညီမျှ ဂတိလားရာ ရှိကြပါကုန်၏။' ဟု လျှောက်ပါသည်။–

–အရှင်ဘုရား၊ ဤသို့လျှောက်သောအခါ အကျွန်ုပ်သည် မိဂသာလာ ဥပါသိကာမကို 'နှမ၊ မြတ်စွာဘုရားသည် ဤအတိုင်းပင် မိန့်ကြားအပ်ပေ၏။' ဟု ပြောလိုက်ပါသည်ဘုရား။" ဟု နားတော်လျှောက်လေ၏။

မိဂသာလာသည် ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်သော ဥပါသိကာမ တစ်ဦး ဖြစ်သည်။ သူသည် သူ့ဉာဏ်မီသမျှ တွေး၏။ သူ့ယုတ်နှင့်သူတော်ကောင်း ပုဂ္ဂိုလ်ချင်းနှိုင်းယှဉ်၍ သူယုတ်သည် အပါယ်သို့ လားရမယ်။ သူတော်ကောင်းသည် သုဂတိဘဝသို့ လားရမည်။ သို့ပါလျက် ဗုဒ္ဓမြတ်ဘုရားက ထိုသူ နှစ်ယောက်တို့၏ လားရာဂတိမှာ ထပ်တူညီမျှ အဘယ့်ကြောင့် ဟောတော်မူလေသနည်းဟု စိတ်ထဲတွင် ဘဝင်မကျနိုင် ဖြစ်နေသည်။ ထိုအကြောင်းကို အရှင်အာနန္ဒာ ဆွမ်းခံကြွခိုက် လျှောက်ထားလိုက်ရာ ဤဖြစ်ရပ်ကို အရှင်အာနန္ဒာမှ တစ်ဆင့် ဗုဒ္ဓအား လျှောက်ထားပြန်သတည်း။

မိဂသာလာ၏ မေးလျှောက်ချက်နှင့်ပတ်သက်၍ ဗုဒ္ဓက အရှင်အာနန္ဒာအား မြွက်ကြားတော်မူသည်ကား–

"အာနန္ဒာ၊ မိုက်သော၊ မလိမ္မာသော၊ မိန်းမဖြစ်သော၊ မိန်းမဟူသော အမှတ်နှင့်ပြည့်စုံသော မိဂသာလာ ဥပါသိကာမသည် အဘယ်သို့သော မိန်းမ လေနည်း။ ယောကျ်ားပုဂ္ဂိုလ်တို့၏ ဣန္ဒြေအနုအရင့်ကို သိတတ်သော၊ ဣန္ဒြိယ

ပရောပရိယဉာဏ်၌ အပိုင်းအပင်းအဆီးအတား မရှိကုန်သော မြတ်စွာဘုရားတို့သည် အဘယ်သို့သော ပုဂ္ဂိုလ်တို့နည်း။" (ပုဂ္ဂိုလ်ချင်း တစ်ဦးနှင့်တစ်ဦး နှိုင်းယှဉ်ခြင်းမှာ ဘုရားသခင်တို့၏အရာသာ ဖြစ်သည်။ မိန်းမတို့၏အရာမဟုတ်ဟု ဆိုလိုသည်။)

ဤသို့ မိန့်တော်မူပြီးနောက် ဗုဒ္ဓသည် အရှင်အာနန္ဒာအား ပုဂ္ဂိုလ်ခြောက်မျိုး ရှိကြောင်း ဆက်၍ဟောကြားတော်မူလေ၏။

## ပုဂ္ဂိုလ်ခြောက်မျိုး

(၁) အာနန္ဒာ၊ ဤလောက၌ အချို့သောပုဂ္ဂိုလ်သည် မကောင်းမှုမှ ကောင်းစွာကြဉ်၏။ ချမ်းသာသော ပေါင်းသင်းမှု ရှိ၏။ ထိုသူနှင့် အတူနေခြင်းဖြင့် သီတင်းသုံးဖော်တို့သည် နှစ်သက်ကုန်၏။ ထိုသူသည် ကြားနာမှုဖြင့်လည်း ပြုသင့်သည်ကို မပြု။ အကြားအမြင်များမှု (ဝီရိယ) ဖြင့်လည်း ပြုသင့်သည်ကို မပြု။ သိသင့်သိထိုက်သည်ကို ထိုးထွင်း၍ မသိ။ အခါကာလအားလျော်စွာဖြစ်သော လွတ်မြောက်မှု (ဝိမုတ္တိ) ကိုလည်း မရ။ ထိုသူသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှနောက်၌ ဆုတ်ယုတ်ရန် ဖြစ်၏။ ထူးမြတ်ရန် မဖြစ်။ ဆုတ်ယုတ်သည့်အဖြစ်သို့သာလျှင် ရောက်၏။ ထူးမြတ်သည့်အဖြစ်သို့ မရောက်။

(၂) 'အာနန္ဒ၊ ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် မကောင်းမှုမှ ကောင်းစွာကြဉ်၏။ ချမ်းသာသော ပေါင်းသင်းမှု ရှိ၏။ ထိုသူနှင့် အတူနေခြင်းဖြင့် သီတင်းသုံးဖော်တို့သည် နှစ်သက်ကုန်၏။ ထိုသူသည် ကြားနာမှုဖြင့်လည်း ပြုသင့်သည်ကို မပြု၊ အကြား အမြင်များမှု (ဝီရိယ) ဖြင့်ကား ပြုသင့်သည်ကို ပြု၏။ ပညာဖြင့်လည်း သိသင့်သည်ကို ထိုးထွင်း၍ သိ၏။ အခါအားလျော်စွာ ဖြစ်သော လွတ်မြောက်မှု (ဝိမုတ္တိ) ကိုလည်း ရ၏။ ထိုသူသည် ခန္ဓာအိမ်ပျက်စီး၍ သေပြီးသည်မှနောက်၌ ထူးမြတ်ရန် ဖြစ်၏။ ဆုတ်ယုတ်ရန် မဖြစ်။ ထူးမြတ်သည့်အဖြစ်သို့သာလျှင် ရောက်၏။ ဆုတ်ယုတ်သည့် အဖြစ်သို့ မရောက်။

–အာနန္ဒ၊ ထိုပုဂ္ဂိုလ်နှစ်ယောက်တို့၏ နှိုင်းယှဉ်တတ်ကုန်သော ပုဂ္ဂိုလ်တို့သည် 'ဤပုဂ္ဂိုလ်အားလည်း ထိုတရားတို့ပင် ရှိကုန်၏။ တခြားပုဂ္ဂိုလ်အားလည်း

ထို တရားတို့ပင် ရှိကုန်၏။ (သို့ဖြစ်ပါလျက်) အဘယ်ကြောင့် ထိုသူနှစ်ယောက်တို့တွင် တစ်ယောက်က (ဂုဏ်အားဖြင့်) ယုတ်၍ တစ်ယောက်က (ဂုဏ်အားဖြင့်) မြတ်ပါသနည်း။' နှိုင်းယှဉ်ကုန်၏။-

-အာနန္ဒာ၊ ထိုသို့နှိုင်းယှဉ်ခြင်းသည်သာလျှင် ထိုနှိုင်းယှဉ်သူတို့အား ကြာမြင့်စွာ စီးပွားမဲ့ရန်၊ ဆင်းရဲရန် ဖြစ်၏။

-အာနန္ဒာ၊ ထိုပုဂ္ဂိုလ်နှစ်ယောက်တို့တွင် မကောင်းမှုမှ ကောင်းစွာကြဉ်သော၊ ချမ်းသာသော ပေါင်းသင်းမှုရှိသော ထိုသူနှင့်အတူနေခြင်းအားဖြင့် သီတင်းသုံးဖော်တို့သည် နှစ်သက်သော၊ ကြားနာမှုဖြင့်လည်း (ပြုသင့်သည်ကို) ပြုသော၊ ပညာမြင့်လည်း 'သိသင့်သည်ကို' ထိုးထွင်း၍သိသော၊ အခါအားလျော်စွာဖြစ်သော လွတ်မြောက်မှု 'ဝိမုတ္တိ' ကိုလည်းရသော ပုဂ္ဂိုလ်သည် ဤမည်သော ရှေးပုဂ္ဂိုလ်ထက် သာ၍လည်း နှစ်သက်ဖွယ်ရှိ၏။ သာ၍လည်း မွန်မြတ်၏။ ထိုသို့ဖြစ်ခြင်းသည် အဘယ်ကြောင့်နည်း။ အာနန္ဒာ၊ ဤပုဂ္ဂိုလ်ကို (ဝိပဿနာဉာဏ်) တရားအယဉ်သည် (အရိယာဘုံသို့) ဆောင်ယူသွား၏။ ထိုအကြောင်းကို မြတ်စွာဘုရားမှတစ်ပါး အဘယ်သူသည် သိနိုင်ရာအံ့နည်း။-

အာနန္ဒာ၊ ထို့ကြောင့် ပုဂ္ဂိုလ်တို့၌ နှိုင်းယှဉ်သူတို့ မဖြစ်ကုန်လင့်။ ပုဂ္ဂိုလ်တို့၌ နှိုင်းယှဉ်မှုကို မယူကြကုန်လင့်။ အာနန္ဒာ၊ ပုဂ္ဂိုလ်တို့၌ နှိုင်းယှဉ်မှုကို ယူသူသည် မိမိကိုယ်ကို တူးဖြိုသည် မည်၏။

-အာနန္ဒာ၊ ငါသော်လည်းကောင်း၊ ငါနှင့်တူသူသော်လည်းကောင်း ပုဂ္ဂိုလ်တို့၌ နှိုင်းယှဉ်မှုကို ယူရာ၏။-

(၃) အာနန္ဒာ၊ ဤလောက၌ အချို့သောပုဂ္ဂိုလ်အား အမျက်ဒေါသမာန်မာန လွှမ်းမိုးလွန်ကဲ၏။ ထိုပုဂ္ဂိုလ်အား ရံဖန်ရံခါ၌လည်း လောဘတရားတို့ ဖြစ်ကုန်၏။ ထိုပုဂ္ဂိုလ်သည် ကြားနာမှုဖြင့်လည်း (ပြုသင့်သည်ကို) မပြု။ အကြားအမြင်များမှု (ဝီရိယ) ဖြင့်လည်း (ပြုသင့်သည်ကို) မပြု။ ပညာဖြင့်လည်း (သိသင့်သည်ကို) ထိုးထွင်း၍ မသိ။ အခါအားလျော်စွာဖြစ်သော လွတ်မြောက်မှု (ဝိမုတ္တိ) ကိုလည်း မရ။ ထိုသူသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှနောက်၌ ဆုတ်ယုတ်၍ ဖြစ်၏။ ထူးမြတ်ရန် မဖြစ်။ ဆုတ်ယုတ်သည့်အဖြစ်သို့သာလျှင် ရောက်၏။ ထူးမြတ်သည့်အဖြစ်သို့ မရောက်။

(၄) အာနန္ဒာ၊ ဤလောက၌ အချို့သောပုဂ္ဂိုလ်အား အမျက်ဒေါသ

မာန်မာန လွှမ်းမိုးလွှန်ကဲ၏။ ထိုပုဂ္ဂိုလ်အား ရံဖန်ရံခါ၌လည်း လောဘတရားတို့သည် ဖြစ်ကုန်၏။ ထိုပုဂ္ဂိုလ်သည် ကြားနာမှု ဖြင့်လည်း (ပြုသင့်သည်ကို) မပြု။ ။ပ။ ယုတ်သည်၏အဖြစ်သို့ မရောက်။

အာနန္ဒာ၊ ထိုပုဂ္ဂိုလ်နှစ်ယောက်တို့၌ နှိုင်းယှဉ်တတ်သော ပုဂ္ဂိုလ်တို့သည် (အထက်၌ဆိုပြီးကို မှီး၍သိ) ငါနှင့်တူသူသော်လည်းကောင်း နှိုင်းယှဉ်မှုကို ယူ ရာ၏။-

(၅) အာနန္ဒာ၊ ဤလောက၌ အချို့သောပုဂ္ဂိုလ်အား အမျက်ဒေါသ မာန်မာန လွှမ်းမိုးလွှန်ကဲ၏။ ထိုပုဂ္ဂိုလ်အား ရံဖန်ရံခါ၌လည်း စကားပြောဆိုမှု ဝစီသင်္ခါရတို့ ဖြစ်ကုန်၏။ ထိုပုဂ္ဂိုလ်သည် ကြားနာမှုဖြင့်လည်း (ပြုသင့်သည်ကို) မပြု။ ။ပ။ အခါအားလျော်စွာ ဖြစ်သော လွတ်မြောက်မှု (ဝိမုတ္တိ) ကိုလည်း မရ။ ထိုသူသည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှနောက်၌ ဆုတ်ယုတ်ရန် ဖြစ်၏။ ထူးမြတ်ရန် မဖြစ်။ ဆုတ်ယုတ်သည့်အဖြစ်သို့သာလျှင် ရောက်၏။ ထူးမြတ်သည့်အဖြစ်သို့ မရောက်။

(၆) အာနန္ဒာ၊ ဤလောက၌ အချို့သောပုဂ္ဂိုလ်အား အမျက်ဒေါသ မာန်မာန လွှမ်းမိုးလွှန်ကဲ၏။ ထိုပုဂ္ဂိုလ်အား ရံဖန်ရံခါ၌လည်း စကားပြောဆိုမှု ဝစီသင်္ခါရတို့ ဖြစ်ကုန်၏။ ထိုပုဂ္ဂိုလ်သည် ကြားနာမှုဖြင့်လည်း (ပြုသင့်သည်ကို) ပြု၏။ အကြားအမြင်များမှု (ဝီရိယ) ဖြင့်လည်း (ပြုသင့်သည်ကို) ပြု၏။ ပညာဖြင့်လည်း (သိသင့်သည်ကို) ထိုးထွင်း၍ သိ၏။ အခါအားလျော်စွာဖြစ်သော လွတ်မြောက်မှု (ဝိမုတ္တိ) ကိုလည်း ရ၏။ ထိုပုဂ္ဂိုလ်သည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည့်နောက်၌ ထူးမြတ်ရန် ဖြစ်၏။ ဆုတ်ယုတ်ရန် မဖြစ်။ ထူးမြတ်သည့်အဖြစ်သို့သာလျှင် ရောက်၏။ ဆုတ်ယုတ်သည့်အဖြစ်သို့ မရောက်။

-အာနန္ဒာ၊ ထိုပုဂ္ဂိုလ်နှစ်ယောက်တို့၌ နှိုင်းယှဉ်တတ်သောပုဂ္ဂိုလ်တို့သည် 'ဤပုဂ္ဂိုလ်အားလည်း ထိုတရားတို့ပင် ရှိကုန်၏။ အခြားပုဂ္ဂိုလ်အားလည်း ထိုတရားတို့ပင် ရှိကုန်၏။ (ထိုသို့ဖြစ်ပါလျက်) အဘယ်ကြောင့် ထိုပုဂ္ဂိုလ် နှစ်ယောက်တို့တွင် တစ်ယောက်က (ဂုဏ်အားဖြင့်) ယုတ်၍ တစ်ယောက်က (ဂုဏ်အားဖြင့်) မြတ်ပါသနည်း။' ဟု နှိုင်းယှဉ်ကြည့်ကုန်၏။-

–အာနန္ဒာ၊ ထိုသို့ နှိုင်းယှဉ်ခြင်းသည် နှိုင်းယှဉ်သူတို့အား ကြာမြင့်စွာ စီးပွားမဲ့ရန်၊ ဆင်းရဲရန် ဖြစ်၏။–

–အာနန္ဒာ၊ ပုဂ္ဂိုလ်နှစ်ယောက်တို့တွင် အမျက်ဒေါသ၊ မာန်မာန လွန်ကဲသော၊ ရံဖန်ရံခါ၌လည်း စကားပြောဆိုမှု ဝစီသင်္ခါရဖြစ်သော၊ ကြားနာမှုဖြင့်လည်း (ပြုသင့်သည်ကို) ပြုသော၊ အကြားအမြင်များမှု (ဝီရိယ) ဖြင့်လည်း (ပြုသင့်သည်ကို) ပြုသော၊ ပညာဖြင့်လည်း (သိသင့်သည်ကို) ထိုးထွင်း၍ သိသော၊ အခါအားလျော်စွာဖြစ်သော လွတ်မြောက်မှု (ဝိမုတ္တိ) ကိုလည်းရသောပုဂ္ဂိုလ်သည် ဤမည်သော ရှေးပုဂ္ဂိုလ်ထက် သာ၍လည်း နှစ်သက်ဖွယ် ရှိ၏။ သာ၍လည်း မွန်မြတ်၏။ ထိုသို့ဖြစ်ခြင်းသည် အဘယ်ကြောင့်နည်း။ အာနန္ဒာ၊ ဤပုဂ္ဂိုလ်ကို (ဝိပဿနာဉာဏ်) တရားအယဉ်သည် (အရိယာ) ဘုံသို့ ဆောင်ယူသွား၏။ ထိုအကြောင်းကို မြတ်စွာဘုရားမှတစ်ပါး အဘယ်သူသည် သိနိုင်ရာအံ့နည်း။–

> အာနန္ဒာ၊ ထို့ကြောင့် ပုဂ္ဂိုလ်တို့၌ နှိုင်းယှဉ်သူတို့ မဖြစ်ကြကုန်လင့်။ အာနန္ဒာ၊ ပုဂ္ဂိုလ်တို့၌ နှိုင်းယှဉ်မှုကိုယူသူသည် မိမိကိုယ်ကို တူးဖြိုသည် မည်၏။ အာနန္ဒာ၊ ငါသော်လည်းကောင်း၊ ငါနှင့်တူသူသော်လည်းကောင်း ပုဂ္ဂိုလ်တို့၌ နှိုင်းယှဉ်မှုကို ယူရာ၏။

–အာနန္ဒာ၊ ထိုပုဂ္ဂိုလ်ခြောက်မျိုးတို့သည် လောက၌ ထင်ရှားကုန်၏။ အာနန္ဒာ၊ ပုရာဏ၏ ပြည့်စုံသော သီလမျိုးနှင့် ဣသိဒတ္တသည် ပြည့်စုံငြားအံ့။ ထိုအရာ၌ ပုရာဏသည် ဣသိဒတ္တ၏ ဉာဏ်အလားကို ပိုင်းခြား၍ မသိရာ။ အာနန္ဒာ၊ ဣသိဒတ္တ၏ ပြည့်စုံသော ပညာမျိုးနှင့် ပုရာဏသည် ပြည့်စုံငြားအံ့၊ ဤအရာ၌ ဣသိဒတ္တသည် ပုရာဏ၏အလားကို ပိုင်းခြား၍ မသိရာ၏။ အာနန္ဒာ၊ ဤသို့လျှင် ဤပုဂ္ဂိုလ်နှစ်ယောက်တို့သည် အင်္ဂါတစ်ပါး ယုတ်ကုန်၏။" ဟု မိန့်တော်မူသတည်း။

ဤဖြစ်ရပ်ကို ဆက္ကနိပါတ်၊ အင်္ဂုတ္တိုရ်၊ မိဂသာလသုတ်၌ ဗုဒ္ဓ ဟောတော်မူ၏။ လောက၌ တစ်ဦးနှင့်တစ်ဦး၊ တစ်ယောက်နှင့်တစ်ယောက်ကို စီးပွားရေးအားဖြင့်လည်းကောင်း၊ ပညာရေးအားဖြင့်လည်းကောင်း စသည်ဖြင့် ဟိုလူကသာသည်၊ ဤခလူကသာသည်ဟူ၍ နှိုင်းယှဉ်လေ့ရှိကြရာ ဤနှိုင်းယှဉ်ဆိုပြောသူများသည် မိမိကိုယ်ကိုမိမိ တူးဖြိုနေသူများဟု ဗုဒ္ဓ ဟောတော်မူသည်ကို သတိပြုစရာ ကောင်းလှ၏။ အချုပ်အားဖြင့် 'နှိုင်းယှဉ်ခြင်းကား ဗုဒ္ဓ၏အရာသာတည်း။' ဟု ပြတ်သားစွာ မြွက်ကြားသွားတော်မူသတည်း။

(ဆက္ကနိပါတ်၊ အင်္ဂုတ္တိုရ်၊ မိဂသာလသုတ်)



## မြဲပါသလော၊ ဤလောကော
## ရှင်စော မည်သို့ဖြေသနည်း

**ပြဿနာ = လောက**
**မေးလျှောက်သူ = ပေါဋ္ဌပါဒပရိဗိုဇ်**

ဗုဒ္ဓလက်ထက်တော်၌ တိတ္ထိ၊ တက္ကတွန်း၊ ပရိဗိုဇ်များ ထင်ရှားရှိခဲ့၏။ ဗုဒ္ဓသည် ထိုတိတ္ထိ၊ တက္ကတွန်း၊ ပရိဗိုဇ်ဆရာကြီးတို့ လွှမ်းမိုး၊ ကြီးစိုးနေသော ခေတ်ကို ထိုးဖောက်၍ ပွင့်ထွန်းလာခဲ့ရ၏။

ဝါဒရေးရာအားဖြင့် ဗုဒ္ဓဝါဒနှင့် ထိုတိတ္ထိဆရာကြီးများ၏ဝါဒမှာ 'ဆီနှင့် ရေအလား' နှိုင်းယှဉ်၍မရအောင် ကွာခြားလှ၏။ ဝါဒချင်း မတူသော်လည်း ဗုဒ္ဓ သည် သူ့ခပ်သိမ်းတို့အတွက် ပွင့်ထွန်းလာသည်ဖြစ်သော်ကြောင့် ပုဂ္ဂိုလ်ရေးရာ အားဖြင့် တိတ္ထိတို့နှင့်လည်းကောင်း၊ တက္ကတွန်း၊ ပရိဗိုဇ်တို့နှင့်လည်းကောင်း အထိုက်အလိုက် ဆက်ဆံမှုပြုတော်မူကြောင်း ဒီဃနိကာယ်၊ သီလက္ခန္ဓဝဂ်၊ ပေါဋ္ဌ ပါဒသုတ်တွင် လာ၏။

မှန်ပါသည်။ တစ်နေ့သောအခါတွင် ဗုဒ္ဓသည် ဆွမ်းခံရန်အလို့ငှာ သပိတ် ပိုက်လျက် ဇေတဝန်ကျောင်းတော်မှ ထွက်လာခဲ့ရာ အချိန်စောသေးသဖြင့် ပေါဋ္ဌ ပါဒ ပရိဗိုဇ်ထံသို့ ခေတ္တဝင်တော်မူလေ၏။

ပေါဋ္ဌပါဒကား နှယ်နှယ်ရရ မဟုတ်။ ပရိဗိုဇ်များစွာတို့အပေါ် အုပ်ချုပ် သော ပရိဗိုဇ်ဆရာကြီး ဖြစ်လေသည်။ သူ၏ကျောင်းတိုက်မှာ ဇေတဝန်ကျောင်း တော်နှင့် သာဝတ္ထိမြို့၏အကြားတွင် တည်ရှိသဖြင့် ဆွမ်းခံထွက် ကြွလာသော မြတ်ဗုဒ္ဓသည် ပေါဋ္ဌပါဒပရိဗိုဇ်နေသော ကျောင်းတိုက်အနီးသို့ရောက်သောအခါ အချိန်စောလွန်းနေသဖြင့် မြို့တွင်းသို့ ဆွမ်းခံမဝင်သေးဘဲ ပေါဋ္ဌပါဒထံသို့ ဝင် ခြင်းဖြစ်သတည်း။

ထိုအချိန်တွင် ပေါဋ္ဌပါဒနှင့် ၎င်း၏တပည့်တို့သည် ချမ်းအေးလှသည်နှင့် လွင်တီးခေါင်တွင် နေဆာလှုံနေကြ၏။ မိမိတို့ကျောင်းတိုက်သို့ ဗုဒ္ဓ ကြွဝင်လာသည်ကို မြင်သောအခါ ပေါဋ္ဌပါဒသည် ရုတ်ခြည်းထ၍ ခရီးဦးကြိုဆိုခြင်းပြုပြီး နေရာများ ခင်းပေး၏။ ဗုဒ္ဓလည်း ပေါဋ္ဌပါဒ ခင်းပေးသော နေရာ၌ ထိုင်တော်မူ၏။ အလ္လာပသလ္လာပ စကားစမြည်း ပြောကြရင်းမှ ပေါဋ္ဌပါဒ၏ စကားညွှန့်သည် တဖြည်းဖြည်း ဝါဒရေးရာဘက်သို့ ကွန့်ထွက်သွား၏။ ဝါဒရေးရာနှင့်ပတ်သက်သည့်လက်တွေ့ဖြစ်ရပ်တစ်ခုကို ဗုဒ္ဓအား တင်ပြလေသည်။

"အရှင်ဘုရား၊ သညာချုပ်ခြင်းနှင့်ပတ်သက်၍ ဆရာအသီးသီးတို့ တစ်နေ့ဆီက အတော်ကလေး သူတစ်မျိုး ငါတစ်ဖုံ ပြောကြဆိုကြဆွေးနွေးကြ ငြင်းခုံကြပါသည်။ ငြင်းခုံသံများ ကြားရသောအခါ အရှင်ဘုရားကို သတိရမိပါသည်။ 'သြော်-ခုနေများ မြတ်ဘုရား ရှိခဲ့ပါမူ ကောင်းလေစွ။ ဤတရားတို့၌ မြတ်ဘုရားသည် ကောင်းစွာကျွမ်းကျင်တော်မူ၏။ မြတ်ဘုရားသာရှိပါမူ ကောင်းလေစွ။ ကောင်းလေစွ။' ဟု တောင့်တမိပါသည်။"

ဤသို့ လျှောက်ထားလိုက်ပြီးနောက် ပေါဋ္ဌပါဒသည် ဗုဒ္ဓကြွလာသည့် အခိုက်တွင် သူ့စိတ်ထဲတွင် ဇဝေဇဝါ ယောင်ဝါးဝါးဖြစ်နေသည့် အချက်အလက်များကို ဗုဒ္ဓအား မေးလျှောက်လေ၏။

"အရှင်ဘုရား၊ လောကသည် မြဲပါသလော။ မြဲသည်ဆိုသော အယူအဆသာ မှန်၍ အခြားတစ်ပါးသောအယူသည် မှားပါသလော"

ပေါဋ္ဌပါဒသည် လောက မြဲ၊ မမြဲနှင့်ပတ်သက်၍ ကြာမြင့်စွာကပင် တွေးလာခဲ့သော်လည်း အဖြေမပေါ်ခဲ့။ အဖြေထွက်မလာခဲ့။ ထို့ကြောင့် သူ့ရင်တွင်း၌ မရှင်းမလင်းဖြစ်နေသော ပြဿနာရပ်များအတွက် ဗုဒ္ဓထံမှ အဖြေတောင်းခံနေ၏။ သို့သော်-

"ပေါဋ္ဌပါဒ၊ လောကသည် မြဲ၏ဟူသော ဤအယူအဆသည်သာလျှင် မှန်၍ အခြားတစ်ပါးသော အယူမှား၏ဟူသော ဤအရာကို ငါ မဖြေကြား"

ဤစကားကို ကြားသောအခါ ပေါဋ္ဌပါဒမှာ မှန်းချက်နှင့်နှမ်းထွက်မကိုက်ဘဲ ဖြစ်နေ၏။ ဗုဒ္ဓအနေဖြင့် ဘယ်လိုများ မြွက်ကြားလိုက်ပါလိမ့်ဟု တအံ့တသြ ဖြစ်နေ၏။

"အရှင်ဘုရား၊ ဤသို့ဆိုလျှင် လောကသည် မမြဲပါသလော။ မမြဲဟူသော အယူသည်သာလျှင် မှန်၍ အခြားတစ်ပါးသောအယူသည် မှားပါသလော။"

မကျေနပ်ချက်ဖြင့် အတွန့်တက်၍ မေးလိုက်ပါသော်လည်း သူကြားလိုသော စကားကို မကြားရချေ။

"ပေါဋ္ဌပါဒ၊ လောကသည် မမြဲဟူသော အယူသည်သာ မှန်၍ အခြား တစ်ပါးသောအယူသည် မှား၏ဟူသော ဤအရာကို ငါ မဖြေကြား။"

ပေါဋ္ဌပါဒမှာ ထိုစကား ကြားရသောအခါ တွေမှိုင်ငိုင်ကျသွားလေ၏။ 'ဗုဒ္ဓအနေဖြင့် မဖြေနိုင်သောအရာ မရှိတန်လေရာ။' ဟု တွေးနေ၏။ ထို့နောက် ပေါဋ္ဌပါဒသည် 'အဖြေမရမချင်း မေးမည်။' ဟူ၍ အားခဲထားလေသလား မသိ။ ဖွဲ့ကောင်းကောင်းနှင့် ပုစ္ဆာပေါင်းများစွာတို့ကို ထုတ်လေတော့သည်။

- အရှင်ဘုရား၊ လောကသည် အဆုံး ရှိပါသလော။
- အရှင်ဘုရား၊ လောကသည် အဆုံး မရှိပါသလော။
- အရှင်ဘုရား၊ ထိုအသက်သည်ပင် ဤကိုယ် ဖြစ်ပါသလော။
- အရှင်ဘုရား၊ ဤအသက်သည်ပင် ထိုကိုယ် ဖြစ်ပါသလော။
- အရှင်ဘုရား၊ အသက်သည်တခြား ကိုယ်သည်တခြားလော။
- အရှင်ဘုရား၊ သတ္တဝါသည် သေပြီးသည့်နောက်၌ ရှိပါသလော။
- အရှင်ဘုရား၊ သတ္တဝါသည် သေပြီးသည့်နောက် မရှိပါသလော။
- အရှင်ဘုရား၊ သတ္တဝါသည် သေပြီးသည့်နောက် ရှိလည်းရှိ၊ မရှိလည်း မရှိပါသလော။
- အရှင်ဘုရား၊ သတ္တဝါသည် သေပြီးသည့်နောက် ရှိသည်လည်း မဟုတ်၊ မရှိသည်လည်းမဟုတ်ဆိုသော ဤအယူသည်သာ မှန်၍ အခြားတစ်ပါးသောအယူသည် မှားပါသလော။

ဗုဒ္ဓသည် ကရားရေလွှတ်သကဲ့သို့ တတွတ်တွတ်မေးသော ပြဿနာတိုင်းကို 'ဤအရာကို ငါ မဖြေကြား၊ ဤအရာကို ငါ မဖြေကြား။' ဟူ၍သာ မိန့်တော်မူနေသဖြင့် 'ဗုဒ္ဓသည် အကြောင်းရှိပေ၍သာ မဖြေကြားဘဲနေခြင်း ဖြစ်မည်။ ထိုအကြောင်းကား အဘယ်နည်း။' ဟု တွေးပေါက်လာသည့်အလျောက်–

"အရှင်ဘုရား၊ အဘယ်ကြောင့် ဤအရာများကို ဖြေကြားခြင်း ပြုတော်မမူပါသနည်း။"

"ပေါဋ္ဌပါဒ၊ သင်မေးအပ်သော ပြဿနာကား အကျိုးစီးပွားနှင့်မစပ်။ တရားနှင့်မစပ်။ အကျင့်မြတ်၏အစမျှပင် မဟုတ်။ ငြီးငွေ့ရန် အကျိုးငှာမဖြစ်။ တပ်မက်ခြင်းကင်းရန်အလို့ငှာမဖြစ်။ ဝဋ်ဆင်းရဲ ချုပ်ရန်အလို့ငှာမဖြစ်။ ကိလေသာ ငြိမ်းရန်အလို့ငှာမဖြစ်။ ထူးသောဉာဏ်ဖြင့် သိရန်အလို့ငှာမဖြစ်။ သစ္စာလေးပါးကိုသိရန် အလို့ငှာမဖြစ်။ နိဗ္ဗာန်ကို မျက်မှောက်ပြုရန်အကျိုးငှာမဖြစ်။ ထို့ကြောင့် ထိုအရာစုကို ငါ မဖြေကြား။"

မဖြေခြင်း၏အကြောင်းရင်းကို သိရသောအခါ ပေါဋ္ဌပါဒသည် 'ငါ့အဖို့ လမ်းပွင့်လာပြီ။' ဟု မှတ်လိုက်ပြီးနောက် ဆက်၍ မေးလျှောက်လေတော့သည်။

"အရှင်ဘုရား၊ သို့ဖြစ်ပါသော် မြတ်ဘုရားသည် အဘယ်အရာများကို ဖြေကြားပါသနည်း။"

"ပေါဋ္ဌပါဒ၊ ဤအရာကား ဆင်းရဲဟု ငါ ဖြေကြား၏။ ဤ အရာကား ဆင်းရဲဖြစ်ပေါ်ခြင်း၏အကြောင်းတည်းဟု ငါ ဖြေကြား၏။ ဤကား ဆင်းရဲချုပ်ငြိမ်းရာ နိဗ္ဗာန်တည်းဟု ငါ ဖြေကြား၏။ ဤကား ဆင်းရဲချုပ်ငြိမ်းရာ နိဗ္ဗာန်သို့ရောက်ကြောင်းတည်းဟု ငါ ဖြေကြား၏။"

အထက်က မေးခွန်းများကို မဖြေဘဲ ဤမေးခွန်းကျမှ အဖြေစကားကို ကြားရသဖြင့် ပေါဋ္ဌပါဒ၏မျက်နှာမှာ အထူးရွှင်ပျလာသည်။ ဆုတ်နစ်နေသော စိတ်ဓာတ်များ ကြွတက်လာလေသည်။

"အရှင်ဘုရား၊ ဤအရာစုကိုကား အဘယ်ကြောင့် မြတ်ဘုရား ဖြေပါသနည်း။"

"ပေါဋ္ဌပါဒ၊ ဤအရာစုကား အကျိုးစီးပွားနှင့်စပ်၏။ နိဗ္ဗာန်သို့ မျက်မှောက်ပြုရန်အကျိုးငှာ ဖြစ်၏။ ထို့ကြောင့် ငါ ဖြေကြားသတည်း။"

ထို့နောက် ဗုဒ္ဓသည် ပေါဋ္ဌပါဒ၏သန္တာန်၌ နှလုံးစိတ်ဝမ်း ချမ်းမြ ကြည်လင်လာသည်ကိုသိ၍ ပေါဋ္ဌပါဒအား နိဗ္ဗာန်သို့ ဆိုက်ဆိုက်မြိုက်မြိုက် ရောက်စေသည့် ဧကန်တရားနှင့် နိဗ္ဗာန်သို့ ရောက်ကြောင်းမဟုတ်သော အနေကန်တရားကို ဟောကြားတော်မူသတည်း။

"ပေါဋ္ဌပါဒ၊ သတိချပ်၍ မှတ်သားနာယူဘိလော့။ လောကသည် မြဲ၊ မမြဲ၊ လောကသည် အဆုံး ရှိ၊ မရှိ စသော ဤအရာစုကား ဧကန် နိဗ္ဗာန်သို့ရောက်ကြောင်းဖြစ်သော တရားမဟုတ်ဟု ငါသည် ဟောကြားဖော်ပြ၏။-

-ပေါဋ္ဌပါဒ၊ ဧကန် နိဗ္ဗာန်ရောက်ကြောင်းတရားဟု ငါ ဟောကြားသည်ကား ဤကားဆင်းရဲ၊ ဤကား ဆင်းရဲခြင်း၏အကြောင်း၊ ဤကား ဆင်းရဲချုပ်ငြိမ်းရာ နိဗ္ဗာန်၊ ဤကား နိဗ္ဗာန်သို့ရောက်ကြောင်းအကျင့်ဟု ငါ ဟောကြားဖော်ပြ၏။ ဤတရားတို့သည် အကျိုးစီးပွားနှင့်စပ်သည်ဖြစ်သောကြောင့် ယင်းတရားတို့ကို ငါ ဟောကြားခြင်းဖြစ်ပေ၏။"

ထိုအခါ ပေါဋ္ဌပါဒသည် ဦးခေါင်းကို မသိမသာ ညိတ်ကာညိတ်ကာနှင့် ရှိနေ၏။ ဗုဒ္ဓသည် ဧကန် နိဗ္ဗာန်ရောက်ကြောင်းတရားနှင့် ဧကန် နိဗ္ဗာန်ရောက်ကြောင်းမဟုတ်သော တရားကို ထင်ရှားစေခြင်းငှာ ထိုအချက်အလက်များကို

တရားမေ့မွ နားလည်လှပါသည်ဆိုသော သမဏ၊ ဗြာဟ္မဏကြီးများနှင့် ကိုယ်တိုင် လက်တွေ့ကျကျ ဆွေးနွေးကြည့်ခဲ့ဖူးကြောင်းကို ပေါဋ္ဌပါဒအား ပြောပြလေသည်။

"ပေါဋ္ဌပါဒ၊ စူးစိုက်စွာ နာလော့။ 'အတ္တသည် စင်စစ် ချမ်းသာ၏။ သေပြီးသည့်နောက်၌ ပျက်စီးခြင်း မရှိ။' ဟု ဤသို့ ဆိုလေ့ရှိကုန်သော သမဏ၊ ဗြာဟ္မဏ အချို့တို့သည် ရှိကုန်၏။ ငါသည် ထိုသူတို့ထံ ချဉ်းကပ်၍ ဤသို့ မေးကြည့်ခဲ့၏။–

အရှင်တို့၊ 'အတ္တသည် စင်စစ်ချမ်းသာ၏။ သေပြီးသည့်နောက်၌ ပျက်စီးခြင်း မရှိ'ဟု ဤသို့ သင်တို့ ဆိုလေ့ ယူလေ့ရှိကုန် ဆိုသည်မှာ မှန်ပါသလော။

–ဤသို့ ငါ မေးလတ်သော် 'မှန်၏။' ဟု သူတို့ ဝန်ခံကုန်၏။ ထိုအခါ သူတို့ကို ဆက်၍ ငါ မေးခဲ့၏။–

အရှင်တို့၊ ယင်းသို့ အတ္တသည် ချမ်းသာ၏။ ပျက်စီးခြင်းမရှိ ဖြစ်ခဲ့သော် စင်စစ် ချမ်းသာသော လောကကို သင်တို့ကိုယ်တွေ့ သိမြင်၍ နေပါကုန်သလော။'

ဟု ငါက မေးလိုက်သောအခါ၌ကား 'ကိုယ်တွေ့သိမြင်၍ မနေပါကုန်။' ဟု ဆိုကုန်၏။ ပေါဋ္ဌပါဒ၊ ငါသည် ထိုသူတို့အား ဆက်၍ မေးကြည့်ပြန်၏။–

အရှင်တို့၊ ယင်းသို့ ကိုယ်တွေ့သိမြင်၍ မနေပါမူ တစ်ညဖြစ်စေ၊ တစ်နေ့ဖြစ်စေ၊ ညဝက်ဖြစ်စေ၊ နေ့ဝက်ဖြစ်စေ စင်စစ် ချမ်းသာသော အတ္တကို သင်တို့ကိုယ်တိုင် တွေ့သိနေကုန်သလော။

ဤသို့ ငါ မေးကြည့်သောအခါ၌လည်း 'တွေ့သိမနေပါကုန်။' ဟု ဖြေကုန်၏။ မေးလက်စနှင့် ငါ ဆက်၍ မေးကြည့်ပြန်၏။–

အရှင်တို့၊ ဤသို့ဖြစ်ပါမူကား စင်စစ် ချမ်းသာသောလောကကို မျက်မှောက်ပြုရန် 'ဤကားလမ်းတည်း၊ ဤကား အကျင့်တည်း'ဟု သင်တို့ သိကုန်သလော။

ဟု မေးလျှင် 'မသိ။' ဟု ဖြေကုန်၏။ ဆက်၍ ငါ မေးပြန်၏။–

အရှင်တို့၊ ယင်းသို့ မသိခဲ့သော် 'အချင်းတို့၊ စင်စစ် ချမ်းသာသော လောကကို မျက်မှောက်ပြုရန် ကောင်းစွာကျင့်ကုန်လော့။ ဖြောင့်မတ်စွာ ကျင့်ကုန်လော့။ အချင်းတို့၊ ငါတို့သည်လည်း ဤသို့ ကျင့်ကုန်သောကြောင့် စင်စစ် ချမ်းသာသောလောကသို့ ရောက်ကြရကုန်၏'ဟု ချမ်းသာသော

လောကသို့ ရောက်နေသော နတ်တို့၏ ပြောဆိုသံများကိုကော သင်တို့ ကြားရကုန်သလော။

ဟု မေးလျှင်လည်း 'မကြားရပါ။' ဟု ဖြေကုန်၏။–

ပေါဋ္ဌပါဒ၊ သည်ဟာကို သင် မည်သို့သဘောရသနည်း။ ဤသို့ဖြစ်လျှင် ထိုသမဏ၊ ဗြာဟ္မဏတို့၏စကားသည် 'အခြေအမြစ်မရှိသောစကား' ဖြစ်နေသည် မဟုတ်ပါလော။"

"မှန်ပါ၏။"

ပေါဋ္ဌပါဒသည် ဗုဒ္ဓ၏ လက်တွေ့ကျကျ ဓမ္မကထာကို ကြားနာရသော အခါ သူ၏ နှလုံးအိမ်တွင် ရွှန်းပီတိဖြင့် ပြည့်လာ၏။ ဗုဒ္ဓသည် အခြေအမြစ် မရှိသော စကားဖြစ်ကြောင်း ပို၍ထင်ရှားစေရန် ပေါဋ္ဌပါဒအား ဥပမာများဖြင့် ဆက်၍ ဟောကြားတော်မူ၏။

"ပေါဋ္ဌပါဒ၊ သင် သိလွယ်အောင် ဥပမာဖြင့် ငါ ပြအံ့။ နိုင်ငံတွင် အချော ဆုံး၊ အလှဆုံးဖြစ်သော အမျိုးသမီးကို လိုချင်နေသော ယောက်ျားတစ်ယောက် ရှိလေ၏။ ထိုယောက်ျားအား ဤသို့ မေးရာ၏။–

အမောင်လုလင်၊ အမောင်လိုချင်နေသော အမျိုးသမီးသည် မည်သည့် အမျိုးသမီးပါနည်း။ သင် တွေ့ဖူးမြင်ဖူးပါသလား။ မင်းမျိုးလား၊ ပုဏ္ဏား မျိုးလား၊ ကုန်သည်မျိုးလား၊ ဆင်းရဲသားမျိုးလား။ ခွဲခွဲခြားခြားသိပါ၏လော။

ဟု မေးသော် 'မသိ။' ဟု ဖြေရာ၏။–

အမောင်လုလင်၊ သင်လိုချင်နေသော အမျိုးသမီး၏ အမည်နာမ နှင့် သူနေထိုင်သည့် အရပ်ကို လည်းကောင်း၊ အသားအရေအားဖြင့် ဖြူသည်၊ မည်းသည်။ အရပ်အမောင်းအားဖြင့် မြင့်သည်၊ နိမ့်သည်ကို လည်းကောင်း။ မည်သည့်မြို့၊ မည်သည့်ရွာ၊ မည်သည့်ဒေသတွင် နေထိုင် သည်ကိုလည်းကောင်း သိပါ၏လော။

ဟု မေးပြန်လျှင်လည်း 'မသိ။' ဟု ဖြေရာ၏။–

–ထိုယောက်ျားကို ဤသို့ မေးရာ၏။ 'အမောင်လုလင်၊ သင်သည် သိ လည်း မသိ၊ မြင်လည်း မမြင်ဖူးသူကို ချစ်ကြိုက်နေသလော။' ဟု မေးသော် 'ဟုတ်ပါ၏'ဟု ဖြေရာ၏။–

–ပေါဋ္ဌပါဒ၊ ထိုအရာကို သင် မည်သို့ထင်သနည်း။ ဤသို့ဖြစ်လျှင် ထို ယောက်ျား၏စကားသည် အခြေအမြစ်မရှိသောစကား ဖြစ်နေသည် မဟုတ်ပါ လော"

"မှန်ပါ၏။ အခြေအမြစ်မရှိသောစကားပါ။"

"ပေါဋ္ဌပါဒ၊ ဤအတူပင်လျှင် 'အတ္တသည် စင်စစ်ချမ်းသာ၏။ သေပြီးသည့်နောက်၌ ပျက်စီးခြင်း မရှိ။' ဟု ဤသို့ ဆိုပြောလေ့၊ ယူလေ့ရှိကုန်သောထိုသမဏ၊ ဗြာဟ္မဏတို့၏စကားသည် အခြေအမြစ်မရှိသောစကား မဟုတ်ပါလော။"

"မှန်ပါသည်။"

"ပေါဋ္ဌပါဒ၊ ယင်းသို့ဖြစ်ဘိသော် ထိုသမဏ၊ ဗြာဟ္မဏတို့၏ အယူဝါဒသည် ဧကန် နိဗ္ဗာန်ရောက်ကြောင်းတရား ဖြစ်နိုင်၊ မဖြစ်နိုင်ကို သင်ကိုယ်တိုင်စဉ်းစားကြည့်ပါဘိ။"

ဤသို့ မိန့်တော်မူလေသော် ပေါဋ္ဌပါဒ ပရိဗိုဇ်သည် လက်ဆယ်ဖြာ ထိပ်မှာမိုးလျက်–

"အရှင်ဘုရား၊ တရားတော်သည် အလွန်နှစ်သက်ဖွယ် ရှိလှပါပေ၏။ တရားတော်သည် အလွန်နှစ်သက်ဖွယ် ရှိလှပါပေ၏။ အရှင်ဘုရား၊ မှောက်၍ထားအပ်သောအိုးကို လှန်၍ပြဘိသကဲ့သို့လည်းကောင်း၊ လမ်းမှားနေသူကို လမ်းမှန်ကို ပြဘိသကဲ့သို့လည်းကောင်း၊ ဤအတူသာလျှင် မြတ်စွာဘုရားသည် များစွာသောအကြောင်းတို့ဖြင့် အကျွန်ုပ်အား တရားပြတော်မူပါပေ၏။–

–အရှင်ဘုရား၊ အကျွန်ုပ်သည် အသက်ရှည်သမျှ ကာလပတ်လုံး မြတ်စွာဘုရားအား ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏။ တရားတော်အား ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏။ သံဃာတော်အား ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏။ မြတ်စွာဘုရားသည် အကျွန်ုပ်အား ယနေ့မှစ၍ အသက်ထက်ဆုံး ကိုးကွယ်သောဥပါသကာဟူ၍ အသိအမှတ်ပြုတော်မူပါလော့။"

ဆွမ်းခံရန် အချိန်စောသေး၍ ပေါဋ္ဌပါဒထံသို့ ဝင်ခြင်း၏ ရလဒ်အကျိုးကား ပရိဗိုဇ်တစ်ဦး ဗုဒ္ဓဘက်သို့ ကူးပြောင်းရောက်ရှိလာခြင်းပင်တည်း။



## တပေါ်မိဂုစ္ဆ၊ ထိုဝါဒ
## မည်သို့ဖြစ်မှ စင်ကြယ်သနည်း

ပြဿနာ = တပေါ်မိဂုစ္ဆဝါဒ
မေးလျှောက်သူ = နိဂြောဓ ပရိဗိုဇ်

သန္ဓာနသူကြွယ်သည် ဇေတဝန်ကျောင်းတော်သို့ဦးတည်လျက် တမတ်စောက်စောက် လျှောက်လာရင်းမှ နေကို မော့ကြည့်လိုက်သည်။ 'ဩ–သည်အချိန်မှာ မြတ်ဗုဒ္ဓနှင့်ရဟန်းတော်များ ဈာန်ဝင်စားနေချိန်ပါတကား။ ဖူးမြော်ရန် အချိန် မဟုတ်ပါတကား။' ဟု စဉ်းစားပြီး လမ်းခရီးအကြားရှိ ဥဒုမ္ဗရိကမိဖုရား၏ကောင်းမှု ပရိဗိုဇ်ကျောင်းတိုက်သို့ဝင်၍ နိဂြောဓပရိဗိုဇ်နှင့် တွေ့ဆုံလေသည်။ ပရိဗိုဇ်များသည်လည်း ကျောင်းတိုက်ကြီးများနှင့် တခမ်းတနား နေလေ့ရှိကြသည်။

သို့သော် ပရိဗိုဇ်ကျောင်းတိုက်များကား ဗုဒ္ဓကျောင်းတိုက်ကဲ့သို့ ဆိတ်ငြိမ်မှု မရှိ။ သူငယ်များအလား ဟေးလားဝါးလားနှင့် ဆူညံနေ၏။ ဤသည်ကပင် ဗုဒ္ဓပရိသတ်နှင့် ပရိဗိုဇ်ပရိသတ်တို့၏ ခြားနားချက်ကို ပြသလျက် ရှိနေ၏။

သန္ဓာနသူကြွယ်သည် ပရိဗိုဇ်ကျောင်းတိုက်ထဲသို့ ရောက်လေ၏။ ဆူဆူညံညံ အသံများက သူ၏နားကို တူးဆွသကဲ့သို့ အခံရခက်ခက်ရှိသည်နှင့် ပရိဗိုဇ်ကျောင်းများမှာ လူနေရပ်ကွက်များပမာ ဆူဆူညံညံ မဖြစ်သင့်ကြောင်း၊ ဇေတဝန်အစရှိသော ဗုဒ္ဓ၏ကျောင်းများကဲ့သို့ တိတ်တိတ်ဆိတ်ဆိတ် ရှိသင့်ကြောင်းကို အကြီးအကဲဖြစ်သူ နိဂြောဓ ပရိဗိုဇ်အား စေတနာကောင်းဖြင့် ဝေဖန် အကြံပေးမိလေ၏။

ထိုအခါ နိဂြောဓ ပရိဗိုဇ်သည် ဗုဒ္ဓနှင့်နှိုင်း၍ ပြောရာသလောဟူ၍ အမျက်ဒေါသ ခြောင်းခြောင်းထလျက် ဗုဒ္ဓအား ပြင်းပြင်းထန်ထန် ဝေဖန်ရှုတ်ချခြင်း ပြုလေသတည်း။

"အချင်း သန္ဓာနသူကြွယ်၊ သင် မသိချက်သား ဆိုးရွားလေခြင်း။ ရဟန်းဂေါတမသည် အဘယ်သူနှင့်ယှဉ်၍ စကားပြောသနည်း။ အဘယ်သူနှင့် ဆွေးနွေးဖူးသနည်း။ အဘယ်သူနှင့် ယှဉ်ပြိုင်ရာတွင် အနိုရရှိသဖြင့် ပညာကဲလွန်ထူးချွန်ဖူးသနည်း။–

–အချင်း သူကြွယ်၊ ရဟန်းဂေါတမသည် ပရိသတ်ထဲ ဝင်ဝံ့သူ မဟုတ်။ လူတောထဲတိုးဝံ့သူ မဟုတ်။ လူနားလည်အောင် စကားပြောတတ်သူ မဟုတ်။ ထို့ကြောင့် ရဟန်းဂေါတမသည် တောကျောင်းများကိုသာ သွား၍နေ၏။ စင်စစ်သော် ရဟန်းဂေါတမသည် ဤပရိသတ်ရှိရာသို့ ကြွလာငြားအံ့။ သူ့ကို ငါ ပြဿနာ တစ်ချက်တည်း မေးပြမည်။ တွေဝေငေးငိုင် မဖြေနိုင်၍ မှိုင်ကျသွားစေမည်။"

ဤသို့ ပရိဗိုဇ်တို့နေထိုင်ရာ ဥဒုမ္ဗရကျောင်းတိုက်တွင် သန္ဓာနသူကြွယ်နှင့် နိဂြောဓ ပရိဗိုဇ်တို့ အချင်းချင်း အလ္လာပသလ္လာပ စကားပြောဆိုကြရာမှ ဗုဒ္ဓအား ထိခိုက်စေသောစကားများကို နိဂြောဓ ပရိဗိုဇ်က ဆို၏။

သို့သော် နိဂြောဓ ပရိဗိုဇ်သည် ဗုဒ္ဓ၏မျက်ကွယ်တွင် ဗုဒ္ဓအား အဘယ်မျှပင် ပုတ်ခတ်ဆိုပြောစေကာမူ ဗုဒ္ဓနှင့် တော့တော့ဆိုင်ဆိုင် တွေ့လေသောအခါ၌ကား အာခံတွင်းကို ပိတ်ဆို့ထားသည့်အလား စကားကိုပင် ကောင်းစွာ မပြောဝံ့ချေ။

'နေ့ပြောလျှင် နောက်၊ ညပြောလျှင် အောက်' ဆိုသကဲ့သို့ သူတို့နောက်သို့ ဘုရားသခင် ရောက်ရှိနေသည်ကိုကား သတိမထားမိ။ အမှတ်မထင် လှည့်ကြည့်မိသည်တွင်မှ ဘုရားသခင်မှန်း သိလေသောအခါ နိဂြောဓမှာ များစွာ အံ့အားသင့်သွားလေသည်။ သို့သော် ဣန္ဒြေမပျက်စေဘဲ ဝါဒရေးရာနှင့်ပတ်သက်၍ ဗုဒ္ဓအား အားကိုးသမှုပြုလေဟန်ဖြင့် ဤစကားကို ဆိုလေသတည်း။

"မြတ်စွာဘုရား၊ အကျွန်ုပ်တို့သည် (ပရိဗိုဇ်အားလုံးကို ဆိုလို သည်) တပေါဇိဂုစ္ဆဝါဒကို နှုတ်အားဖြင့် ပြောဆိုလေ့ ရှိပါကုန် ၏။ တပေါဇိဂုစ္ဆဝါဒကို စိတ်ဖြင့် 'အနှစ်သာရ' ဟူ၍ မှတ်ယူလေ့ ရှိပါကုန်၏။ ထိုဝါဒကို ကိုယ်ဖြင့် မြဲမြံစွာ ကျင့်သုံးလေ့ ရှိပါကုန်၏။

–မြတ်စွာဘုရား၊ တပေါဇိဂုစ္ဆဝါဒသည် အဘယ်သို့ဖြစ်လျှင် စင်ကြယ်ပါသနည်း။ အဘယ်သို့ဖြစ်လျှင် မစင်ကြယ်ပါသနည်း။"

နိဂြောဓ ပရိဗိုဇ်သည် ဗုဒ္ဓ၏မျက်ကွယ်တွင် ဗုဒ္ဓအား မည်သို့ပင် ကဲ့ရဲ့ရှုတ်ချစေကာမူ ဗုဒ္ဓနှင့် တော့တော့ဆိုင်ဆိုင် တွေ့လေသောအခါတွင်မူကား ဆင်ဖြူ

မျက်နှာကို ဆင်မည်း မကြည့်ဝံ့သကဲ့သို့ ရှိလေ၏။ ယခုမူ ဗုဒ္ဓရှေ့တွင် သိမ်သိမ်မွေ့မွေ့ ရှိသေစွာ ခစားနေပြီ ဖြစ်၏။ သန္ဓာနသူကြွယ်သည်လည်း နိဂြောဓ ပရိဗိုဇ်၏ အပြောင်းအလဲမြန်ဆန်ပုံကိုကြည့်ကာ ခေါင်းတညိတ်ညိတ်နှင့် ရှိနေ၏။

နိဂြောဓသည် ဗုဒ္ဓအား ရိုသေစွာ ခစားရုံမက ဝါဒရေးရာနှင့် ပတ်သက်၍ မိမိသန္တာန်၌ မရှင်းမလင်းဖြစ်သော အချက်အလက်များကိုပင် တင်ပြကာ ဗုဒ္ဓထံ အဖြေကို တောင်းခံလျက် ရှိနေသဖြင့် တပေါဇိဂုစ္ဆဝါဒနှင့်ပတ်သက်၍ စင်ကြယ်မှု၊ မစင်ကြယ်မှုကို ဗုဒ္ဓက ရှင်းပြရလေသည်။ ပရိဗိုဇ်တို့၏အနေအားဖြင့် ‘အဝတ်မဝတ်ဘဲ ကိုယ်တုံးလုံးနေ၍ ကျင့်ခြင်း၊ လက်ဖြင့် မစင်ကို သုတ်လေ့ ရှိခြင်း’ စသော တပအကျင့်၌ပင် ညစ်ညူးရခြင်းနှင့် မကောင်းကြောင်းကို လက်တွေ့အထောက်အထား (၁၅) ချက်တို့ဖြင့် နိဂြောဓအား ရှင်းပြတော်မူ၏။

> “နိဂြောဓ၊ တပဿီ ပုဂ္ဂိုလ်သည် တပအကျင့်ကို ဆောက်တည်၍ ကျင့်၏။ ထိုသူသည် ထိုအကျင့်ဖြင့် မိမိကိုယ်ကို မြှင့်တင်၏။ သူတစ်ပါးကို ရှုတ်ချ၏။
>
> နိဂြောဓ၊ တပဿီပုဂ္ဂိုလ်သည် တပအကျင့်ဖြင့် ဆောက်တည်၍ ကျင့်၏။ ထိုသူအား ထိုအကျင့်ဖြင့် အကြင် မိမိကိုယ်ကို မြှင့်တင်ခြင်း၊ သူတစ်ပါးကို ရှုတ်ချခြင်းသည် ဖြစ်၏။ နိဂြောဓ၊ ထိုသို့ဖြစ်ခြင်းသည် တပဿီ ပုဂ္ဂိုလ်၏ ညစ်ညူးခြင်း ဖြစ်၏။”

ဤသို့စသည်ဖြင့် တပဿီပုဂ္ဂိုလ်အား မာန်ယစ်ခြင်း၊ တွေဝေခြင်း၊ မေ့လျော့ခြင်းဖြင့် ညစ်ညူးခြင်း၊ လာဘ်ရမှု စသည်ကို နှစ်သက်ခြင်းဖြင့် ညစ်ညူးခြင်း၊ မနာလိုဝန်တိုခြင်းဖြင့် ညစ်ညူးခြင်းတို့ကို အသေးစိတ် ရှင်းပြတော်မူပြီးနောက် ဤတပေါဇိဂုစ္ဆဝါဒတို့သည် ညစ်ဘူးကုန်သလော၊ မညစ်ဘူးကုန်သလောဟု နိဂြောဓအား မေးမြန်းတော်မူပုံ၊ ဤ ‘တပေါဇိဂုစ္ဆဝါဒသည် စကန် ညစ်ညူးပါကုန်၏။’ ဟု နိဂြောဓက ဖြေကြားပုံများ ဥဒုမ္ဗရသုတ်၌ လာ၏။

## တပေါဇိဂုစ္ဆဝါဒနှင့် မစင်ကြယ်ခြင်း အမျိုးမျိုး

ဗုဒ္ဓသည် နိဂြောဓ ပရိဗိုဇ်အား တပဿီပုဂ္ဂိုလ်သည် တပေါဇိဂုစ္ဆဝါဒကို စင်ကြယ်စေလိုသော် မည်သို့ကျင့်ရပါမည်နည်းဟူသောပြဿနာရပ်ကို ဖြေဆိုညွှန်ကြားရာ၌ နည်းလေးမျိုး ခွဲခြားထား၏။

(၁) အခွံနှင့်တူသော စင်ကြယ်ခြင်း၊
(၂) အခေါက်နှင့်တူသော စင်ကြယ်ခြင်း၊
(၃) အကာနှင့်တူသော စင်ကြယ်ခြင်း၊
(၄) အနှစ်နှင့်တူသော စင်ကြယ်ခြင်း ဟူ၍ ဖြစ်၏။

## (၁) အခွံနှင့်တူသော စင်ကြယ်ခြင်း

ယင်းလေးမျိုးတို့အနက် မည်သို့ကျင့်လျှင် အခွံနှင့်တူသော စင်ကြယ်ခြင်း ဖြစ်ပုံများကို အကန့်အကန့် တစ်သန့်စီတစ်သန့်စီ နိဂြောဓအား ရှင်းပြလေသည်။

နိဂြောဓ၊ တစ်ဖန် ထို့ပြင်လည်း တပဿီပုဂ္ဂိုလ်သည် တပ အကျင့်ကို ဆောက်တည်၍ ကျင့်၏။ ထိုသူသည် ထိုအကျင့်ဖြင့် လာဘ်ရမှု၊ အရိုအသေပြုမှု၊ ကျော်စောမှုကို ဖြစ်စေ၏။ ထိုသူသည် ထိုလာဘ်ရမှု၊ အရိုအသေပြုမှု၊ ကျော်စောမှုဖြင့် မာန်မယစ်၊ မေ့လျော့ခြင်းသို့ မရောက်။ ထိုသူအား ထိုအကျင့်ဖြင့် မာန်မယစ်ခြင်း၊ မတွေဝေခြင်း၊ မမေ့မလျော့ခြင်းသည် ဖြစ်၏။ ဤအကြောင်းကြောင့် ထိုသူသည် ထိုအကျင့်၌ စင်ကြယ်၏။

## (၂) အခေါက်နှင့်တူသော စင်ကြယ်ခြင်း

သစ်ပင်တို့၌ အခွံ၊ အပွေးသည် အပေါ်ယံအကျဆုံး ဖြစ်၏။ ယင်းအခွံ၊ အပွေး၏အတွင်းတွင်မှ အခေါက်၊ ယင်းအခေါက်၏ အတွင်းတွင်မှ အကာ၊ ယင်းအကာ၏အတွင်းတွင်မှ အနှစ်သည် တည်၏။

## (၃) အခေါက်နှင့်တူသော စင်ကြယ်ခြင်း

ဤစင်ကြယ်ခြင်းမျိုးကား စောင့်စည်းခြင်း လေးမျိုးကို အခြေခံ၏။ ၁။ အသက်ကို မသတ်။ အသက်ကို မသေစေ။ အသက်သတ်သူအား အလိုမတူ။ ၂။ မပေးသောဥစ္စာကို မယူ။ မပေးသောဥစ္စာကို မယူစေ။ မပေးသောဥစ္စာကို ယူသူအား အလိုမတူ။ ၃။ မဟုတ်မမှန်သော စကားကို မပြော။ မဟုတ်မမှန်သော စကားကို မပြောစေ။ မဟုတ်မမှန်သောစကားကိုပြောသူအား အလိုမတူ။ ၄။ ကာမဂုဏ်ငါးပါးကို မခံစား။ ကာမဂုဏ်ငါးပါးကို မခံစားစေ။ ကာမဂုဏ်ငါးပါး ခံစားသူအား အလိုမတူ။ ဤစောင့်စည်းခြင်းလေးမျိုးတို့ဖြင့် စောင့်စည်း၏။

နိဂြောဓ၊ တပဿီပုဂ္ဂိုလ်သည် စောင့်စည်းခြင်းလေးမျိုးတို့ဖြင့် စောင့်စည်းသောအခါ ထက်သန်သော လုံ့လရှိသည်၏အဖြစ်ကြောင့် ဤဆိုလတ္တံ့သော လက္ခဏာသည် ဖြစ်၏။ ထိုသူသည် ထိုသီလကို ပွားစေ၏။ လူ့ဘောင်သို့ ပြန်၍မလည်။ ထိုသူသည် ဆိတ်ငြိမ်သော ကျောင်း၊ အိပ်ရာ၊ နေရာကို မှီဝဲ၏။ တောသစ်ပင်ရင်း၊ တောင်ချောက်၊ တောင်ခေါင်း၊ သချိုင်း၊ တောအုပ်၊ လွင်ပြင်၊ ကောက်ရိုးပုံ ဟူသော ဆိတ်ငြိမ်သော ကျောင်း၊ အိပ်ရာ နေရာကို မှီဝဲ၏။

အထက်၌ ဗုဒ္ဓဟောကြားတော်မူသည့်အတိုင်း ဆိတ်ငြိမ်ရာအရပ်၌နေ၍ ကောင်းသောတရားထုံးကို နှလုံးသွင်း၍ နေထိုင်ခြင်းမျိုးကို အခေါက်နှင့်တူသော စင်ကြယ်ခြင်းဟု မှတ်ရာ။

## (၄) အကာနှင့်တူသော စင်ကြယ်ခြင်း

ယင်းစင်ကြယ်ခြင်းသည်လည်း စောင့်စည်းခြင်းလေးမျိုးကိုပင် အခြေခံ၏။ စောင့်စည်းခြင်းလေးမျိုးကို စောင့်စည်းလျက် ဆိတ်ငြိမ်ရာအရပ်၌နေ၍ တရားထုံးကို နှလုံးသွင်းဖန်များလတ်သော် ထိုသူသည် ရှေး၌ ဖြစ်ခဲ့ဖူးသော ဘဝများစွာတို့ကို အောက်မေ့နိုင်၏။ 'ငါသည် မည်သည့်ကမ္ဘာတွင် မည်သည့်အမျိုး၌ ဖြစ်ခဲ့သည်။ ငါ့အသက် မည်မျှရှည်ခဲ့သည်။ ထိုဘဝမှ စုတေသောအခါ မည်သည့်ဘဝ၌ ဖြစ်ခဲ့သည်။' စသည်ဖြင့် အတိတ်၌ ဖြစ်ခဲ့သမျှအားလုံးကို အောက်မေ့နိုင်၏။

နိဂြောဓ၊ ဤမျှဖြင့် တပေါဇိဂုစ္ဆဝါဒသည် အထွတ်အထိပ်သို့လည်း မရောက်သေး၊ အနှစ်သာရသို့လည်း မရောက်သေး၊ အကာသို့ ရောက်ရုံမျှသာ ရှိသေး။

## (၄) အနှစ်နှင့်တူသော စင်ကြယ်ခြင်း

"မြတ်စွာဘုရား၊ တပေါဇိဂုစ္ဆဝါဒသည် အဘယ်မျှဖြင့် အထွတ်အထိပ်သို့ ရောက်ပါသနည်း။ အဘယ်မျှဖြင့် အနှစ်သာရသို့ ရောက်ပါသနည်း။"

ဗုဒ္ဓသည် နိဂြောဓ၏ တောင်းပန်ချက်အရ ဆက်၍ ဟောတော်မူရာတွင်လည်း စောင့်စည်းခြင်းလေးမျိုးကိုပင် အခြေခံ၏။ ထိုသူသည် ရှေး၌ဖြစ်ခဲ့ဖူးသော ဘဝများစွာကို မြင်နိုင်စွမ်းရှိသည်သာမက ထိုသူသည် အထူးသဖြင့် စင်

ကြယ်သော ဒိဗ္ဗစက္ခုဉာဏ်ဖြင့် သေဆဲသတ္တဝါ၊ ဖြစ်ပေါ်ဆဲ သတ္တဝါ၊ ယုတ်သော သတ္တဝါ၊ မြတ်သောသတ္တဝါ၊ အဆင်းလှသော သတ္တဝါ၊ အဆင်းမလှသော သတ္တဝါ၊ ကောင်းသော လားရာဂတိရှိသော သတ္တဝါ၊ မကောင်းသော လားရာဂတိရှိသော သတ္တဝါတို့ကို မြင်၏။

ဗုဒ္ဓသည် နိဂြောဓ ပရိဗိုဇ်အား တပေါဇိဂုစ္ဆဝါဒ၏ စင်ကြယ်ခြင်းကို အမျိုးအစားခွဲခြား၍ ဟောတော်မူပြီးနောက် နိဂြောဓနှင့်တွေ့စအချိန်က နိဂြောဓ ပြောသောစကားများကို ပြန်လည် သတိရစေသည်။

"နိဂြောဓ၊ သင်သည် ငါ့အား 'မြတ်စွာဘုရား၊ မြတ်စွာဘုရားသည် ယင်းတရားဖြင့် တပည့်တို့ကို ဆုံးမဟောကြား၏။ ယင်းတရားဖြင့် မြတ်စွာဘုရားဟောကြားဆုံးမအပ်ကုန်သော တပည့်တို့သည် အရဟတ္တဖိုလ် ရသည်၏အစွမ်းအားဖြင့် နှစ်သိမ့်ဝမ်းသာခြင်းသို့ ရောက်ကုန်၏။ ဤကား မြတ်သော မိုရာဖြစ်သော ရှေးဟောင်း အရိယာမဂ်တည်းဟု ဝန်ခံကုန်၏။ မြတ်စွာဘုရား ဟောကြားဆုံးမကြောင်းဖြစ်သော ထိုတရားကား အဘယ် ပါနည်း။' ဟု အကြင်အမေးစကားကို သင် ဆိုခဲ့၏။

နိဂြောဓ၊ ငါသည် ယင်းတရားဖြင့် တပည့်တို့ကို ဆုံးမဟော ကြား၏။ ယင်းတရားဖြင့် ငါ ဆုံးမဟောကြားအပ်ကုန်သော တပည့်တို့သည် နှစ်သိမ့်ဝမ်းသာခြင်းသို့ ရောက်ကုန်၍ 'ဤကား မြတ်သောမိုရာဖြစ်သော ရှေးဟောင်း အရိယာမဂ်တည်း။' ဟု ဝန်ခံကုန်၏။ ငါ ဆုံးမဟောကြား ဖြစ်သော သင်မေးသည့် ထိုတရားကား တပေါဇိဂုစ္ဆ၏ အထွတ်အထိပ် တရားထက် လွန်လည်းလွန်ကဲ၏။ မြတ်လည်း မြတ်၏။"

ဤသို့ ဗုဒ္ဓက တပေါဇိဂုစ္ဆဝါဒ စင်ကြယ်ခြင်းနှင့်ပတ်သက်၍ ဟောကြား ချက်ကို နိဂြောဓ ပရိဗိုဇ်သာမက ယင်း၏ ပရိဗိုဇ်တို့သည်လည်း အာရုံစူးစိုက် စွာ နာလင့်နေကုန်၏။ တရားအဆုံး နိဂုံးချုပ်လိုက်သောအခါတွင်မူကား နိဂြောဓ အမှူးရှိသော ပရိဗိုဇ်အားလုံးတို့သည် 'ငါတို့ကား သို့စဉ်မှု လွန်ကဲမွန်မြတ်သော တရား၌ ဆုံးရှုံးခြင်းကြီးမက ဆုံးရှုံးကြရကုန်ပြီတကား။ ငါတို့သည် ဤ ဒိဗ္ဗစက္ခုဉာဏ်ထက် လွန်မြတ်သောတရားကို မသိကြရကုန်တကား။' ဟူ၍ ယူကျုံးမရဖြစ်ကာ ပွဲတင်ထပ်မျှ ပြင်းပြကျယ်လောင်စွာ ဟစ်ကြွေးကြကုန်လေ၏။

## နိဂြောဓ ပရိဗိုဇ် မှိုင်တွေကျသွားခြင်း

သန္ဓာနသူကြွယ်သည် ဗုဒ္ဓ၏စကားတော်၌ ပရိဗိုဇ် နှစ်ခြိုက်ပုံနှင့် နောင်တ ရကြသည့် အသွင်များကို မြင်ရသောအခါ များစွာ ဝမ်းမြောက်လာသည်။ အထူး

သဖြင့်ကား နိဂြောဓ၏နောင်ရေးကို တွေးပူမိလာ၏။ 'နိဂြောဓသည် ဗုဒ္ဓမျက်ကွယ်တွင် ဗုဒ္ဓအား ရစရာမရှိအောင် ပြင်းပြင်းပြပြ ဝေဖန်ခဲ့သည်။ ကဲ့ရဲ့ရှုတ်ချစကား အာပေါင်အာရင်းသန်သန်နှင့် ပြောဆိုခဲ့သည်။ ဗုဒ္ဓနှင့် တွေ့တွေ့ဆိုင်ဆိုင်ဆုံမိသောအခါတွင်ကား ဗုဒ္ဓ၏ တရားတော်၌ သက်ဝင်ယုံကြည်လာပြီး မိမိအမှားကို ဝန်ခံ၍ ဗုဒ္ဓအား ကန်တော့ခြင်းပြုပေ၏။ ဤသို့ကန်တော့မှုမပြုခဲ့သော် သူ၏ဘဝတစ်သက်တာပတ်လုံး အကျိုးမဲ့သာ ဖြစ်လေရာသည်။' ဟူ၍ နိဂြောဓ သိစေရန်အလို့ငှာ–

"နိဂြောဓ၊ သင်သည် ဗုဒ္ဓအား 'ရဟန်းဂေါတမသည် ပရိသတ်ထဲ ဝင်ဝံ့သူ မဟုတ်။ လူတောထဲတိုးဝံ့သူမဟုတ်။ ပရိသတ်နှင့် စကားပြောခြင်းငှာ မစွမ်းနိုင်။' ဟု ဆိုဖူးသည် မဟုတ်ပါလော။" ဟူ၍ ဗုဒ္ဓ၏ရှေ့တော်မှောက်တွင် မေးလိုက်လေ၏။ သို့သော် နိဂြောဓကား စကားခွန့်တုံ့မပြန်လေဘဲ 'အတောင်ကျိုးသော ကြိုးကြာအိုကြီးကဲ့သို့' မှိုင်တွေ့ချ၍ နေလေ၏။

ဤတွင် ဗုဒ္ဓက နိဂြောဓအား မေး၏။ 'နိဂြောဓ၊ သင် ဤသို့ပြောခဲ့သည် ဆိုခြင်းမှာ မှန်သလော။' ဟူ၍ မေးတော်မူလေမှ နိဂြောဓသည် ငေးတငိုင်ငိုင်မှိုင်တတွေတွေ ဖြစ်နေရာမှ သတိရလှုပ်ရှားလာပြီး ဗုဒ္ဓအား ကန်တော့လေသတည်း။

> "မြတ်စွာဘုရား၊ အကျွန်ုပ်သည် မိုက်သည့်အလျောက်၊ တွေဝေသည့်အလျောက်၊ မလိမ္မာသည့်အလျောက်၊ အပြစ်သည် အကျွန်ုပ်ကို လွှမ်းမိုးခဲ့ပါ၏။ အကျွန်ုပ်သည် မြတ်ဘုရားကို ဤသို့ ပြောမိခဲ့သည်မှာ မှန်ပါ၏။ မြတ်ဘုရားသည် မိုက်သော၊ တွေဝေသော၊ မလိမ္မာသော ထိုအကျွန်ုပ်၏အပြစ်ကို နောင်အခါ စောင့်စည်းခြင်းငှာ အပြစ်ဟု သည်းခံတော်မူပါလော့။"

ဟု နှုတ်မြွက်လျှောက်ထားပြီး ဦးနှိမ်မာန်လျှော့ ကန်တော့လေ၏။

ထိုအခါ ဗုဒ္ဓသည် နိဂြောဓ၏ ကန်တော့ခြင်းကို လက်ခံပြီးနောက် ဤသို့ မြွက်ကြားတော်မူသတည်း။ "သူတော်ကောင်း ပုဂ္ဂိုလ်သည် ရိုးသားစွာ ငါ့ထံသို့ လာပါစေ။ ငါ ဆုံးမအံ့။ ငါ တရားဟောအံ့။ ငါ ဆုံးမသွန်သင်သည့်အတိုင်း ကျင့်သော် အရဟတ္တဖိုလ်ကို မျက်မှောက်ပြုရလတ္တံ့။" ဟူ၍ ဗုဒ္ဓ၏တရားကို ကြားနာလျက်ရှိနေကုန်သော ပရိဗိုဇ်တို့အား ဖိတ်မန္တက ပြုတော်မူ၏။ ဤသို့ ဖိတ်မန္တကပြုခြင်း၌ သံသယ ကင်းရှင်းကြစေရန်အလို့ငှာ ဗုဒ္ဓက ဤသို့ ရှင်းပြလေသည်။

"နိဂြောဓ၊ ရဟန်းဂေါတမသည် ငါတို့ကို တပည့်ခံစေလိုသဖြင့် လာပါစေ၊ လာပါစေ စသော ဤစကားကို ဆိုပေ၏ဟု တစ်ခါ တစ်ရံ သင့်အား ဤသို့သော အကြံသည် ဖြစ်ရာ၏။ နိဂြောဓ၊ ဤသို့ မမှတ်အပ်။ သင်တို့၏ဆရာသည်သာလျှင် သင်တို့၏ဆရာ ဖြစ်ပါစေ။

နိဂြောဓ၊ ရဟန်းဂေါတမသည် ငါတို့၏ကျမ်းစာမှ ငါတို့ကို ရွေ့လျောစေလို၍ လာပါစေ၊ လာပါစေ စသော ဤစကားကို ဆို ပေ၏ဟု တစ်ခါ တစ်ရံ သင့်အား ဤသို့သော အကြံသည် ဖြစ်ရာ၏။ ဤသို့ မမှတ်လေနှင့်။ သင်တို့၏ ကျမ်းစာသည်သာလျှင် သင်တို့၏ ကျမ်းစာ ဖြစ်ပါစေ။

နိဂြောဓ၊ ရဟန်းဂေါတမသည် ငါတို့၏ ကျင့်စဉ်မှ ငါတို့ကို ရွေ့လျောစေလို၍ လာပါစေ၊ လာပါစေ စသော ဤစကားကို ဆိုသည် မမှတ်လေနှင့်။ သင်တို့၏ ကျင့်စဉ်သည်သာလျှင် သင်တို့၏အကျင့် ဖြစ်ပါစေ။ သင်တို့ကို ငါ့တပည့် ဖြစ်စေလို၍ ဤ လာပါစေ၊ လာပါစေ စသောစကားကို ငါ ဆိုမည် မဟုတ်။"

ဗုဒ္ဓစကားတော်သည် ရှင်း၏။ ပြတ်သားလှ၏။ တပည့်ဖြစ်စေလို၍ ဆွယ်ပိုးခြင်း၊ သိမ်းသွင်းခြင်းပြုသည်မဟုတ်။ အမြိုက်တရားထူးကို ရရှိခံစားစေလိုသောကြောင့်သာ ပရိဗိုဇ်တို့အား ဖိတ်မန္တကပြုခြင်း ဖြစ်သတည်း။



## သိကြားဟုဆို၊ နတ်မျိုးကို
## ဘုန်းမို မြင်ဖူးပါသလော

ပြဿနာ = သိကြားမင်း
မေးလျှောက်သူ = မဟာလိ လိစ္ဆဝီမင်း

မဟာဝုန်တော၊ သင်ပင်ကြီးကြားမှ အထက်သို့ ချွန်ထွက်နေသော ပြာသာဒ်များကို အဝေးကပင် မြင်ရ၏။ ထိုပြာသာဒ်များကား ကူဋာဂါရကျောင်းတိုက်ကြီးမှ ပြာသာဒ်များ ဖြစ်၏။ ထိုကူဋာဂါရာကျောင်းတိုက်ကြီးကား ဝေသာလီပြည်တွင် အထူးထင်ရှားသော ကျောင်းတိုက်ကြီး ဖြစ်လေသည်။

ထိုအချိန်တွင် မြတ်စွာဘုရားသည် ဒေသစာရီကြွချီတော်မူရာမှ ဝေသာလီပြည်သို့ ရောက်ရှိလာပြီး ကူဋာဂါရကျောင်းတိုက်၌ ခေတ္တသီတင်းသုံးလျက် ရှိနေ၏။ ကျောင်းတိုက်ထဲသို့ မင်းသားတစ်ပါး ဝင်လာ၏။ ထိုမင်းသား၏ အမည်ကား မဟာလိဟု တွင်သတည်း။

မဟာလိမင်းသား ကျောင်းတိုက်ထဲသို့ ဝင်လာခြင်းမှာ ဘုရားသခင်ကို ဖူးမြော်ရန်သက်သက်မဟုတ်ဘဲ သူ့စိတ်ထဲတွင် ဘဝင်မကျ လိပ်ခဲတည်းလည်းဖြစ်သော သိကြားမင်းပြဿနာကို ဗုဒ္ဓအား မေးလျှောက်ရန်ကိစ္စလည်း ပါလာသည်။ သိကြားမင်း သိကြားမင်းဟူ၍ လူတွေက ပြောနေကြ၏။ ထိုသိကြားသည် အကယ်ပင် ရှိလေသလော။ ရှိလျှင် ထိုသိကြားကို အဘယ်သူ မြင်ဖူးလေသနည်းဟူ၍ တွေးလာရင်း ဘုရားသခင်၏ ရှေ့တော်မှောက်သို့ ရောက်ရှိသွားလေ၏။ ဘုရားသခင်အား ရိုသေစွာရှိခိုးပြီးလျှင် သိကြားမင်းပြဿနာကို တင်ပြ လျှောက်ထားလေတော့သည်။

"အရှင်ဘုရား၊ နတ်တို့အရှင် သိကြားမင်းကို မြတ်စွာဘုရား မြင်ဖူးပါသလား ဘုရား။"

"မဟာလိ၊ သိကြားမင်းကို ငါ မြင်ဖူးပေ၏။"

"မြတ်စွာဘုရား၊ အရှင်ဘုရားမြင်ဖူးသော သိကြားမှာ သိကြားအတုအယောင်သာ ဖြစ်ပါလိမ့်မည်။ နတ်တို့၏အရှင်ဖြစ်သော သိကြားနတ်မင်းကို အလွန်မြင်နိုင်ခဲ၏။" ဟု လျှောက်လေသည်။

ဤသို့ မယုံကြည်လေဟန် သံသယစကားဖြင့် လျှောက်ထားလေသောအခါ ဗုဒ္ဓသည် မဟာလိမင်းသားအား သိကြားမင်း၏ အမည်နာမများနှင့်တကွ သိကြားဖြစ်ရန် ကျင့်စဉ်၊ သိကြားဖြစ်နိုင်သော နည်းလမ်းများကို ရှင်းပြတော်မူ၏။

"မဟာလိ၊ ငါသည် သိကြားမင်း၏အဖြစ်ကိုလည်း သိ၏။ သိကြားအဖြစ်ကို ပြုတတ်သောတရားတို့ကိုလည်း ငါ သိ၏။ ယင်းတရားတို့ကို ကောင်းစွာဆောက်တည်သောကြောင့် သိကြား၏အဖြစ်ကိုရ၏။ ထိုသိကြားဖြစ်ရန် ကျင့်စဉ်တရားများကိုလည်း ငါသိ၏။—

(၁) မဟာလိ၊ နတ်တို့အရှင် သိကြားမင်းသည် ရှေးလူဖြစ်စဉ်အခါက မဃမည်သောလုလင် ဖြစ်ဖူးပြီ။ ထို့ကြောင့် **မဃဝ**ဟု ဆိုအပ်၏။

(၂) မဟာလိ၊ သိကြားမင်းသည် ရှေးလူဖြစ်စဉ်အခါက ရိုသေစွာ ပေးလှူ၏။ ထို့ကြောင့် **သက္က**ဟူ၍ ဆိုအပ်၏။

(၃) မဟာလိ၊ သိကြားမင်းသည် ရှေးလူဖြစ်စဉ်အခါက ရှေးဦးစွာ အလှူကို ပေးလှူ၏။ ထို့ကြောင့် **ပုရိန္ဒ**ဟု ဆိုအပ်၏။

(၄) မဟာလိ၊ သိကြားမင်းသည် တစ်ထောင်သော အကြောင်းအရာတို့ကို တစ်မုဟုတ်ခြင်းဖြင့် ကြံနိုင်၏။ ထို့ကြောင့် **သဟဿက္ခ**ဟူ၍ သိအပ်၏။

(၆) မဟာလိ၊ သိကြားမင်းအား အသုရာ၏သမီး သုဇာမည်သော မယား ရှိ၏။ ထို့ကြောင့် **သုဇမ္ပတိ**ဟူ၍ ဆိုအပ်၏။

(၇) မဟာလိ၊ သိကြားမင်းသည် တာဝတိံသာနတ်တို့ကို အစိုးရသည်၏ အဖြစ်၊ အကြီးအမှူး၏အဖြစ်ဟူသော မင်းအဖြစ်ကို ပြုစေ၏။ ထို့ကြောင့် **ဒေဝါနမိန္ဒ**ဟူ၍ ဆိုအပ်၏။

ဤသို့ သိကြားမင်း၏အမည် (၇) မျိုးကို ဇာတ်ပွဲနှင့်တကွ ရှင်းပြီး သိကြားအဖြစ်ကို ရရှိစေနိုင်သော ကျင့်ဝတ် (၇) မျိုးကိုပါ ဆက်၍ မြွက်ကြားတော်မူလေသည်။

"မဟာလိ၊ နတ်တို့အရှင် သိကြားမင်းသည် ရှေးလူဖြစ်စဉ်အခါက (၇) ပါးသော ကျင့်ဝတ်အစုတို့ကို အပြည့်အစုံ ကောင်းစွာဆောက်တည်အပ်ကုန်၏။

စပယ်ဦးစာပေ

ယင်း (၇) ပါးသော ကျင့်ဝတ်တို့ကို ကောင်းစွာဆောက်တည်အပ်သည်၏အဖြစ်ကြောင့် သိကြား၏အဖြစ်ကို ရ၏။ (၇) ပါးသော ကျင့်ဝတ်အစုတို့ကို အဘယ်နည်းဟူမူကား–

(၁) ငါသည် အသက်ထက်ဆုံး အမိအဖတို့ကို လုပ်ကျွေးသမှုပြုသူ ဖြစ်အံ့။

(၂) ငါသည် အသက်ထက်ဆုံး အမျိုးထဲ၌ ကြီးသောသူတို့ကို အရိုအသေ ပြုလေ့ရှိသူ ဖြစ်အံ့။

(၃) ငါသည် အသက်ထက်ဆုံး သိမ်မွေ့သောစကားကို ဆိုလေ့ရှိသူ ဖြစ်အံ့။

(၄) ငါသည် အသက်ထက်ဆုံး ကုန်းစကားကို ဆိုလေ့မရှိသူ ဖြစ်အံ့။

(၅) ငါသည် အသက်ထက်ဆုံး လွတ်လွတ် စွန့်ကြဲခြင်းရှိသူ၊ ပေးလှူ ရန် အခါခပ်သိမ်း စင်ကြယ်သော လက်ရှိသူ၊ စွန့်လှူခြင်း၌ မွေ့လျော်သူ၊ သူတစ်ပါးတို့ တောင်းခံခြင်းငှာ ထိုက်သူ၊ ပေးကမ်းလှူဒါန်းဝေဖန်ခြင်း၌ မွေ့လျော်သူဖြစ်၍ ဝန်တိုခြင်းကင်းသောစိတ်ဖြင့် အိမ်ကို အုပ်စိုးနေသူ ဖြစ်အံ့။

(၆) ငါသည် အသက်ထက်ဆုံး မှန်သောစကားကို ဆိုလေ့ရှိသူ ဖြစ်အံ့။

(၇) ငါသည် အသက်ထက်ဆုံး အမျက်ထွက်ခြင်း မရှိသူ၊ အကယ်၍ ငါ့အား အမျက်ထွက်ခြင်းဖြစ်စေကာမူ ထိုအမျက်ကို လျင်စွာသာ လျှင် ပယ်ဖျောက်နိုင်သူ ဖြစ်အံ့။ ဤ (၇) ပါးတို့တည်း။

မဟာလိမင်းသည် နတ်တို့သနင်း သိကြားမင်းရှိသည်ဆိုအချက်ကို လက်ခံချင်ဟန် မတူ။ သိကြားမင်းကို အယုံအကြည်ရှိဟန် မတူ။ ရှိခဲ့သော် သိကြားကို မြင်ရမည်။ မရှိသောကြောင့်သာ မမြင်ရခြင်း ဖြစ်သည်။ ထိုအကြောင်းကို ဗုဒ္ဓမြတ်ဘုရား သိတန်ရာသည်ဟူ၍ ဗုဒ္ဓအား သိကြား ရှိ၊ မရှိ၊ သိကြားကို မြင်ဖူး၊ မမြင်ဖူး မေးလာခြင်း ဖြစ်၏။

အခြား ပုဂ္ဂိုလ်များအနေဖြင့် ကပ်သီးကပ်သပ် မေးသည်ဟု ထင်ဖွယ်ရှိသော်လည်း မဟာလိမင်းသားကဲ့သို့သော အမေးရှင်ပုဂ္ဂိုလ်များအနေဖြင့်ကား တကယ့် ခဲရာခဲဆစ်ကြီးဖြစ်နေ၍ မေးခြင်းဖြစ်၏။ ဤသို့ ဗုဒ္ဓကို မေးလျှောက်သူများအား ကျေးဇူးတင်ထိုက်၏။ မေးသောကြောင့် ဗုဒ္ဓထံတော်မှ အဖြေရရှိလာ၏။ ထိုအဖြေသည် ဒေသနာတော်ဖြစ်လာပြီး ထိုဒေသနာတော်အရ ရှောင်သင့်သည်များကို ရှောင်ရှားကာ ဆောင်သင့်သည်များကို ဆောင်ခြင်း၊ ရိုသေစွာ လိုက်နာခြင်းအားဖြင့် လူတို့အား အကျိုးပြုမည် ဖြစ်သတည်း။

(သဂ္ဂါထံယုတ်၊ မဟာလိသုတ်)



## ရာဇဂြိုဟ်ပြည်သား၊ ဘယ်ဘုံလား ဘုရားအား မည်သူမေးသနည်း။

**ပြဿနာ = နာတိကရွာ ကုသိုလ်ရှင်များ**
**မေးလျှောက်သူ = အရှင်အာနန္ဒာ**

ဗုဒ္ဓသည် ၄၅ ဝါတို့ ကာလပတ်လုံး တိုင်းအတည်တည်၊ ပြည်အစိုစို၊ မြို့အဖြာဖြာ၊ ရွာသွယ်သွယ်၊ နယ်အသီးသီးတို့သို့ လှည့်လည်၍ တရားဟောတော်မူရာတွင် အရှင်အာနန္ဒာသည် ဗုဒ္ဓနှင့်အတူ ထက်ကြပ်မကွာ ပါသည်က များ၏။

ထို့ကြောင့် အရှင်အာနန္ဒာသည် ဗုဒ္ဓဟောတော်မူသော ဒေသနာတော်အစဉ်ကို 'ဤတရားတော်ကား မည်သည့်ဒေသတွင် မည်သူ့ကို အကြောင်းပြု၍ ဟောသောတရားဖြစ်သည်။' ဤသို့ စသည်ဖြင့် ဗုဒ္ဓဟောတော်မူသော တရားတော်အားလုံးကို ဟောသည့်နေရာနှင့်တကွ အတိအကျ သိတော်မူ၏။

အကယ်၍ အရှင်အာနန္ဒာသည် အကြောင်းတစ်စုံတစ်ခုကြောင့် ဗုဒ္ဓနယ်လှည့်၍ တရားဟောတော်မူရာသို့ လိုက်မသွားသည့်တိုင်အောင် တရားဟောပြီး၍ ဗုဒ္ဓပြန်ကြွလာသောအခါ 'အာနန္ဒာ၊ မည်သည့်မြို့တွင် မည်သူ့ကိုအကြောင်းပြု၍ ဤမည်သောတရားကို ငါ ဟောကြားခဲ့သည်။' ဟူ၍ အရှင်အာနန္ဒာအား ပြောပြတော်မူမြဲ ဖြစ်၏။ အရှင်အာနန္ဒာ လိုက်ပါမသွားသော်လည်း ဟောအပ်သော တရားအားလုံးကို အရှင် မသိသောတရားဟူ၍ မရှိ။ အကုန်လုံး သိတော်မူ၏။ ထို့ကြောင့် ဓမ္မဘဏ္ဍာဂါရိက တရားဘဏ္ဍာစိုးဟူ၍ ထင်ရှားတော်မူ၏။ တန်ဖိုးဖြတ်ခြင်းငှာ မစွမ်းနိုင်သော ဓမ္မရတနာများကို သိုလှောင်ထားရာ ဘဏ္ဍာတိုက်တော်ကြီးဟု ဆိုလိုသည်။

တစ်ခါသ၌ အရှင်အာနန္ဒာသည် တပါးတည်း နေ့သန့်စင်နေတော်မူစဉ် မာဂဓတိုင်းသားတို့ အချင်းချင်းပြောစကားများကို ကြားယောင်လာလေ၏။

'သည်လိုကျောင်းဒကာရဲ့။ ဘယ်တိုင်းဘယ်ပြည်က ဘယ်သူတွေဟာ ဘယ်လောက်ပဲ လှူကြတန်းကြတယ်ဆိုဆို ကျုပ်တို့ ရာဇဂြိုဟ်ထက်တော့ မသာပါဘူးဗျ။ အကျွန်ုတို့ ရာဇဂြိုဟ်ပြည်သားတွေဟာ အလှူရေစက် လက်နှင့်မကွာ နေလာခဲ့ကြတဲ့ ကုသိုလ်ရှင်တွေပါဗျာ။' ဟု တစ်ယောက်ကပြောသောစကားကို–

'ဟုတ်သပေါ့။ ကုသိုလ်ဒါနပြုကြတဲ့နေရာမှာ ကျုပ်တို့ ရာဇဂြိုဟ်ကို ကျော်လွှားနိုင်ဖို့နေနေသာသာ မီအောင်လိုက်နိုင်တဲ့ တိုင်းပြည်တော် အတော်ရှားမယ်ဗျ။' တစ်ယောက်က ထောက်ခံစကားဆိုပုံ၊ အခြားတစ်ယောက်ကလည်း–

'သဟာပေမယ်လို့ ကျုပ်တို့ ရာဇဂြိုဟ်ပြည်သားတွေအဖို့ ဝမ်းနည်းစရာ တစ်ခုတော့ ရှိသဗျ။ အဲဒါ ဘာလဲဆိုရင် ကုသိုလ်ရှင်များရဲ့ တမလွန်ဘဝ လားရာဂတိကို မြတ်ဘုရား ဟောကြားတော်မူတဲ့အခါမှာ အကျွန်ုတို့ရာဇဂြိုဟ်က တစ်ယောက်မျှ ပါဘူးဗျ။ သက္ကတိုင်းက မည်သူမည်သူတွေ၊ ပြီးတော့ ကောသလတိုင်းက မည်သူမည်သူတွေဟာဖြင့် နတ်ဖြစ်သူဖြစ်၊ ဗြဟ္မာဖြစ်သူကဖြစ်၊ အဲဒီလို ဟောကြားတော်မူသတဲ့ဗျ။ အကျွန်ုတို့ရာဇဂြိုဟ်က တစ်ယောက်မျှ မပါဘူး။ အဲဒါ ဝမ်းနည်းစရာ ကောင်းသဗျာ။ ဗုဒ္ဓက ဘာကြောင့်များ အကျွန်ုတို့ ရာဇဂြိုဟ်ပြည်သားတွေရဲ့ လားရာဂတိကို မဟောဘဲ ချန်ထားတယ် မသိဘူး။'

ဤသို့ မဂဓတိုင်းသားတို့ အချင်းချင်း ပြောနေကြသောစကားသံများကို ကြားယောင်လာသောအခါ 'သူတို့ပြောတာ ဟုတ်ပေသားပဲ။ ရာဇဂြိုဟ်က ကုသိုလ်ရှင်များရဲ့ လားရာဂတိကို ဘာ့ကြောင့် မဟောပါသလဲဟု ဗုဒ္ဓအား ငါ မေးလျှောက်ကြည့်ဦးအံ့' ဟု အကြံဖြစ်လာသည်။ သို့သော်လည်း အလုပ်ကိစ္စ ဆောင်ရွက်ရသည့်တာဝန်တွေက များသောကြောင့် လျှောက်ထားသည့်အဆင့်သို့ မရောက်ခဲ့ချေ။

အရှင်အာနန္ဒာ၏ဆန္ဒ ပြည့်ဝရေးအတွက် နာတိကမည်သောရွာက ဖန်တီးပေးလိုက်သကဲ့သို့ ဖြစ်လာသည်။ အဘယ့်ကြောင့်ဆိုသော် ထိုအချိန်၌ ဗုဒ္ဓသည် အရှင်အာနန္ဒာနှင့်အတူ ဒေသစာရီလှည့်လည်ရာမှ နာတိကရွာသို့ ရောက်သွားလေသည်။ ထိုရွာကား ရွာလုံးကျွတ်ဆိုရအောင်ပင် ရတနာသုံးရပ်ကို ဆည်းကပ်ကိုးကွယ်ကြကုန်၏။ ဒါနမှု၊ သီလမှု၊ ဘာဝနာမှုဟု ဆိုအပ်သော ကုသိုလ်ရှင်တို့နေထိုင်ရာရွာ ဖြစ်လေသည်။

ဗုဒ္ဓသည် ထိုနာတိကရွာ၌ သီတင်းသုံးနေထိုင်တော်မူစဉ် ရွာသူရွာသားတို့က ကွယ်လွန်ပြီးသော နာတိကရွာသားတို့၏ လားရာဂတိကို သိလိုပါကြောင်းဖြင့် တောင်းပန်လျှောက်ထားချက်အရ ဟောတော်မူ၏။ နာတိကရွာမှ ကောင်း

မှုရှင် မည်သူမည်သူတို့ နတ်ပြည်ရောက်ကြပြီ။ မည်သူမည်သူတို့ကား ဗြဟ္မာကြီးတွေ ဖြစ်နေကြပြီ။ မည်သူတွေက သောတာပန်၊ မည်သူတို့က သကဒါဂါမ်၊ အနာဂါမ် ဖြစ်နေကြပြီဟူ၍ ဒိဗ္ဗစက္ခုဉာဏ်ဖြင့် မြင်တော်မူသည့်အတိုင်း ဟောကြားတော်မူ၏။ ယင်းတရားကို အထူးစိတ်ဝင်စားသူမှာ အရှင်အာနန္ဒာ ဖြစ်၏။ ရာဇဂြိုဟ်မြို့သားတို့အချင်းချင်းပြောစကားများကို နား၌ ကြားယောင်လာပြန်၏။ 'လျှောက်လိုက်ပါတော့လား။ သည်ဟာ လျှောက်ထားရန် အချက်ကောင်းပဲ။' ဟု အရှင်အာနန္ဒာအား သူ့စိတ်က တိုက်တွန်းလျက် ရှိနေ၏။ ဤသည့်နောက်တွင် ဗုဒ္ဓအား အရှင်အာနန္ဒာ မေးလျှောက်သော အသံများကို ကြားရတော့၏။

"မြတ်စွာဘုရား၊ အကျွန်ုပ်သည် ရာဇဂြိုဟ်ပြည်သားတို့အချင်းချင်း ပြောဆိုနေကြသည့်အသံကို ခဏခဏ ကြားကြားနေရပါ၏။ ထိုအကြောင်းကို မြတ်ဘုရားအား လျှောက်ထားကြည့်ရန် တပည့်တော်အား အကြံဖြစ်သည်မှာလည်း များလှပါပြီ။–

–အရှင်ဘုရား၊ ရာဇဂြိုဟ်ပြည်သားတို့အချင်းချင်း ဆိုပြောနေကြသည်မှာ 'မြတ်စွာဘုရားသည် အခြားပြည်သူပြည်သားတို့၏ လားရာဂတိကို ဟောတော်မူ၏။ ကာသိတိုင်း၊ ကောသလတိုင်း၊ ဝဇ္ဇီတိုင်း၊ မလ္လတိုင်း၊ စေတိယတိုင်း ဝံသတိုင်း၊ မစ္ဆတိုင်း၊ ကုရုတိုင်း၊ ပဉ္စာလတိုင်း စသည်တို့၌ ဤမည်သောသူသည် ဤမည်သောဘဝ၌ ဖြစ်၏ဟု ဟောတော်မူ၏။ သူတို့ ရာဇဂြိုဟ်ပြည်သားတို့၏ လားရာဂတိကို အဘယ်ကြောင့် မဟောလေသနည်း။' ဟု စိတ်မချမ်းမသာနှင့် ဆိုပြောနေကြပါ၏။–

–အရှင်ဘုရား၊ ဤနာတိက ရွာသားတို့အား 'ကွယ်လွန် စုတေသွားကြသော နာတိကရွာသား အလုပ်အကျွေး ဥပါသကာ ငါးကျိပ်ကျော်တို့သည် အောက်ကာမဘုံ၌ ပဋိသန္ဓေနေခြင်းအဖို့ ရှိသည်။ ငါးပါးသော သံယောဇဉ် အနှောင်အဖွဲ့ကို အကြွင်းမဲ့ကုန်ခြင်းကြောင့် ဗြဟ္မာဘုံ၌ ဥပပတ္တိ ပဋိသန္ဓေနေ၍ ထိုဘုံ၌သာလျှင် ပရိနိဗ္ဗာန်ပြုကြမည့် အနာဂါမ်များ ဖြစ်ကုန်၏'ဟု မြတ်ဘုရား ဟောတော်မူပါသေးသည်။–

–အရှင်ဘုရား၊ အခြားအခြားသော တိုင်းသူပြည်သား ကုသိုလ်ရှင်များ၏ လားရာဂတိကို ဟောတော်မူပါလျက် ရာဇဂြိုဟ်ပြည်သား ကုသိုလ်ရှင်များ၏ လားရာဂတိကို အဘယ့်ကြောင့် ဟောကြားတော်မမူပါသနည်း။ ဟောတော်မမူခြင်း၏အကြောင်းကို ရာဇဂြိုဟ်ပြည်က ဒကာဒကာမများသာ သိလိုကြသည်မဟုတ်။ တပည့်တော်လည်း သိလိုပါ၏။"

စပယ်ဦးစာပေ

အချိန်မှာ နံနက်ချိန်ဖြစ်၏။ အရှင်အာနန္ဒာသည် သိလိုသော အချက်အလက်များကို ရာဇဂြိုဟ်ပြည်သူတို့၏ကိုယ်စား လျှောက်ထားခဲ့ပြီးနောက် ဆွမ်းခံရန် အချိန်ကျသဖြင့် ဗုဒ္ဓ၏ အပါးတော်မှ ဖဲခွာခဲ့လေ၏။

ပြက္ခဒိန် နာရီစက်မောင်းသည် တဂျောင်းဂျောင်း ပြေးနေသည် ထင်ရ၏။ လွန်စွာလျင်မြန်လှ၏။ ဆွမ်းစားပြီးချိန်သို့ပင် ရောက်လာလေပြီ။ အရှင်အာနန္ဒာလည်း နံနက်က မိမိလျှောက်ထားချက်နှင့်ပတ်သက်၍ ဗုဒ္ဓထံတော်မှ အဖြေစကား ကြားသိလို၍ ဗုဒ္ဓရှေ့သို့ ရောက်ရှိနေ၏။ ဤတွင် ဗုဒ္ဓက မြွက်ကြားတော်မူသည်ကား–

"အာနန္ဒာ၊ သင်သည် မဂဓတိုင်းသား အလုပ်အကျွေး ဥပါသကာတို့ကို အကြောင်းပြု၍ သူတို့၏ လားရာဂတိကို ငါ့အား လျှောက်ထားခဲ့ပြီး ငါ၏အပါးမှ သင် ဖဲခွာသွား၏။ မကြာမီပင် ငါသည်လည်း နာတိကရွာ၌ ဆွမ်းခံ၍ ဆွမ်းစားပြီးနောက် ဆွမ်းစားရာမှ ဖဲခဲ့ပြီးသော် ခြေတို့ကိုဆေး၍ ဂန္ဓကုဋိတိုက်သို့ ဝင်ပြီးလျှင် ထိုမဂဓတိုင်းသား ဥပါသကာတို့ကိုပင် အကြောင်းပြု၍ ထိုသူတော်ကောင်းတို့၏ လားရာဂတိ၊ ရောက်ရာဘဝကို သိအောင် ငါ ရှုအံ့ဟု လိုလားလျက်၊ နှလုံးသွင်းလျက်၊ စိတ်အားဖြင့် ဆင်ခြင်လျက် ခင်းထားသောနေရာ၌ ငါထိုင်၏။

–အာနန္ဒာ၊ ငါသည် မဂဓတိုင်းသား အလုပ်အကျွေး ဥပါသကာ ဖြစ်သော သူတော်ကောင်းတို့၏လားရာဂတိ ရောက်ရာဘဝကို တွေ့မြင်ရပေ၏။ အာနန္ဒာ၊ ထိုအခါ တစ်ဦးသော နတ်သားသည် ငါ့အား ကိုယ်ထင်မပြလေဘဲ 'ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ အကျွန်ုပ်သည် ဇဝနသဘ ဖြစ်ပါ၏။ ကောင်းသောစကားကို ဆိုတော်မူတတ်သော မြတ်စွာဘုရား၊ အကျွန်ုပ်သည် ဇဝနသဘ ဖြစ်ပါ၏။' ဟူသော အသံကို ငါ ကြားရပေသည်။–

–အာနန္ဒာ၊ သင်သည် ရှေးအခါက ဇဝနသဘဟူသောအမည်ကို ကြားဖူးသည်ဟု အမှတ်ရပါ၏လော။"

"မကြားဖူးပါဘုရား။"

"အာနန္ဒာ၊ အသံပေါ်လာသည်မှ အခြားမဲ့၌ပင် အဆင်းသဏ္ဌာန် ခံ့ညားသော နတ်သည် ငါ၏မျက်မှောက်တွင် ထင်ရှားစွာ ပေါ်လာပြီး ငါ့ကို လျှောက်ပေ၏။ 'ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ အကျွန်ုပ်သည် ဗိမ္ဗိသာရမင်း ဖြစ်ပါသည်။ ကောင်းသောစကားကို ဆိုတော်မူတတ်သော မြတ်စွာဘုရား၊ အကျွန်ုပ်သည် ဗိမ္ဗိသာရမင်း ဖြစ်ပါသည်။' ဟု ဤသို့ နှစ်ကြိမ်မြောက်လည်း ငါ့အား ကြားစေ၏။–

–အာနန္ဒာ၊ ဗိမ္ဗိသာရကား မဂဓတိုင်းသား၊ ရာဇဂြိုဟ်ပြည်ကြီး၏သခင် ဘုရင်မင်းတရား မဟုတ်ပါလော။ မဂဓတိုင်းသား၊ ရာဇဂြိုဟ်ပြည်သား ကုသိုလ်ရှင်တို့၏ လားရာဂတိကို ဗိမ္ဗိသာရမင်းကြီးသည် ထင်ရှားသော သာဓက ဖြစ်ပေ၏။–

–အာနန္ဒာ၊ ဗိမ္ဗိသာရမင်းက ငါ့အား လျှောက်ပေ၏။ သူသည် အဘယ်ကြောင့် စတုမဟာရာဇ်နတ်ပြည်၌ ဇဝနသဘဟူသောအမည်ဖြင့် နတ်သားဖြစ်ရကြောင်းကို ငါ့အား ဤသို့လျှောက်၏။–

–အရှင်ဘုရား၊ အကျွန်ုပ်သည် ဝေဿဝဏ်နတ်မင်းကြီး၏ အပေါင်းအဖော်အဖြစ်သို့ ကပ်ရောက်ရသည်မှာ ဤအကြိမ်သည် (၇) ကြိမ်မြောက် ဖြစ်ပါသည်။ ထိုဗိမ္ဗိသာရမင်းဘဝမှ စုတေခဲ့သော ထိုအကျွန်ုပ်သည် နတ်မင်းကြီး ဖြစ်ခြင်းငှာ စွမ်းနိုင်ပါ၏။–

–အရှင်ဘုရား၊ သို့ရာတွင် အကျွန်ုပ်သည် ဤနတ်ပြည်မှ စုတေ၍ လူ့ပြည်၌ (၇) ဘဝ၊ ထိုလူ့ပြည်မှ စုတေ၍ ဤနတ်ပြည်၌ (၇) ဘဝ၊ ပေါင်း (၁၄) ဘဝသို့တိုင်အောင် ရှေးအခါက အကျွန်ုပ် နေဖူးရာဌာနကို အမှတ်ရလျက်ရှိပါ၏။ အမှတ်ရသည် အားလျော်စွာပင် အကျွန်ုပ်သည် ဤနတ်ပြည်၌ ဖြစ်ရပါ၏။"

မဂဓတိုင်းဖွား ရာဇဂြိုဟ်ပြည်သား၊ ဤဗိမ္ဗိသာရမင်းကြီး၏ ဘဝသစ်တစ်ဖြစ်လဲ ဇဝနသဘနတ်သား၏ဖြစ်ရပ်ဖြင့် အရှင်အာနန္ဒာ၏ဆန္ဒ ပြည့်ဝသွားလေပြီ။ အခြားအခြားသော တိုင်းသူပြည်သူတို့သည်သာ နတ်ဘုံ၊ ဗြဟ္မာဘုံတို့သို့ ရောက်ရသည်မဟုတ်။ မဂဓတိုင်းသားတို့သည်လည်း မိမိတို့ ပြုလုပ်ကြသည့် ကုသိုလ်ကောင်းမှုအလျောက် နတ်နှင့်ဗြဟ္မာ၊ အထက်ရွာ သုဂတိဘုံများတွင်နတ်ဖြစ်သူကဖြစ်၊ ဗြဟ္မာဖြစ်သူကဖြစ်ကြောင်း ဟောတော်မူ၊ မြွက်ကြားတော်မူသတည်း။

(သုတ်မဟာဝါ၊ ဇဝနသဘသုတ်)



## သုံးလူ့ပရမေ၊ မြတ်စိန္တေ
## တစ္ဆေဘယ်မှာ၊ အခြောက်ခံရသနည်း

ပြဿနာ = မှောင်မိုက်သောည
ခြောက်လှန့်သူ = မာရ်နတ်

မြတ်စွာဘုရားအား တစ္ဆေခြောက်သည်ပြောလျှင် ယုံတမ်းစကားမျိုး ဖြစ်နေပေမည်။ သို့သော် မြတ်စွာဘုရားသည် အကယ်ပင် တစ္ဆေခြောက်ခြင်းကို ခံရဖူး၏။ အခြောက်ခံရသောနေရာကား ဥရုဝေလတော၊ နေရဥ္စရာမြစ်ကမ်းနဖူးဘေး၊ အဇပါလ ညောင်ပင်ကြီးမှာ ဖြစ်ပေ၏။

ထိုအချိန်တွင် ဗုဒ္ဓမှာ ဘုရားအဖြစ်သို့ ရောက်ခါစ ရှိသေးသည်။ ပလ္လင်သတ္တာဟမှစ၍ သတ္တဋ္ဌာနတို့၌ စံတော်မူပြီးစအချိန် ဖြစ်လေသည်။ ဆိတ်ကျောင်းညောင်ပင်ခေါ် အဇပါလညောင်ပင်၌ နေတော်မူသောအခါ ညသည် မိုးမှောင်ကြီးကျသဖြင့် ပိန်းပိတ်အောင် မှောင်နေ၏။ ဗုဒ္ဓသည် ညောင်ပင်အောက်မှထွက်၍ လွင်တီးခေါင်၌ထိုင်နေစဉ် တစ္ဆေခြောက်ခြင်း ခံရလေ၏။

မာရ်နတ်သည် ညဥ့်နက်သန်းခေါင် လွင်တီးခေါင်တွင် တစ်ပါးတည်း စံနေတော်မူသော မြတ်စွာဘုရားအား ကြောက်ခြင်း၊ လန့်ခြင်း၊ တုန်လှုပ်ခြင်း၊ ကြက်သီးမွေးညှင်းထခြင်း ဖြစ်စေအံ့ဟူ၍ ဘုရားသခင်နှင့် မလှမ်းမကမ်းမှနေ၍ ရုပ်ပြောင်းရုပ်လွှဲအမျိုးမျိုးပြကာပြကာ ခြောက်လှန့်လေ၏။ ချစ်စနိုးဖွယ် တင့်တယ်သော အကောင်ပလောင်များကို ပြလိုက်၊ တစ်ဖန် ချက်ချင်းပင် ထိုတင့်တယ်သော အကောင်ပလောင်များ ပျောက်သွားပြီး မြတ်စွာဘုရားအား အရှင်လတ်လတ် စားလိုက်ဝါးလိုက်တော့မည့် ကြောက်စရာ အကောင်ပလောင်ကြီးတွေကို ဖန်ဆင်း၍ပြလိုက်နှင့် ထပြေးချင်လောက်အောင် တိုက်ခိုက် ခြောက်လှန့်လေ၏။

မြတ်စွာဘုရားသည် မိုးမှောင်ကြီးကျသော ထိုညဝယ် ကြောက်စရာ အကောင်ပလောင်များကို ကွက်ခနဲကွက်ခနဲ မြင်နေရသော်လည်း ကြောက်လန့်ခြင်း အလျှင်းပင်မရှိ။ ကြက်သီးမွေးညှင်းလည်း မထ။ ဉာဏ်ဖြင့် ဆင်ခြင်ကြည့်သည်တွင် 'ဩ–မာရ်နတ်ပေကိုး' ဟု သိသဖြင့် မာရ်နတ်ကို ဤဂါထာဖြင့် ဆိုတော်မူသတည်း။

'ဟယ်–ယုတ်မာသော မာရ်နတ်၊ ကောင်းသောအဆင်း၊ မကောင်းသောအဆင်းတို့ကို သင်ပြုလုပ်ခဲ့ဘိသောကြောင့် ရှည်စွာသော သံသရာခရီးသို့ လာခဲ့ရ၏။ မာရ်နတ်၊ ထိုသို့ပြုခြင်းဖြင့် သင့်အား အကျိုးမရှိ။ ဟယ်–မာရ်နတ်ယုတ်၊ သင်ကား ရှုံးလေပြီတည်း။

မာရ်နတ်၊ အကြင်သူတို့သည် ကိုယ်၊ နှုတ်၊ စိတ်တို့ဖြင့် ကောင်းစွာစောင့်စည်းကုန်၏။ ထိုသူတို့သည် မာရ်နတ်အလိုသို့ မလိုက်ကုန်။ ထိုသူတို့သည် မာရ်နတ်နှင့်စပ်သူတို့ မဖြစ်ကုန်။

ဤသို့ မိန့်တော်မူသောအခါ မာရ်နတ်သည် 'ငါ့အကြောင်းကို ဗုဒ္ဓကောင်းကောင်း သိသွားပြီ။' ဟူ၍ စိတ်နှလုံး မချမ်းမသာခြင်းပြင်းစွာနှင့် ထိုနေရာ၌ပင်လျှင် ပျောက်ကွယ်သွားလေသတည်း။

မာရ်နတ်သည် ဗုဒ္ဓအား ဤတစ်ကြိမ်သာ ခြောက်သည်မဟုတ်။ ဤအပေါလသြောင်ပင်မှာပင် တောဆင်ရိုင်းကြီးသဏ္ဍာန် ဖန်ဆင်းလျက် ခြောက်ဖူးကြောင်း၊ ဝေဠုဝန်ကျောင်းတော်၌ မြတ်ဗုဒ္ဓ သီတင်းသုံးနေစဉ်တွင်လည်း လုံးထွေးလျှော့ကြီးနီးနီး မြွေငန်းကြီးအသွင် ဖန်ဆင်း၍ ခြောက်လှန့်ဖူးကြောင်း မာရသံယုတ်၊ ဟတ္ထိရာဇသုတ်၊ သပ္ပသုတ်တို့တွင် အထင်အရှား ဟောကြားချက်များလည်း ရှိသေး၏။

(မာရသံယုတ်၊ ဟတ္ထိရာဇသုတ်၊ သပ္ပသုတ်)



## ဝန်ချတောင်းပန်၊ လက်မခံ
## ရန်သူ ဘာ့ကြောင့်မည်သနည်း

**ပြဿနာ = ကန့်ကွက်ခြင်း**
**မေးလျှောက်သူ = နတ်သားတစ်ပါး**

သူတစ်ပါးအား 'အပြစ်မရှိ အပြစ်ရှာ၍' ကဲ့ရဲ့မှု၊ ရှုတ်ချမှုမျိုးသည် လူ့လောက၌သာ ရှိသည်မဟုတ်။ နတ်လောက၌လည်း ရှိပေ၏။ မှန်၏။ နတ်လောက၌ သူတစ်ပါးအား ကဲ့ရဲ့ရှုတ်ချတတ်သော နတ်များ ရှိ၏။ ထိုနတ်သားတို့သည် သူတစ်ပါးအား ကဲ့ရဲ့ရှုတ်ချတတ်သည်ကိုအကြောင်းပြု၍ နတ်လောက၌ ဥဇ္ဈာနနတ်သားများဟု ထင်ရှားကုန်၏။

ထိုအချိန်၌ မြတ်စွာဘုရားသည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေခိုက် ဖြစ်၏။ အကဲ့ရဲ့ထူသော ထိုဥဇ္ဈာနနတ်သားတို့သည် တစ်နေ့သော ည၏ သန်းခေါင်ယံအချိန်တွင် မြတ်စွာ သီတင်းသုံးလျက်ရှိသည့် ဇေတဝန်ကျောင်းတော်ကြီးကို ကိုယ်ရောင်ကိုယ်ဝါဖြင့် ထွန်းလင်းတောက်ပစေပြီးလျှင် ဗုဒ္ဓရှေ့တော်မှောက်သို့ ချဉ်းကပ်ကြ၍ သူတို့၏ ဝါသနာစရိုက်အားလျော်စွာ ရဟန်းတို့အား ကဲ့ရဲ့ရှုတ်ချစကား မြတ်စွာဘုရားအား လျှောက်ထားလေ၏။

"အကြင်ရဟန်းသည် တစ်ပါးသော အခြင်းအရာအားဖြင့်ဖြစ်သော မိမိ၏ကိုယ်ကို တစ်ပါးသော အခြင်းအရာအားဖြင့် ပြောကြား၏။ လှည့်ပတ်၍ စားတတ်သော ငှက်ပုဆိုးကဲ့သို့ ထိုရဟန်း၏ ထိုသုံးဆောင်ခြင်းသည် ခိုးသဖြင့် သုံးဆောင်အပ်သည် မည်၏။–

–အကြင်အမှုကို ပြုလုပ်၏။ ထိုပြုလုပ်သော အမှုကိုသာ ပြောဆိုရာ၏။ အကြင်အမှုကို မပြုလုပ်၊ ထိုမပြုလုပ်သောအမှုကို မပြောဆိုရာ။ မပြုလုပ်ဘဲလျက် ပြောဆိုသောသူကို ပညာရှိတို့သည် သိကုန်၏။" ဟု လျှောက်၏။ ထိုအခါ ထိုနတ်သားအား မြတ်ဗုဒ္ဓက မြွက်ကြားတော်မူသည်ကား–

"အို–နတ်သား၊ အကြင် အကျင့်သည် မြဲမြံသောသဘောရှိ၏။ အကြင် အကျင့်ဖြင့် ပညာရှိတို့သည် မကောင်းမှုကို ရှုံ့မြိုက်ကုန်သည်ဖြစ်၍ မာရ်တည်းဟူသော အနှောင်အဖွဲ့မှ လွတ်ကုန်၏။ ဤအကျင့်ကို ပြောဆိုကာမျှဖြင့် လည်းကောင်း၊ စင်စစ် ကြားကာမျှဖြင့်လည်းကောင်း အစဉ်အတိုင်း သက်ဝင်ရန် မစွမ်းနိုင်ကုန်။–

–ပညာရှိတို့သည် လောက၏အကြောင်းကို သိကုန်၍ ဤသို့ မပြုကုန်။ သစ္စာလေးပါးတရားကိုသိ၍ လောက၌ ကပ်ငြိမှု (တဏှာ) ကို လွန်မြောက်ကုန်ပြီးသော ပညာရှိတို့သည် ကိလေသာမှ ငြိမ်းကုန်၏။"

ဤသို့ မိန့်တော်မူသောအခါ ထိုအကဲ့ရဲ့ထုလှသော ဥဇ္ဈာနနတ်တို့သည် မြေ၌တည်ကုန်၍ မြတ်စွာဘုရား၏ ခြေတော်၌ ဦးခိုက်ကုန်လျက် မြတ်စွာဘုရားအား ဤစကားကို လျှောက်ကြကုန်၏။

"အရှင်ဘုရား၊ မိုက်သည့်အလျောက်၊ မလိမ္မာသည့်အလျောက်၊ အပြစ်သည် အကျွန်ုပ်တို့အား လွှမ်းမိုး၍ နေပါ၏။ အကျွန်ုပ်တို့သည် မြတ်စွာဘုရားအား ထိပါးအပ်၏ဟု အောက်မေ့မိပါကုန်၏။ အရှင်ဘုရား၊ မြတ်စွာဘုရားသည် အကျွန်ုပ်တို့၏ အပြစ်ကို အပြစ်အားဖြင့် နောင်အခါ စောင့်စည်းပါရခြင်းငှာ သည်းခံတော်မူပါ။" ဟု လျှောက်ကုန်၏။ ဤသို့ လျှောက်ထားခြင်းမှာ ရိုးသားသော စိတ်ထားဖြင့် လျှောက်ထားခြင်း မဟုတ်ဘဲ မြတ်စွာဘုရားအား ကဲ့ရဲ့ရန် အပြစ်ရှာခြင်း ဖြစ်လေသည်။

ထိုသို့ ဥဇ္ဈာနနတ်သားများက လျှောက်ထားသောစကားကိုကြားသော် ဗုဒ္ဓက ပြုံးတော်မူ၏။ ပြုံးတော်မူခြင်းမှာ ထိုနတ်သားများ၏စိတ်ထားကို ရိပ်စားမိပြီးဖြစ်သောကြောင့် ဖြစ်၏။ မြတ်စွာဘုရား ပြုံးတော်မူသောအခါ ဥဇ္ဈာနနတ်သားတို့သည် အတိုင်းထက်အလွန် ကဲ့ရဲ့လိုကုန်သည်ဖြစ်၍ ရုတ်တရက် ကောင်းကင်သို့ ပျံတက်ကြကုန်စဉ် မြတ်စွာဘုရားအပါးတွင် ကျန်ရစ်သော နတ်သားတစ်ပါးက ဤသို့ လျှောက်ထားလေသတည်း။

"အကြင်သူသည် (ဝန်ခံ) ပြောကြားကုန်သောသူတို့၏အပြစ်ကို အကယ်၍ လက်မခံသည်ဖြစ်အံ့။ အတွင်း၌ဖြစ်သော အမျက်ဒေါသ ရှိသည်ဖြစ်၍အပြစ်ကို အလေးပြု၍နေသော ထိုသူသည် ရန်ကို (မိမိ၌) စွဲထားသည်မည်၏။"

ဆိုလိုသည်မှာ အပြစ်ရှိသူက ကန်တော့ပါလျက် လက်မခံခဲ့သော် ထိုသူ၏ ဝမ်းတွင်း၌ အမျက်ဒေါသရှိနေကြောင်း၊ အပြစ်ကို အလေးပြုနေကြောင်း ထင်ရှားသည်။ ထို့ကြောင့် ကန်တော့ပါလျက် လက်မခံသော ထိုသူကား ရန်ကို မိမိ

လည်ပင်းတွင် စွပ်ထားသည် မည်၏။ ဗုဒ္ဓ၏ ပြုံးတော်မူခြင်းမှာ ကန်တော့သည်ကို လက်မခံသည့်သဘောဟု ယူဆသောကြောင့် ဗုဒ္ဓအား ရန်ကို လည်ပင်းစွပ်ထားသူဟု စွပ်စွဲကဲ့ရဲ့လိုက်ခြင်းဟု ဆိုလိုသည်။

ထိုနတ်သားအား ဗုဒ္ဓက မြွက်ကြားတော်မူသည်မှာ–

"အို–နတ်သား၊ ပြစ်မှုသည် အကယ်၍ မရှိသည်ဖြစ်အံ့။ ဤလောက၌ အပြစ်သည် မဖြစ်ရာ။ ရန်တို့သည်လည်း မငြိမ်းကုန်ရာ။ ဤလောက၌ အဘယ်ကြောင့် လိမ္မာသူဖြစ်ရာအံ့နည်း။"

ဆိုလိုသည်မှာ အပြစ်ရှိသောကြောင့်သာ လောက၌ ပြစ်မှုဖြစ်လာရသည်။ ပြစ်မှုရှိသောကြောင့်လည်း ရန်တို့သည် တရှိန်ရှိန်မြင့်မား၍လာသည်။ ငြိမ်းသွားသည်ဟူ၍ မရှိ။ အပြစ်သည် လူမိုက်နှင့်လူလိမ္မာကို ခြားနားပေးသော မှတ်ကျောက်ဖြစ်သောကြောင့် အပြစ်ရှိခဲ့သော် လိမ္မာသူဟူ၍ ဖြစ်လာနိုင်မည်လောဟု ဆိုလိုသည်။

"အရှင်ဘုရား၊ အဘယ်သူအား ပြစ်မှုတို့သည် မရှိကုန်သနည်း။ အဘယ်သူအား ပြစ်မှားခြင်းတို့ မရှိကုန်သနည်း။ အဘယ်သူသည် တွေဝေခြင်းသို့ မရောက်သနည်း။ အဘယ်သူသည် အခါခပ်သိမ်း အလိုနှင့် ပြည့်စုံသောပညာရှိမည်သနည်း"

"အို–နတ်သား။ သတ္တဝါအားလုံးတို့ကို အစဉ်သနားတော်မူတတ်သော ရှေးဘုရားတို့ကဲ့သို့ လာခြင်းကောင်းတော်မူသော ထို မြတ်စွာဘုရားအား အပြစ်တို့သည် မရှိကုန်။ မြတ်စွာဘုရားအား ပြစ်မှားခြင်းသည် မရှိ။ ထိုမြတ်စွာဘုရားသည် မြင်းစွာတွေဝေခြင်းသို့ မရောက်။ ထိုမြတ်စွာဘုရားသည်သာလျှင် အခါခပ်သိမ်း သတိနှင့်ပြည့်စုံသော ပညာရှိမည်၏။–

–အို–နတ်သား၊ အကြင်သူသည် ဝန်ခံပြောကြားကုန်သောသူတို့၏ အပြစ်ကို အကယ်၍ လက်မခံသည်ဖြစ်အံ့။ အတွင်း၌ဖြစ်သော အမျက်ဒေါသရှိသည်ဖြစ်၍ အပြစ်ကို အလေးပြု၍နေသော ထိုသူသည် ရန်ကို မိမိ၌စွပ်ထားသည်မည်၏။ ထိုရန်ကို ငါ မနှစ်သက်။ ငါ မလိုလား။ ထို့ကြောင့် သင်တို့၏ အပြစ်ကို ငါ လက်ခံသတည်း။" ဒေဝတာသံယုတ်၊ ဥဇ္ဈာနသုတ်၌ လာ၏။

မျက်မှောက်လောက၌ အပြစ်ရှိသူက မိမိအပြစ် ကျေပျောက်စေခြင်းငှာ ကန်တော့လေ့ ရှိ၏။ တောင်းပန်ဝန်ချကန်တော့သည်ကို လက်ခံသူလည်း ရှိ၏။ လက်မခံသူလည်း ရှိ၏။ မည်သို့ပင်ဆိုစေ၊ ကန်တော့လျှင် လက်ခံသင့်၏။ လက်မခံသူအား ရန်ကို လည်ပင်း၌စွပ်ထားသူဟု ဆိုသတည်း။



## ငါ လယ်သမား၊ ဆိုတုံငြားလည်း
## ထွန်နွားထမ်းပိုး၊ ဘယ်မှာနည်း

ပြဿနာ = လယ်
မေးလျှောက်သူ = လယ်သမားကြီးတစ်ဦး

မဂဓတိုင်း၊ ဒက္ခိဏာဂီရိဇနပုဒ်တွင် ဧကနာဠဟူသောအမည်ဖြင့် ရွာတစ်ရွာရှိ၏။ ထိုရွာတွင် ပုဏ္ဏားလူမျိုး လယ်သမားများစွာတို့ နေထိုင်ကြ၏။ တစ်ရွာလုံး ထွန်တုံးကိုဖက်၍ အသက်မွေးကြ၏။

လယ်သမားများစွာအနက်တွင် ဘာရဒွါဇပုဏ္ဏားမှာ လယ်များစွာကိုပိုင်သော လယ်သမားကြီးတစ်ဦး ဖြစ်လေသည်။ ရာသီမှာ ဝသန်ကာလ မိုးဦးကျရာသီ ဖြစ်သောကြောင့် ဘာရဒွါဇလယ်သမားကြီးသည် နွားရှဉ်းပေါင်း ငါးရာနှင့်အတူ လယ်ကွင်းထဲသို့ ရောက်နေပြီဖြစ်၏။ နွားရှဉ်းကိုယ်စီနှင့် လယ်သမားများ လယ်ထွန်နေကြ၏။

လူရောနွားပါ အပန်းပြေစေခြင်းငှာ ခေတ္တအနားယူနေချိန်တွင် လယ်ပိုင်ရှင် ဘာရဒွါဇပုဏ္ဏားကြီးသည် မိမိနှင့် လုပ်ဖော်ကိုင်ဖက် လယ်သမားများအား ကျွေးမွေးလျက်ရှိနေစဉ် တစ်ဦးသောသူက အဝေးသို့လှမ်းကြည့်လျက်မှ 'ဟော' ဟု တအံ့တဩလိုက်ရာ အားလုံးက ထိုသူပြရာဆီသို့ လှမ်းကြည့်လိုက်ကြသည်။ "ဟာ–ဒီနေ့တော့ မင်္ဂလာနေ့ပဲ။" ဟု တစ်ဦးက ဆိုလေသည်။

ထိုသူဆိုတိုင်း မှန်ပါသည်။ ဘုရားသခင်သည် သပိတ်ပိုက်လျက် လယ်ကန်သင်းများကို ကျော်ကာ လာနေပါ၏။ သပိတ်ပိုက်လျက် ကြွလာသည်ကို ထောက်ခြင်းအားဖြင့် ဆွမ်းအတွက်ကြွလာကြောင်း ထင်ရှားပေသည်။ ဗုဒ္ဓသည် လယ်သမားကြီး ဘာရဒွါဇ၏ရှေ့၌ သပိတ်ပိုက်လျက် ရပ်တော်မူ၏။

နံနက်ခင်း နေမင်း၏ရောင်ခြည်သည် ဘာရဒွါဇ၏ လယ်ကွင်းကို ဂွက်

၍ ထိုဘိသည့်အလား လယ်ကွင်းအတွင်း၌ နွားရှဉ်းများသည် ကျော့ပြင်တွင် ကိုက်နေသော မှက်၊ ခြင်ကောင်များကို အမြီးတရွမ်းရွမ်းနှင့် ရမ်းသူကရမ်း၊ အချို့တို့ကလည်း ပါးစပ်တနုံ့နုံ့နှင့် စမြုံ့ပြန်သူကပြန်နှင့် ရှိနေကြ၏။

လယ်သမား ဘာရဒွါဇသည် မိမိရှေ့တွင် သပိတ်ပိုက်လျက် ရပ်လာသော မြတ်စွာဘုရားကို အကဲခတ်သည့်သဏ္ဌာန်ဖြင့် ခြေမှဦးခေါင်းတော်တိုင်အောင်လည်းကောင်း၊ ဦးခေါင်းတော်မှ ခြေသို့တိုင်အောင်လည်းကောင်း၊ အပြန်ပြန် အလှန်လှန် ကြည့်ရှုသုံးသပ်လေ၏။ ယောကျ်ားကောင်းပီပီ အားကောင်းမောင်းသန် ဤယောကျ်ားမျိုးသာ လယ်လုပ်စားလျှင် လူချမ်းသာဖြစ်နိုင်သည်ဟု တွက်ဆမိဟန်တူ၏။ ထို့ကြောင့်ပင် ဤစကားကို သူ ဆိုသတည်း။

"ရဟန်း၊ အကျွန်ုပ်သည် ထွန်လည်းထွန်၏။ စိုက်လည်းစိုက်ပျိုး၏။ ထွန်၍လည်းကောင်း၊ စိုက်ပျိုး၍လည်းကောင်း စား၏။ အသက်မွေးခြင်းပြု၏။ ရဟန်း၊ အသင်သည်လည်း အားကောင်းမောင်းသန် ယောကျ်ားကောင်း မဟုတ်လော။ ကျွန်ုပ်ကဲ့သို့ပင် ထွန်လည်းထွန်လော့၊ စိုက်လည်းစိုက်ပျိုးလော့၊ ထွန်၍လည်းကောင်း၊ စိုက်ပျိုး၍လည်းကောင်း စားလော့။ အသက်မွေးခြင်းပြုလော့။" ဟု ဗုဒ္ဓအား လယ်အလုပ်ကို လုပ်ကိုင်စားသောက်ရန် တိုက်တွန်းလေသည်။

"ပုဏ္ဏား၊ ငါသည် ထွန်လည်းထွန်၏။ စိုက်လည်းစိုက်ပျိုး၏။ ထွန်၍လည်းကောင်း၊ စိုက်ပျိုး၍လည်းကောင်း ငါ စားပေ၏။"

ဤသို့ မိန့်တော်မူလေသော် ဘာရဒွါဇနှင့်တကွ လယ်သမားအားလုံးတို့သည် ဗုဒ္ဓအား တအံ့တဩ ကြည့်ကြကုန်လေ၏။ ဘာရဒွါဇကား မယုံနိုင်သည့်အမူအရာဖြင့် ဗုဒ္ဓအား ဤသို့မေးသတည်း။

"ရဟန်း၊ လယ်ထွန်သည်၊ လယ်ထွန်၍စားသည်ဆိုသောစကားကို အသင်ပြော၍သာ ကြားရ၏။ လယ်သမားလက္ခဏာကို သင့်မှာ အရိပ်အမြွက်မျှ မတွေ့ရ။ အကျွန်ုပ်တို့သည် ရဟန်းဂေါတမ၏ ထမ်းပိုးကိုလည်းကောင်း၊ ထွန်ကိုလည်းကောင်း၊ ထွန်သွားကိုလည်းကောင်း၊ ထွန်သံကိုလည်းကောင်း၊ နွားများကိုလည်းကောင်း မတွေ့ရကုန်။ သို့ပါလျက် အရှင်ဂေါတမသည် ငါ လယ်သမားဟု ဆိုဘိ၏။ အသင်၏စကားကို အသို့မှတ်ရပါမည်နည်း။" ဟု မေးလေသည်။

ထိုအခါ မြတ်ဗုဒ္ဓသည် မိမိ၏ လယ်လုပ်ငန်းကို၊ ကိရိယာတန်ဆာပလာပစ္စည်းကို ဘာရဒွါဇအား နှုတ်မှတွတ်တွတ် ဂါထာရွတ်၍ ပြောပြတော်မူသတည်း။

"ဘာရဒွါဇ၊

ငါ၏ ယုံကြည်မှုသဒ္ဓါသည် မျိုးစေ့ မည်၏။

ငါ၏ ဣန္ဒြိယသံဝရသီလသည် မိုးရေ မည်၏။
ငါ၏ ပညာသည် ထမ်းပိုးထွန်တုံး မည်၏။
ငါ၏ ရှက်မှု ဟိရီတရားသည် ထွန်သန် မည်၏။
ငါ၏ စိတ်သည် ကြိုး မည်၏။
ငါ၏ သတိသည် ထွန်သွား၊ နှင်တံ မည်၏။

ကာယသုစရိုက်သုံးပါးဖြင့် လုံ၏။ ဝစီသုစရိုက်လေးပါးဖြင့်လည်း လုံခြုံ၏။ အာဟာရ ရှာမှီးမှု၌လည်းကောင်း၊ ဝမ်းရေး သုံးဆောင်ရာ၌လည်းကောင်း စောင့်ရှောက်၏။

ငါဘုရား၏ ဝီရိယသည် နိဗ္ဗာန်သို့ ရှေးရှုရန်းကန်သည်ဖြစ်၍ ဝန်ရုန်းနွား မည်၏။ အကြင်နိဗ္ဗာန်အရပ်သို့ရောက်သော် မစိုးရိမ်ရ။ ထိုနိဗ္ဗာန်အရပ်သို့ မဆုတ်မနစ် ရုန်းသွား၏။

ဘာရဒွါဇ၊ ဤသို့လျှင် လယ်ထွန်ခြင်းဖြစ်၏။ ထို လယ်ထွန်ခြင်းသည်ကား အမြိုက်နိဗ္ဗာန်အသီးရှိ၏။ ဤသို့သော လယ်ထွန်ခြင်းကို ထွန်ပြီးသည်ရှိသော် အလုံးစုံသော ဆင်းရဲမှ လွတ်မြောက်၏။”ဟု မိန့်တော်မူ၏။

ဘာရဒွါဇသည် ရွှင်လန်းသောမျက်နှာဖြင့် “အရှင်ဂေါတမသည် အမြိုက်နိဗ္ဗာန်အသီးရှိသောလယ်ကိုထွန်သောကြောင့် လယ်ထွန်ယောက်ျား လယ်သမားကောင်းကြီး ဖြစ်တော်မူပါပေ၏။ အရှင်ဂေါတမသည် အကျွန်ုပ်လှူအပ်သောဆွမ်းကို ဘုဉ်းပေးတော်မူပါလော့။”ဟု ဆွမ်းလှူမည်ပြုလေသောအခါ ဗုဒ္ဓက လက်ဝါးကိုဖြန့်လျက်–

“ဘာရဒွါဇ၊ ငါသည် ဂါထာသီဆို၍ရသော ဆွမ်းကို မသုံးဆောင်။ ဘာရဒွါဇ၊ အကျိုးအကြောင်းကို သိမြင်ကုန်သောသူတို့အား ဤသုံးဆောင်ခြင်းသည် တရားသဘောသို့ မသက်ဝင်။ ဘုရားသခင်တို့သည် ဂါထာဖြင့် သီဆို၍ရသော ဆွမ်းကို ပယ်ကုန်၏။ ဘာရဒွာဇ၊ ဤသည်လျှင် သူတော်ကောင်းတရား၌ တည်ကုန်သော ဘုရားရှင်တို့၏ အသက်မွေးခြင်းပေတည်း။–

–ဘာရဒွာဇ၊ ဂုဏ်ကျေးဇူးကို ရှာမှီးတတ်သော၊ နောင်တပူပန်မှု ငြိမ်းပြီးသော ရဟန္တာပုဂ္ဂိုလ်ကို ဂါထာရွတ်ဆို၍ရသော ဆွမ်းမှတစ်ပါး အခြားသော ဆွမ်းဖြင့်လည်းကောင်း၊ အဖျော်ဖြင့်လည်းကောင်း လုပ်ကျွေးလော့။” ဟု တိုက်တွန်းညွှန်ကြားတော်မူ၏။

"အရှင်ဘုရား၊ ယနေ့မှစ၍ တပည့်တော်အား အသက်ထက်ဆုံး ရတနာသုံးရပ်ကို ဆည်းကပ်ကိုးကွယ်သော ဥပါသကာဟူ၍ အသိအမှတ်ပြုတော်မူပါဘုရား။" ဟု ဗုဒ္ဓထံ၌ ရာသက်ပန် ဥပါသကာအဖြစ် ခံယူသော ဘာရဒ္ဒါဇ၏ လျှောက်ထားသံကား လယ်ကွင်းပြင်ကြီးတစ်ခုလုံး ခြိမ့်အုံးလွှမ်းထပ် ပဲ့တင်ခတ်သွားလေသတည်း။

(သံယုတ်ပါဠိတော်၊ ဗြာဟ္မဏသံယုတ်၊ ကသိဘာရဒွါဇသုတ်)



## လေနာစွဲကပ်၊ အမြွှစ်ပြတ်
## သတ်ဖြတ် ဘယ်ဆေး ဘယ်ဝါးနည်း

**ပြဿနာ = လေနာရောဂါ**

**မေးလျှောက်သူ = ဒေဝဟိတပုဏ္ဏားး**

ဝါတော်နှစ်ဆယ်အတွင်း၌ ဗုဒ္ဓအား ပြုစုလုပ်ကျွေးသော ဥပဋ္ဌာကရဟန်းမှာ အတည်အကျမရှိသေး။ သူတစ်လှည့် ငါတစ်လှည့်ဆိုသလို လုပ်ကျွေးလာခဲ့ကြ၏။ ထိုအချိန်တွင် အရှင်ဥပဝါဏသည် ဥပဋ္ဌာကအဖြစ် ဗုဒ္ဓ၏ အလုပ်အကျွေးဖြစ်နေ၏။

ဗုဒ္ဓမြတ်ဘုရားသော်မှပင် ဥပါဒိန္နကခန္ဓာကိုယ်တော်ကြီး ရှိနေသည့်အတွက် ရောဂါနှင့် ကင်းတော်မမူ။ လေနာစွဲကပ်လာ၏။ စွဲကပ်လာသော လေရောဂါက ဗုဒ္ဓအား ဖိစီးနှိပ်စက်လေ၏။ သက်သာလွတ်ကင်း ချမ်းသာခြင်းသို့ ရောက်ရှိလာရန်၊ လေနာရောဂါ ပျောက်ကင်းရန် ဆေးဝါးများ အရေးတကြီး လိုအပ်လာ၏။

ဗုဒ္ဓသည် ဇေတဝန်ကျောင်း၊ ဂန္ဓကုဋီတိုက်တွင် စံတော်မူလျက်မှ အရှင်ဥပဝါဏအား ဆေးဝါး အရှာခိုင်း၏။ "ဥပဝါဏ၊ သင့်အား ငါ တိုက်တွန်း၏။ ငါ ရေနွေးကို အလိုရှိ၏။ ငါ့အတွက် ယူခဲ့လော့။" ဟု စေခိုင်း၏။ အရှင်ဥပဝါဏလည်း "ကောင်းပါပြီဘုရား။" ဟု လျှောက်ထားကာ ဂန္ဓကုဋီတိုက်ခန်းမှ ထွက်လာခဲ့သည်။ သင်္ကန်းကိုလျှင်စွာရုံပြီးလျှင် သပိတ်ကိုပိုက်လျက် ဇေတဝန်ကျောင်းတော်မှ ထွက်ခဲ့လေ၏။

သာဝတ္ထိမြို့သည် လွန်စွာစည်ကားလှ၏။ နတ်မြို့ပမာ ကျက်သရေမင်္ဂလာရှိလှ၏။ အရှင်ဥပဝါဏသည် မင်းလမ်းမကြီးပေါ်ရှိ ဒေဝဟိတပုဏ္ဏားး၏ အိမ်ရှေ့တွင် သပိတ်ပိုက်လျက် တည်ငြိမ်သော ဣန္ဒြေဖြင့် ရပ်လေ၏။ ဒေဝဟိတပုဏ္ဏားးသည် အိမ်ရှေ့တွင် ရပ်လာသော အရှင်ဥပဝါဏကိုမြင်လေသော် အိမ်ထဲမှထွက်လာပြီး ဤဂါထာဖြင့် မေးသတည်း။

"ဦးပြည်းသည်ဖြစ်၍ ဒုကုဋ်သင်္ကန်းကိုရုံလျက် ဆိတ်ဆိတ်ရပ်နေသော အရှင်သည် အဘယ်ကို တောင့်တလျက် အဘယ်ကို ရှာမှီးလိုသည်ဖြစ်၍ အဘယ်ကို တောင်းခြင်းငှာ လာပါသနည်း။" ဟု လက်အုပ်ချီလျက် မေးလျှောက်၏။ ထိုအခါ အရှင်ဥပဝါဏလည်း ဂါထာဖြင့်ပင် ဖြေ၏။

"ပုဏ္ဏား၊ လောက၌ ပူဇော်အထူးကို ခံတော်မူထိုက်သော၊ ကောင်းသော စကားကို ဆိုတော်မူတတ်သော မြတ်စွာဘုရား၌ လေနာစွဲကပ်တော်မူ၏။ ပုဏ္ဏား၊ အကယ်၍ သင့်မှာ ရေနွေးများ ရှိခဲ့ပါမူ မြတ်စွာဘုရားအား လှူပါလော့။–

–ပူဇော်ထိုက်ကုန်သော သူတို့၏ အပူဇော်ကို ခံတော်မူရသော၊ အလေးအမြတ်ပြုထိုက်ကုန်သောသူတို့၏ အလေးအမြတ်ပြုခြင်းကို ခံတော်မူရသော၊ အရိုအသေပြုထိုက်ကုန်သော ပုဂ္ဂိုလ်တို့၏ အရိုအသေပြုခြင်းကို ခံတော်မူရသော ထိုမြတ်စွာဘုရားအတွက် ရေနွေးကို အလိုရှိပေ၏။"

ထိုအခါ ဒေဝဟိတပုဏ္ဏားသည် ယောကျ်ားတစ်ဦးအား ရေနွေးတစ်ထမ်းကို ယူစေပြီး တင်လဲတစ်ထုပ်ကိုလည်း အရှင်ဥပဝါဏအား လှူလိုက်၏။

အရှင်ဥပဝါဏသည် လျင်စွာပြန်ခဲ့၍ ကျောင်းတော်သို့ရောက်လျှင် ဗုဒ္ဓအား ရေနွေးဖြင့် ရေချိုးပေး၏။ ပြီးလျှင် ရေနွေးဖြင့် တင်လဲကိုဖျော်လျက် မြတ်စွာဘုရားအား ဆက်ကပ်၏။ ဗုဒ္ဓလည်း ဥပဝါဏဆက်ကပ်သော တင်လဲကို မှီဝဲတော်မူလေရာ ထကြွနေသော လေနာသည် ငြိမ်သွားလေ၏။

ရေနွေးနှင့်တင်လဲကို လှူလိုက်သော ဒေဝဟိတပုဏ္ဏားလည်း ဇေတဝန်ကျောင်းတော်သို့ လိုက်လာပြီး မြတ်စွာဘုရားထံ ချဉ်းကပ်၍ အလ္လာပသလ္လာပ စကား ပြောဆိုပြီးနောက် ဤသို့ လျှောက်ထားလေသည်။

(မေး) အရှင်ဘုရား၊ အဘယ်ပုဂ္ဂိုလ်၌ လှူဖွယ်ဝတ္ထုကို လှူရအံ့နည်း။ အဘယ်ပုဂ္ဂိုလ်၌ လှူအပ်သောအလှူသည် အကျိုးကြီးပါသနည်း။ အဘယ်သို့လျှင် ပေးလှူပူဇော်သောသူအား အဘယ်သို့လျှင် အလှူသည် ပြည့်စုံပါသနည်း။

(ဖြေ) ပုဏ္ဏား၊ အကြင်ရဟန်းသည် ရှေး၌နေခဲ့ဖူးသော ခန္ဓာအစဉ်ကို သိ၏။ နတ်ပြည်ကိုလည်းကောင်း၊ အပါယ်ကိုလည်းကောင်း မြင်၏။ ထိုမှတစ်ပါး ဇာတိ၏ကုန်ရာ (အရဟတ္တဖိုလ်) သို့ ရောက်၏။ ထူးသောဉာဏ်ဖြင့် သိပြီး၍ မြတ်သောအကျင့်ကို ကျင့်သုံးပြီး ဖြစ်၏။

ဤရဟန္တာပုဂ္ဂိုလ်၌ လှူဖွယ်ကို လှူရာ၏။ ဤရဟန္တာပုဂ္ဂိုလ်၌ လှူအပ်သောအလှူသည် အကျိုးကြီး၏။

ဤသို့လျှင် ပေးလှူအပ်သောသူအား ဤသို့လျှင် အလှူပြည့်စုံသည် ဖြစ်၏။

အလှူနှင့်ပတ်သက်၍ ဒေဝဟိတပုဏ္ဏားနှင့် ဗုဒ္ဓတို့၏ မေးဖြေခန်းမှာ ဤမျှဖြင့် နိဋ္ဌိတံလေ၏။

(ဗြာဟ္မဏသံယုတ်၊ ဒေဝဟိတသုတ်)



## တပည့်မလိမ္မာ ပြဿနာ

မေး = အရှင်မဟာကဿပ
ဖြေ = အရှင်အာနန္ဒာ

သားသမီးမကောင်း၊ မိဘခေါင်း။
တပည့်မကောင်း၊ ဆရာ့ခေါင်း။
တိုင်းပြည်မကောင်း၊ ရှင်ဘုရင့်ခေါင်း။

မြန်မာ့ယဉ်ကျေးမှုသမိုင်းတွင် အစဉ်အလာ ဆိုရိုးစကားများ ထင်လျက် ရှိခဲ့၏။ အဓိပ္ပာယ်ကို အထူးရှင်းနေစရာ မလို။ ပေါ်လွင်ပြီးသား ဖြစ်ပါ၏။

မိဘဆရာသမားများနှင့်တကွ အုပ်ချုပ်သူအကြီးအကဲပုဂ္ဂိုလ်အားလုံးတို့ အထူးသတိချပ်အပ်သည့် ပြဿနာတစ်ရပ် ဖြစ်ပေ၏။

"တပည့်မကောင်း ဆရာ့ခေါင်း" နှင့် ပတ်သက်၍ အရှင်အာနန္ဒာမှာ ပြယုဂ်တစ်ခု ဖြစ်လာသည်။ မကောင်းသော တပည့်မိုက်များနှင့် အတူသွား၊ အတူလာ၊ ဆက်ဆံခြင်းပြုလေသည့်အတွက် အရှင်အာနန္ဒာကား အရှင်မဟာကဿပကိုယ်တော်ကြီးက "အမှန်းမသိတတ်တဲ့ ကောင်ကလေး" ဟူ၍ မြည်တွန်ခြင်း ပြုလေသည်။

ထိုစကား မှန်၏။ အခါတစ်ပါးတွင် အရှင်အာနန္ဒာသည် တပည့်ရဟန်းများစွာခြံရံလျက် ဒက္ခိဏာဂီရိအရပ်သို့ ဒေသစာရီလှည့်တော်မူ၏။ ထိုအခါ အရှင်အာနန္ဒာ၏တပည့် ရဟန်းသုံးကျပ်တို့သည် ဘုရားသခင်၏ အရေတော်သက်န်းကိုချွတ်၍ လူဝတ်လဲကုန်လေ၏။

ထိုသတင်းဆိုးကို ကြားရသောအခါ အရှင်မဟာကဿပသည် အရှင်





အာနန္ဒာကို အပြစ်တတင်တင် ဖြစ်နေ၏။ ထိုအချိန်၌ အရှင်မဟာကဿပမှာ ရာဇဂြိုဟ်ပြည်၌ သီတင်းသုံးလျက် ရှိနေ၏။

အရှင်အာနန္ဒာသည် ဒက္ခိဏာဂီရိ၌ ဒေသစာရီ လှည့်လည်ပြီး၍ လူမထွက်ဘဲ ကျန်နေသောတပည့်များခြံရံလျက် ရာဇဂြိုဟ်ပြည်၊ ဝေဠုဝန်ကျောင်းသို့ ရောက်သောအခါ အရှင်မဟာကဿပထံသို့လက်အုပ်ချီလျက် ဝင်လေ၏။ သင့်လျော်သောနေရာ၌ ထိုင်၏။ အရှင်မဟာကဿပသည် အရှင်အာနန္ဒာကို မြင်လျှင်ပင် ဤစကားကို ဆိုလေသတည်း။

"ငါ့ရှင်အာနန္ဒာ၊ တိကဘောဇဉ်ကို မြတ်ဘုရား ပညတ်ထားတော်မူသည် မဟုတ်ပါလော"

"မှန်ပါသည် အရှင်"

"ဤ တိကဘောဇဉ်ကို အဘယ်အကျိုးကို မျှော်ကိုး၍ ပညတ်တော်မူသနည်း"

ချည်ပြီးတုပ်ပြီး မလှုပ်နိုင်အောင် ဤပြဿနာကိုင်၍ မေးခွန်းထုတ်တော်မူလိုက်သောအခါ အရှင်အာနန္ဒာသည် 'ဘာ့ကြောင့် ဤသို့ မေးပါလိမ့်' ဟူ၍ စဉ်းစားမိပြီး ဤသို့ ဖြေလေ၏။

"အရှင်ဘုရား၊ ဘုရားသခင်သည် သုံးပါးသောအကျိုးတို့ကို အစွဲပြု၍ ဤ 'တိကဘောဇဉ်' ကို ပညတ်တော်မူပါသည်။ ထိုအကျိုးသုံးပါးမှာ–

(က) သီလမရှိသော ရဟန်းတို့ကို နှိမ်ခြင်းငှာ၊

(ခ) သီလကို ချစ်မြတ်နိုးကုန်သော ရဟန်းကောင်းတို့အား ချမ်းသာစွာ နေရခြင်းငှာ၊

(ဂ) အလိုဆိုးရှိကုန်သော ရဟန်းတို့သည် အသင်းအပင်းကိုမှီ၍ သံဃာကို မဖျက်ဆီးခြင်းငှာ၊ ဒါယကာကို ချီးမြှောက်ခြင်းငှာ–

ဤသုံးပါးသော အကျိုးထူးတို့ကို မြင်တော်မူ၍ မြတ်စွာဘုရားသည် ဒါယကာတို့အိမ်၌ ခံယူနိုင်သော ဤတိကဘောဇဉ်ကို ပညတ်တော်မူပါသည်" ဟူ၍ ရိုသေစွာ လျှောက်၏။

ဤသို့လျှောက်လတ်သော် အရှင်မဟာကဿပသည် အရှင်အာနန္ဒာအား (ခေတ်စကားနှင့်ဆိုသော် ကရုဏာဒေါသဖြင့်) "အမှားမသိတတ်တဲ့ ကောင်ကလေး" ဟူသော အသုံးအနှုန်းစကားလုံးများဖြင့် ရင့်သီးစွာ မြည်တွန်တောက်တီးလေ၏။

"ငါ့ရှင်အာနန္ဒာ၊ ထိုသို့ဖြစ်ပါလျက် သင် အသိဉာဏ် ခေါင်းပါးလှချည့်လား အာနန္ဒာ။ အဘယ့်ကြောင့် ရဟန်းကျင့်ဝတ်သိက္ခာပုဒ်၊ ဥပဒေ၊ စည်းမျဉ်း

ကို လေးစားခြင်းမရှိသော အကျင့်ပျက်၊ ရဟန်းယုတ်၊ ရဟန်းစုတ်များနှင့် အတူ တကွ သွားလာဘိသနည်း။ သွားရာမှာလည်း ဣန္ဒြေစောင့်စည်းခြင်း မရှိ။ စားရာ လည်း ဣန္ဒြေစောင့်စည်းခြင်း မရှိ။ သင်၏ တပည့်ယုတ်တို့ကား ဒါယကာတို့ အကြည်ညိုပျက်အောင် ထင်သလိုစား၍ ထင်သလို လမ်းသလားနေကြကုန်၏။ ဒါယကာတို့ လုပ်ကိုင်စိုက်ပျိုးထားသော သီးနှံခင်းတွေ ပျက်စီးကုန်သည်မှာ သင့်တပည့်များကြောင့် ဤသို့ပျက်စီးကုန်သဖြင့် ဒါယကာတို့ အတိဒုက္ခ ရောက်ကြ ရသည်မှာ သင့်တပည့်များကြောင့် ဖြစ်ချေသည်။ သီးနှံစိုက်ခင်းများထဲ ဖြတ်သွား လျှင် ပျက်စီးကုန်မှာပါတကားဟူ၍ မစဉ်းစား။ ရဟန်းဖြစ်လျက် သည့်လောက် တောင် အသိဉာဏ်ခေါင်းပါးရာသလောဟူ၍ လူတို့ ကဲ့ရဲ့ကုန်ပြီကော အာနန္ဒာ။–

– ၊ အာနန္ဒာ၊ ယုတ်မာသော၊ အလိုဆိုးရှိကုန်သော၊ ရဟန်းတို့သည် အသင်း အပင်းကိုမှီ၍ သံဃာကို မဖျက်ဆီးနိုင်ရန်ဟူသော အဘဘုရား၏ ပညတ်ချက် ကို သင်အသိသားနှင့် အသိခေါက်ရက်၊ အဝင်နက်လှချည့်လား။ သင်၏တပည့် ရဟန်းယုတ်များ ဖျက်ဆီးလေသည့်အတွက် ရဟန်းသုံးကျိပ်တို့ ပျက်စီးဆုံးရှုံး ကုန်ပြီ မဟုတ်ပါလော။ လွန်စွာသနားစရာကောင်းလှတဲ့ ကောင်းကလေးပါ တကား။ အတိုင်းအရှည်ပမာဏကို ဘာမျှမသိတဲ့ သတ္တဝါကလေးပါကလား"

ဤသို့ 'ကုမာရက' သူငယ်ကလေး ဟူသောစကားလုံးဖြင့် သုံးနှုန်းဆိုပြော သောအခါ အရှင်အာနန္ဒာသည် သူ၏ဦးခေါင်းကို သူ့လက်ဖြင့်ပုတ်ပြကာ–

"အရှင်မဟာကဿပဘုရား၊ ရှုတော်မူပါလော့။ တပည့်တော်၏ဦးခေါင်း မှာ ဆံပင်ဖြူများပင် ပေါက်နေပါပြီ။ သို့ပါလျက်လည်း တပည့်တော်မှာ သူငယ် နပ်စား အကလေးဘဝမှ မလွတ်သေးပါကလားဘုရား" ဟူ၍ ဦးခေါင်းကိုပုတ် ၍ ပြကာပြကာ လျှောက်ရှာလေ၏။

ဤတစ်ကြိမ်သာ အရှင်အာနန္ဒာအား အရှင်မဟာကဿပက 'ကောင် ကလေး' ဟု ဆိုပြောသည်မဟုတ်။ အရှင်အာနန္ဒာပေါ်၌ 'ကောင်ကလေး၊ သူငယ်ကလေး' ဟူသောစကားလုံးမှာ အရှင်မဟာကဿပ၏ ပြောနေကျ၊ ဆိုနေကျ၊ ခေါ်နေကျ လက်သုံးစကား ဖြစ်လေသည်။

ဤသို့ အရှင်မဟာကဿပက အရှင်အာနန္ဒာအား "ကောင်ကလေး၊ သူငယ်ကလေး" ဟု ပြောဆိုဆုံးမချက်ကို အရှင်အာနန္ဒာအား တစ်ဖက်သတ် ကြည်ညိုနေသော ဘိက္ခုနီမအချို့က 'တို့ဆရာကို ဤသို့ဆိုပြောရပါမည်လား' ဟူ၍ မခံမရပ်နိုင် ဖြစ်လာကုန်သည်။

ဘိက္ခုနီများထဲတွင် ထုလ္လတိဿာ ဘိက္ခုနီမနှင့် ထုလ္လနန္ဒာဘိက္ခုနီမတို့

သည် အကဲဆုံး၊ အသဲဆုံး၊ အစွာဆုံး ဖြစ်၏။ အရှင်မဟာကဿပကိုယ်တော်ကြီးအား ပဲ့ကျမတတ် မှိုချိုးမျှစ်ချိုး ကဲ့ရဲ့ကြကုန်၏။

ထုလ္လတိဿာဘိက္ခုနီမကဆိုလျှင် အရှင်မဟာကဿပအား–

"အဘယ့်ကြောင့် အရှင်မဟာကဿပသည် အရှင်အာနန္ဒာကဲ့သို့သော ပညာရှိအကျော်အမော် အရှင်သူမြတ်၏ ရှေ့မှောက်တွင် တရားဟောလားပြုလားလုပ်ရဘိသနည်း။ အပ်ရောင်းသမားသည် အပ်လုပ်သောသူ၏ထံ၌သွား၍ အပ်ရောင်းဘိသကဲ့သို့ အရှင်အာနန္ဒာ၏ ရှေ့တော်မှောက်၌ တရားဟောသင့်သည်ဟု မှတ်ထင်တုံဘိ၏။ ရှက့်ဖွယ်လိလိ ဖြစ်ဘိစွ"

ဤသို့ မဲ့ကာရွဲ့ကာ ကဲ့ရဲ့ရှုတ်ချလေ၏။ အရှင်အာနန္ဒာကိုထိလျှင် မချိအောင် နာသော ဘိက္ခုနီမ ဖြစ်၏။ ထို့အတူ ထုလ္လနန္ဒာဘိက္ခုနီမကလည်း အရှင်မဟာကဿပကိုယ်တော်ကြီးအား သူတို့၏ ပျိုတိုင်းကြိုက်တဲ့ နှင်းဆီခိုင်သဖွယ် ဖြစ်သော အရှင်အာနန္ဒာကို 'ကောင်းကလေး၊ သူငယ်ကလေး' ဟု ဆိုပြောရာ သလောဟူ၍–

"အရှင်မဟာကဿပသည် သာနာတော်၏ပြင်ပက ဒိဋ္ဌိတစ်ဦးဖြစ်ဖူးပါလျက် ပညာရှိတစ်ဆူဖြစ်တော်မူသော အရှင်အာနန္ဒာကို အဘယ့်ကြောင့် 'ကောင်ကလေး၊ သူငယ်ကလေး' ဟု မလေးမစား ပမာမခန့် ခေါ်ဝေါ် ပြောဆိုရတုံဘိသနည်း"

နှုတ်ဖြင့် စောင်းမြောင်းကာ လျှာစောင်းခုတ်၊ အပုပ်ချလေ၏။

ထိုအချိန်၌ အရှင်အာနန္ဒာ ဒက္ခိဏာဂီရိမှ ရောက်စဖြစ်၍ ထုလ္လတိဿာ၊ ထုလ္လနန္ဒာစသော ဘိက္ခုနီမတို့သည် အရှင်အာနန္ဒာကို ဖူးမြော်ရန်အလို့ငှာ အလျှိုအလျှို ဥဒဟို ရောက်လာလျက်ရှိလေရာ အရှင်မဟာကဿပသည် မိမိအပေါ်၌ မနှစ်မြို့သောလေသံဖြင့် ကဲ့ရဲ့ပြောဆိုနေသော ထုလ္လနန္ဒာဘိက္ခုနီမ၏စကားကို ကြားရသောအခါ အရှင်အာနန္ဒာအား–

"ငါ့ရှင်အာနန္ဒာ၊ ထုလ္လနန္ဒာဘိက္ခုနီမသည် မစဉ်းစား၊ မဆင်ခြင်လေဘဲ ငါ့အား ရှုတ်ချစကားကို သူ ဆိုနေချေ၏။ သင် ကြား၏မဟုတ်လော အာနန္ဒာ။ ငါ့ရှင်အာနန္ဒာ၊ ငါသည် ဆံ၊ မုတ်ဆိတ်ကိုပယ်၍ ဖန်ရည်ဆိုးသောအဝတ်တို့ကို ဝတ်လျက် လူ့ဘောင်မှ ရဟန်းဘောင်သို့ ဝင်ရောက်ခဲ့၏။ ရဟန်းပြုသောအခါမှစ၍ 'အလုံးစုံသောတရားတို့ကို ကိုယ်တိုင် ထိုးထွင်း၍ သိတော်မူသော၊ ပူဇော်အထူးကို ခံတော်မူထိုက်သော ထိုမြတ်စွာဘုရားမှတစ်ပါး အခြားသောသူကို ဆရာ' ဟူ၍ ညွှန်ကြားဖူး၏ဟု ငါ မသိချေ။–

– ငါ့ရှင်အာနန္ဒာ၊ ရှေး ငါ လူဖြစ်ခဲ့စဉ်အခါက ငါ့အား ဤအကြံသည် ဖြစ်ဖူး၏။ 'အိမ်ရာထောင်သော လူ့ဘောင်၌နေရခြင်းသည် ကျဉ်းမြောင်းလှ၏။ ကိလေသာ မြူထရာ လမ်းနှင့်တူ၏။ ရဟန်းအဖြစ်သည် လွင်ပြင်နှင့်တူ၏။ အိမ်ရာထောင်သော လူ့ဘောင်၌ နေသောသူသည် ဤမြတ်သောအကျင့်ကို စင်စစ်ပြည့်စုံစွာ၊ စင်စစ် စင်ကြယ်စွာ ပွတ်သစ်စ ခရုသင်းနှင့်တူစွာကျင့်ရန် မလွယ်ကူ။ ငါသည် ဆံ၊ မုတ်ဆိတ်ကိုပယ်၍ ဖန်ရည်ဆိုးသောအဝတ်တို့ကို ဝတ်ပြီးလျှင် လူ့ဘောင်မှ ရဟန်းဘောင်သို့ ဝင်ရောက်၍ ရဟန်းပြုရမူ ကောင်းလေစွ' ဟု အကြံဖြစ်ဖူး၏။–

– ငါ့ရှင်အာနန္ဒာ၊ ထိုငါသည် တစ်ပါးသောအခါ၌ ပုဆိုးဟောင်းတို့ကို ဒုကုဋ် (သင်္ကန်းကြီး) ပြု၍ လောက၌ ရဟန္တာဖြစ်ကုန်သော ပုဂ္ဂိုလ်တို့ကို ရည်စူး၍ ဆံ၊ မုတ်ဆိတ်ကိုပယ်ပြီးလျှင် ဖန်ရည်ဆိုးသောအဝတ်တို့ကိုဝတ်လျက် လူ့ဘောင်မှ ရဟန်းဘောင်သို့ ဝင်ရောက် ရဟန်းပြုခဲ့၏"

ဤစကားများကို အရှင်အာနန္ဒာအား ရည်ညွှန်း၍ ပြောသော်လည်း ဘိက္ခုနီမတို့ ကြားကုန်၏။ ထုလ္လနန္ဒာ၏ ဒိဋ္ဌိဟူ၍ စွပ်စွဲ ချက်ကိုလည်း ဖြေရှင်းရာ ရောက်လေ၏။ အရှင်မဟာကဿပသည် သာသနာတော်ကို သူ ဝင်ရောက်လာခဲ့သည့်ခရီးလမ်းကို ဆက်၍နိဒါန်းသွယ်တော်မူ၏။

"ငါ့ရှင်အာနန္ဒာ၊ ထိုငါသည် ဤသို့ပြုလျက် ခရီးရှည်သွားသည်ရှိသော် ရာဇဂြိုဟ်ပြည်နှင့် နာဠန္ဒမြို့၏အကြား ဗဟုပုတ္တစေတီ၌နေတော်မူသော မြတ်စွာဘုရားကိုမြင်၍ ငါ့အား ဤသို့အကြံ ဖြစ်၏။ 'ငါသည် ဆုံးမတတ်သူကို တွေ့မြင်လိုသည်ဖြစ်ခဲ့မူ ဤမြတ်စွာဘုရားကိုသာလျှင် စင်စစ်တွေ့မြင်ရာ၏။ ငါသည် ကောင်းသောလာခြင်းရှိသူကို တွေ့မြင်လိုသည်ဖြစ်ခဲ့မူ ဤမြတ်စွာဘုရားကိုသာလျှင် စင်စစ်တွေ့မြင်ရာ၏။ ငါသည် အလုံးစုံသော တရားတို့ကို ကိုယ်တိုင်သိသူကို တွေ့မြင်လိုသူဖြစ်ခဲ့မူ ဤမြတ်စွာဘုရားကိုသာလျှင် စင်စစ်တွေ့မြင်ရာ၏' ဟု အကြံဖြစ်ခဲ့၏"

ဤစကားရပ်များဖြင့် သူ ရဟန်းပြုခဲ့ပြီးနောက် တမတ်စောက်စောက်နှင့် ဆည်းကပ်ထိုက်သော ဆရာသမားကို ရှာခဲ့ပုံ၊ ဗဟုပုတ္တစေတီ၌ ဘုရားသခင်ကို ချဉ်းကပ်ရန် အကြံဖြစ်ခဲ့ပုံများကို ပြ၏။ သူသည် ယောင်ယောင်ဝါးဝါးနှင့် ရဟန်းပြုလာသူမဟုတ်။ ပုဂ္ဂိုလ်တိုင်းကိုလည်း ဆရာတင်သူမဟုတ်ကြောင်းကို လည်း ဘိက္ခုနီမများအား သိစေသည်။

"ငါ့ရှင်အာနန္ဒာ၊ ငါ့စကား မဆုံးသေး။ ဆက်၍နားထောင်ပါလေဦး။

ငါ့ရှင်အာနန္ဒာ၊ ထိုငါသည် ထိုအရပ်၌ပင်လျှင် မြတ်စွာဘုရား၏ခြေတော်၌ ဦးခိုက်၍ မြတ်စွာဘုရားအား– "အရှင်ဘုရား၊ မြတ်စွာဘုရားသည် အကျွန်ုပ်၏ ဆရာပါတည်း။ အကျွန်ုပ်သည်ကား တပည့်ဖြစ်ပါ၏။ အရှင်ဘုရား၊ မြတ်စွာဘုရားသည် အကျွန်ုပ်၏ဆရာပါတည်း။ အကျွန်ုပ်သည်ကား သာဝကတပည့် ဖြစ်ပါ၏"ဟု လျှောက်၏။

"ငါ့ရှင်အာနန္ဒာ၊ ဤသို့လျှောက်သည်ရှိသော် မြတ်စွာဘုရားသည် ငါ့အား ဤစကားကို မိန့်တော်မူ၏။ 'ကဿပ၊ အကြင်သူသည် ဤသို့ အလုံးစုံသော စိတ်နှင့်ပြည့်စုံသောတပည့်ကို မသိပါဘဲလျက်လျှင် 'ငါသိ၏' ဟူ၍၊ မမြင်ပါဘဲ လျက် 'ငါမြင်၏' ဟူ၍ ဆိုမိငြားအံ့။ ထိုသူ၏ဦးခေါင်းသည် ပြတ်ကြွေကျရာ၏။ ကဿပ၊ ငါဘုရားသည်ကား သိတော်မူသောကြောင့်သာလျှင် သိ၏ဟူ၍၊ မြင် တော်မူသောကြောင့်သာလျှင် မြင်၏ဟူ၍ ဆို၏။–

– ကဿပ၊ ထို့ကြောင့် ဤသာသနာတော်၌ သင်သည် သီတင်းကြီး၊ သီတင်းငယ်၊ သီတင်းလတ်တို့၌ ငါ့အားထက်စွာသော ဟီရိဩတ္တပ္ပကို ရှေးရှုထင် သည်ဖြစ်လတ္တံ့ဟု ဤသို့ ကျင့်ရမည်။–

– ကဿပ၊ ထို့ကြောင့် ဤသာသနာတော်၌ သင်သည် ကုသိုလ်နှင့်စပ်သော တရားအားလုံးကို နာအံ့။ ထိုတရားအားလုံးကို အရိုအသေပြုကာ နှလုံးသွင်း၍ အလုံးစုံသောစိတ်ဖြင့် ကောင်းစွာဆောင်၍ နားစိုက်လျက် 'တရားကို နာအံ့' ဟူ၍ ဤသို့ကျင့်ရမည်။–

– ကဿပ၊ ထို့ကြောင့် ဤသာသနာတော်၌ သင်သည် သုခနှင့်တကွဖြစ် သော ကာယဂတာသတိသည် 'ငါ့အား မစွန့်လတ္တံ့' ဟူ၍ ဤသို့ကျင့်ရမည် ဟု မိန့်တော်မူ၏"

ဤစကားရပ်များဖြင့် သူ ဘုရားသခင်ထံ တပည့်ခံပုံနှင့် ဘုရားသခင်က သူ့အား ကျင့်ပုံကျင့်နည်း နိဿရည်းပေးပုံကို ပြ၏။ ဤအရှင်မြတ်ကြီးကို လျက် ထုလ္လနန္ဒာဘိက္ခုနီမက 'ဒိဋ္ဌိ' ဟု စွပ်စွဲတုံဘိ၏။

"ငါ့ရှင်အာနန္ဒာ၊ ထိုအခါ မြတ်စွာဘုရားသည် ငါ့ကို ဤအဆုံးအမဖြင့် ငါ့ကို ဆုံးမပြီး၍ နေရာမှထလျက် ကြွတော်မူ၏။ ငါ့ရှင်အာနန္ဒာ၊ ငါသည် (၇) ရက်သာလျှင် ကိလေသာနှင့်တကွဖြစ်လျက် ပြည်သူတို့ဆွမ်းကို စား၏။ (၇) ရက်မြောက်သောနေ့၌ အရဟတ္တဖိုလ်သည် ငါ့အား ထင်ရှားဖြစ်၏။–

– ငါ့ရှင်အာနန္ဒာ၊ ထိုအခါ၌ မြတ်စွာဘုရားသည် လမ်းမှဖဲခဲ့၍ တစ်ခုသော သစ်ပင်ရင်းသို့ ချဉ်းကပ်၏။ ထိုအခါ၌ ငါသည် ပုဆိုးဟောင်း ဒုကုဋ်သင်္ကန်း

ကို လေးခေါက်ခေါက်၍ မြတ်စွာဘုရားအား- 'အရှင်ဘုရား၊ မြတ်စွာဘုရားသည် ဤနေရာ၌ ထိုင်တော်မူပါလော့။ ယင်းသို့ ထိုင်ခြင်းသည် အကျွန်ုပ်အား ရှည်စွာသောကာလပတ်လုံး အစီးအပွားရှိခြင်းငှာ၊ ချမ်းသာခြင်းငှာ ဖြစ်ရာပါ၏' ဟု လျှောက်၏။-

- ငါ့ရှင်အာနန္ဒာ၊ မြတ်စွာဘုရားသည် ငါ ခင်းထားအပ်သောနေရာ၌ ထိုင်တော်မူပြီးသော် ငါ့ကို- 'ကဿပ၊ သင်၏ ဤပုဆိုးဟောင်း ဒုကုဋ်သင်္ကန်းသည် နူးညံ့လှစွာ၏' ဟု မိန့်တော်မူ၏။ ထိုအခါ ငါသည် ဤသို့လျှောက်၏။ 'အရှင်ဘုရား၊ မြတ်စွာဘုရားသည် သနားသမှုအကြောင်းပြု၍ အကျွန်ုပ်၏ ဤပုဆိုးဟောင်း ဒုကုဋ်သင်္ကန်းကို အလှူခံတော်မူပါလော့' ဟု လျှောက်လျှင် 'ကဿပ၊ သင်သည် ငါ၏ ဝတ်ရုံပြီးသော ပိုက်ဆံလျှော်ဖြင့်ရက်အပ်သော ပံ့သကူသင်္ကန်းတို့ကို ဆောင်နိုင်အံ့လော' ဟု ငါ့အား မေးတော်မူ၏။ 'အရှင်ဘုရား၊ ဆောင်ပါအံ့' ဟု ငါ လျှောက်၏။ ငါ့ရှင်၊ ထိုငါသည် ပုဆိုးဟောင်း ဒုကုဋ်သင်္ကန်းကို မြတ်စွာဘုရားအား ကပ်လျက် ငါသည်ကား ဘုရားသခင် ဝတ်ရုံပြီးသော ပိုက်ဆံလျှော်ဖြင့် ရက်အပ်သော ပံ့သကူသင်္ကန်းကို ဆောင်၏"

ဤသည်ကား အရှင်အာနန္ဒာအား တိုက်ရိုက်ရည်ညွှန်းသော်လည်း သွယ်ဝိုက်သောအားဖြင့် ထုလ္လနန္ဒာစသော ဘိက္ခုနီမများကို သိစေသည်။ အရှင်မဟာကဿပ၏ အတ္ထုပ္ပတ်ကား များစွာရှည်လျား၏။ ဤတွင်ဤမျှဖြင့် တော်တန်သင့်ပါပြီ။

အရှင်မဟာကဿပ၏အကြောင်း ဤတွင်ဖော်ပြရခြင်းမှာ အရှင်အာနန္ဒာနှင့်ဆက်နွယ်နေသောကြောင့် ဖြစ်၏။ အရှင်အာနန္ဒာအဖို့တွင် ဆရာကောင်းဖြစ်ပါလျက် တပည့်မိုက်များကြောင့် သာသနာ၌ အမည်းစက်ထင်စေသော ဖြစ်ရပ်ဆိုးများနှင့် ကြုံတွေ့ရကြောင်းများမှာ အရှင်မဟာကဿပ၏ မြည်တွန်တောက်တီးချက်များအရ သိရှိခြင်း ဖြစ်၏။

တပည့်ဆိုး၊ တပည့်မိုက်များကို လက်ခံမွေးမြူမိသဖြင့် သာသနာ၌ အမည်းစက်ထင်သော အရှင်အာနန္ဒာ၏သာဓကကိုထောက်၍ ခေါင်းဆောင်၊ အကြီးအကဲလုပ်သူများ သတိထားသင့်လှ၏။ "ဆရာကောင်းလျက်၊ တပည့်ဖျက်" မဖြစ်စေရန် အထူးသတိပြုဖို့ လိုအပ်ကြောင်းကို သင်ခန်းစာပေးလေသည်။ (သံယုတ်ပါဠိတော်၊ ကဿပသံယုတ်)

**မှတ်ချက်။ အချို့ပြဿနာများမှာ အခြေအနေအရ ဘုရားသခင်မှတစ်ပါး အခြားပုဂ္ဂိုလ်တို့ ဖြေဆိုသော ပြဿနာများလည်း ပါရှိပေ၏။**

ဘုရားသခင်၏အလိုတော်နှင့်အညီ ဖြေဆိုခြင်းဖြစ်သဖြင့် ဘုရားသခင် ဖြေဆိုသည်ပင် မည်ပေ၏။ ထို့ကြောင့် "မုဒ္ဒကိုယ်တိုင် ဖြေကြားခဲ့ရသော မေးခွန်းနှင့် ပြဿနာရပ်များ" ဟူသော ခေါင်းစဉ်နှင့် မဆန့်ကျင်ပါ။ ။

ဒဂုန်ဦးစန်းငွေ



## ပြိတ္တာ ပြဿနာ

မေး = အရှင်လက္ခဏ
ဖြေ = အရှင်မောဂ္ဂလာန်

ပြိတ္တာ–ပြိတ္တာ–ဟူ၍ ပြောနေကြ၏။
ပြိတ္တာဆိုတာ တကယ့်ရှိသလား။ ရှိလျှင်–
ထိုပြိတ္တာသည် အဘယ်ကဲ့သို့သော သတ္တဝါလဲ။

ပြိတ္တာနှင့်ပတ်သက်၍ တကယ်ရှိ,မရှိ ပြဿနာ ဖြစ်ခဲ့သည်။ ယခုလည်း အချို့တို့၌ ပြဿနာရှိနေဆဲဖြစ်သည်။

အချို့တို့က ပြိတ္တာဆိုသည်ကို မယုံဟုဆို၍ အချို့ကမူ ပြိတ္တာဟူသည် မရှိဟူ၍ပင် ပြတ်သားစွာ ဆိုကုန်၏။

ပြိတ္တာဟူသည် မရှိဟု အယူရှိသူတို့က ယုတ္တိကိုထောက်၍ ဆိုခြင်းဖြစ်၏။ ပြိတ္တာသည် အကယ်ရှိပါက ကျွဲ၊ နွား စသော တိရစ္ဆာန်တို့ကဲ့သို့ အထည်ကိုယ် ရုပ်ဝတ္ထုဒြပ်ထင်ရှား ရှိရမည်၊ ပြနိုင်မည်။ ဤသို့ကား မပြနိုင်။ 'ဟောဒါ ပြိတ္တာ' ဟူ၍ ထောက်မပြနိုင်။ ဤသို့ မပြနိုင်ခြင်းမှာ မရှိ၍သာ ဖြစ်သည်။ လက်တွေ့ မဟုတ်သောကြောင့် မယုံဟု ဆိုကုန်သည်။

သို့သော် စဉ်းစားရန်ရှိသည်မှာ လက်တွေ့အားဖြင့် အကောင်အထည် ရုပ်ဝတ္ထုဒြပ်ပစ္စည်း အထင်အရှား မပြနိုင်တိုင်းကို မယုံကြည်ရပြီလောဟု စဉ်းစားအပ်၏။

ဥပမာ–လူ၊ တိရစ္ဆာန်၊ သတ္တဝါတိုင်းသတ္တဝါတိုင်း အသက်ရှုကြ၏။ များသောအားဖြင့် ထွက်သက်ဝင်သက်ကို အကြောင်းပြု၍ အသက်ရှင်နေကြကုန်၏။ အသက်ရှုကြ၏ဆိုရာ၌ ရှူသောအရာကား အဘယ်နည်း။ အဘယ်ကို ရှူသနည်း မေးခဲ့သော် 'လေကို ရှူပါသည်' ဟူ၍ အားလုံးကပင် ဝန်ခံကြရပေမည်။ အကောင်အထည် ထင်ရှားမရှိ၍ ပြိတ္တာကို မယုံသူများလည်း လေကိုရှူကြောင်း ဝန်ခံကြရပေမည်။

သို့ဖြစ်လျှင် ပြိတ္တာမယုံသူတို့အား 'လေရှိသည်ကို ယုံရဲ့လား' ဟူ၍ မေးလျှင် မည်သို့ဖြေမည်နည်း။

လောကသည် လွန်စွာဆန်းပြားလှ၏။ အဘယ်မျှ ဆန်းပြားသနည်းဆိုသော် ဤနိုင်ငံ၌ မမြင်ဖူးသော၊ ဤနိုင်ငံ၌ မရှိဖူးသော ထူးထွေဆန်းပြားလှစွာသော သတ္တဝါများကို 'ရုပ်မြင်သံကြား' တီဗွီထဲတွင် တွေ့မြင်ရ၏။ ကိုယ် မမြင်ဖူး၊ မတွေ့ဖူးလေတိုင်းကို မရှိဖူး၍ မမှတ်သင့်ကြောင်း သာဓကပင် ဖြစ်ပေ၏။

ကမ္ဘာ့စကြဝဠာကား အပြောကျယ်လှ၏။ ထူးထွေသည့်အံ့ရာသောတွေ တင်းကျမ်းရှိနေ၏။ မိမိမမြင်ဖူး၊ မတွေ့ဖူးခြင်းသာ ဖြစ်မည်။ မရှိခြင်း မဟုတ်။ ကေန်ရှိသည်။ မုချရှိသည်ကို အကြွင်းမဲ့ ယုံကြည်အပ်၏။

နတ်ကို မြင်ဖူး၊ တွေ့ဖူးကြပါ၏လော။ မိမိ မမြင်ဖူး၊ မတွေ့ဖူးလေတိုင်း နတ်မရှိဟု မဆိုအပ်။ နတ်ကို မြင်ဖူး၊ တွေ့ဖူးသူများက နတ်ရှိကြောင်း ကိုယ်တိုင်ဝန်ခံချက်များကို ဖော်ပြသော သံဂါယနာတင် 'ဝိမာနဝတ္ထု အဋ္ဌကထာ' ကျမ်းများ အထင်အရှား ရှိ၏။

ပြိတ္တာနှင့်ပတ်သက်၍လည်း ပြိတ္တာဟူသည် ကေန်ရှိကြောင်း၊ ပြိတ္တာနှင့် တွေ့ဖူးသူများနှင့် ပြိတ္တာများအကြောင်းကို ဖော်ပြသော 'ပေတဝတ္ထု အဋ္ဌကထာ' ကျမ်းများလည်း အထင်အရှားပင် ရှိချေ၏။ ထိုကျမ်း၌ ပြိတ္တာပေါင်း (၅၁) မျိုးကို ဝတ္ထုဇာတ်လမ်း၌ ဖော်ပြထားလေသည်။ အမြွက်မျှဖော်ပြရသော်–

(၁) ခေတ္တူပမာပေတဝတ္ထု–တဏှာပေမကြောင့်ရက္ခစိုးဖြစ်ရသော လယ် ဥပမာသူဌေးသား ပြိတ္တာ၊

(၂) သူကရပေတဝတ္ထု–နှုတ်မစောင့်စည်းသည့်အတွက် ဝက်ပြိတ္တာဖြစ်ရသော ရဟန်းငယ်အကြောင်း၊

(၃) တိရောကုဋ္ဋပေတဝတ္ထု–နံရံ၌စောင့်နေကြသော ဗိမ္ဗိသာရမင်းကြီး၏ ဆွေမျိုးဖြစ်သော ပြိတ္တာများ၊

(၄) သံသာရမောစကပေတဝတ္ထု–သတ္တဝါကို လူ့ချွတ်မှကျွတ်သည် အယူရှိသော ပြိတ္တာမ၊

(၅) နန္ဒာပေတဝတ္ထု–ရတနာသုံးပါး၊ လင်ယောက်ျား၊ ယောက္ခမတို့၌ ဂါရဝကင်းကွာ၊ ဆဲရေးမိရှာသဖြင့် ဖြစ်ရသော ပြိတ္တာမ၊

ဤသို့စသည်ဖြင့် မိမိတို့ပြုခဲ့သော အကုသိုလ်အလျောက် ပြိတ္တာဘုံသို့ ရောက်နေကြရသော ပြိတ္တာငါးဆယ့်တစ်မျိုးတို့၏ အတ္ထုပ္ပတ်ကို ပြုသူနှင့် ပြုလုပ်ခဲ့သည့် ဒုစရိုက်များကို ထင်ရှားစွာ ဖော်ပြထားလေသည်။

ထိုမှတစ်ပါး နိဒါနဝဂ္ဂသံယုတ်ပါဠိတော်၊ လက္ခဏသံယုတ်၌လည်း ပြိတ္တာ (၂၁) မျိုးကို သီးခြားတစ်ခုစီတစ်ခုစီ ကဏ္ဍခွဲခြား၍ သူတို့ခံစားနေရသောဘဝနှင့် သူတို့ကို ဒိဋ္ဌ မြင်တွေ့သောပုဂ္ဂိုလ်များအကြောင်းကို ဖော်ပြထားလေသည်။ အမြွက်မျှ ဖော်ပြရလျှင်

(၁) အရိုးစုပြိတ္တာ–သူ၏ ရှေးကပြုခဲ့ဖူးသော အကုသိုလ်နှင့် ယခု ခံစားနေရသော ဒုက္ခ၊

(၂) အသားတစ်ပြိတ္တာ–သူပြုခဲ့ဖူးသော ဒုစရိုက်မှုကြောင့် ယခု ဒုက္ခခံစားနေရသော သူ့ဘဝ၊ သူ့အဖြစ်၊

(၃) သန်လျက်အမွေးရှိသောပြိတ္တာ–သန်လျက်အမွေးပေါက်နိုင်လောက်အောင် သူ ရှေးဘဝက ပြုခဲ့သော ဒုစရိုက်မှု၊

(၄) မီးကျီးလူးပြိတ္တာမ–ဤဒုက္ခ ခံစားရလောက်အောင် ရှေးဘဝက သူ ပြုခဲ့သော ဒုစရိုက်မှု၊

(၅) တစ်ကိုယ်လုံး အပ်အမွေးပေါက်သည့် ပြိတ္တာနှင့် သူ၏ ရှေးဘဝ အတ္ထုပ္ပတ်။

ဤသို့ အစရှိသော ထိုပြိတ္တာ၊ ဤပြိတ္တာတို့၏ ထွေပြားဆန်းကြယ်သော ဖြစ်ရပ်များကို သံဂါယနာတင် အရှင်သူမြတ်တို့က နောင်လာနောင်သားတို့ မှတ်သားကြစေခြင်းငှာ သံဂါယနာတင်ထားခဲ့ကြကုန်၏။

ဤတွင် သက်သေသာဓကအဖြစ် အရိုးစုပြိတ္တာ၏ ဇာတ်လမ်းကို တင်ပြပါအံ့။

* * *

တောင်ငါးလုံးကာခိ ရာဇဂြိုဟ်ဟူ၍ ရာဇဂြိုဟ်မြို့တော်ဘွဲ့ကို ဖွဲ့ဆိုချီးကျူးကြကုန်၏။

ဂပယ်ဦးစာပေ

ရာဇဂြိုဟ်မြို့ကို တံတိုင်းကြီးသဖွယ် အခိုင်အမာ သဘာဝအလျှောက် တည်ရှိသော တောင်ကြီးငါးလုံးအနက်တွင် ဂိဇ္ဈကုဋ်တောင်သည် တောင်တစ်လုံး၊ တံတိုင်းကြီးတစ်ခုအဖြစ် ပါဝင်၏။ တောင်ငါးလုံးအနက်တွင် ဂိဇ္ဈကုဋ်တောင်သည် ပုံသဏ္ဌာန်အားဖြင့် လင်းတနှင့်တူသောကြောင့်လည်းကောင်း၊ ဒေဝဒတ်သည် ဘုရားသခင်အား ဤဂိဇ္ဈကုဋ်တောင်စောင်းမှ ကျောက်မောင်းနှင့်ဆင်၍ သေကြောင်းကြံစည်သောကြောင့်လည်းကောင်း သမိုင်းတွင် အထူးထင်ရှားသော တောင် ဖြစ်လေသည်။

ထိုအချိန်တွင် အရှင်မောဂ္ဂလာန်နှင့် အရှင်လက္ခဏတို့သည် ထိုဂိဇ္ဈကုဋ်တောင်၌ သီတင်းသုံးလျက် ရာဇဂြိုဟ်မြို့ကို ဂေါစရဂါမ် ဆွမ်းခံရွာပြုကြကုန်၏။ ရာဇဂြိုဟ်မြို့၌ ဆွမ်းခံကြကုန်၏။ အရှင်နှစ်ပါးသည် နေ့စဉ် အတူတကွ ရာဇဂြိုဟ်မြို့သို့ ဆွမ်းခံကြွတော်မူကုန်၏။

အချိန်မှာ အရှေ့ဥဒည်စွန်းမှ ပေါ်ထွန်းလာသော နံနက်ခင်းနေရောင်အောက်တွင် ဂိဇ္ဈကုဋ်တောင်မှာ အထင်းသားပေါ်လာ၏။ "အရှင်ဘုရားတို့ ဆွမ်းခံချိန်တန်ပါပြီ" ဟု နှိုးဆော်လေသည့်အသွင် ရောင်ခြည်ပြက်ပြက်ထင်လာ၏။

ထိုအခါ အရှင်မောဂ္ဂလာန်သည် ဆွမ်းခံကြွရန်အတွက် သင်္ကန်းကို သပ္ပာယ်စွာ ရုံ၍ သပိတ်ကိုလွယ်လျက် အရှင်လက္ခဏ နေသောကျောင်းသို့ကြွ၍ အရှင်လက္ခဏကို ဝင်ခေါ်၏။

"ငါ့ရှင်လက္ခဏ၊ လာ–သွားကြစို့။ ရာဇဂြိုဟ်သို့ ဆွမ်းခံဝင်ကုန်အံ့"

"ကောင်းပါပြီ အရှင်ဘုရား"

အရှင်လက္ခဏလည်း သင်္ကန်းရုံရင်းမှ "ကောင်းပါပြီဘုရား" ဟူ၍ လျှောက်၏။ ထို့နောက် အရှင်နှစ်ပါးသည် သပိတ်ကိုယ်စီလွယ်လျက် ဂိဇ္ဈကုဋ်တောင်ပေါ်မှ ဆင်းလာကြ၏။

လမ်းမှာ တောင်ပေါ်လမ်းဖြစ်သောကြောင့် ဖြောင့်ဖြူးခြင်း မရှိ။ အကွေ့အကောက်များလှ၏။ ကောက်ကွေ့သောလမ်းအတိုင်း တရွေ့ရွေ့ ဆင်းလာကြစဉ် တစ်နေရာ ကုန်းမြင့်သို့ရောက်သောအခါ ရှေ့ကကြွသော အရှင်မောဂ္ဂလာန်၏ လှမ်းနေသောခြေသည် ရုတ်တရက် တန့်သွားလျှင် နောက်မှ လိုက်ပါလာသော အရှင်လက္ခဏ၏ ခြေများသည်လည်း တန့်သွား၏။

အရှင်မောဂ္ဂလာန်သည် တောင်အပေါ်စီးမှ လက်ယာဘက်သို့ တိမ်းငဲ့ကြည့်ရှုပြီး အဓိပ္ပာယ်ရှိရှိ ပြုံးတော်မူလေ၏။ အရှင်လက္ခဏသည် ဤလမ်းကို

ဤအရှင်နှင့် အတူတကွ နေ့စဉ်သွားနေသော်လည်း ဤနေ့၌ကဲ့သို့ အရှင်မောဂ္ဂလာန်သည် တစ်ခါမျှ ပြုံးခဲ့ဖူးခြင်း မရှိ။ ထို့ကြောင့် 'ဤနေ့ ထူးဘိစွ။ အရှင်မောဂ္ဂလာန် ဘာ့ကြောင့်များ ပြုံးတော်မူပါလိမ့်' ဟူ၍ တွေးမိ၏။ ထိုအတွေးကို အရှင်မောဂ္ဂလာန်အား ဖွင့်၍မေးခြင်းပြုလေတော့သည်။

"ငါ့ရှင်မောဂ္ဂလာန်၊ မပြုံးစဖူး ယနေ့ ထူးဘိစွ။ အဘယ့်ကြောင့် ပြုံးတော်မူပါသနည်း"

အရှင်မောဂ္ဂလာန်သည် ကြည့်နေရာကို မျက်ခြည်ပြတ်မခံဘဲ ကြည့်လျက်မှ ဆိုပေ၏။

"ငါ့ရှင်လက္ခဏ၊ ဤပြဿနာကိုဖြေရန် အခါမဟုတ်သေး။ ဘုရားသခင်၏ ရှေ့တော်မှောက်သို့ရောက်မှ ဤပြဿနာကို ငါ့အားမေးလော့"

ဤသို့ တားမြစ်သဖြင့် အရှင်လက္ခဏလည်း ဆက်၍မမေးတော့။ သို့သော် စိတ်ထဲ၌တွင်မူ 'ဘာ့ကြောင့်ပါလိမ့်၊ ဘာကြောင့်ပါလိမ့်'ဟူ၍ တရှရှဖြစ်နေ၏။

သို့နှင့်ပင် အရှင်နှစ်ပါးသည် ရာဇဂြိုဟ်မြို့၌ ဆွမ်းခံတော်မူကြ၏။ ထိုနေ့အဖို့တွင် အရှင်လက္ခဏမှာ အရှင်မောဂ္ဂလာန်၏အပြုံးပြဿနာကု သိလိုသောကြောင့် ဘုရားသခင်၏ ရှေ့တော်မှောက်သို့ မြန်မြန်ရောက်ချင်နေ၏။

ဆွမ်းခံရာမှ ပြန်ခဲ့ကြ၍ ဆွမ်းစားဇရပ်၌ အတူတကွ ဆွမ်းဘုဉ်းပေးကြ၏။ သည်နေ့တွင် အရှင်လက္ခဏ၏ ဆွမ်းစားပုံမှာ ခါတိုင်းထက်မြန်သည် ထင်ရ၏။ ဆွမ်းဘုဉ်းပေးပြီးသောအခါ နှစ်ပါးအတူပင် ဆွမ်းစားဇရပ်မှ ဖဲခဲ့ကြပြီး ဘုရားသခင်၏ ရှေ့တော်သို့ ဝင်ကြလေ၏။ သင့်လျော်သောနေရာ၌နေစဉ် ဘုရားသခင်ကို ဖူးမြော်ကြကုန်၏။

ဘုရားသခင်ကို ဖူးမြော်၍ပြီးလျှင်ပြီးချင်းပင် အရှင်လက္ခဏသည် မိမိသိချင်နေသော အပြုံးပြဿနာကို ဘုရားသခင်၏ ရှေ့တော်၌ အရှင်မောဂ္ဂလာန်အား မေးလေ၏။

"ငါ့ရှင် မောဂ္ဂလာန်၊ အရှင်သည် တပည့်တော်နှင့်အတူ ဆွမ်းခံရန် ဂိဇ္ဈကုဋ်တောင်ပေါ်မှဆင်းလတ်သော် နေရာတစ်ခုတွင်ရပ်၍ ပြုံးတော်မူ၏။ ပြုံးရယ်ခြင်း၏အကြောင်း အထောက်အပံ့ကား အဘယ်နည်း။ အဘယ်ကြောင့် ပြုံးဘိသနည်း"

ထိုသို့မေးသောအခါတွင် ဘုရားသခင်၏အပါးတွင် ရဟန်းများစွာ ရံလျက်ရှိ၏။ ဘုရားသခင်သည် တပည့်မောဂ္ဂလာန်နှင့်လက္ခဏတို့၏ အပြန်အလှန် ဆိုပြောစကားကို သတိပြုနေ၏။ ထိုခဏ အရှင်မောဂ္ဂလာန်၏ နှုတ်ဖျားမှ အဖြေစကားများ ထွက်လာလေပြီ။

"ငါ့ရှင်လက္ခဏ၊ ငါသည် ဂိဇ္ဈကုဋ်တောင်မှ ဆင်းသက်လတ်သော် ကောင်းကင်၌ သွားနေသော အရိုးစုပြိတ္တာကို ငါ မြင်ရ၏။ လင်းတ၊ ကျီးငှက်၊ စွန်ရဲတို့သည် ထိုအရိုးစုပြိတ္တာကို လိုက်၍လိုက်၍ နံရိုးကြားတို့၌ ထိုးဆိတ်ကြကုန်၏။ ထိုပြိတ္တာသည် အော်၏။ နာကျင်သောအသံကို ပြု၏။

"ငါ့ရှင်လက္ခဏ၊ ထိုငါ့အား 'အချင်းတို့၊ အံ့ဖွယ်ရှိစွတကား။ အချင်းတို့ မဖြစ်ဖူးမြဲဖြစ်စွတကား။ ဤကဲ့သို့သော သတ္တဝါဟု ရှိရတုံဘိ၏။ ဤကဲ့သို့သော ပြိတ္တာဟု ရှိရတုံဘိ၏။ ဤကဲ့သို့သော အတ္တဘောကိုရသူဟု ရှိရတုံဘိ၏' ဟု အကြံဖြစ်ခဲ့ပါသည်"

ဤသို့ဖြေလိုက်သောအခါ ရဟန်းတို့သည် များစွာအံ့အားသင့်ကုန်လေ ၏။

အရှင်မောဂ္ဂလာန် ကိုယ်တော်မြတ်ကြီး၏ နှုတ်တော်ထွက် မြွက်ဆိုစကား ဖြစ်ခြင်းကြောင့် ဟုတ်မှဟုတ်ပါလေစဟူ၍ စိုးစဉ်မျှ သံသယမဖြစ်ကြကုန်ဘဲ 'လောကကြီးဟာ တကယ်ဆန်းကြယ်ပါကလား' ဟူ၍ အံ့ဩနေကြကုန်၏။ ထိုအခါ မြတ်စွာဘုရားသည် ရဟန်းတို့၏ဆန္ဒကို သိရှိတော်မူလေရကား ဤစကား ကို မြွက်ကြားတော်မူသတည်း။

"ရဟန်းတို့၊ ငါ၏တပည့်သာဝကတို့သည် စင်စစ် မျက်စိအမြင် ရှိကုန်သည်ဖြစ်၍ နေကြပေသည်တကား။ ရဟန်းတို့၊ ငါ၏ တပည့်တို့သည် ဉာဏ် အမြင်ရှိသည်ဖြစ်၍ နေကြပေသည်တကား။–

– အကြင်သို့သော တပည့်သာဝကစဉ်လျက် ဤသို့သော သတ္တဝါကို သိလည်းသိနိုင်တုံဘိ၏။ မြင်လည်း မြင်နိုင်တုံဘိ၏။ သက်သေကိုလည်း ပြုနိုင်တုံ ဘိ၏။–

– ရဟန်းတို့၊ ရှေးကပင် ထိုသတ္တဝါကို ငါ မြင်ခဲ့ဖူးပြီ။ သို့သော်လည်း ငါ သည် မပြောဆိုခဲ့ပေ။ ငါသည် ထိုအကြောင်းကို ပြောဆိုခဲ့ပါမူ သူတစ်ပါးတို့ လည်း ငါ့အား မယုံကြည်နိုင်ကြပေရာ။ ငါ့ကို မယုံကြည်သူတို့အား ထိုမယုံကြည်ခြင်း သည် ကြာမြင့်စွာသော ကာလပတ်လုံး စီးပွားမဲ့ခြင်းငှာ၊ ဆင်းရဲခြင်းငှာ ဖြစ်လေ ရာ၏။–

– ရဟန်းတို့၊ ထိုသတ္တဝါသည် ဤရာဇဂြိုဟ်ပြည်၌ပင် နွားသတ်သမား ဖြစ် ခဲ့ဖူးပြီး ထိုသတ္တဝါသည် ထိုကံ၏အကျိုးဖြင့် များစွာသော နှစ်တို့ပတ်လုံး၊ များစွာသော နှစ်အရာတို့ပတ်လုံး၊ များစွာသော နှစ်အထောင်တို့ပတ်လုံး၊ များစွာ သော နှစ်အသိန်းတို့ပတ်လုံး ငရဲ၌ကျက်ခဲ့၍ ထိုကံ၏အကျိုးကြွင်းဖြင့်လျှင် ဤသို့ အတ္တဘောကို ရရှိခံစားနေရ၏' ဟူ၍ မိန့်တော်မူ၏။

အထက်ပါ သံယုတ်ပါဠိတော်၌ ဟောကြားအပ်သော ဒေသနာတော်အရ လောက၌ ပြိတ္တာဟူသော သတ္တဝါများ ထင်ရှားရှိကြောင်းကို အကြွင်းမဲ့ ယုံကြည်အပ်၏။ ဘုရားသခင်ကလည်း ထိုသတ္တဝါကို ရှေးကပင် ငါ မြင်ဖူးပြီဟု မိန့်တော်မူ၏။ အရှင်မောဂ္ဂလာန်ကလည်း ထိုပြိတ္တာသတ္တဝါကို ဂိဇ္ဈကုဋ်တောင်ပေါ်မှ အဆင်းတွင် ကိုယ်တိုင်မြင်ခဲ့ကြောင်းကို ဘုရားသခင်၏ရှေ့တော်တွင် ဝန်ခံတော်မူ၏။

ပြိတ္တာဟူသည် ကေန်ရှိကြောင်း၌ မြတ်စွာဘုရားနှင့် အရှင်မောဂ္ဂလာန်တို့ ထက် ခိုင်မာသော သာဓက ရှိပါဦးမည်လော။

(သံယုတ်ပါဠိတော်၊ လက္ခဏသံယုတ်)



## သိကြားမင်း ရှိခိုးခြင်း ပြဿနာ

မေး = မာတလိနတ်သား
ဖြေ = သိကြားမင်း

တစ်ကြိမ်လည်း မဟုတ်။
နှစ်ကြိမ်လည်း မဟုတ်။

သိကြားမင်း၏ ရထားထိန်း မာတလိနတ်သားအဖို့တွင် သိကြားမင်း ခရီးထွက်သည့်အခါတိုင်း အကြိမ်များစွာ ကြုံတွေ့နေရသဖြင့် ကြာသော် 'ဘယ်ကို ရှိခိုးတာလဲ သိကြားမင်း။ ဘယ်သူ့ကို ရှိခိုးတာလဲ' ဟူ၍ သူ့ရင်ထဲမှာ ပြဿနာ ဖြစ်လာသည်။

ထိုနေ့တွင်လည်း သိကြားမင်းက ခရီးထွက်ရန်ရှိ၍ ရထားပြင်ထားဟု ခိုင်းစေချက်အရ မာတလိသည် အာဇာနည်နတ်မြင်းတစ်ထောင် က,လျက် ရထားကို ပြင်ထားပြီး ပြာသာဒ်ထက်မှ သိကြားမင်း ဆင်းအလာကိုစောင့်ရင်း ထိုပြဿနာကို တွေးနေ၏။

ထိုအခါ သူ၏မျက်စိထဲတွင် ဓတရဋ္ဌနတ်မင်းကြီး၊ ဝိရုဠှကနတ်မင်းကြီး၊ ဝိရူပက္ခနတ်မင်းကြီး၊ ကုဝေရနတ်မင်းကြီး၊ ဤနတ်မင်းကြီးလေးယောက်တို့က သိကြားမင်းအား ညွတ်တွားခယ ရှိခိုးကြသည်ကိုလည်း သူ မြင်ယောင်နေ၏။ စတုမဟာရာဇ်၊ တာဝတိံသာ၊ ဒေဝါ-ဒေဝီ အလီလီသော နတ်သားနတ်သမီး အပေါင်းတို့ လာရောက်ကြပြီး သိကြားမင်း၏ ခြေ၌ ဦးခိုက်ကြသည်ကိုလည်း သူ မြင်ယောင်နေ၏။

ထိုမှတစ်ပါး ခရီးထွက်သည့်အခါတိုင်း သိကြားမင်းသည် ရထားထက်သို့ မတက်မီ ရထား၏ဘေးတွင် ခြေကိုစုံရပ်လျက် အောက်အရပ်သို့ ဦးညွှတ်ရှိခိုးသည်ကိုလည်း သူ မြင်ယောင်နေ၏။

ဤသည်ကိုအကြောင်းပြု၍ ပြဿနာဖြစ်လာသည်ကား စတုမဟာရာဇ်နတ်မင်းကြီးများမှအစ နတ်အပေါင်းတို့၏ ဦးခေါင်းညွှတ်ကျိုး ရှိခိုးခြင်းကို ခံရသော သိကြားမင်းက အဘယ်သူကို ရှိခိုးလေသနည်း။ သိကြားမင်းက ရှိခိုးရသူ ရှိသေးသလော။ အံ့ဖွယ်ကောင်းလေစွ။

မာတလိနတ်သား၏စိတ်တွင် သိကြားမင်းသည် နတ်အပေါင်းတို့ အရှင်သခင်၊ နတ်ဘုရင် မင်းတရားကြီး ဖြစ်သည်။ ဘုန်းတန်ခိုးတေဇာလည်း အကြီးမားဆုံး ဖြစ်သည်။ အားလုံးသော နတ်အပေါင်းတို့ကသာ သိကြားမင်းကို ရှိခိုးကြရသည်။ သိကြားမင်းက ရှိခိုးရသူ မရှိ။ သိကြားမင်းထက် ကြီးသူ မရှိ။ သို့ပါလျက် သိကြားမင်းက တရိုတသေ ရှိခိုးနေ၏။ ဘယ်သူ့ကို ရှိခိုးလေသနည်း။ ငါ သိကြားမင်းအား ထိုအကြောင်းကို မေးလျှောက်ကြည့်ဦးမည်ဟူ၍ ကြံစည်သော်လည်း မေးရန် သင့်–မသင့် ချင့်ချိန်ရင်းနှင့်ပင် အချိန်တွေ ကုန်လွန်လာခဲ့သည်။ 'ယနေ့ ငါ မေးဖြစ်အောင် မေးမည်' ဟူ၍ မာတလိနတ်သားသည် သိကြားမင်းအလာကိုသာ စောင့်ကြိုနေ၏။

သူ မျှော်လင့်နေချိန်မှာပင် သိကြားမင်းသည် ပြာသာဒ်ပေါ်မှ ဆင်းလာပြီး ပြုမူနေကျအတိုင်း ရထားပေါ်မတက်မီ ရထားဘေးတွင် စုံရပ်လျက် ရှိခိုးလေ၏။ မာတလိက မေးရန်အသင့်ပြင်နေ၏။ ရှိခိုးပြီး၍ သိကြားမင်း ရထားပေါ်တက်မည်အလုပ်တွင် မာတလိက လက်အုပ်ချီလိုက်ရာ သိကြားမင်းက မာတလိကို လှည့်ကြည့်၏။ ထိုခဏမှာပင် မာတလိက မေးလျှောက်လေ၏။

"အရှင်သိကြားမင်း၊ ဗေဒင်သုံးပုံဆောင်သူ ဗြာဟ္မဏတို့သည်လည်းကောင်း၊ မြေ၌နေသူအားလုံးတို့သည်လည်းကောင်း၊ မင်းတို့သည်လည်းကောင်း၊ နတ်မင်းကြီးလေးယောက်တို့သည်လည်းကောင်း၊ များသောအခြံအရံရှိသော တာဝတိံသာ နတ်တို့သည်လည်းကောင်း၊ အရှင်သိကြားမင်းကို ရှိခိုးကုန်၏။–

– အရှင်သိကြားမင်း၊ အရှင်သိကြားမင်းသည် ထိုသို့ လူမင်း၊ နတ်မင်းအပေါင်းတို့၏ ဦးခေါင်းညွှတ်လျှိုး ရှိခိုးခြင်းကို ခံယူသည်ဖြစ်ပါလျက် အရှင်သိကြားမင်းရှိခိုးသော နတ်မင်းကြီးသည်ကား အဘယ်အမည်ရှိသော နတ်မင်းပါနည်း"

ဤသို့မေးလျှင် သိကြားမင်းသည် မာတလိ အမေးကို ကောင်းမွန်စွာ ဖြေ၏။

"မာတလိ၊ ဗေဒင်သုံးပုံတတ်သော ပုဏ္ဏားတို့သည်လည်းကောင်း၊ မြေ၌နေသူအပေါင်းတို့သည်လည်းကောင်း၊ မင်းတို့သည်လည်းကောင်း၊ နတ်မင်းကြီးတို့သည်လည်းကောင်း၊ များသော အခြံအရံရှိသော တာဝတိံသာနတ်တို့သည်လည်းကောင်း၊ ငါ့ကို ရှိခိုးကြကုန်၏။–

– ငါသည်ကား သီလနှင့် ပြည့်စုံကုန်သော၊ ရှည်သောညဉ့်တို့ပတ်လုံး တည်ကြည်ခြင်းရှိကုန်သော၊ မြတ်သောအကျင့်လျှင် လဲလျောင်းရာ ရှိကုန်သော၊ ရဟန်းတော်တို့ကို ကောင်းစွာရှိခိုး၏"

ဤစကားရပ်ဖြင့် သိကြားမင်း၏အယူဝါဒကို ပြ၏။ မိစ္ဆာဒိဋ္ဌိအယူရှိသော သိကြားမဟုတ်။ သမ္မာဒိဋ္ဌိအယူဝါဒ သိကြား ဖြစ်သည်။ သူသည် ရတနာသုံးရပ်ကို အမြဲဆည်းကပ်လျက်ရှိကြောင်းကို ပြ၏။ ဗုဒ္ဓဘာသာအမည်ခံနေသူများအား 'ရတနာသုံးပါးကို မမေ့ကြနှင့်' ဟူ၍ သတိပေးရာလည်း ရောက်၏။ သိကြားမင်းက ဆက်၍ဖြေ၏။

"မာတလိ၊ အကြင်သူတို့သည် အိမ်၌တည်ကုန်၍ ကောင်းမှုကို ပြုကုန်၏။ သီလရှိကုန်၏။ ရတနာသုံးပါးကို ဆည်းကပ်ကုန်၏။ တရားနှင့်အညီ သားမယားကို မွေးမြူကုန်၏။ ထိုသူတို့ကို ငါ ရှိခိုး၏"

ဤစကားရပ်ဖြင့် လူတို့အား ကုသိုလ်ကောင်းမှုများကို တတ်နိုင်သမျှ ပြုကြရန် တိုက်တွန်း၏။ သမ္မာအာဇီဝအမှုဖြင့် သားမယားကို မွေးမြူရန်ကိုလည်း သတိပေး၏။ တစ်နည်းအားဖြင့် ကောင်းမှုပြုသူ၊ သားမယားကို ကောင်းမွန်စွာ လုပ်ကျွေးမွေးမြူသူတို့အား သိကြားမင်း ရှိခိုးခြင်းကိုထောက်၍ သိကြားမင်း၏ ရှိခိုးခြင်း ခံရအောင် ပြုလုပ်ကြ၊ နေထိုင်ကြဟူ၍ တိုက်တွန်းသည် မည်ပေ၏။ သိကြားမင်းသည် ဆက်၍ဖြေ၏။

"မာတလိ၊ အကြင်သူတို့သည် မိဘတို့ကို လုပ်ကျွေးမွေးမြူကုန်၏။ ပူဇော်ထိုက်သောသူတို့ကို ပူဇော်ကုန်၏။ သက်ကြီးပုဂ္ဂိုလ်တို့ကို ရိုသေကိုင်းရှိုင်းကုန်၏။ လင့်ဝတ်ငါးပါး၊ မယားဝတ်ငါးပါးနှင့်အညီ ကျင့်ကုန်၏။ အပြောအဆို သိမ်မွေ့နူးညံ့ကုန်၏။ ချစ်သူချင်း မုန်းအောင် ကုန်းတိုက်ခြင်းလည်း မရှိ။ သူတစ်ပါးအား မနာလိုဝန်တိုခြင်းလည်း မရှိ။ မှန်သောစကားကို ဆိုကုန်၏။ အမျက်ထွက်ခြင်းလည်း မရှိ။ ထိုသူတို့အား ငါ ရှိခိုး၏"

ဤစကားရပ်များဖြင့် မိဘလုပ်ကျွေးသူ၊ သက်ကြီးပုဂ္ဂိုလ်တို့ကို ပူဇော်သူ၊

အပြောအဆို နူးညံ့သိမ်မွေ့သူ၊ မှန်သောစကားကို ဆိုသူ၊ အမျက်မထွက်သူ၊ ချစ်သူချင်း မုန်းအောင် ကုန်းမတိုက်သူတို့အား သိကြားမင်းက အမြဲရှိခိုးကြောင်းကို ပြ၏။ သိကြားမင်း၏ ရှိခိုးခြင်းခံရအောင်၊ သိကြားမင်း၏ ရှိခိုးခြင်း ခံထိုက်သော ပုဂ္ဂိုလ်မျိုးဖြစ်အောင် နေကြ၊ ထိုင်ကြ၊ ပြုလုပ်ဆောင်ကြဟူ၍ သွယ်ဝိုက်သော နည်းအားဖြင့် တိုက်တွန်းရာ ရောက်၏။

ထိုသို့ သိကြားမင်းက မြွက်ကြားလေသည်တွင်မှ မာတလိမှာ ပြဿနာ ပြေလည်သွားသည်သာမက သိကြားမင်း၏ အလေ့အထများပင် ကူးစက်ကာ ဤသို့ လျှောက်လေတော့၏။

"အရှင်သိကြားမင်း၊ အရှင်သိကြားမင်းသည် အကြင်သူတို့ကို ရှိခိုး၏။ ထိုသူတို့သည် လောက၌ မြတ်ကုန်သတတ်။ ထိုသူတို့သည် အကျွန်ုပ်လည်း အရှင်သိကြားမင်းကဲ့သို့ပင် ရှိခိုးပါ၏။ ဦးညွှတ်ပါ၏"

ပြဿနာ ပြေလည်ပြီးဆုံးသွားသောအခါ သိကြားမင်းသည် ရထားထက်သို့တက်၏။ ထို့နောက် အာဇာနည်းနတ်မြင်းတစ်ထောင် က,သော နတ်ရထားသည် မိုးကောင်းကင်တိမ်ယံကြားဝယ် လျှပ်ရှားသွားလာနေလေသတည်း။

(သံယုတ်)



## အချစ်နှင့်ပတ်သက်သော ပြဿနာ

**မေး = ကောသလမင်း**

**ဖြေ = မြတ်ဗုဒ္ဓ**

သဂါထာဝဂ္ဂသံယုတ် ပါဠိတော်၊ ကောသလသံယုတ်၌ 'ပိယသံယုတ်' ဟူ၍ သုတ်တစ်သုတ် ပါရှိ၏။ အချစ်အကြောင်းကို ဟောသောသုတ် ဖြစ်၏။ ဘုရားသခင်သည် ထိုပိယသုတ်ကို အကြောင်းမဲ့ ဟောကြားတော်မူသည် မဟုတ်။ အချစ်နှင့်ပတ်သက်၍ အမေးအမြန်းရှိလေသည့်အတွက် အဖြေထွက်လာသောသုတ် ဖြစ်၏။ ကြံကြံဖန်ဖန် မြတ်စွာဘုရားအား အချစ်အကြောင်းကို မေးမြန်းသူကား မည်သူဖြစ်လေသနည်း။

အခါတစ်ပါး၌ ကောသလမင်းကြီးသည် ဘုရားသခင်ထံတော်သို့ ချဉ်းကပ်၍ ဤသို့ လျှောက်ထားလေသည်။

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား။ ဆိတ်ငြိမ်ရာအရပ်သို့ကပ်၍ တစ်ယောက်တည်းနေသော တပည့်တော်အား ဤသို့အကြံ ဖြစ်လာပါ၏။ 'အဘယ်သူတို့သည် မိမိကိုယ်ကို ချစ်အပ်သည်မည်သနည်း။ အဘယ်သူတို့သည် မိမိကိုယ်ကို မချစ်အပ်သည်မည်သနည်း' ဟု ဤအကြံ ထင်ရှားစွာ ဖြစ်လာပါ၏။–

– အရှင်ဘုရား၊ တစ်ဆက်တည်းမှာပင် နောက်ထပ်အကြံတစ်ခု ဖြစ်ပေါ်လာပြန်ပါသည်။ ထိုအကြံမှာ အကြင်သူတို့သည် ကိုယ်ဖြင့် မကောင်းသောအကျင့်–ဒုစရိုက်သုံးပါးကို ကျင့်ကုန်၏။ နှုတ်ဖြင့် မကောင်းသော အကျင့်–ဝစီဒုစရိုက် လေးပါးကို ကျင့်ကုန်၏။ စိတ်ဖြင့် မကောင်းသောအကျင့်–မနောဒုစရိုက် သုံးပါးကို ကျင့်ကုန်၏။ ထိုသူတို့သည် မိမိကိုယ်ကို ချစ်အပ်သည် မမည်။ 'ငါတို့သည် မိမိကိုယ်ကို ချစ်အပ်၏' ဟု အကယ်၍ဆိုကုန်ငြားအံ့။ ထိုသို့ပင် ဆိုကုန်စေကာ

မှု ထိုသူတို့သည် မိမိကိုယ်ကို မချစ်အပ်သည် မည်၏။ ထိုသို့ဖြစ်ခြင်းသည် အဘယ့်ကြောင့်နည်း။ မချစ်သောသူသည် မချစ်အပ်သောသူ၏ အကျိုးငှာ ပြုအပ်သော အမှုမျိုးကို မိမိအကျိုးငှာ ကိုယ်တိုင်ပြုလုပ်ကြကုန်သောကြောင့် ထိုသူတို့သည် မိမိကိုယ်ကို မချစ်အပ်သည်မည်၏။-

- အကြင်သူတို့သည် ကိုယ်ဖြင့်ကောင်းသောအကျင့်-ကာယသုစရိုက်သုံးပါးကို ကျင့်ကြကုန်၏။ နှုတ်ဖြင့်ကောင်းသောအကျင့်-ဝစီသုစရိုက်ကို ကျင့်ကြကုန်၏။ စိတ်ဖြင့် ကောင်းသောအကျင့်-မနောသုစရိုက်ကို ကျင့်ကြကုန်၏။ ထိုသူတို့သည် မိမိကိုယ်ကို ချစ်အပ်သည်မည်၏။ 'ငါတို့သည် မိမိကိုယ်ကို မချစ်အပ်' ဟု အကယ်၍ ဆိုကြစေကာမူ ထိုသူတို့သည် မိမိကိုယ်ကို ချစ်အပ်သည်မည်၏။ ထိုသို့ချစ်ခြင်းသည် အဘယ့်ကြောင့်နည်း။ ချစ်သောသူသည် ချစ်အပ်သောသူ၏ အကျိုးငှာ ပြုအပ်သောအမှုမျိုးကို မိမိအကျိုးငှာ ကိုယ်တိုင်ပြုလုပ်ကြကုန်သောကြောင့် ထိုသူတို့သည် မိမိကိုယ်ကို ချစ်အပ်သည်မည်၏ ဟူ၍ ဤသို့အကြံဖြစ်လာပါသည်ဘုရား"

ကောသလမင်းကြီးသည် အချစ်နှင့်ပတ်သက်၍ မိမိ၌ဖြစ်ပေါ်လာသောကြံစည်တွေးတောမှု၊ စိတ်၌ဖြစ်ပေါ်လာမှုကို အထက်ပါအတိုင်း လျှောက်ထားခြင်းမှာ မိမိအကြံနှင့်ပတ်သက်သောအဖြေကို ဘုရားသခင်ထံ တောင်းခံလိုက်ခြင်းပင်တည်း။

ဤလျှောက်ထားချက်အတွက် ဘုရားသခင်ထံမှ ထွက်သောအဖြေကား-

"မြတ်သောမင်းကြီး၊ ဤအကြံသည် ဤအတိုင်းပင် မှန်၏။ မြတ်သောမင်းကြီး၊ အကြင်သူတို့သည် ကိုယ်ဖြင့် မကောင်းသော ကာယဒုစရိုက်အကျင့်ကို ကျင့်ကုန်၏။ နှုတ်ဖြင့် မကောင်းသော ဝစီဒုစရိုက်ကို ကျင့်ကုန်၏။ စိတ်ဖြင့် မကောင်းသော မနောဒုစရိုက်ကို ကျင့်ကုန်၏။ ထိုသူတို့သည် မိမိကိုယ်ကို ချစ်အပ်သည် မမည်။ ထိုသူတို့သည် 'ငါတို့သည် မိမိကိုယ်ကို ချစ်အပ်၏' ဟု အကယ်၍ ဆိုကြစေကာမူလည်း ထိုသူတို့သည် မိမိကိုယ်ကို မချစ်အပ်သည် မည်၏။ ထိုသို့ဖြစ်ခြင်းသည် အဘယ့်ကြောင့်နည်း။-

- မင်းကြီး၊ မချစ်သောသူသည် မချစ်အပ်သောသူ၏ အကျိုးငှာ ပြုအပ်သော အမှုမျိုးကို မိမိအကျိုးငှာ ကိုယ်တိုင်ပြုလုပ်ကုန်သောကြောင့် ထိုသူတို့သည် မိမိကိုယ်ကို မချစ်အပ်သည် မည်၏။-

- မင်းကြီး၊ အကြင်သူတို့သည်ကား ကိုယ်ဖြင့်ကောင်းသောအကျင့် ကာယသုစရိုက်ကို ကျင့်ကုန်၏။ နှုတ်ဖြင့်ကောင်းသောအကျင့်-ဝစီသုစရိုက်ကို ကျင့်ကုန်၏။ စိတ်ဖြင့် ကောင်းသောအကျင့်-မနောသုစရိုက်ကို ကျင့်ကုန်၏။ ထိုသူ

တို့သည် မိမိကိုယ်ကို ချစ်အပ်သည် မည်၏။ ထိုသူတို့သည် 'ငါတို့သည် မိမိကိုယ်ကို မချစ်အပ်' ဟု အကယ်၍ ဆိုကြစေကာမူ ထိုသူတို့သည် မိမိကိုယ်ကို ချစ်အပ်သည် မည်၏။ ထိုသို့ဖြစ်ခြင်းသည် အဘယ့်ကြောင့်နည်း။–

– မင်းကြီး၊ ချစ်သောသူသည် ချစ်အပ်သောသူ၏အကျိုးငှာ ပြုအပ်သော အမှုမျိုးကို မိမိအကျိုးငှာ ကိုယ်တိုင်ပင် ပြုကုန်သောကြောင့် ထိုသူတို့သည် မိမိကိုယ်ကို ချစ်အပ်သည်မည်၏"

မြတ်စွာဘုရားထံတော်မှ ဤအဖြေစကားကို ကြားရသောအခါ ကောသလမင်းကြီးမှာ နှလုံးပီတိဝမ်းဆိထိ၏သို့ ရွှန်းရွှန်းအိ ဖြစ်လေ၏။ မြတ်စွာဘုရားက ယင်းအချစ်နှင့်ပတ်သက်၍ ကောသလမင်းကြီးအား အဆီစစ်၍ အနှစ်ချုပ် ဟောတော်မူသည်ကား–

"မိမိကိုယ်ကို ချစ်အပ်၏ဟု အကယ်၍ သိငြားအံ့။ ထိုမိမိကိုယ်ကို မကောင်းမှုနှင့် မယှဉ်စေရာ။ မှန်၏။ မကောင်းမှုကို ပြုလေ့ရှိသောသူသည် ထိုချမ်းသာကို ရလွယ်သည် မဖြစ်။–

– မှန်၏။ သေမင်းနှိပ်စက်အပ်သည်ဖြစ်၍ လူ့ဘဝကို စွန့်ရသောသူအား အဘယ်သည်လျှင် ထိုသူ၏ဥစ္စာ ဖြစ်သနည်း။ အဘယ်တို့လျှင် ယူ၍သွားရအံ့နည်း။ ထိုသူအား အရိပ်သည် အစဉ်လိုက်သကဲ့သို့ အဘယ်သည်လျှင် အစဉ်လိုက်သနည်း။–

– ဤလောက၌ သတ္တဝါသည် နှစ်ပါးကုန်သော အကြင်ကောင်းမှုကိုလည်းကောင်း၊ အကြင်မကောင်းမှုကိုလည်းကောင်း ပြု၏။ ထိုကောင်းမှု၊ မကောင်းမှုသည်သာလျှင် ထိုသူ၏ဥစ္စာ ဖြစ်၏။ ထိုဥစ္စာကိုသာလျှင် ယူ၍သွား၏။ အရိပ်သည် အစဉ်လိုက်သကဲ့သို့ ကောင်းမှု၊ မကောင်းမှုနှစ်ပါးသည်သာလျှင် အစဉ်လိုက်၏။–

– ထို့ကြောင့် တမလွန်၌ အကျိုးရှိသော၊ ဆည်းပူးအပ်သောကောင်းမှုကို ပြုရာ၏။ ကောင်းမှုတို့သည် တမလွန်လောက၌ သတ္တဝါတို့၏တည်ရာ ဖြစ်ကုန်၏"

(သံယုတ်–မြန်မာပြန်)

ကောသလမင်းကြီးအား ကျေးဇူးတင်ထိုက်၏။ ကောသလမင်းကြီးက မေးလျှောက်သောကြောင့်သာ ဤပိယသုတ်ဒေသနာတော်ကို ကြားနာကြရ၏။ ကြားနာကြရခြင်းကြောင့် မိမိကိုယ်ကိုမိမိ ချစ်အပ်သည်မည်ကြောင်းနှင့် မိမိကိုယ်ကိုမိမိ ချစ်မြတ်နိုးလျှင် မကောင်းမှုကို မပြုသင့်ကြောင်းများကို သဘောပေါက်ကာ ဒု–ကိုပစ်၍ သု–ကိုချစ်ခြင်း အကျိုးတရား လက်တွေ့ခံစားနိုင်ကြမည် ဖြစ်သတည်း။

(ကောသလသံယုတ်)



## အဖန်တလဲလဲ ပြဿနာ

**မေး = ဥဒယပုဏ္ဏား**
**ဖြေ = မြတ်ဘုရား**

'သဒ္ဓါလွန်း ဆွမ်းတော်တော်ရပ်' ဟူ၍ ဆိုရိုးစကား ရှိ၏။ ထိုစကားသည် ဗုဒ္ဓနှင့် ဥဒယပုဏ္ဏားတို့၏ဖြစ်ရပ်မှ မြစ်ဖျားခံလေသလားဟု ထင်စရာ ဖြစ်၏။

အဘယ့်ကြောင့်ဆိုသော် တစ်နေ့သော နံနက်အချိန်တွင် မြတ်စွာဘုရားသည် သင်္ကန်းကို သပ္ပာယ်စွာရုံပြီးလျှင် သပိတ်ပိုက်လျက် ဥဒယပုဏ္ဏား၏အိမ်သို့ ချဉ်းကပ်တော်မူ၏။

ဥဒယပုဏ္ဏားလည်း မြတ်စွာဘုရား၏သပိတ်တော်ကို ဆွမ်းအပြည့် လှူ၏။

နှစ်ကြိမ်မြောက်လည်း-

သုံးကြိမ်မြောက်လည်း-

မြတ်စွာဘုရားသည် သင်္ကန်းကို သပ္ပာယ်စွာရုံပြီးလျှင် သပိတ်ပိုက်လျက် ဥဒယပုဏ္ဏား၏အိမ်သို့ ချဉ်းကပ်တော်မူ၏။ ဥဒယပုဏ္ဏားသည် ခါတိုင်းကဲ့သို့ပင် မြတ်စွာဘုရား၏ သပိတ်တော်ကို ဆွမ်းအပြည့်လှူ၏။

သို့သော် ဤတစ်ကြိမ်တွင်မူ လွန်လွန်းသနော်ဟူသောအဓိပ္ပာယ်ဖြင့် မြတ်စွာဘုရား၏ မျက်နှာတော်ကို စူးစိုက်စွာကြည့်၏။ ကြည့်ရင်းမှာပင် မြတ်စွာဘုရားအား ဤစကားကို သူ ဆိုလေတော့သည်။

"အရှင်ဂေါတမ၊ အရှင်ဂေါတမကား ရသတဏှာ အားကြီးဘိစွတကား။ အရသာ၌ တပ်မက်ခြင်းပြင်း၍ အဖန်တလဲလဲ ဤဂေဟာသို့ အသင် လာဘိသည်"

ဥဒယပုဏ္ဏားသည် မြတ်စွာဘုရားအား ရသတဏှာ အားကြီးသူဟု ဤသို့ စွပ်စွပ်စွဲစွဲ ဆိုဖူးသည်။ တစ်ကြိမ်လည်း မဟုတ်၊ နှစ်ကြိမ်လည်း မဟုတ်။ 'ရလေ လိုလေ အိုတစ္ဆေ' ဆိုသကဲ့သို့ ရမှန်းသိလေတိုင်း ခဏခဏလာ၍ ဤသို့ တောင်း ခြင်းသည် မသင့်ဟု ဆိုခြင်းဖြစ်၏။ ဤသည်ကိုအကြောင်းပြု၍ 'သဒ္ဓါလွန်း ဆွမ်းတော်တော်ရပ်' ဟူသောစကား ဖြစ်လာလေသလားဟု တွေးထင်ဖွယ် ဖြစ် စေ၏။

ဘုရားသခင်အနေဖြင့် ဥဒယပုဏ္ဏားဇေဟာသို့ အကြိမ်ကြိမ် ကြွတော်မူ ခြင်းမှာ ဆွမ်းအတွက်သာ မဟုတ်။ ဤသို့သွားခြင်းဖြင့် ပုဏ္ဏားက ငါ့အား "အခါခါလာရမလားဟု ဆိုလိမ့်အံ့။ ထိုစကားသည် သူ့အတွက် တန်ဖိုးမဖြတ် နိုင်သော အကျိုးသက်ရောက်မှု ဖြစ်စေလိမ့်အံ့" ဤရည်ရွယ်ချက်ဖြင့် ကြွတော် မူခြင်း ဖြစ်လေသည်။

ဤသို့ ဥဒယပုဏ္ဏားက "အကြိမ်ကြိမ် လာရာသလော" ဟူ၍ ရှုတ်ချသော စကားကို ဆိုလတ်သော် မြတ်စွာဘုရားသည် လှေမျောလျှင် လှေချင်းလိုက်ဆို ဘိသကဲ့သို့ သူ့စကားနှင့် လိုက်ဖက်သောစကားပြင့် ပုဏ္ဏားအား တရားပြတော် မူ၏။

"ပုဏ္ဏား၊ လယ်သမားများ လယ်ထွန်သည်ကို သင် မြင်ဖူး၏လော"

"မြင်ဖူးပါ၏"

"ထွန်သောအခါ တစ်ကြိမ်သာထွန်သလော၊ သို့မဟုတ် အကြိမ်များစွာ ထွန်သလော။ အသို့ ထွန်သနည်း"

"အကြိမ်များစွာ ထွန်ရပါ၏"

"အဘယ့်ကြောင့် အကြိမ်များစွာ ထွန်လေသနည်း။ တစ်ကြိမ်သာထွန်လျှင် လူရောနွားပါ သက်သာမည် မဟုတ်လော"

"အရှင်ဂေါတမ၊ အလုပ်လုပ်ရာ၌ ပင်ပန်းခြင်း၊ မပင်ပန်းခြင်းသည် အဓိက မဟုတ်ပါ။ အကျိုးရှိစွာ ပြီးစီးမှုသည်သာ ပဓာန ဖြစ်ပါသည်။ လယ် ထွန်ရာ၌ တစ်ကြိမ်သာထွန်လျှင် မြေသားများ ကြေညက်မည် မဟုတ်ပါ။ ထွန် ရေးရမည် မဟုတ်ပါ။ မြေသားများ ကြေညက်ခြင်းမရှိသောလယ်၌ စိုက်ပျိုးခဲ့ လျှင် စပါးသီးနှံ ကောင်းစွာမဖြစ်ထွန်းပါ။ ထို့ကြောင့် သီးနှံစပါး များစွာထွက် ရှိရန်အလို့ငှာ လယ်ကို ကြေညက်အောင် အထပ်ထပ်အခါခါ ကြိမ်ဖန်များစွာ ထွန်ရပါသည် အရှင်ဂေါတမ"

"လယ်ကို ကြိမ်ဖန်များစွာထွန်ခြင်းသည် အကျိုးရှိသည် မဟုတ်ပါလော"

"မှန်ပါသည် အရှင်ဂေါတမ"

မြတ်စွာဘုရားသည် အထပ်ထပ်အခါ၊ ကြိမ်ဖန်များစွာပြုခြင်း၏ အကျိုးရှိပုံကို ဥဒယပုဏ္ဏားအား လယ်ထွန်ဥပမာဖြင့် မြွက်ကြားတော်မူ၏။ 'ဖြူရာမှာ ခဝါပေးသော ဖွေးသည်' ဆိုသကဲ့သို့ အကြိမ်ကြိမ်အဖန်တလဲလဲ ပြုခြင်း၏ အကျိုးသက်ရောက်ပုံများကို ဟောကြားလေသောအခါ ဥဒယပုဏ္ဏားမှာ မြတ်ဘုရား၏ စကားတော်ကို အလေးအနက်ထား၍ စဉ်းစားနေ၏။ ပုဏ္ဏား၏စိတ်ဓာတ်များ ဖယောင်းသားပမာ နူးညံ့ပျော့ပျောင်းလာသည်ကိုသိလျှင် ဆက်၍ ဖိအားပေးတော်မူ၏။ ပုဏ္ဏား၏ နှလုံးအိမ်တွင်းသို့ စိမ့်ဝင်အောင် ဓမ္မရေစင်ဖြင့် ဖျန်းတော်မူ ၏။

"အသင်ပုဏ္ဏား၊ လူတို့သည် ကောက်ပဲသီးနှံများကို တစ်ကြိမ်သာမဟုတ်၊ ကြိမ်ဖန်များစွာ စိုက်ပျိုးကြကုန်၏။ မိုးသည် တစ်ကြိမ်သာ ရွာသည်မဟုတ်။ အဖန်တလဲလဲ ရွာသွန်း၏။ လယ်ထွန်ယောကျ်ားတို့သည် အဖန်တလဲလဲ ထွန်ကြကုန်၏။ တိုင်းနိုင်ငံသူများသည် အဖန်တလဲလဲ စပါးအလို့ငှာ ကပ်ရောက်၏။–

– အသင်ပုဏ္ဏား၊ ဖုန်းတောင်းယာစကာတို့သည် တစ်ကြိမ်သာမဟုတ်။ အကြိမ်များစွာ တောင်းကုန်၏။ အလှူရှင်တို့သည် အဖန်တလဲလဲ အလှူပေးကုန်၏။ အလှူရှင်သည် အဖန်တလဲလဲ ပေးလှူ၍ အဖန်တလဲ လဲ နတ်ရွာသို့ရောက်၏။–

– အသင်ပုဏ္ဏား၊ နို့ညှစ်သမားတို့သည် အဖန်တလဲလဲ နို့ညှစ်ကုန်၏။ နွားငယ်သည် အဖန်တလဲလဲ အမိနွားမသို့ ကပ်၏။ အဖန်တလဲလဲ ပင်ပန်း၏။ တုန်လှုပ်၏။ ပညာနုံ့သောသူသည် အဖန်တလဲလဲ အမိဝမ်းသို့ ရောက်ရ၏။–

– အသင်ပုဏ္ဏား၊ ပညာနုံ့သောသူသည် အဖန်တလဲလဲ ပဋိသန္ဓေလည်း နေရ၏။ သေလည်း သေရ၏။ အဖန်တလဲလဲ သင်္ချိုင်းသို့ ဆောင်ကုန်၏။–

– အသင်ပုဏ္ဏား၊ ပညာကြီးသူသည် အဖန်တလဲလဲ မဖြစ်ခြင်း၏အကြောင်း၊ နိဗ္ဗာန်ကိုရ၍ အဖန်တလဲလဲ ပဋိသန္ဓေ မနေရတော့ပြီ"

ဤသို့ မိန့်တော်မူလေသော် ဥဒယပုဏ္ဏားသည် နှလုံးစိတ်ဝမ်း ကြည်လင်ချမ်းမြလာပြီး မြတ်စွာဘုရားအား ရိုသေစွာ လက်အုပ်ချီလျက်

"အရှင်ဂေါတမ၊ အရှင်၏တရားတော်သည် အလွန်နှစ်သက်ဖွယ် ရှိပါပေစွ။ အလွန်နှစ်သက်ဖွယ် ရှိပါပေစွ။ အရှင်ဂေါတမ၊ ဥပမာသော်ကား မှောက်၍ထားအပ်သော အိုးကို လှန်ဘိသကဲ့သို့လည်းကောင်း၊ ဖုံးလွှမ်းအပ်သော ဝတ္ထုကို ဖွင့်ဘိသကဲ့သို့လည်းကောင်း၊ မျက်စိလည်နေသောသူအား လမ်းကိုပြဘိသကဲ့သို့လည်းကောင်း၊ မျက်စိအမြင် ရှိသေးသူတို့သည် အဆင်းတို့ကို မြင်ကြလိမ့်မည်ဟု

အမိုက်မှောင်၌ မီးတန်ဆောင်ကို ဆောင်ပြဘိသကဲ့သို့လည်းကောင်း ဤအတူသာလျှင် အရှင်ဂေါတမသည် အကြောင်းအမျိုးမျိုးတို့ဖြင့် တရားကို ပြတော်မူပေ၏။–

– အရှင်ဘုရား၊ ထိုအကျွန်ုပ်သည် အရှင်ဂေါတမကို ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏။ တရားကိုလည်းကောင်း၊ သံဃာကိုလည်းကောင်း ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏။ အရှင်ဂေါတမသည် အကျွန်ုပ်ကို ယနေ့မှစ၍ အသက်ထက်ဆုံး ကိုးကွယ်ဆည်းကပ်သူ ဥပါသကာဟူ၍ မှတ်တော်မူပါလော" ဟူ၍ လျှောက်ထားလေသတည်း။

အဖန်တလဲလဲ လာရာသလောဟူ၍ ကဲ့ရဲ့ပြစ်တင်သော ဥဒယပုဏ္ဏားအား ဗုဒ္ဓသည် အဖန်တလဲလဲ တရားတော်ဖြင့်ပင် ဥပါသကာအဖြစ်ရောက်အောင် ပို့ဆောင်တော်မူသတည်း။

(သံယုတ်ပါဠိတော်၊ ဗြဟ္မာဏသံယုတ်)



## တမလွန်ဘဝ ပြဿနာ

**မေး = အရှင်သာရိပုတ္တရာ**
**ဖြေ = အရှင်မဟာကဿပ**

အခါတစ်ပါး၌ အရှင်မဟာကဿပနှင့် အရှင်သာရိပုတ္တရာတို့သည် ဗာရာဏသီပြည်၊ ဣသိပတန-မိဂဒါဝုန်တော်၌ သီတင်းသုံးတော်မူကြ၏။ တစ်ခုတည်းသော ကျောင်းသင်္ခမ်း၌ နှစ်ပါး အတူနေကြသည် မဟုတ်။ ကျောင်းသင်္ခမ်း တစ်ဆောင်စီ၌ နေကြ၏။

အချိန်မှာ အ,ကာလ ညအခါဖြစ်၍ မိဂဒါဝုန်တောအုပ်သည် ငြိမ်သက်နေ၏။

အရှင်သာရိပုတ္တရာသည် ကျိန်းစက်၍ မပျော်သေး။ တစ်စုံတစ်ရာကို အလေးအနက် တွေးမိနေဟန်တူ၏။ ထိုပြဿနာကို သူ့အနေဖြင့် ဘဝင်မကျ၍ပေလော၊ သို့မဟုတ် တိုင်ပင်နိုးသော အရှင်မဟာကဿပ၏ အယူအဆကို စူးစမ်း လို၍ပေလော။ အရှင်သာရိပုတ္တရာသည် လဲလျောင်းရာမှထ၍ ညကြီးမင်းကြီးမှာပင် အရှင်မဟာကဿပ နေသောကျောင်းသို့ သွားလေ၏။

ထိုအချိန်တွင် အရှင်မဟာကဿပမှာ လရောင်ဖွေးဖွေးနှင့် ကျောင်းသင်္ခမ်းရှေ့တွင် စင်္ကြံလျှောက်တော်မူနေ၏။ အရှင်သာရိပုတ္တရာ ကြွလာလျှင် ဆီး၍ မေး၏။

"ငါ့ရှင်၊ အ,ကာလ ညအခါ လာပုံကိုချင့်လျှင် ငါ့ရှင်မှာ ကိစ္စထူးရှိဟန်ထင်၏"

ဤသို့မေးရင်းပင် အရှင်နှစ်ပါးသည် ကျောက်အင်းပျဉ်တစ်ခုတွင် နှစ်ပါး အတူထိုင်ကြ၏။ အရှင်မဟာကဿပကပင် မေးလက်စ စကားကို ပြန်၍စ၏။

"ကဲ-ငါ့ရှင်၊ လာသည့်ကိစ္စက-"

"ကျိန်းစက်မရ၍ ထလာခဲ့ပါသည်"

"ကျိန်းစက်မရလို့-"

"မှန်ပါ။ ကျိန်းစက်မည်ပြုဆဲမှာ ဦးခေါင်းထဲ အတွေးတစ်ခု ရောက်လာပါသည်။ ထိုအတွေးကို ဖျောက်မရ၍ ငါ့ရှင်ထံ လာခဲ့ခြင်း ဖြစ်ပါသည်"

ထိုအခါ အရှင်မဟာကဿပက ကျိန်းစက်၍မရနိုင်လောက်အောင် အဘယ်အာရုံများက ဝင်ရောက်နှောင့်ယှက်နေလို့ပါလဲဟူ၍ မေးရာမှအစ လရောင်အောက်တွင် အရှင်နှစ်ပါးတို့၏ ဓမ္မသာကစ္ဆာ-တရားဆွေးနွေးချက် အမေးအဖြေများ ပေါ်ထွက်လာလေတော့သည်။ အရှင်သာရိပုတ္တရာက မေးလိုက်၊ အရှင်မဟာကဿပက ဖြေလိုက်နှင့် ညအခါကို တန်ဆာဆင်သကဲ့သို့ ဖြစ်လာသည်။

**သာရိ ။ ။** ငါ့ရှင်ကဿပ၊ သတ္တဝါသည် သေသည်မှနောက်၌ ဖြစ်သလော၊ သို့မဟုတ် မဖြစ်သလော။

**ကဿပ ။ ။** ငါ့ရှင်၊ သတ္တဝါသည် သေသည်မှနောက်၌ ဖြစ်၏ဟူ၍ ဘုရားသခင် ဟောတော်မမူပါ။

**သာရိ ။ ။** ငါ့ရှင်ကဿပ၊ သို့ဖြစ်ဘိသော် သတ္တဝါသည် သေသည်မှနောက်၌ မဖြစ်သလော။

**ကဿပ ။ ။** ငါ့ရှင်သာရိပုတ္တရာ၊ သတ္တဝါသည် သေသည်မှနောက်၌ မဖြစ်ဟူ၍လည်း ဘုရားသခင် ဟောတော်မမူပါ။

ဖြစ်သည်၊ မဖြစ်ဘူး၊ တိကျသောအဖြေမျိုးမဟုတ်သည့်အတွက် အရှင်သာရိပုတ္တရာက ဆက်၍ မေးပြန်၏။

**သာရိ ။ ။** အသို့ပါနည်း ငါ့ရှင်။ သတ္တဝါသည် သေသည်မှနောက်၌ ဖြစ်လည်းဖြစ်၊ မဖြစ်လည်း မဖြစ်သလော။

**ကဿပ ။ ။** ငါ့ရှင်၊ သတ္တဝါသည် သေသည်မှနောက်၌ ဖြစ်လည်းဖြစ်၊ မဖြစ်လည်း မဖြစ်ဟူ၍ ဘုရားသခင် ဟောတော်မမူပါ။

**သာရိ ။ ။** ငါ့ရှင်၊ အသို့ပါနည်း၊ သတ္တဝါသည် သေသည်မှနောက်၌ ဖြစ်သည်လည်း မဟုတ်၊ မဖြစ်သည်လည်း မဟုတ်သလော။

**ကဿပ ။ ။** ငါ့ရှင်၊ သတ္တဝါသည် သေသည်မှနောက်၌ ဖြစ်သည်လည်း မဟုတ်၊ မဖြစ်သည်လည်း မဟုတ်ဟူ၍ ဤသို့လည်း ဘုရားသခင် ဟောတော်မမူ။

မေးတိုင်းမေးလေတိုင်း အဖြေကား ထွက်ထွက်လာပါ၏။ သို့သော် တစ်

ထစ်ချမှတ်သားရန် တိကျသောအဖြေမျိုး မဟုတ်သောကြောင့် အရှင်သာရိပုတ္တရာမှာ နှစ်သိမ့်ရောင့်ရဲခြင်း မဖြစ်။ သို့ကြောင့်လည်း တိကျသောအဖြေ ရရှိသည်အထိ မလျှော့သောလုံ့လဖြင့် အရှင်မဟာကဿပအား ဆက်၍ မေးပြန်၏။

**သာရိ** ။ ။ ငါ့ရှင်ကဿပ၊ အသို့ပါနည်း။ အဘယ့်ကြောင့် ထိုအကြောင်းကို ဘုရားသခင် ဟောတော်မမူပါသနည်း။

ဤသို့ ထပ်ဆင့်၍ မေးသောအခါတွင်မူ အရှင်မဟာကဿပ နှုတ်တော်ဖျားမှ အဖြေစကားများ ထွက်လာလေ၏။

**ကဿပ** ။ ။ ငါ့ရှင်သာရိပုတ္တရာ၊ သတ္တဝါသည် သေသည့်နောက်၌ဖြစ်၊ မဖြစ်ဟူသော ဤစကားသည် အကျိုးစီးပွားနှင့်မစပ်။ မဂ်၏ရှေ့အဖို့၌ ဖြစ်သော အကျင့်မျှလည်း မဟုတ်။ ငြီးငွေ့ခြင်းငှာ မဖြစ်။ ရာဂချုပ်ခြင်းငှာ မဖြစ်၊ တပ်မက်ခြင်းကင်းခြင်းငှာ မဖြစ်၊ ငြိမ်းအေးခြင်းငှာ မဖြစ်။ ထူးသောဉာဏ်ဖြင့် သိခြင်းငှာ မဖြစ်။ ထိုးထွင်း၍ သိခြင်းငှာ မဖြစ်။ နိဗ္ဗာန် အကျိုးငှာ မဖြစ်။ ထို့ကြောင့် ထိုစကားကို မြတ်ဘုရား ဟောကြားတော်မမူ။

အရှင်သာရိပုတ္တရာသည် ကြားရသော ဤအဖြေစကားကိုလည်း "ပြည့်စုံ" ဟု ယူဆလိုဟန် မတူ။ ထိုပြဿနာနှင့်ပတ်သက်၍ ဤသို့အကျိုးမရှိ၍ ဟောတော်မမူလျှင် အခြားအကျိုးရှိသောစကားကို မြတ်ဘုရား မြွက်ကြားတော်တန်လေရာသည်။ ဤသို့ မေးမြန်းလေ၏။

**သာရိ** ။ ။ ငါ့ရှင်ကဿပ၊ ယင်းသို့ မဟောကြားခဲ့သည်ရှိသော် ထိုပြဿနာနှင့်ပတ်သက်၍ မြတ်ဘုရား မည်သို့ မိန့်မြွက်တော်မူပါသနည်း။

အရှင်မဟာကဿပသည် ထိုမေးခွန်းမျိုးကို စောင့်ကြိုသကဲ့သို့ ထင်ရ၏။ ထိုမေးခွန်းစကားကို ကြားလိုက်လျှင်ပင် အဖြေစကားတို့သည် ကရားမှ ရေလွှတ်သကဲ့သို့ တတွတ်တွတ် ထွက်လာကုန်လေ၏။

**ကဿပ** ။ ။ ငါ့ရှင်သာရိပုတ္တရာ၊ ဤသည်ကား ဆင်းရဲတည်းဟု မြတ်ဘုရား ဟောတော်မူ၏။ ဤသည်ကား ဆင်းရဲ၏ ဖြစ်ပေါ်ကြောင်း၊ ဤသည်ကား ဆင်းရဲ၏ချုပ်ရာ၊ ဤသည်ကား ဆင်းရဲချုပ်ရာ နိဗ္ဗာန်သို့ရောက်ကြောင်း အကျင့်တည်းဟု မြတ်ဘုရား ဟောကြားတော်မူ၏။

**သာရိ** ။ ။ ငါ့ရှင်ကဿပ၊ အဘယ့်ကြောင့် ဤစကားကို မြတ်ဘုရား ဟောတော်မူသနည်း။

**ကဿပ** ။ ။ ငါ့ရှင်သာရိပုတ္တရာ၊ ဤစကားသည်ကား အကျိုးစီးပွားနှင့် စပ်၏။ မဂ်၏အစဖြစ်သော မြတ်သောအကျင့်လည်း ဖြစ်၏။ ငြီးငွေ့ခြင်းငှာ၊ ရာဂကင်းခြင်းငှာ၊ ငြိမ်းအေးခြင်းငှာ၊ ထူးသောဉာဏ်ဖြင့် သိခြင်းငှာ၊ ထိုးထွင်း သိခြင်းငှာ၊ နိဗ္ဗာန်အကျိုးငှာ ဖြစ်၏။ ထို့ကြောင့် ထိုတရားကို မြတ်ဘုရား ဟောကြားတော်မူ၏။

ဤအဖြေစကားကို ကြားသိလိုက်ရသည့်နောက်တွင်မူ အရှင်သာရိပုတ္တရာ၏ နှုတ်ဖျားမှ မည်သည့်မေးခွန်းစကားမျှ ထွက်မလာတော့ချေ။

သေသည်မှနောက်၌ဖြစ်သည်ကို တမလွန်ဘဝဟု ဆိုကုန်၏။ ထိုတမလွန်နှင့်ပတ်သက်၍ ယနေ့အထိလည်း ပြဿနာဖြစ်လျက်ရှိ၏။ အချို့က သေသည်မှနောက်၌ ဖြစ်သည်ဆို၏။ အချို့က မဖြစ်ဟု ငြင်းကြခုန်ကြ၏။ ထိုအခါမျိုးတွင် သံယုတ်ပါဠိတော်မှ ဤပရံမရဏသုတ်ကို အကိုးအထောက် ပြနိုင်ပါသတည်း။

(သံယုတ်ပါဠိတော်၊ ကဿပသံယုတ်)



## ဆင်းရဲပြဿနာ

**မေး = အစေလက ကဿပ**
**ဖြေ = မြတ်ဗုဒ္ဓ**

နံနက်ခင်း ဆွမ်းခံဝင်ချိန် ရာဇဂြိုဟ်မြို့တွင်း၌ ဖြစ်၏။ လူတချို့တို့သည် ဆွမ်းလောင်းရန်အတွက် မိမိတို့အိမ်ရှေ့တွင် ဆွမ်းပွဲနှင့် အသင့်စောင့်နေကြ၏။

ထိုအချိန်တွင် ဘုရားသခင်သည် ရာဇဂြိုဟ်မြို့တွင်း၌ ဆွမ်းခံတော်မူ၏။ လူတို့သည် မြတ်စွာဘုရားအား ဆွမ်းလှူကြကုန်၏။

ထိုနေ့နံနက်ခင်းမှာပင် အစေလက ကဿပ (အဝတ်မဆီး ပရိဗိုဇ်) သည်လည်း မြို့တွင်းလမ်းမပေါ်တွင် တမတ်စောက်စောက် လျှောက်လာရင်း ဘုရားသခင်ကို မြင်လေသော် ဘုရားသခင်ထံသို့ သွက်လက်စွာ ချဉ်းကပ်လာ၏။

ထိုအချိန် အိမ်တစ်အိမ်ရှေ့၌ ဥပါသိကာမတစ်ဦးက ဘုရားသခင်၏ သပိတ်တော်၌ ဆွမ်းလောင်းနေ၏။ ဆွမ်းလောင်းပြီး၍ ထိုအိမ်မှ ဖဲခွာစဉ် ဘုရားသခင့်ထံတော်သို့ အစေလက ကဿပ ရောက်လာ၏။ မေးရန် သင့်၊ မသင့်ကို သူသည် ချင့်ချိန်နေဟန်တူ၏။

လူတို့သည် အစေလက ကဿပကဲ့သို့သော သာသနာပမှ ပုဂ္ဂိုလ်တစ်ဦးက ဘုရားသခင့်ထံ ချဉ်းကပ်သည်မှာ ထူးဆန်းသည်ဟု ကြည့်နေကြကုန်၏။ အစေလကသည် ချိန်ဆစဉ်းစားပြီးနောက် သပိတ်ပိုက်လျက် ရပ်နေသော မြတ်စွာဘုရားအား ဤစကားကို ဆိုသတည်း။

"အရှင်ဂေါတမ၊ အကျွန်ုပ်အား အကယ်၍ ခွင့်ပြုပါမူ တစ်စုံတစ်ခုသော အကြောင်းအရာကို အရှင်ဂေါတမအား ကျွန်ုပ် မေးလိုပါ၏။ မေးပါရစေလား အရှင်ဂေါတမ"

ဗုဒ္ဓသည် လက်ယာဘက်လက်တော်ကို မြှောက်ကာလျက်-

"ကဿပ၊ အချိန်မဟုတ်သေး။ မြို့လယ်လမ်းမှာ ဆွမ်းခံနေဆဲ ဖြစ်၏"

ဤသို့ ဘုရားသခင်က တားသော်လည်း မရ။ နှစ်ကြိမ်မြောက် မေးလျှောက်ပြန်၏။

"အရှင်ဂေါတမ၊ အကျွန်ုပ်အား အကယ်၍ ခွင့်ပြုပါမူ တစ်စုံတစ်ခုသော အကြောင်းအရာကို မေးလိုပါ၏"

"ကဿပ၊ အချိန်မဟုတ်သေး။ မြို့လယ်လမ်းမှာ ဆွမ်းခံနေဆဲ ဖြစ်၏"

ဤသို့လျှင် တစ်ကြိမ်မှ နှစ်ကြိမ်၊ နှစ်ကြိမ်မှ သုံးကြိမ်တိုင်တိုင် တားသော်ငြားလည်း အစေလက ကဿပကား အားမလျှော့သေး။ ဆက်၍ပင် မေးနေပြန်၏။

"အရှင်ဂေါတမ၊ များများမဟုတ်ပါ။ အနည်းငယ်သာ မေးမှာပါ။ ခွင့်ပြုစေချင်ပါ၏"

ဤသို့ အကြိမ်ကြိမ်အဖန်ဖန် မေးနေရကား သူ၏အနာဂတ် အလားအလာကိုမြင်၍ လေးကြိမ်မြောက် မေးသောအခါ ခွင့်ပြုတော်မူလေ၏။

"ကဿပ၊ သို့ဖြစ်ဘိသော် သင်မေးလိုသော အကြောင်းအရာကို ဆိုလော့"

ဤသည့်နောက်ပိုင်းအချိန်တွင်ကား ရာဇဂြိုဟ်မြို့၏ ဗဟိုချက်ချာ လမ်းမကြီးပေါ်မှ အမေး၊ အဖြေစကားသံများသည် အရပ်ထက်ဝန်းကျင်တွင် လွှင့်ပျံလျက် ထွက်လာကုန်လေ၏။

"အရှင်ဂေါတမ၊ အသို့ပါနည်း။ ဆင်းရဲကို ကိုယ်တိုင်ပြုအပ်ပါသလော"

"ကဿပ၊ ဤသို့ မဆိုလင့်"

"အသို့ပါနည်း အရှင်ဂေါတမ။ ဆင်းရဲကို သူတစ်ပါး ပြုအပ်ပါသလော"

"ကဿပ၊ ဤသို့ မဆိုလင့်"

"သို့ဖြစ်လျှင် ဆင်းရဲကို ကိုယ်တိုင်လည်း ပြုအပ်၊ သူတစ်ပါးလည်း ပြုအပ်ပါသလော။ အသို့ပါနည်း အရှင်ဂေါတမ"

"ကဿပ၊ ဤသို့ မဆိုလင့်"

ဤသို့ မဆိုလင့် မဆိုလင့်ချင်း ခွန်းချင်းထပ်ဖြစ်နေ၍ ကဿပမှာ ဘာမှတ်ရမည်ကိုမသိ။ ကြောင်စီစီ ဖြစ်သွား၏။ သူသည် ဖွဲကောင်းလှ၏။ ဘုရားသခင့်ထံမှအဖြေကို မရမချင်း မေးနေမည့် လက္ခဏာပင်။

"အရှင်ဂေါတမ၊ အသို့ပါနည်း။ ဆင်းရဲသည် ကိုယ်တိုင်ပြုအပ်သည်လည်း မဟုတ်။ သူတစ်ပါး ပြုအပ်သည်လည်း မဟုတ်။ အကြောင်းမဲ့ ဖြစ်ပါသလော"

"ကဿပ၊ ဤသို့ မဆိုလင့်"

"အရှင်ဂေါတမ၊ အသို့ပါနည်း။ ဆင်းရဲသည် မရှိပါသလော"

"ကဿပ၊ ဆင်းရဲမရှိသည် မဟုတ်။ ကဿပ၊ ဆင်းရဲသည် ရှိသည်သာ တည်း။"

ထိုစကားကို ကြားရသောအခါ ကဿပသည် ဝမ်းသာအားတက်လာ၏။ ရှေ့တက်၍ ဆက်မေးလေ၏။

"အရှင်ဂေါတမ၊ ယင်းသို့ ဆင်းရဲရှိပါလျက် ထိုဆင်းရဲကို အရှင်ဂေါတမ မသိမမြင်ပါသလော"

"ကဿပ၊ ထိုဆင်းရဲကို ငါသည် သိလည်း သိပေ၏။ မြင်လည်း မြင်ပေ၏"

ထိုအဖြေစကားကြောင့် ကဿပမှာ ဘာကိုမှတ်ရမည် မသိ။ နီးလျက်နှင့် ဝေးသွားပြန်လေ၏။ သို့သော် သူသည် အားမလျှော့။

"အရှင်ဂေါတမ၊ အသို့ပါနည်း။ ကျွန်ုပ်မေးလေတိုင်းကို ဤသို့ မဆိုလင့်၊ မဆိုလင့် မြစ်တားခဲ့၏။ ထို့နောက် ဆင်းရဲရှိသည်ဟူ၍လည်းကောင်း၊ ဆင်းရဲကို သိလည်းသိ၊ မြင်လည်းမြင်သည်ဟူ၍လည်းကောင်း ဆိုပြန်ရာ အရှင့်စကားကို ကျွန်ုပ် မည်သို့မှတ်သားရပါမည်နည်း"

ဤသို့ဆိုပြီးနောက် လက်အုပ်ချီမြှောက်ကာ တောင်းပန်ရှာလေသတည်း။

"မြတ်စွာဘုရား၊ မြတ်စွာဘုရားသည် အကျွန်ုပ်အား ဆင်းရဲကို ပြောကြားတော်မူပါလော။ မြတ်စွာဘုရားသည် အကျွန်ုပ်အား ဆင်းရဲကို ဟောတော်မူပါလော့"

ဤသို့ အသနားခံ တောင်းပန်အပ်သည်ရှိသော် မြတ်စွာဘုရားသည် ကဿပအား ဤသို့ မဆိုလင့်၊ ဤသို့ မဆိုလင့်ဟူ၍ အဘယ့်ကြောင့် တားမြစ်ပုံနှင့်တကွ ဆင်းရဲအကြောင်း၊ ဆင်းရဲ၏သဘောကို ရေရေလည်လည် သိရှိ မှတ်သားနိုင်အောင် ဤသို့ ဟောကြားတော်မူလေသတည်း။

"ကဿပ၊ ထိုသူသည် ပြု၏။ ထိုသူသည် ခံစား၏ဟူ၍ အစကပင် ရှိခဲ့သော် ဆင်းရဲကို ကိုယ်တိုင်ပြုအပ်၏ဟူ၍ ဆိုသောသူသည် သဿတ အယူသို့ ရောက်၏။-

- ကဿပ၊ သူတစ်ပါး ပြု၏။ သူတစ်ပါး ခံစား၏ဟု အစကပင် ရှိခဲ့သော် ဝေဒနာနှိပ်စက်စဉ် ဆင်းရဲကို သူတစ်ပါး ခံစားအပ်၏ဟူ၍ ဆိုသောသူသည် ဥစ္ဆေဒဒိဋ္ဌိသို့ ရောက်၏။-

— ကဿပ၊ ထိုနှစ်ပါးသောအစွန်းသို့ မကပ်ရောက်မူ၍ အလယ်အလတ်အားဖြင့် သင့်အား ငါ ဟောကြားပေအံ့။—

— ကဿပ၊ မသိမှု—အဝိဇ္ဇာဟူသော အကြောင်းခံကြောင့် ပြုစီရင်မှု—သင်္ခါရတို့ ဖြစ်ကုန်၏။ ပြုစီရင်မှု—သင်္ခါရဟူသော အကြောင်းခံကြောင့် သိမှု—ဝိညာဉ် ဖြစ်ပေါ်၏။ သိမှု—ဝိညာဉ်ဟူသော အကြောင်းခံကြောင့် နာမ်အစု၊ ရုပ်အစု ဖြစ်ပေါ်၏။ နာမ်အစု၊ ရုပ်အစုဟူသော အကြောင်းခံကြောင့် ဒွါရခြောက်မည်၊ အကြည်ခြောက်ပါး—သဠာယတနတရား ဖြစ်ပွား၏။ အကြည်ခြောက်ပါး ထင်ရှားဖြစ်ခြင်းကြောင့် အာရုံကို တွေ့မှုဟူသော ဖဿတရားခြောက်ပါး ဖြစ်ပွား၏။ ဖဿခြောက်ပါး ထင်ရှားရှိနေခြင်းကြောင့် အာရုံခံစားမှုဟူသော ဝေဒနာခြောက်ပါး ဖြစ်ပွား၏။ ဝေဒနာခြောက်ပါး ထင်ရှားရှိနေမှုကြောင့် ဝတ္ထုအာရုံ ကာမဂုဏ်ကို ခုံမင်တွယ်တာ သာယာကပ်ငြိသော တဏှာခြောက်ပါး ဖြစ်ပွား၏။ တဏှာခြောက်ပါး ထင်ရှားရှိနေမှုကြောင့် မလွတ်နိုင် မခွာနိုင် ပိုင်ပိုင်စေးချွဲ အစွဲအမြဲသော ဥပါဒါန်တရား ဖြစ်ပွား၏။ ဥပါဒါန်တရား ထင်ရှားရှိခြင်းကြောင့် လောကအစီးအပွား၊ သံသရာအစီးအပွား၊ ဘဝ—ဟူသော ကံတရား၊ ဝိပါက်တရား ဖြစ်ပွား၏။ ဘဝ—ဟူသော ပဋိသန္ဓေအစီးအပွား၊ ဝိပါက်အစီးအပွား ထင်ရှားရှိနေခြင်းကြောင့် အဖန်ဖန် ပဋိသန္ဓေနေခြင်းဟူသော ဇာတိဖြစ်ပွား၏။—

— ဇာတိ—ဟူသော ပဋိသန္ဓေနေမှု ထင်ရှားရှိနေခြင်းကြောင့် အဖန်ဖန် အိုမင်းရင့်ဆွေးမှု၊ သေဆုံးမှု—ဟူသော ဇရာမရဏသည်လည်းကောင်း၊ စိုးရိမ်ပူဆွေးမှု၊ ငိုကြွေးမြည်တမ်းမှု၊ ပင်ပန်းဆင်းရဲ နှလုံးမသာယာမှု၊ သက်ကြီးရှိုက်ငင် ပင်ပန်းမှု—ဟူသော သောက ပရိဒေဝ ဒုက္ခ ဒေါမနဿ ဥပါယာသ—တရားတို့သည်လည်းကောင်း ဖြစ်ပွားကုန်၏။ ဤသို့လျှင် ချမ်းသာမဖက်သက်သက်သော ဒုက္ခအစုသည် ဖြစ်၏"

ဆင်းရဲဒုက္ခကို သူသူငါငါ မည်သူတစ်ဦးတစ်ယောက်ကမျှ ပြုရသည် မဟုတ်။ အကြောင်းတရားကြောင့် အကျိုးတရားဖြစ်ပုံ ပဋိစ္စသမုပ္ပါဒ်တရားကို ဟောကြားသည့်အခါ ကဿပသည် ဦးခေါင်းတညိတ်ညိတ် ဖြစ်လာ၏။ ဗုဒ္ဓက ဆက်၍ ဟော၏။ မသိမှု အဝိဇ္ဇာမဖြစ်လျှင် သင်္ခါ မဖြစ်ပုံ၊ သင်္ခါရချုပ်လျှင် ဝိညာဉ်ချုပ်ပုံ၊ ဝိညာဉ်ချုပ်က နာမ်ရုပ်ချုပ်ပုံများကိုပါ ဆက်၍ဟောတော်မူလျှင် ကဿပသည် အသိဉာဏ်ပေါက်၍ များစွာ ဝမ်းမြောက်လှသဖြင့် မြတ်စွာဘုရားထံ 'တပည့်တော်အား ရှင်ပြုပေးပါ။ ရဟန်းပြုတော်မူပါ' ဟူ၍ တောင်းပန်လေ၏။

သို့သော် ကဿပမှာ သာသနာတော်မှအပဖြစ်သော အယူဝါဒ ရှိနေသူ ဖြစ်ခြင်းကြောင့် ဗုဒ္ဓက ကဿပအား ချက်ချင်း ရှင်ပြုပေးတော်မမူသေး။ ရဟန်းပြုပေးတော်မမူသေး။ ရှင်ရဟန်းပြုလိုသော် ကျင့်ရမည့်ကျင့်စဉ်ကို သူ နားလည်အောင် ပြောပြလေသည်။

"ကဿပ၊ သင့်အား ယခုပင် ငါ ရှင်ပြုပေးချင်၏။ ရဟန်းပြုပေးချင်၏။ သို့သော် ဓမ္မဝိနယဖြစ်သော ငါ၏ သာသနာ၌ စည်းကမ်းထားချက်များ ရှိနေ၏။ ထိုစည်းကမ်းချက်မှာ–

– သာသနာတော်မှအပ တစ်ပါးသောအယူကို ယူဖူးသူသည် ရှင်အဖြစ် ရရှိလိုလျှင်၊ ပဉ္စင်းအဖြစ်ကို ရရှိလိုလျှင် လေးလတိုင်တိုင် သီးခြင်းကျင့်ရာ၏။ ဤသို့ ကျင့်ပြီးသောအခါကျမှ ထိုသူကို ရှင်ရဟန်းပြုပေးကုန်၏။ သင်သည် စင်စစ်ရှင်အဖြစ်၊ ပဉ္စင်းအဖြစ်ကို ရလိုသော် ဤသို့ ကျင့်ရပေဦးမည် ကဿပ"

ဤသို့ ရှင်ရဟန်းဖြစ်နည်း နိဿရည်းစည်းကမ်းကို ပြောပြလတ်သော် "တပည့်တော်သည် လေးလမဟုတ်၊ လေးနှစ်ပင် သီးခြားကျင့်ရပါစေ၊ ကျင့်နိုင်ပါ၏။ ရှင်အဖြစ်၊ ပဉ္စင်းအဖြစ်ကိုသာ ရလိုပါ၏" ဟု လျှောက်၏။

ကဿပသည် လေးလတိုင်တိုင် သီးခြားကျင့်သုံးပြီးနောက် ဗုဒ္ဓထံတော်၌ ရှင်ရဟန်းအဖြစ်ကို ရရှိလေ၏။ ရဟန်းဖြစ်သောအခါ ရဟန်းတရားကို အားထုတ်ကြိုးစားမှုကြောင့် မကြာခင် ရဟန္တာ ဖြစ်သွားလေသတည်း။

(နိဒါနဝဂ္ဂသံယုတ်၊ အစေလက ကဿပသုတ်)



## ဝက္ကလိရဟန်း၏ နောက်ဆုံးအချိန်

ပြဿနာ = ရောဂါ
မေး = အရှင်ဝက္ကလိ
ဖြေ = ဗုဒ္ဓမြတ်ဘုရား

ဤသာသနာတွင် ဘုရားသခင်ကို ကြည်ညိုသောနေရာတွင် နှစ်ယောက်မရှိ။ သူနှင့်တူသောသူ မရှိ။ ဘုရားသခင်ကို သူ့မျက်စိအောက်မှ အပျောက်မခံနိုင်ခဲ့။ ဘုရားသခင် ကြွတော်မူလေရာသို့ နောက်တော်မှ တကောက်ကောက်လိုက်၍ ဖူးမြော်သူမှာ အရှင်ဝက္ကလိ ဖြစ်၏။ ဧဒါနီးတွင်ရစ်အောင် ဘုရားသခင်အား ကြည်ညိုသောအရှင် ဖြစ်၏။

ထိုအချိန်၌ ဘုရားသခင်သည် ရာဇဂြိုဟ်ပြည်၊ ဝေဠုဝန်ကျောင်း၌ သီတင်းသုံးလျက်ရှိပေ၏။ အရှင်ဝက္ကလိသည်လည်း ရာဇဂြိုဟ်ပြည်မှာပင် ရှိနေပါ၏။ ဖုံသို့သော် ဘုရားသခင်ကို မဖူးမြော်ရလျှင် မနေနိုင်သော အရှင်ဝက္ကလိမှာ ယခုအခါတွင်မူ သူ ကြည်ညိုလှသော၊ မျက်စိအောက်က အပျောက်မခံနိုင်သော မြတ်စွာဘုရားကို သူ့ မဖူးမြော်နိုင်တော့ပါ။ ဖူးမြော်ရန်အတွက် ဘုရားသခင်ထံတော်သို့ သွားနိုင်သော အင်အား သူ့မှာ မရှိတော့ပါ။

အကြောင်းမူကား ယခုအခါတွင် အရှင်ဝက္ကလိမှာ အိုးထိန်းသည်တစ်ဦး၏ အိမ်ဂေဟာတွင် မကျန်းမမာ ဖြစ်နေပါသည်။ အနာရောဂါ နှိပ်စက်ခြင်းကြောင့် ဆင်းရဲသော ဒုက္ခဝေဒနာကို ပြင်းစွာ ခံစားနေရရှာ၏။ အရှင်ဝက္ကလိ၏ အဖို့တွင် ကိုယ်တော်နှင့် မမျှအောင် ဒုက္ခကား အလွန်ကြီးမားလှ၏။ ရောဂါနှိပ်စက်ခြင်းဒဏ်ကို အလူးအလဲ ခံစားနေရသည့်အပြင် ဘုရားသခင်ကို ဖူးမြော်ချင်လျက်နှင့် မဖူးရသည့်အတွက် ခံစားရသော ဝေဒနာကလည်း အကြီးအကျယ်နှိပ်စက်လျက် ရှိနေ၏။

အရှင်ဝက္ကလိသည် ရောဂါ နှိပ်စက်ခြင်းဒဏ်ကို ကြံ့ကြံ့ခံနိုင်စွမ်း ရှိသော်လည်း ဖူးမြော်ချင်ပါလျက် မြတ်စွာဘုရားအား မဖူးရသည့် ဝေဒနာကိုကား ကြာရှည်စွာ ခံစားနိုင်တော့ဟန် မတူပါ။ သို့ကြောင့်ပင် အရှင်ဝက္ကလိသည် မိမိအား ပြုစုနေကြသော သူနာပြုရဟန်းများကို သူ့အပါးသို့ လက်ဟန်ပြ၍ ခေါ်ယူလိုက်ပြီး လေသံသဲ့သဲ့ဖြင့် မှာကြား၍ ဘုရားသခင့်ထံ လွှတ်လေသတည်း။

"ငါ့ရှင်တို့၊ ဘုရားသခင်ထံတော်သို့ သွားတည့်ကြချေ။ ဝက္ကလိရဟန်း နာမကျန်းဖြစ်နေကြောင်းကို လျှောက်ထားချေကြကုန်လော့။ ငါ၏စကားဖြင့် ဤသို့လည်း လျှောက်ထားကြလေဦး။ 'အရှင်ဘုရား၊ ဝက္ကလိရဟန်းသည် အရှင်ဘုရား၏ ခြေတော်ကို ဦးခိုက်လိုက်ပါကြောင်း တောင်းပန်ပါ၏။ မြတ်စွာဘုရားသည် ဝက္ကလိရဟန်းအား သနားသည်ကို အကြောင်းပြု၍ ကြွရောက်ချီးမြှောက်တော်မူစေလိုပါကြောင်း' ကို ငါ့စကားဖြင့် လျှောက်ထားကြပါကုန်လော့"

အရှင်ဝက္ကလိသည် ရောဂါဝေဒနာဒဏ်ကို ကြံ့ကြံ့ခံနိုင်သော်လည်း ဘုရားသခင်၏မျက်နှာတော်ကို မဖူးမြင်ရသည့်ဒဏ်ကို မခံနိုင်သည့်အဆုံးတွင် မိမိ မကျန်းမာကြောင်းကို ဘုရားသခင်အား သွားရောက်အကြောင်းကြားပေးကြရန် သူနာပြုရဟန်းများအား စေလွှတ်လေ၏။

အရှင်ဝက္ကလိ၏ဝေဒနာမှာ အဘယ်မျှ ပြင်းထန်သနည်းဆိုသော် ကျောင်းတော်သို့ပင် ပြန်ကြွခြင်းငှာ မစွမ်းနိုင်သည့်အထိ ဝေဒနာက ဖိစီးနှိပ်စက်ချက်ကြောင့် အိုးထိန်းသည်၏အိမ်ကို ကျောင်းအမှတ်ပြု၍ နေရရှာ၏။ သလွန်ညောင်စောင်းထက်တွင် လျောင်းလျက်သာ ဝေဒနာကို ခံစားနေရ၏။

အရှင်ဝက္ကလိသည် သလွန်ထက်တွင် စက်လျောင်းနေရာမှ ဘုရားသခင် ကြွလာတော်မူသည်ကိုမြင်လျှင် အားရဝမ်းသာ မထနိုင် ထနိုင်နှင့် လျောင်းလျက်မှ အားယူ၍ထ၏။ ထိုအခါ မြတ်စွာဘုရားသည် လက်တော်ဖြင့်ကာ၍ "ဝက္ကလိ၊ သင်သည် ညောင်စောင်းပေါ်မှ မဆင်းလင့်။ ခင်းထားပြီးသောနေရာတို့သည် ရှိကုန်၏။ ထိုနေရာတို့၌ ငါ ထိုင်အံ့" ဟု မိန့်၍ ထိုင်ပြီးလျှင် မေးတော်မူ၏။

"ဝက္ကလိ၊ ခန့်ကျန်းမာ၏လော၊ မျှတပါ၏လော။ ဆင်းရဲဝေဒနာတို့ ဆုတ်ယုတ်ကုန်၏လော။ မတိုးပွားဘဲ ရှိပါကုန်၏လော။ ဆင်းရဲဝေဒနာတို့ ဆုတ်ယုတ်မှုသည် ထင်ပါ၏လော။ မတိုးပွားဘဲ ရှိပါကုန်၏လော"

ဗုဒ္ဓသည် သူနာဝက္ကလိရဟန်းအား ဤသို့ မေး၏။ ဝက္ကလိသည် သလွန်ညောင်းစောင်းထက်တွင် ပက်လက်လျောင်းလျက်မှ လက်နှစ်ဖက်ကိုယှက်လျက် အနည်းငယ်မျှ သက်သာခွင့် မရပါကြောင်း လျှောက်ထား၏။

"ဝက္ကလိ၊ သင့်အား တစ်စုံတစ်ခုသော ပူပန်မှု၊ နှလုံးမသာယာမှုသည် မရှိပါသလော"

"အရှင်ဘုရား၊ စင်စစ်အားဖြင့် တပည့်တော်အား ပူပန်မှု၊ နှလုံး မသာယာ မှုသည် မနည်းလှပါ"

"ဝက္ကလိ၊ သင့်ကို သီလအားဖြင့် မိမိကိုယ်တိုင် မစွပ်စွဲနိုင်ဘဲ ရှိပါ၏လော"

"အရှင်ဘုရား၊ တပည့်တော်ကို သီလအားဖြင့် မိမိကိုယ်ကို မစွပ်စွဲနိုင်ဘဲ ရှိပါ၏"

"ဝက္ကလိ၊ သီလအားဖြင့် မိမိကိုယ်တိုင် မစွပ်စွဲနိုင်ဘဲရှိခဲ့မူ သင်၏ ပူပန်မှု၊ နှလုံးမသာယာမှုကား အဘယ်နည်း"

"အရှင်ဘုရား၊ တပည့်တော်သည် ကြာမြင့်စွာကပင် မြတ်စွာဘုရားကို ဖူးမြော်ရန် ချဉ်းကပ်လိုခဲ့ပါ၏။ သို့ရာတွင် တပည့်တော်၏ကိုယ်၌ မြတ်စွာဘုရားကို ဖူးမြော်ရန် ချဉ်းကပ်နိုင်လောက်သော အင်အားမျှပင် မရှိခဲ့ပါဘုရား"

ဤသို့လျှောက်လေသော် မြတ်စွာဘုရားသည် အပုပ်ကောင်ကို ဖူးမြင်ခြင်းဖြင့် အကျိုးမရှိကြောင်း တရားပြ၍ ဝက္ကလိအား နားချလေ၏။

"ဝက္ကလိ၊ မသင့်လျော်။ ဤအပုပ်ကောင်ကို သင် ဖူးမြင်ခြင်းဖြင့် အဘယ် အကျိုး ရှိမည်နည်း။ ဝက္ကလိ၊ တရားကို မြင်သောသူသည် ငါဘုရားကို မြင်သည် မည်၏။ ငါဘုရားကို မြင်သူသည် တရားကို မြင်သည်မည်၏။ ဝက္ကလိ၊ မှန် ၏။ တရားကိုမြင်လျှင် ငါ့ကိုမြင်၏။ ငါ့ကိုမြင်လျှင် တရားကိုမြင်၏။–

– ဝက္ကလိ၊ ထိုအရာကို သင် အဘယ်သို့ မှတ်ထင်သနည်း။ ရုပ်သည် မြဲသလော။ မမြဲသလော"

"မမြဲပါ အရှင်ဘုရား"

"မမြဲသောရုပ်သည် ဆင်းရဲလော၊ ချမ်းသာလော"

"ဆင်းရဲပါ အရှင်ဘုရား"

"မမြဲသော၊ ဆင်းရဲသော၊ ဖောက်ပြန်ခြင်းသဘောရှိသော ရုပ်ကို ဤရုပ် သည် ငါ့ဥစ္စာတည်း။ ဤရုပ်သည် ငါ ဖြစ်၏။ ဤရုပ်သည် ငါ၏ကိုယ်–အတ္တ ဖြီးဟု ရှုခြင်းငှာ သင့်လျော်ပါမည်လော"

"မသင့်လျော်ပါ အရှင်ဘုရား"

"ဝေဒနာသည်၊ သညာသည်၊ သင်္ခါရတို့သည်၊ ဝိညာဉ်သည် မြဲသလော၊ မမြဲသလော"

"မမြဲပါ အရှင်ဘုရား"

"ဤဝိညာဉ်သည် ငါ၏ကိုယ်–အတ္တတည်းဟု ရှုခြင်းငှာ သင့်လျော်ပါမည်လော"

"မသင့်လျော်ပါ အရှင်ဘုရား"

မြတ်စွာဘုရားသည် ဂိလာနဝက္ကလိရဟန်းအား ဤအဆုံးအမဖြင့် ဆုံးမတော်မူ၍ နေရာမှထကာ ဂိဇ္ဈကုဋ်တောင်သို့ ဖဲသွားတော်မူလေသည်။

အရှင်ဝက္ကလိသည် စက်ရာထက်တွင် လျောင်းလျက်မှ လက်အုပ်ချီလျက် ဘုရားသခင် ကြွတော်မူရာကို မျက်စိတစ်ဆုံးကြည့်၍ ကျန်ခဲ့လေ၏။ အရှင်ဝက္ကလိသည် ရောဂါဝေဒနာ ပြင်းထန်သည်ကတစ်ကြောင်း၊ မြတ်စွာဘုရားနှင့် ကွေကွင်းနေရသည်တစ်ကြောင်းတို့ကြောင့် စိတ်ဓာတ်ကို လျှော့ချပစ်လိုက်ဟန် တူ၏။ သစ်နှစ်ခုစပ်ကြားပေါက်သည့် ဝါးကဲ့သို့ ဝေဒနာနှစ်ဖက်ညှပ်၍ ညပ်နေသည့် ဒဏ်ရာကို ကြာရှည်စွာ သည်းခံနိုင်တော့ဟန် မတူ။ တစ်စုံတစ်ခုကို ဆုံးဖြတ်လိုက်ပြီးနောက် မိမိအားပြုစုနေသည့် သူနာပြုရဟန်းတို့အား ဤစကားကို ဆိုလေပြီတည်း။

"ငါ့ရှင်တို့၊ လာကြည့်လော့။ ငါ့ကို ညောင်စောင်းပေါ်တင်ပြီးလျှင် ဣသိဂိရိတောင်နံပါးက ကာဠသိလာကျောင်းသို့ ပို့ကြကုန်လော။ ငါကဲ့သို့သောသူသည် အဘယ်ကြောင့် ရွာတွင်းမှာ သေမှုကို ပြုသင့်သည်ဟု ထင်ရာအံ့နည်း"

အရှင်ဝက္ကလိသည် မိမိကိုယ်ကို ရွာတွင်း အိုးထိန်းသည်၏အိမ်မှ ဣသိဂိရိတောင်၊ ကာဠသိလာကျောင်းသို့ ပို့စေလေ၏။ ရဟန်းတို့လည်း အရှင်၏အမိန့်အတိုင်း သူနာကို ညောင်စောင်းထက်တွင်တင်လျက် ဣသိဂိရိတောင်သို့ ယူဆောင်သွားကြရကုန်၏။

အချိန်မှာ အ,ကာလ ညအခါ ဖြစ်၏။ ဂိဇ္ဈကုဋ်တောင်သည် ညဥ့်အမှောင်ထုအောက်တွင် ပျောက်နေ၏။

သို့သော် ဝင်းခနဲ၊ လက်ခနဲအရောင်များ ပေါ်ထွက်လာပြီးနောက် ဂိဇ္ဈကုဋ်တောင်လုံးကြီးမှာ ထီးထီးမားမား ပေါ်လာ၏။ အကြောင်းသော်ကား နတ်သားနှစ်ပါးတို့၏ ကိုယ်ရောင်ကိုယ်ဝါကြောင့် ဖြစ်လေသည်။ ထိုနတ်သားနှစ်ပါးတို့သည် မိမိတို့၏ကိုယ်ရောင်ဖြင့် ဂိဇ္ဈကုဋ်တောင်ကို ထွန်းလင်းစေပြီး ဘုရားသခင်၏ ရှေ့တော်မှောက်သို့ ဝင်ကာ ဤသို့ လျှောက်ကြလေသတည်း။

တစ်ဦးသောနတ်သားက "အရှင်ဘုရား၊ ဝက္ကလိရဟန်းသည် လွတ်မြောက်ခြင်းငှာ အားထုတ်နေပါ၏" ဟူ၍လည်းကောင်း၊ တစ်ဦးသောနတ်သားက

"အရှင်ဘုရား၊ ထိုအရှင်သည် ကေန် ကောင်းစွာလွတ်မြောက်ခြင်းဖြင့် လွတ်မြောက်ပါလိမ့်မည်" ဟူ၍လည်းကောင်း ဤသို့ လာရောက် လျှောက်ထားကြပြီး ကွယ်ပျောက်ကုန်၏။

ဤသို့ လျှောက်ထားလာကြခြင်းမှာ ထိုနတ်နှစ်ပါးတို့သည် အရှင်ဝက္ကလိ၏ အကြံအစည်ကို သိသောကြောင့် ဖြစ်၏။ တစ်ဦးက "လွတ်မြောက်ခြင်းငှာ အားထုတ်နေသည်" ဆို၏။ လွတ်မြောက်ခြင်းဆိုရာ၌ ယခုအခါတွင် အရှင်ဝက္ကလိမှာ ရောဂါနှိပ်စက်ခြင်းဒဏ်ကို လူးလိမ့်၍ ခံနေရရှာ၏။ ရောဂါဝေဒနာ စက်ကွင်းမှ မလွတ်မြောက်သေးပေ။ ထိုရောဂါဝေဒနာဝဋ်မှ လွတ်မြောက်အောင် အရှင်ဝက္ကလိသည် မည်သို့အားထုတ်နေလေသနည်း။ မည်သို့ ကြံစည်နေလေသနည်း။

နတ်သားတစ်ဦးကမူ "ကောင်းသောလွတ်မြောက်ခြင်းဖြင့် လွတ်မြောက်မည်" ဟု ဆို၏။ ထိုအချိန်တွင် မည်သို့ ကြံစည်အားထုတ်နေကြောင်း အတိအကျ မပြောနိုင်၊ မဖွင့်ဆိုနိုင်သော် ရောဂါနှိပ်စက်ခြင်းဒဏ်ကို သည်းမခံနိုင်သောကြောင့် (နောက်ပိုင်းဖြစ်ရပ်ကိုထောက်၍) မိမိကိုယ်ကို သေကြောင်းကြံစည်နေသည်။ မိမိ၏ဝေဒနာ ခန္ဓာအိမ်ဆွေး၊ အိမ်ဟောင်းကြီးကို ဖျက်ဆီးပစ်ရန် အားထုတ်နေသည်ဟု ယူဆနိုင်ပေသည်။

နံနက်မိုးလင်းလာချိန်တွင် မြတ်စွာဘုရားသည် ညက နတ်များ လာ၍ လျှောက်ထားသွားသည့်စကားအတွက် ဆောင်ရွက်ဖွယ်ရှိသည်ကို ဆောင်ရွက်ရန် အလို့ငှာ ရဟန်းများကို ခေါ်ဆို၍ ဤသို့ မိန့်တော်မူ၏။

"ရဟန်းတို့၊ လာကြကုန်လော့။ ဝက္ကလိရဟန်းထံ ချဉ်းကပ်ကြပြီးလျှင် ဝက္ကလိရဟန်းကို ဤသို့ဆိုကုန်လော့။ 'ငါ့ရှင်ဝက္ကလိ၊ သင်သည် ဘုရားသခင်၏ စကားတော်နှင့် နတ်နှစ်ဦးတို့၏ စကားကို နားထောင်လော့'။–

– ငါ့ရှင်၊ ဤညဉ့်သန်းခေါင်ယံ၌ နှစ်သက်ဖွယ်အဆင်းရှိသော နတ်နှစ်ဦးတို့သည် ဂိဇ္ဈကုဋ်တစ်တောင်လုံးကို ထွန်းလင်းစေ၍ မြတ်စွာဘုရားထံသို့ ချဉ်းကပ်ကြပြီးလျှင် မြတ်စွာဘုရားကို ရှိခိုး၍ တစ်ခုသောနေရာ၌ ရပ်ကုန်လျက် နတ်တစ်ဦးက မြတ်စွာဘုရားအား ဤသို့ လျှောက်၏။ 'အရှင်ဘုရား၊ ဝက္ကလိရဟန်းသည် လွတ်မြောက်ခြင်းငှာ အားထုတ်နေပါ၏' ဟု လျှောက်၏။ နောက်အခြားနတ်တစ်ဦးက ဤသို့လျှောက်၏။ 'အရှင်ဘုရား၊ ထိုရဟန်းသည် ကေန် ကောင်းစွာ လွတ်မြောက်ခြင်းဖြင့် လွတ်မြောက်ပါလိမ့်မည်" ဟု လျှောက်၏။–

– မြတ်စွာဘုရားသည်လည်း သင့်ကို ဤသို့ဆို၏။ "ဝက္ကလိ၊ မကြောက်

လင့်။ ဝက္ကလိ၊ မကြောက်လင့်။ သင့်အား မယုတ်မာသော သေမှုဖြစ်လတ္တံ့။ မယုတ်မာသော သေခြင်းကို ပြုမှုဖြစ်လတ္တံ့." ဟု မိန့်တော်မူလိုက်ပါသည်' ဟု ဆိုကုန်လော့"

မြတ်စွာဘုရားသည် ဂိလာနဝက္ကလိရဟန်းထံသို့ ရဟန်းများကို စေလွှတ်၍ သတင်းပို့စေသည်။ ရဟန်းတို့သည် "ကောင်းပါပြီဘုရား" ဟူ၍ အပါးတော်မှ ဖဲခဲ့ကြကုန်ပြီး ဣသိဂိရိတောင်သို့ ရှေးရှုကြကုန်လေ၏။

ဣသိဂိရိတောင်နံပါးက ကာဠသိလာကျောင်းသို့ ဘုရားသခင် စေလွှတ်လိုက်သော ရဟန်းများ ရောက်သွားကြလေပြီ။ အရှင်ဝက္ကလိ ညောင်စောင်းထက်တွင် လျောင်းနေစဉ် ထိုရဟန်းများက ဘုရားသခင် မှာလိုက်သည့်အတိုင်း ဝက္ကလိရဟန်းအား ဘုရားသခင်၏စကားတော်နှင့် နတ်များလျှောက်ထားသွားသည့်စကားများ ပါရှိကြောင်း ပြောပြသောအခါ လျောင်းရာမှ အားယူ၍ ထရင်း-

"ငါ့ရှင်တို့၊ လာကြကုန်လော။ ငါ့ကို ညောင်စောင်းပေါ်မှ အောက်သို့ ချကြကုန်လော။ ငါကဲ့သို့သောသူသည် မြင့်သောနေရာ၌ ထိုင်၍ ထိုမြတ်စွာဘုရား၏ အဆုံးအမကို နာထိုက်သည်ဟု အဘယ့်ကြောင့် မှတ်ထင်ရာအံ့နည်း" ဟူ၍ သူနာပြုရဟန်းတို့အား ညောင်စောင်းပေါ်မှ အချခိုင်း၏။ အမိန့်အတိုင်း "ကောင်းပါပြီ" ဟု သူနာပြုရဟန်းတို့သည် ဝက္ကလိရဟန်းအား ညောင်စောင်းထက်မှ ချပေးကုန်၏။

ထိုအခါ ရဟန်းတို့သည် ဘုရားသခင် မှာလိုက်သောစကားများကို ဂိလာနဝက္ကလိရဟန်းအား ပြောကြားကြကုန်၏။

"ငါ့ရှင်၊ ဤညဥ့်သန်းခေါင်ယံအချိန်၌ နှစ်ဦးသောနတ်တို့ ဘုရားသခင့်ထံသို့ ချဉ်းကပ်လာကြကုန်ပြီး မြတ်စွာဘုရားအား တစ်ဦးသောနတ်က ဤသို့ လျှောက်သွားပါ၏။ 'အရှင်ဘုရား၊ ဝက္ကလိရဟန်းသည် လွတ်မြောက်ခြင်းငှာ အားထုတ်နေပါ၏' ဟူ၍လည်းကောင်း၊ အခြားနတ်တစ်ဦးက 'အရှင်ဘုရား၊ ထိုအရှင်သည် ဧကန် ကောင်းစွာ လွတ်မြောက်ခြင်းဖြင့် လွတ်မြောက်ပါလိမ့်မည် ဟူ၍လည်းကောင်း လျှောက်ထားသွားပေသည်။-

- ငါ့ရှင်၊ မြတ်စွာဘုရားသခင်ကလည်း သင့်ကို 'ဝက္ကလိ၊ မကြောက်လင့်။

ဝက္ကလိ၊ မကြောက်လင့်။ သင့်အား မယုတ်မာသောသေမှု ဖြစ်လတ္တံ့။ မယုတ်မာသော သေမှုကို ပြုခြင်းဖြစ်လတ္တံ့.' ဟု မိန့်တော်မူလိုက်ပါသည်" ဟု ပြောပြကြကုန်၏။

ထိုဘုရားသခင်၏ အမိန့်တော်စကားကို ကြားသိရသောအခါ ဝက္ကလိရဟန်းသည် ဝေဒနာ၏ နှိပ်စက်ခြင်းဒဏ်ကို ပြင်းစွာခံစားနေရသည့်ကြားမှ အားယူ၍ ဤစကားကို ဆို၏။

"ငါ့ရှင်တို့၊ သို့ဖြစ်လျှင် အရှင်ဘုရား၊ ဝက္ကလိရဟန်းသည် အနာရောဂါ နှိပ်စက်ရကား ဆင်းရဲသို့ရောက်လျက် ပြင်းထန်စွာ မကျန်းမမာ ဖြစ်နေပါ၏။ ထိုအရှင်သည် မြတ်စွာဘုရား၏ ခြေတော်တို့ကို ဦးခိုက်လိုက်ပါ၏ဟု ငါ၏စကားဖြင့် မြတ်စွာဘုရား၏ ခြေတော်တို့ကို ဦးခိုက်ကြပါကုန်လော့။ ဤသို့လည်း လျှောက်ကြကုန်လေဦး–

– အရှင်ဘုရား၊ ရုပ်သည် မမြဲ၊ ထိုသဘောကို တပည့်တော် မယုံမှားပါ။–

– မမြဲသောရုပ်သည် ဆင်းရဲ။ ဤအရာ၌ ယုံမှား မရှိပါ။–

– မမြဲသော၊ ဆင်းရဲသော၊ ဖောက်ပြန်ခြင်းသဘောရှိသော ရုပ်၌ ငါ့အား လိုချင်မှု၊ တပ်မက်မှု၊ တွယ်တာမှု မရှိ။ ဤအရာ၌ ယုံမှား မရှိတော့ပါ။–

– အရှင်ဘုရား၊ ဝေဒနာသည် မမြဲ။ ထိုသဘောကို တပည့်တော် မယုံမှားပါ။–

– မမြဲသော ဝေဒနာသည် ဆင်းရဲ၏။ ဤအရာ၌ ယုံမှား မရှိပါ။–

– မမြဲသော၊ ဆင်းရဲသော၊ ဖော်ပြန်ခြင်းသဘောရှိသော ဝေဒနာ၌ ငါ့အား လိုချင်မှု၊ တပ်မက်မှု၊ တွယ်တာမှု မရှိ။ ဤအရာ၌ ယုံမှား မရှိတော့ပါ။–

– အရှင်ဘုရား၊ သညာသည်၊ သင်္ခါရသည်၊ ဝိညာဉ်သည် မမြဲ။ ထိုသဘောကို မယုံမှားပါ။ မမြဲသော ဝိညာဉ်သည် ဆင်းရဲ၏။ ဤအရာ၌ ယုံမှား မရှိပါ။ မမြဲသော၊ ဆင်းရဲသော၊ ဖောက်ပြန်ခြင်းသဘောရှိသော ဝိညာဉ်၌ ငါ့အား လိုချင်မှု၊ တပ်မက်မှု၊ တွယ်တာမှု မရှိ။ ဤအရာ၌ ယုံမှားမရှိတော့ပါ ဟူ၍လည်း မြတ်စွာဘုရားအား လျှောက်ထားပေးကြပါကုန်လော့"

သူနာဝက္ကလိရဟန်းသည် ဘုရားသခင်အား သူ့ကိုယ်စား လျှောက်ထားပေးကြပါရန် တဖွဖွ မှာကြားလိုက်၏။ ရဟန်းတို့လည်း "ကောင်းပြီ" ဟု ဝန်ခံ၍ ဝက္ကလိထံမှ ပြန်ကြကုန်၏။

သူနာ၀က္ကလိရဟန်း၏ နောက်ဆုံးအချိန်သည် တဖြည်းဖြည်း နီးကပ်လာပြီ ထင်၏။ ဝက္ကလိရဟန်းသည် ပြန်ကြွသွားသော ရဟန်းများကို တွေငိုင်ငိုင်ကြည့်လျက် ကျန်ခဲ့၏။ ဝေဒနာကလည်း မသေမရှင် ဖျဉ်းသတ်သလို ဖိစီးလာသည်။ သူ့မျက်စိတို့သည် မှုန်ရီလာကုန်၏။ အရာခပ်သိမ်းသည် ရီဝေသောမျက်လုံးများတွင် မှုန်ဝါးဝါးသာ ထင်တော့၏။

ဝက္ကလိသည် စမ်းတဝါးဝါးနှင့် ဟိုစမ်းသည်စမ်း စမ်းရာက ခေါင်းရိတ်ဓားကို စမ်းမိလေ၏။ ဤဓားသည် သူ့အား နောက်ဆုံးခရီးသို့ ပို့ဆောင်သည့်အဖော်ဖြစ်၏။ ထိုဓားဖြင့် သူ၏လည်ပင်းကို ဖြတ်လေပြီတည်း။

ထိုအချိန်၌ အရှင်ဝက္ကလိ မှာလိုက်သောစကားများကို ရဟန်းတို့က မြတ်စွာဘုရားအား လျှောက်ထားနေကြ၏။ မြတ်စွာဘုရားသည် ရဟန်းတို့မှတစ်ဆင့် ဝက္ကလိ၏ လျှောက်ထားစကားများကို ကြားနာပြီးနောက် ရဟန်းတို့အား ဤစကားကို မြွက်ကြားတော်မူလေ၏။

"ရဟန်းတို့၊ လာ သွားကြကုန်အံ့။ ဣသိဂိလိတောင်နံပါး ကာဠသိလာကျောင်းသို့ ငါတို့ ချဉ်းကပ်ကြကုန်အံ့။ ယင်းကျောင်း၌ ဝက္ကလိမည်သောအမျိုးသားသည် ဓားဖြင့် လည်ကို ဖြတ်လေပြီ"

ဤသို့ မိန့်လိုက်သည့်စကားကြောင့် ရဟန်းတို့သည် တုန်လှုပ်ချောက်ချားကုန်လေ၏။ ဘုရားသခင် ကြွတော်မူရာ ဣသိဂိလိတောင်သို့ နောက်တော်မှ ရံလျက် လိုက်သွားကြကုန်၏။

ကာဠသိလာကျောင်းသို့ ရောက်လေသောအခါ မြတ်စွာဘုရားသည် ညောင်စောင်းပေါ်၌ လည်ပင်းလည်၍လဲနေသော ဝက္ကလိကိုသာ တွေ့ရတော့၏။ ဘုရားအမှူးရှိသော ရဟန်းတော်များ ဝက္ကလိရဟန်း၏သေရာ ညောင်းစောင်းဘေးတွင် ဝန်းရံကုန်လျက် ရှိနေစဉ် မည်းနက်သော အစင်းကြောင်းကြီးတစ်ခုသည် အရှေ့–အနောက်၊ တောင်–မြောက်၊ ဝဲယာ၊ ဗီလာထုတ်ချင်း၊ အကြွင်းမရှိ၊ ယောက်ယက်ခတ် လှုပ်ရှားပြေးသွားနေလေသည်။ အံ့ဖွယ်ဘနန်း ထူးဆန်းသောကြောင့် ထိုအနက်စင်းကြောင်းကြီးကို တအံ့တဩ ကြည့်နေကြကုန်၏။

"ရဟန်းတို့၊ သင်တို့သည် ဤသို့ အခိုးအငွေ့၊ အမိုက်မှောင် အစင်းကြောင်းကြီးသည် လူးလာစုန်ဆန် ယောက်ယက်ခတ် လှုပ်ရှားပြေးသွားနေသည်ကို မြင်ကြကုန်၏လော"

"မြင်ပါသည် ဘုရား"

"ရဟန်းတို့၊ ထိုအရာသည် ယုတ်မာသော မာရ်နတ် ဖြစ်၏။ ဝက္ကလိအမျိုးသား၏ ဝိညာဉ်သည် အဘယ်မှာတည်လေသနည်းဟု ဝက္ကလိ၏ ဝိညာဉ်ကိုလိုက်ရှာနေ၏။ ရဟန်းတို့၊ ဝက္ကလိ အမျိုးသားကား ဝိညာဉ်တည်မှု မရှိတော့ပြီ။ မရိနိဗ္ဗာန်ပြုလေပြီ" ဟူ၍ မိန့်တော်မူကြောင်း ဝက္ကလိရဟန်း၏ နောက်ဆုံးအချိန်ကို ခန္ဓဝဂ္ဂသံယုတ်၊ ဝက္ကလိသုတ်၌ တွေ့နိုင်ပါသတည်း။



## နိုင်ငံခြားသွား ရဟန်းများအား မှာကြားလိုက်သော
## အရှင်သာရိပုတ္တရာ၏ ဩဝါဒစကား

**ပြဿနာ = နိုင်ငံခြားခရီး**
**မေး = ခရီးသွားရဟန်းများ**
**ဖြေ = အရှင်သာရိပုတ္တရာ**

နိုင်ငံရပ်ခြား တိုင်းတစ်ပါးသို့ ပညာတော်သင် သွားသူတို့အား သက်ဆိုင်ရာဌာန အကြီးအကဲတို့ကလည်းကောင်း၊ မိဘ၊ ဆရာသမား၊ ဆွေမျိုးများကလည်းကောင်း မည်သို့နေထိုင်၊ မည်သို့ဆက်ဆံ စသည်ဖြင့် ဩဝါဒပေး၍ မှာကြားလိုက်ကြကုန်၏။ မိမိနိုင်ငံ့ဂုဏ်သိက္ခာနှင့် မိမိဆရာသမား၊ မိမိဘာသာအယူဝါဒ၏ ဂုဏ်သိက္ခာများကို မထိပါးမိစေရန်အတွက် တဖွဖွ သတိပေး မှာကြားကြခြင်း ဖြစ်လေသည်။

နိုင်ငံရပ်ခြားသို့ သွားသူတို့အား သတိပေးမှာကြားခြင်း အစဉ်အလာသည် ဗုဒ္ဓလက်ထက်တော်ကတည်းကပင် ရှိခဲ့၏။ ထိုအကြောင်းကို ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်၊ ဒေဝဒဟသုတ်၌ တွေ့ရှိနိုင်ပေသည်။

တွေ့ရှိရပုံကား အခါတစ်ပါး၌ မြတ်စွာဘုရားသည် သက္ကတိုင်း၊ ဒေဝဒဟနိဂုံး၌ သီတင်းသုံးတော်မူ၏။ အရှင်သာရိပုတ္တရာသည် မြတ်စွာဘုရားနှင့် မနီးလွန်းမဝေးလွန်းသော ဒန့်ချွဲချုံမဏ္ဍာပ်၌ နေ၏။ ထိုအခါ ပစ္ဆာတူမ ဇနပုဒ်သို့ ခရီးသွားလိုသော ရဟန်းတို့သည် ဘုရားသခင့်ထံသို့ လာရောက်၍ ကန်တော့ကုန်၏။ ထိုရဟန်းတို့အား "သင်တို့ သာရိပုတ္တရာအား ခွင့်ပန်ပြီးကြကုန်ပြီလော" ဟု မေးတော်မူ၏။ "မပြီးသေးပါကြောင်း" ရဟန်းတို့က လျှောက်ထားကြသည်ရှိသော် ဗုဒ္ဓက ဤသို့ ညွှန်ကြားတော်မူသတည်း။

"ရဟန်းတို့၊ သင်တို့သည် သာရိပုတ္တရာကို ခွင့်ပန်ချေကြကုန်ဦးလော့။ သာရိပုတ္တရာသည် ပညာရှိ၏။ သီတင်းသုံးဖော်တို့ကို ချီးမြှောက်တတ်၏" ဟူ၍ မိန့်မြွက်ညွှန်ကြားတော်မူလိုက်၏။ ရဟန်းတို့လည်း ဘုရားသခင်၏ ညွှန်ကြားချက်အတိုင်း အရှင်သာရိပုတ္တရာထံ သွားရောက်ကြပြီး ဘုရားသခင်၏ ညွှန်ကြားချက်များကိုပါ အရှင်သာရိပုတ္တရာအား လျှောက်ကုန်၏။

ထိုအခါ အရှင်သာရိပုတ္တရာသည် တိုင်းတစ်ပါးသို့ ခရီးသွားမည့် ရဟန်းတို့အား ဩဝါဒစကား ဤသို့ မြွက်ကြားတော်မူသတည်း။

"ငါ့ရှင်တို့၊ တိုင်းတစ်ပါးသို့သွားသော ရဟန်းတို့အား ပြဿနာမေးတတ်သော မင်းပညာရှိ၊ ပုဏ္ဏားပညာရှိ၊ သူကြွယ်ပညာရှိ၊ ရဟန်းပညာရှိတို့သည် ထင်ရှားရှိကြကုန်၏။ ငါ့ရှင်တို့၊ ပညာရှိကုန်သောသူတို့သည် 'အရှင်တို့၏ဆရာ မြတ်စွာဘုရားသည် အဘယ်ဝါဒ ရှိပါသနည်း။ အဘယ်ကို ဟောလေ့ရှိပါသနည်း' ဟု စုံစမ်းတတ်ကြကုန်၏။–

– အသို့နည်း၊ ငါ့ရှင်တို့သည် ယင်းအမေးကို ဖြေဆိုကြသော် မြတ်စွာဘုရား ဟောတော်မူသည့်အတိုင်း ဖြစ်နိုင်လောက်အောင်၊ တရားတော်အား လျော်သော တရားကိုလည်း ဖြေဆိုသည် မည်နိုင်လောက်အောင်၊ ယင်းတို့၏ဝါဒ၊ အနုဝါဒ တို့သည် အကြောင်းနှင့်တကွဖြစ်၍ အကဲ့ရဲ့ခံရခြင်းသို့ အနည်းငယ်မျှ မရောက်နိုင်ကြလောက်အောင် တရားတော်ကို နာယူဖူးကြ၊ သင်ယူဖူးကြကုန်၏လော။ နှလုံးသွင်းဖူးကြကုန်၏လော။ ဆောင်ယူဖူးကြပါကုန်၏လော။ ပညာဖြင့် ထိုးထွင်း၍ သိကြပါကုန်၏လော" ဟူ၍ ရှေးဦးစွာ မေးမြန်းခြင်း ပြုတော်မူ၏။

ရဟန်းတို့က အရှင်ဘုရား၏ ဩဝါဒကို ခံယူလို၍ ဝေးလံသောအရပ်မှ လာရောက်ခဲ့ကြပါကြောင်း၊ တပည့်တော်တို့အား ဆုံးမဩဝါဒတရား ချီးမြှင့်တော်မူပါမည့်အကြောင်း တောင်းပန်ကုန်၏။ ထိုအခါ အရှင်သာရိပုတ္တရာသည် တိုင်းတစ်ပါးသို့ ခရီးသွားမည့် ရဟန်းတို့အား ဤစကားဖြင့် လက်ဆောင်ပါးတော်မူလိုက်၏။

"ငါ့ရှင်တို့၊ နိုင်ငံရပ်ခြားတိုင်းတစ်ပါးတို့၌ မင်းပညာရှိ၊ ပုဏ္ဏားပညာရှိ၊ သူကြွယ်ပညာရှိ၊ ရဟန်းပညာရှိတို့သည် များစွာရှိကုန်၏။ သူတို့သည် ပြဿနာ ပြုတတ်ကုန်၏။ သူတို့နိုင်ငံသို့ သင်တို့ရောက်သွားကြသော် အသစ်အဆန်းဖြစ်၍ ထိုပညာရှိတို့သည် သင်တို့အား မေးမြန်းလာကြလိမ့်အံ့။ သင်တို့သည် ရဟန်း

များဖြစ်သောကြောင့် ရဟန်းဆိုင်ရာကျင့်ဝတ်များနှင့် ဆရာသမားအကြောင်းများကို မေးကြကုန်လိမ့်အံ့။-

- ငါ့ရှင်တို့၊ ငါ့ရှင်တို့၏ဆရာ မြတ်စွာဘုရားသည် အဘယ်ဝါဒ ရှိပါသနည်း။ အဘယ်သို့ ဟောလေ့ရှိပါသနည်းဟု ဤသို့ ထိုပညာရှိတို့၏ စူးစမ်းခြင်း၊ မေးမြန်းခြင်း ခံရသော် ဤသို့ ဖြေကြကုန်" ဟူ၍ ဖြေပုံဖြေနည်းများကို လက်ထပ်သင်ပေးလိုက်၏။

သင်ပေးလိုက်ပုံမှာ-

"အချင်းတို့၊ ကျွန်ုပ်တို့၏ဆရာ ဂေါတမရှင်တော်မြတ်ဘုရားသည် လိုချင်တပ်မက်မှု-ဆန္ဒရာဂ ပယ်ဖျောက်ခြင်းကို ဟောတော်မူလေ့ ရှိပါသည်ဟု ဖြေကြကုန်လော့။ ထိုပညာရှိတို့သည် ဤမျှဖြင့် ဘန့်ရပ်မသွားလေဘဲ ဆန္ဒရာဂ ပယ်ဖျောက်ခြင်းဟူသောစကား ကိုင်တွယ်လျက် ထပ်ဆင့်မေးလာကုန်လိမ့်အံ့။ စူးစမ်းလာကုန်လိမ့်အံ့။-

- ငါ့ရှင်တို့၊ ထိုထိုပညာရှိတို့က အရှင်တို့၏ဆရာ မြတ်စွာဘုရားသည် အဘယ်၌ လိုချင်တပ်မက်မှု-ဆန္ဒရာဂ ပယ်ဖျောက်ခြင်းကို ဟောလေ့ရှိပါသနည်း။-

- ငါ့ရှင်တို့၊ ဤသို့မေးလာခဲ့သော် ဤမေးခွန်းသည် မေးထိုက်သော မေးခွန်းဖြစ်၏။ သူတို့သည် လိုချင်မှု-ဆန္ဒရာဂ ပယ်ခြင်း အလေ့ရှိသည်ဆိုကာမျှဖြင့် နှစ်သိမ့်နိုင်ကြမည် မဟုတ်။ ဆန္ဒရာဂ ပယ်ဖျောက်သောနေရာကို သူတို့ သိချင်ကြပေမည်ဖြစ်၍ ဤမေးခွန်းကို နေရာသိအောင် စူးစမ်းသောမေးခွန်းဟု ဆိုနိုင်ပေသည်။ ထိုမေးခွန်းအတွက် ငါ့ရှင်တို့ ဖြေကြရမည်မှာ-

- အချင်းတို့၊ ကျွန်ုပ်တို့၏ဆရာ မြတ်စွာဘုရားသည်-

ရုပ်၌ လိုချင်တပ်မက်မှု ဆန္ဒရာဂကို ပယ်ခြင်း၊

ဝေဒနာ၌ လိုချင်တပ်မက်မှု ဆန္ဒရာဂကို ပယ်ခြင်း၊

သညာ၌ လိုချင်တပ်မက်မှု ဆန္ဒရာဂကို ပယ်ခြင်း၊

သင်္ခါရ၌ လိုချင်တပ်မက်မှု ဆန္ဒရာဂကို ပယ်ခြင်း၊

ဝိညာဉ်၌ လိုချင်တပ်မက်မှု ဆန္ဒရာဂကို ပယ်ခြင်းကို ဟောတော်မူလေ့ ရှိပါသည်ဟု ဤသို့ ဖြေကုန်လော့"

ထို့နောက် နိုင်ငံခြားသွားမည့် ရဟန်းတို့အား အရှင်သာရိပုတ္တရာက ဆက်၍ မှာကြားတော်မူပြန်သည်မှာ–

“ငါ့ရှင်တို့၊ ထိုပညာရှင်တို့သည် ဤမျှသော အဖြေဖြင့် သူတို့ ရောင့်ရဲနိုင်ကြမည် မဟုတ်။ ပယ်ဖျောက်သည်ဆိုရာ၌ အကြောင်းမဲ့ ပယ်ဖျောက်ခြင်း မဟုတ်။ အကြောင်းရှိတန်ရာသည်။ ပယ်ထိုက်သောကြောင့် ပယ်ခြင်းသာ ဖြစ်မည်။ ထို့ကြောင့် ‘ငါ့ရှင်တို့၏ဆရာ မြတ်စွာဘုရားသည် ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဉ်တို့၌ လိုချင်တပ်မက်မှု ဆန္ဒရာဂ ပယ်ဖျောက်ခြင်းကို အဘယ်ကြောင့် ဟောတော်မူပါသနည်း” ဟု အထွန့်တက်၍ မမေးဘူးဟူ၍ မဆိုနိုင်။ အကယ်၍ မေးလာခဲ့သော် ငါ့ရှင်တို့ ဤသို့ ဖြေကြကုန်။–

– အချင်းတို့၊ ကျွန်ုပ်တို့၏ဆရာ မြတ်စွာဘုရားသည် လိုချင်တပ်မက်မှု ဆန္ဒရာဂ ပယ်ဖျောက်ခြင်းကို ဟောတော်မူလေ့ရှိသည်မှာ အခြားကြောင့် မဟုတ်။ အပြစ်ကို မြင်သောကြောင့် ဖြစ်ပါသည်။–

– အချင်းတို့–

ရုပ်၌ တပ်စွန်းမှုမကင်းသူ၊

ရုပ်၌ လိုချင်မှုမကင်းသူ၊

ရုပ်၌ တွယ်တာမှုမကင်းသူ၊

ရုပ်၌ မွတ်သိပ်မှုမကင်းသူ၊

ရုပ်၌ ပူလောင်မှုမကင်းသူအား ထိုရုပ်၏ ဖောက်ပြန်ခြင်း၊ တစ်မျိုးတစ်ဖုံ ဖြစ်ခြင်းတို့ကြောင့် စိုးရိမ်မှု၊ ပူဆွေးမှု၊ ကိုယ်ဆင်းရဲမှု၊ စိတ်ဆင်းရဲမှု၊ ပြင်းစွာ ပင်ပန်းမှုတို့သည် ဖြစ်ကုန်၏။ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဉ်တို့၌လည်း ထို့အတူ ဖြစ်ကုန်၏။

– အချင်းတို့၊ ကျွန်ုပ်တို့၏ဆရာ မြတ်စွာဘုရားသည် ဤအပြစ်များကို မြင်တော်မူသောကြောင့် ရုပ်၊ ဝေဒနာ၊ ပညာ၊ သင်္ခါရ၊ ဝိညာဉ်တို့၌ လိုချင်တပ်မက်မှု ဆန္ဒရာဂ ပယ်ဖျောက်ခြင်းကို ဟောတော်မူလေ့ရှိပါသည်ဟု ဖြေကြလေကုန်လော”

အရှင်သာရိပုတ္တရာသည် နိုင်ငံခြားသွားမည့် ရဟန်းတို့အား ထိုရဟန်းပညာရှိ၊ လူပညာရှိတို့က ဆန္ဒရာဂ ပယ်ခြင်း၏အကြောင်းကို မေးမြန်းတောင်းဆိုလာခဲ့သော် ဖြေပုံဖြေနည်းများကို နိသျရည်းကျကျ ဖြေဆိုတတ်အောင် ဤသို့ လက်ထပ်သင်ကြားပေးလိုက်၏။

ထိုနှင့်ဆက်နွယ်၍ ဆန္ဒရာဂပယ်ခြင်း၏ အကျိုးတရားကို မေးမြန်းခဲ့သော်– 'စိုးရိမ်မှု၊ ပူဆွေးမှု၊ ငိုကြွေးမြည်တမ်းမှု၊ ကိုယ်၏ဆင်းရဲမှု၊ စိတ်၏ဆင်းရဲမှုဟူသမျှသည် လိုချင်တပ်မက်မှုဆန္ဒရာဂကြောင့် ဖြစ်ရ၏။ ဆန္ဒရာဂ မရှိခဲ့သော် အဆိုပါ စိုးရိမ်ပူဆွေး စသည်တို့ မဖြစ်ကုန်။ မဖြစ်လျှင် ချမ်းသာ၏။ ဤအကျိုးတရားကို မြင်တော်မူ၍ ဆန္ဒရာဂကို ပယ်ဖျောက်ခြင်းကို ဟောတော်မူသည်' ဟု ဖြေကြကုန်ဟူ၍ မှာကြားတော်မူလိုက်၏။

ထိုမှတစ်ပါး ကုသိုလ်၊ အကုသိုလ်ဆိုင်ရာ တရားများကိုလည်း ဗုဒ္ဓ အလိုတော်ကျ ဖြေနိုင်အောင် နည်းနည်းကျကျ လက်ထပ်သင်ကြားပေးလိုက်၏။ နိုင်ငံရပ်ခြား တိုင်းတစ်ပါးသို့ သွားကြမည့် ရဟန်းတို့သည် အရှင်သာရိပုတ္တရာ၏ ဩဝါဒကို ရိုသေလေးစားစွာ ခံယူကြကုန်ပြီး အရှင်သာရိပုတ္တရအား ကန်တော့၍ အပါးတော်မှ ဖဲခွာခဲ့ကြကုန်သတည်း။



## အကျဉ်းမှ အကျယ်သို့

ပြဿနာ = သစေ်ပ အကျဉ်းတရား
မေး = ရဟန်းများ
ဖြေ = ဗုဒ္ဓမြတ်ဘုရား

ခန္ဓဝဂ္ဂသံယုတ်၊ အရဟန္တဝဂ်ဦ သုတ်ပေါင်း ဆယ်သုတ်ရှိသည့်အနက် ရှစ်သုတ်သည် ထူးခြား၏။ ထိုရှစ်သုတ်ကား-

၁။ ဥပါဒိယမာနသုတ်
၂။ မညမာနသုတ်
၃။ အဘိနန္ဒမာနသုတ်
၄။ အနိစ္စသုတ်
၅။ ဒုက္ခသုတ်
၆။ အနတ္တသုတ်
၇။ အနတ္တနိယသုတ်
၈။ ရဇနိယသဏ္ဌိတသုတ်-တို့ ဖြစ်လေသည်။

ထူးခြားပုံမှာ-
ပြဿနာရှင်များမှာ ရဟန်းချည်း ဖြစ်ခြင်း၊
အကျဉ်းမျှသာ ဟောပါဟု တောင်းပန်ချက် တူညီခြင်း၊
အကျဉ်းမျှ ဟော၍ ပြီးလျှင်ပြီး 'သိပါပြီဘုရား' ဟူ၍ လျှောက်ထားချက် တူညီခြင်းများ ဖြစ်လေသည်။

တရားနာယူလိုသော်- 'ဟောတော်မူပါဘုရား' ဟူ၍သာ တောင်းပန်လေ့

ရှိကြသော်လည်း ထိုရဟန်းတို့ကမူ ဘုရားသခင်အား အပိုင်းအကန့်နှင့် တောင်းပန်ကြကုန်၏။

"အရှင်ဘုရား၊ တောင်းပန်ပါ၏။ မြတ်စွာဘုရားသည် တပည့်တော်အား အကျဉ်းအားဖြင့် တရားဟောတော်မူပါလော့။ တပည့်တော်သည် မြတ်စွာဘုရား၏ ယင်းတရားတော်ကို ကြားနာရသော် တစ်ယောက်တည်း ဆိတ်ငြိမ်ရာသို့ ကပ်၍ မမေ့မလျော့ လုံ့လပြုလျက် နိဗ္ဗာန်သို့ စေလွှတ်သောစိတ် ရှိသည်ဖြစ်၍ နေလိုပါ၏"

ဤသို့ ဟောမည့်တရားတော်ကို အကျဉ်းဟောပါဟု ပိုင်းကန့်လျက် လျှောက်ထားကြလေသည်။

ထိုအခါ မြတ်စွာဘုရားသည် ထိုရဟန်းတို့၏ တောင်းပန်ချက်အရ တစ်ပါးလျှင် တစ်မျိုးစီ၊ တစ်မျိုးစီသော တရားကို အကျဉ်းအားဖြင့် ဟောတော်မူလေရာ တရားပြီးဆုံးသည်နှင့်တစ်ပြိုင်နက် လက်အုပ်ချီလျက် သွက်လက်စွာ အသီးသီး လျှောက်ကုန်သည်ကား–

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ သိပါပြီ။ ကောင်းသောစကားကို ဆိုတော်မူတတ်သော မြတ်စွာဘုရား သိပါပြီ"

ဤသို့ပင် တညီတညွတ်တည်း လျှောက်ကုန်၏။ မြတ်စွာဘုရားသည် ထိုရဟန်းတို့အား အဘယ်တရားကို အကျဉ်းအားဖြင့် ဟောကြားတော်မူလေသနည်း။

ဤတွင် ထိုအသီးသီးသော ရဟန်းတို့အား ဟောကြားအပ်သော အကျဉ်းချုပ်တရား အသီးသီးကို (က၊ ခ) စဉ်လျက် ဖော်ပြသွားပါအံ့။

(က) ဥပါဒိယမာနသုတ် = ရဟန်း၊ စွဲလမ်းသော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မစွဲလမ်းသော် မာရ်မှ လွတ်မြောက်၏။

(ခ) မညမာနသုတ် = ရဟန်း၊ ငါ ထင်မှတ်သော် မာရ်သည် နှောင်ဖွဲ့အပ်၏။ ငါဟု မထင်မှတ်သော် မာရ်မှ လွတ်မြောက်၏။

(ဂ) အဘိနန္ဒမာနသုတ် = ရဟန်း၊ အလွန်နှစ်သက်သော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မနှစ်သက်သော် မာရ်မှ လွတ်မြောက်၏။

(ဃ) အနိစ္စသုတ် = ရဟန်း၊ အကြင်သဘောတရားသည် မမြဲ။ ထိုမမြဲသော သဘောတရား၌ သင်သည် လိုချင်မှုကို ပယ်ရမည်။

(င) ဒုက္ခသုတ် = ရဟန်း၊ အကြင်သဘောတရားသည် ဆင်းရဲ၏။ ထိုဆင်းရဲသောသဘောတရား၌ သင်သည် လိုချင်မှုကို ပယ်ရမည်။

(စ) အနတ္တသုတ် = ရဟာန်း၊ အကြင်သဘောတရားသည် ကိုယ်၊ အတ္တ မဟုတ်။ သင်သည် ထိုအတ္တမဟုတ်သော သဘောတရား၌ သင်သည် လိုချင်မှုကို ပယ်ရမည်။

(ဆ) အနတ္တနိယသုတ် = ရဟာန်း၊ အကြင်သဘောတရားသည် ကိုယ်ပိုင် မဟုတ်။ ထိုကိုယ်ပိုင်ဥစ္စာမဟုတ်သော သဘောတရား၌ သင်သည် လိုချင်မှုကို ပယ်ရမည်။

(ဇ) ရဇနိယသဏ္ဍိတသုတ် = ရဟာန်း၊ အကြင်သဘောတရားသည် စွဲမက်ဖွယ်အခြင်းအရာအားဖြင့် တည်၏။ ထိုစွဲမက်ဖွယ် အခြင်းအရာအားဖြင့် တည်သောတရား၌ သင်သည် လိုချင်မှုကို ပယ်ရမည်။

ထိုရဟာန်းတစ်ပါးစီ တစ်ပါးစီအား အကျဉ်းအားဖြင့် အထက်ပါအတိုင်း တရားအသီးသီးကို ဟောတော်မူလေရာ ရဟာန်းတို့က မိမိအား အကျဉ်းအားဖြင့် ဟောကြားအပ်သောတရား၏ အဓိပ္ပာယ်ကို "သိပါပြီ ဘုရား၊ သိပါပြီ ဘုရား" ဟူ၍ လျှောက်ကုန်၏။ ထိုအခါ မြတ်စွာဘုရားက မေးတော်မူ၏။

"ရဟာန်း၊ ငါသည် အကျဉ်းဟောအပ်သောစကား၏ အကျယ်ဖြစ်သော အနက်ကို သင် အဘယ်သို့ သိသနည်း"

ရဟာန်းအသီးသီးကိုပင် ဤသို့ချည်း မေးတော်မူ၏။ ရဟာန်းတို့ကလည်း သူတို့သိပုံကို အသီးသီး လျှောက်ကြ၏။

ထိုရဟာန်းတို့၏ အသိဉာဏ် ထက်မြက်ကြပုံမှာ အရှင်သာရိပုတ္တာရာ၏ အဖြစ်သို့မရောက်မီ တရားထူးကို လိုက်ရှာနေသော ဥပတိဿပရိဗိုဇ်နှင့် တူ၏။ ဥပတိဿဘဝဖြင့် တရားထူးကိုလိုက်ရှာစဉ် တစ်နေ့သော် အရှင်အဿဇိနှင့် တွေ့လေသည်။ ထိုအခါ ဥပတိဿက သူ့ကို တရားဟောပါရန် တောင်းပန်၏။ အရှင်အဿဇိက ငါ တရားကို များများမသိဟု ဆိုလေသော် "နည်းနည်း များများ သိသမျှကို အကျဉ်းမျှသာ ဟောတော်မူပါ" ဟု တောင်းပန်သောကြောင့် ယေဓမ္မာဟေတုပ္ပဘဝါ–စသော ဂါထာတစ်ပုဒ်မျှကို ဟောတော်မူလိုက်ရာ ချက်ချင်းပင် "တပည့်တော် သိပါပြီဘုရား" ဟူ၍ လျှောက်လေ၏။ ဖြစ်ဖြစ်သမျှသော တရားတို့သည် အကြောင်းကိုမှီ၍ ဖြစ်ကုန်၏။ အကြောင်းနှင့်ကင်းသော တရား၊ အကြောင်းမှလွတ်သောတရား မရှိကြောင်းကို ချက်ချင်း သဘောပေါက်သွားလေသည်။

ယခု ထိုရဟာန်းတို့သည်လည်း ထိုအတိုင်း ဖြစ်ကုန်၏။ အရိပ်ပြ အကောင်

ထင်ကုန်၏။ တစ်ထွာပြ တစ်တောင်မြင်ကုန်၏။ ရဟန်းအသီးသီးတို့အား အကျဉ်းအားဖြင့် ဟောလိုက်သောတရားတို့ကို အထက်၌ ပြဆိုထားပြီး ဖြစ်၏။ ဤတွင် "ငါ အကျဉ်းမျှ ဟောအပ်သောတရား၏ အကျယ်ဖြစ်သော အနက်ကို သင်တို့ အဘယ်သို့ သိသနည်း" ဟူသော ဘုရားသခင်၏ မေးမြန်းချက်ကို သူတို့လျှောက်ထားဖြေဆိုပုံများကိုလည်း (က၊ ခ) စဉ်လျက် ဖော်ပြပါအံ့။ အကျဉ်း ဟောကြားအပ်သော တရား (က) ကို ရဟန်းတို့ လျှောက်ထားပုံ (က) နှင့်ဆက်၍ ကြည့်ပါကုန်။

## ရဟန်းတို့က မိမိတို့သိပုံကို လျှောက်ထားပုံများ

(က) "အရှင်ဘုရား၊

- ရုပ်ကို စွဲလမ်းသော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မစွဲလမ်းသော် မာရ်မှ လွတ်မြောက်၏။
- ဝေဒနာကို စွဲလမ်းသော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မစွဲလမ်းသော် မာရ်မှ လွတ်မြောက်၏။
- သညာကို စွဲလမ်းသော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မစွဲလမ်းသော် မာရ်မှ လွတ်မြောက်၏။
- သင်္ခါရကို စွဲလမ်းသော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မစွဲလမ်းသော် မာရ်မှ လွတ်မြောက်၏။
- ဝိညာဉ်ကို စွဲလမ်းသော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မစွဲလမ်းသော် မာရ်မှ လွတ်မြောက်၏။

-အရှင်ဘုရား၊ မြတ်စွာဘုရား အကျဉ်းအားဖြင့်ဟောသော ဤစကား၏ အကျယ်ဖြစ်သော အနက်ကို ဤသို့ သိပါ၏ဘုရား" ဟု လျှောက်၏။

"ရဟန်း၊ ကောင်းပေစွ၊ ကောင်းပေစွ၊ သင်သည် ငါဘုရား အကျဉ်းအားဖြင့် ဟောအပ်သောစကား၏အကျယ်ဖြစ်သောအနက်ကို ကောင်းစွာသိပေ၏" ဟု ချီးကျူးတော်မူ၏။

**မာရ်ဆိုသည်ကား**- မာရ်ငါးပါးကို ဆိုပေသည်။ (၁) ဒေဝပုတ္တမာရ်- မာရ်နတ်၏ နှောင့်ယှက်ဖျက်ဆီးမှု၊ (၂) ကိလေသမာရ်- ကိလေသာဆယ်ပါး၏

နှောင့်ယှက် ဖျက်ဆီးမှု၊ (၃) ခန္ဓမာရ်- ခန္ဓာငါးပါး၏ နှောင့်ယှက်ဖျက်ဆီးမှု၊ (၄) မစ္စုမာရ်- သေခြင်းတရား၏ နှောင့်ယှက်မှု၊ (၅) အဘိသင်္ခါရမာရ်- ပြုပြင်စီရင်ခြင်း၏ နှောင့်ယှက်မှုများ ဖြစ်လေသည်။

**စွဲလမ်းသော်**- ဟူ၍ ဟောတော်မူသည့် အကျဉ်းတရား၏ အဓိပ္ပာယ်ကို ထိုရဟန်းက အကျယ်သိမြင်လေသည်မှာ စွဲလမ်းဟူသည်ကား အလိုအလျောက် ပေါ်ပေါက်လာသည် မဟုတ်။ စွဲလမ်းစရာရှိ၍သာ ဝေါဟာရစကားလုံး ဖြစ်လာသည်။ ထိုစွဲလမ်းစရာကား အဘယ်နည်း။ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဉ် ဟူသော ခန္ဓာငါးပါးတို့ကို စွဲလမ်းစရာဖြစ်ကြောင်း ကောင်းစွာသိမြင်လာသည်။ ထိုစွဲလမ်းစရာများကို စွဲလမ်းမှုများကြောင့် မာရ်ငါးပါး၏ သားကောင် ဖြစ်ရသည်။ မာရ်ငါးပါး၏ အနှောင်အဖွဲ့မှ မလွတ်နိုင်။ လွတ်အောင် ရုန်း၍ မထွက်နိုင်သောကြောင့် နိဗ္ဗာန်နှင့်ဝေးကာ သံသရာရေယဉ်ကြောဝယ် အစုန်အဆန် မျောနေကြရသည်ဟု အကျယ်အားဖြင့် သိမြင်လေသဖြင့် 'ရုပ်ကို စွဲလမ်းသော်၊ ဝေဒနာကို စွဲလမ်းသော်' ဟူ၍ လျှောက်သတည်း။

(ခ) "အရှင်ဘုရား၊

- ရုပ်ကို ငါဟု ထင်မှတ်သော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မထင်မှတ်သော် မာရ်မှ လွတ်မြောက်၏။
- ဝေဒနာကို ငါဟု ထင်မှတ်သော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မထင်မှတ်သော် မာရ်မှ လွတ်မြောက်၏။
- သညာကို ငါဟု ထင်မှတ်သော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မထင်မှတ်သော် မာရ်မှ လွတ်မြောက်၏။
- သင်္ခါရကို ငါဟု ထင်မှတ်သော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မထင်မှတ်သော် မာရ်မှ လွတ်မြောက်၏။
- ဝိညာဉ်ကို ငါဟု ထင်မှတ်သော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မထင်မှတ်သော် မာရ်မှ လွတ်မြောက်၏။

-အရှင်ဘုရား၊ တပည့်တော်သည် မြတ်စွာဘုရား အကျဉ်းအားဖြင့် ဟောအပ်သော ဤစကား၏အကျယ်ဖြစ်သော အနက်ကို ဤသို့ သိပါ၏" ဟု လျှောက်၏။

"ရဟန်း၊ ကောင်းပေစွ၊ ကောင်းပေစွ။ သင်သည် ငါ အကျဉ်းဟောအပ်

သော ဤစကား၏အကျယ်ဖြစ်သော အနက်ကို ကောင်းစွာသိပေ၏။ ရဟန်း၊ ရုပ်ကို ငါဟု ထင်မှတ်သော် မာရ်သည် နှောင်ဖွဲ့အပ်၏" ဟု ချီးကျူးတော်မူ၏။

**ငါဟုထင်မှတ်သော်–** ဟူ၍ ဟောအပ်သော အကျဉ်းစကား၌ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဉ်၊ ဤခန္ဓာငါးပါးကို ငါဟု ထင်စရာ အထင်ခံ အဖြစ် ထိုရဟန်းက အကျယ်အားဖြင့် မြင်လာသည်။ ခန္ဓာငါးပါးကို ငါဟု ထင်မှုကြောင့် သံသရာမှ လွတ်ထွက်မသွားနိုင်အောင် တုပ်နှောင်ခြင်းခံနေကြရသည်ကို မြင်သဖြင့် "သိပါပြီဘုရား၊ သိပါပြီဘုရား" ဟူ၍ လျှောက်ထားခြင်း ဖြစ်သတည်း။

(ဂ) "အရှင်ဘုရား၊

– ရုပ်ကို နှစ်သက်သော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မနှစ်သက်သော် မာရ်မှ လွတ်မြောက်၏။
– ဝေဒနာကို နှစ်သက်သော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မနှစ်သက်သော် မာရ်မှ လွတ်မြောက်၏။
– သညာကို နှစ်သက်သော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မနှစ်သက်သော် မာရ်မှ လွတ်မြောက်၏။
– သင်္ခါရကို နှစ်သက်သော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မနှစ်သက်သော် မာရ်မှ လွတ်မြောက်၏။
– ဝိညာဉ်ကို နှစ်သက်သော် မာရ်သည် နှောင်ဖွဲ့အပ်၏။ မနှစ်သက်သော် မာရ်မှ လွတ်မြောက်၏။

–အရှင်ဘုရား၊ တပည့်တော်သည် မြတ်စွာဘုရား အကျဉ်းအားဖြင့် ဟောအပ်သောစကား၏ အကျယ်ဖြစ်သောအနက်ကို ဤသို့သိပါ၏"ဟု လျှောက်၏။

ထိုရဟန်းအားလည်း မြတ်စွာဘုရား ချီးကျူးတော်မူ၏။ "ရဟန်း၊ ကောင်းပေစွ၊ ကောင်းပေစွ။ ငါ အကျဉ်းဟောအပ်သောစကား၏ အကျယ်ဖြစ်သော အနက်ကို ကောင်းစွာ သိပေ၏"

ဤ၌လည်း **နှစ်သက်သော်–** ဟူ၍ ဟောအပ်သော အကျဉ်းစကား၏ အကျယ်ဖြစ်သောအနက်ကို ဖွင့်ဆိုရာတွင် ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဉ် ဟူသော ခန္ဓာငါးပါးကို နှစ်သက်စရာအဖြစ် မြင်၏။ ခန္ဓာငါးပါးကို မခွဲနိုင်နိုင်၊ မခွာရက်ရက်၊ နှစ်သက်ကြသည့်အတွက် သံသရာညွန်အိုင်ကြီးထဲဝယ် ကျွဲလူးသလို

လူးနေကြရပြီ။ နိဗ္ဗာန်ရွှေပြည်ကြီးနှင့် ဝေးကြရသည်ကို မြင်သဖြင့် "သိပါပြီ ဘုရား၊ သိပါပြီဘုရား" ဟူ၍ လျှောက်ထားခြင်း ဖြစ်သတည်း။

(ဃ) "အရှင်ဘုရား၊

– ရုပ်သည် မမြဲပါ။ တပည့်တော်သည် ထိုမမြဲသောရုပ်၌ လိုချင်မှုကို ပယ်ပါမည်။

– ဝေဒနာသည် မမြဲပါ။ တပည့်တော်သည် ထိုမမြဲသောဝေဒနာ၌ လိုချင်မှုကို ပယ်ပါမည်။

– သညာသည် မမြဲပါ။ တပည့်တော်သည် ထိုမမြဲသောသညာ၌ လိုချင်မှုကို ပယ်ပါမည်။

– သင်္ခါရသည် မမြဲပါ။ တပည့်တော်သည် ထိုမမြဲသောသင်္ခါရ၌ လိုချင်မှုကို ပယ်ပါမည်။

– ဝိညာဉ်သည် မမြဲပါ။ တပည့်တော်သည် ထိုမမြဲသောဝိညာဉ်၌ လိုချင်မှုကို ပယ်ပါမည်။

– –အရှင်ဘုရား၊ တပည့်တော်သည် မြတ်စွာဘုရား အကျဉ်းဟောအပ်သော စကား၏ အကျယ်ဖြစ်သောအနက်ကို ဤသို့သိပါ၏" ဟု လျှောက်၏။ ထို ရဟန်းကိုလည်း "ကောင်းပေစွ၊ ကောင်းပေစွ" ဟူ၍ ချီးကျူးတော်မူ၏။

**မမြဲသော သဘောတရား**– ဟူ၍ အကျဉ်းအားဖြင့် ဟောလိုက်ကာမျှ၌ ထိုရဟန်းက ခန္ဓာငါးပါးကိုပင် မြင်လာသည်။ မြတ်စွာဘုရားက ငါ့ကို "မမြဲသော အရာကို ပယ်ရမည်" ဟု မိန့်တော်မူ၏။ ထိုမမြဲသောအရာကား အဘယ်ကို ဆို လေသနည်း။

ရုပ် အနိစ္စ–ရုပ်သည် မမြဲပါတကား။ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏံ အနိစ္စ–ဝိညာဉ်သည် မမြဲပါတကား။ ခန္ဓာငါးပါးစလုံး အရှည်စွဲ၍ တည်မြဲနေသော အရာ မရှိပါတကား။ ဘုရားသခင်က ငါ့အား "မမြဲသောရာကို အပယ်ခိုင်းခြင်း သည် ခန္ဓာငါးပါးကို အပယ်ခိုင်းတာပါကလား။ ခန္ဓာငါးပါးကို မပယ်နိုင်ကြ သည့်အတွက် သတ္တဝါတွေဟာ ဝဋ်သံသရာတွင် ဆုံလည်သောနွား၊ ရဟတ်များ ကဲ့သို့ တချာလည်လည် ကျင်လည်နေကြရရှာကုန်သည်။ သံသရာဝဋ်မှ လွတ် မြောက်၍ နိဗ္ဗာန်ရောက်သည်အထိ ငါ့ကို ပို့ဆောင်လို၍ ခန္ဓာငါးပါးကို အပယ် ခိုင်းတာပါကလား" ဟူ၍ တပ်အပ်ထင်ထင် သိမြင်လာသည်။ ထို့ကြောင့် "သိ ပါပြီဘုရား။ သိပါပြီဘုရား" ဟူ၍ ဝမ်းသာဝမ်းမြောက် လျှောက်ထားခြင်း ဖြစ် သတည်း။

–စပယ်ဦးစာပေ

(၈) "အရှင်ဘုရား၊

- ရုပ်သည် ဆင်းရဲ၏။ တပည့်တော်သည် ဆင်းရဲသော ထိုရုပ်၌ လိုချင်မှုကို ပယ်ရပါမည်။
- ဝေဒနာသည် ဆင်းရဲ၏။ တပည့်တော်သည် ထိုဆင်းရဲသောဝေဒနာ၌ လိုချင်မှုကို ပယ်ရပါမည်။
- သညာသည် ဆင်းရဲ၏။ တပည့်တော်သည် ထိုဆင်းရဲသောသညာ၌ လိုချင်မှုကို ပယ်ရပါမည်။
- သင်္ခါရသည် ဆင်းရဲ၏။ တပည့်တော်သည် ထိုဆင်းရဲသောသင်္ခါရ၌ လိုချင်မှုကို ပယ်ရပါမည်။
- ဝိညာဉ်သည် ဆင်းရဲ၏။ တပည့်တော်သည် ထိုဆင်းရဲသောဝိညာဉ်၌ လိုချင်မှုကို ပယ်ရပါမည်။

-အရှင်ဘုရား၊ တပည့်တော်သည် မြတ်စွာဘုရား အကျဉ်းအားဖြင့် ဟော အပ်သောစကား၏ အကျယ်ဖြစ်သောအနက်ကို ဤသို့သိပါ၏" ဟု လျှောက်၏။ ဤသို့လျှောက်သော် ထိုရဟန်းအားလည်း ဘုရားသခင် ချီးကျူးတော်မူ၏။ "ကောင်းပေစွ၊ ကောင်းပေစွ။ ငါ အကျဉ်းဟောအပ်သည်ကို အကျယ်အားဖြင့် ကောင်းစွာ သင် သိပေ၏"

ဆင်းရဲသော သဘောတရား- ဟူ၍ ဟောတော်မူသော အကျဉ်းတရား၌ လည်း ထိုရဟန်းက ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဉ်-ဟူသော ဤခန္ဓာ ငါးပါးကို ဆင်းရဲဟု မြင်လာသည်။ ဆင်းရဲဆိုသည်မှာ ဆင်းရဲစရာ အမှီခံရှိ ၍သာ ဆင်းရဲဟူသော ဝေါဟာရအဖြစ်သို့ ရောက်လာ၏။ ဆင်းရဲ၏ ကျော ထောက်နောက်ခံ ဆင်းရဲစရာ မရှိခဲ့သော် ထိုဆင်းရဲသည် ဖြစ်မလာနိုင်။

မီး၌ လောင်ကျွမ်းစေတတ်သောသတ္တိ ရှိသော်လည်း ထိုမီးသည် ကျောက် ဖျာကို မလောင်ကျွမ်းချေ။ အကြောင်းသော်ကား လောင်ကျွမ်းစရာ မီးစ မရှိ သောကြောင့် ဖြစ်၏။ ဆင်းရဲသည်လည်း ခန္ဓာငါးပါးတည်းဟူသော ဆင်းရဲစရာ ရှိပေ၍သာ ဆင်းရဲခြင်း ဖြစ်သည်။ ခန္ဓာငါးပါးမရှိလျှင် ဆင်းရဲသည် မဖြစ်။

ဘုရားသခင်က ငါ့အား ဆင်းရဲသော သဘောတရား၌ လိုချင်မှုကို အပယ် ခိုင်းခြင်းမှာ ဆင်းရဲမည် စိုးသောကြောင့် ဆင်းရဲ၏ တည်ရာဖြစ်သော ခန္ဓာ ငါးပါးကို အစွန့်ခိုင်းခြင်းပါတကားဟူ၍ ချက်ချင်း နားလည်သဘောပေါက်လာ သည်။ အကျဉ်းဟောအပ်သောတရား၏ အဓိပ္ပာယ်ကို ကျယ်ကျယ်ပြန့်ပြန့်

သိမြင်လာသည်။ ထို့ကြောင့် "သိပါပြီဘုရား၊ သိပါပြီဘုရား" ဟူ၍ လျှောက်သတည်း။

ထိုတရားတော်ကို သာဝတ္ထိပြည်၊ ဇေတဝန်ကျောင်း၌ နေတော်မူစဉ် ရဟန်းရှစ်ပါးတို့က အသီးသီး "အကျဉ်းအားဖြင့် ဟောတော်မူပါ" ဟု တောင်းပန်လာသောကြောင့် ဟောအပ်သောဒေသနာ ဖြစ်လေသည်။

နတ်ဖြစ်၍ နတ်စည်းစိမ်၊ ဗြဟ္မာဖြစ်၍ ဗြဟ္မာစည်းစိမ်များကို ခံစားကြရသော်ငြားလည်း ခန္ဓာငါးပါးရှိနေသဖြင့် ဆင်းရဲမှ မလွတ်။ ဆင်းရဲသည် ထိုခန္ဓာငါးပါးရှိသော လူကောင်၊ နတ်ကောင်၊ ဗြဟ္မာကောင်တို့၌ ပျားကဲ့သို့ စွဲနေ၏။ ဆင်းရဲခြင်း မြဲ၏။ ဆင်းရဲမှ လွတ်သောသူ မရှိ။ ထို့ကြောင့် "ဆင်းရဲခြင်းနှင့် မကင်း။ ဆင်းရဲတင်းကျမ်းရှိသောတရား၌ လိုချင်မှုကိုပယ်" ဟူ၍ ဟောတော်မူခြင်း ဖြစ်သတည်း။



## ခါးကိုင်း နားထိုင်း ဇရာပိုင်း ရောက်လေသူတိုင်း

ပြဿနာ = နာကျင်မှု
မေး = နကုလပိတာသူကြွယ်
ဖြေ = ဗုဒ္ဓမြတ်ဘုရားနှင့် အရှင်သာရိပုတ္တရာ

အခါတစ်ပါး၌ မြတ်စွာဘုရားသည် ဘဂ္ဂတိုင်း၊ သံသုမာရဂိရိမြို့၊ ဘေသကဠာတောအုပ်၌ သီတင်းသုံးနေထိုင်တော်မူ၏။

သူအိုတစ်ယောက်သည် တောင်ဝှေးကို တဒေါက်ဒေါက်ထောက်လျက် ဘုရားသခင်ရှိရာသို့ လျှောက်လာ၏။ ထိုသူအိုကား သက်ရင့်သူကြွယ် ဖြစ်၏။ အမည်မှာ နကုလပိတာဟု တွင်သတည်း။

နကုလပိတာသူကြွယ်သည် ဘုရားသခင်အား လျှောက်ထားစရာရှိသောကြောင့် အိုမင်းမစွမ်း ရှိနေသော မိမိ၏ ခန္ဓာကိုယ်ကို တောင်ဝှေး၏ အကူအညီဖြင့် ဘုရားသခင်၏ ရှေ့တော်မှောက်ရောက်အောင် သယ်ဆောင်လာခဲ့ပြီးနောက် ဘုရားသခင်အား ရိုသေစွာရှိခိုးပြီးလျှင် သင့်လျော်သောနေရာ၌ ထိုင်လျက် ဘုရား သခင်နှင့် ပဋိသန္ထာရစကား ပြောဆို၏။ ထိုနောက်တွင် မြတ်စွာဘုရားအား ဤစကားကို သူ လျှောက်လေတော့၏။

"အရှင်ဘုရား၊ တပည့်တော် အိုမင်းပါပြီ။ အသက်ကြီးပါပြီ။ အရွယ်ကြီးပါပြီ။ အသက်ကြီးပါပြီ။ အရွယ်သုံးပါးတွင် တပည့်တော်သည် နောက်ဆုံးအရွယ်သို့ပင် ရောက်နေပါပြီ။ နာကျင်သောကိုယ် ရှိပါ၏။ မပြတ်နာကျင်၍ နေပါ၏။ အရှင်ဘုရား၊ တပည့်တော်သည် မြတ်စွာဘုရားကိုလည်းကောင်း၊ စိတ်နှလုံးကို ပွားစေတတ်သော ရဟန်းတို့ကိုလည်းကောင်း၊ အမြဲတစေ မဖူးမြင်နိုင်တောပါ။ အရှင်ဘုရား၊ မြတ်စွာဘုရားသည် တပည့်တော်အား ဆုံးမတော်မူပါ။

ကံမြစ်တော်မူပါ။ ယင်းအဆုံးအမတော်သည် တပည့်တော်အား ကြာမြင့်စွာသော ကာလပတ်လုံး စီးပွားချမ်းသာ အလို့ငှာ ဖြစ်ရာပါ၏"

သူကြွယ်သည် ကိုယ်တိုင်ကြုံတွေ့ခံစားနေရသော သူ့အိုတို့၏သဘာဝကို လျှောက်ထားပြီး ဆုံးမတော်မူပါဟု သူ၏ကိုယ်ကို ဘုရားသခင်ထံ အပ်နှင်းလေ၏။ ထိုအခါ မြတ်စွာဘုရားသည် အိုမင်းမစွမ်း ရှိနေပြီဖြစ်သော သူကြွယ်၏ အသွင် ရှုလျက်–

"သူကြွယ်၊ ဤစကားသည် မှန်၏။ သူကြွယ်၊ ဤစကားသည် ဟုတ် ၏။ သူကြွယ်၊ ဤကိုယ်သည် နာကျင်သည်သာတည်း။ ဥကဲ့သို့ ဖြစ်၏။ အရေပါးတို့ဖြင့် မွေးယုက်ထားအပ်၏။ သူကြွယ်၊ တစ်ဦးတစ်ယောက်သောသူသည် ဤကိုယ်ကို ရွက်ဆောင်နေရလျက် တစ်ခဏမျှသော်လည်း အနာကင်းခြင်းကို ဝန်ခံပါလျှင် ထိုသူအား မိုက်သည့်အဖြစ်မှတစ်ပါး အခြားမရှိချေ။ သူကြွယ်၊ ထို့ကြောင့် ဤအရာဝယ် သင်သည်– ငါသည် နာကျင်သောကိုယ် ရှိသူဖြစ်လျက် ငါ၏စိတ်သည် နာကျင်မှုကင်းသည် ဖြစ်လတ္တံ့."

ဤသို့ ကျင့်ရမည်ဟု မိန့်တော်မူသည်။

သူကြွယ်သည် ဤမိန့်တော်မူချက်၌ များစွာနှစ်သက်ခြင်း ဖြစ်လေ၏။ ကိုယ်သည် နာစရာ အမာခံ ဖြစ်သည်။ နာစရာကိုယ်ရှိ၍ နာကျင်ခြင်းဝေဒနာ ဖြစ်ရသည်။ ကိုယ်မရှိက နာကျင်ခြင်း ဖြစ်ဖွယ်မရှိဟု သဘောပေါက်လာသည်

ထို့နောက် နကုလပိတာသူကြွယ်သည် ဘုရားသခင်အား ရိုသေစွာရှိခိုး၍ အပါးတော်မှ ဖဲခွာခဲ့ပြီး ဝမ်းမြောက်စွာ တောင်ဝှေးကို တဒေါက်ဒေါက် ထောက်ကာ ထောက်ကာ အရှင်သာရိပုတ္တရာထံ ချဉ်းကပ်၏။ အရှင်သာရိပုတ္တရာသည် သူကြွယ်၏ အမူအရာကို အကဲခတ်၍ "သူကြွယ်၊ သင်၏ ဣန္ဒြေတို့သည် ကြည်လင်ကုန်၏။ မျက်နှာအဆင်းသည်လည်း စင်ကြယ်၏။ ဖြူစင်တောက်ပ၏။ ယနေ့ ဘုရားသခင်ထံမှ တရားတော်ကို ကြားနာခဲ့ရပါသလော" ဟု မေး၏။

ထိုအခါ သူကြွယ်က မိမိ ဘုရားသခင့်ထံသို့ ကြိုးစား၍ ချဉ်းကပ်ခဲ့ပုံ၊ နာကျင်မှုအကြောင်းများကို လျှောက်ထား၍ ဘုရားသခင်က တရားဟောလိုက်ပုံများကို ဝမ်းသာအားရ လျှောက်ထားလေ၏။

"သူကြွယ်၊ အဘယ်မျှဖြင့် နာကျင်သောကိုယ် ရှိသူဖြစ်၍ နာကျင်သော စိတ် ရှိသူလည်း ဖြစ်ပါသနည်း။ အဘယ်မျှဖြင့် နာကျင်သောကိုယ် ရှိသူသာဖြစ်၍ နာကျင်သောစိတ် မရှိသူ ဖြစ်ပါသနည်းဟု မြတ်စွာဘုရားအား ထိုထက်အလွန် ပြန်လျှောက်ရန် သင့်ဉာဏ်၌ မထင်ပြီလော" ဟု မေး၏။

"အရှင်ဘုရား၊ ဤစကား၏အနက်ကို သိလိုပါ၍ တပည့်တော်သည် အရှင်ဘုရားထံလာခဲ့ပါ၏။ မြတ်ဘုရား ဟောကြားလိုက်သောစကား၏ အကျယ်ဖြစ်သောအနက်ကို တပည့်တော်အား ဟောကြားတော်မူပါလော့" ဟု လျှောက်ထား၍ ပန်ခြင်း ပြုလေရကား--

"သူကြွယ်၊ ထိုသို့ နာကြားလိုသော် အာရုံစူးစိုက်၍ နာလော့။ သင့်အား ငါဟောကြားအံ့" ဟု မိန့်တော်မူပြီးလျှင် ဤသို့ အကျယ်ပွား၍ ဟောတော်မူသတည်း။

"သူကြွယ်၊ အဘယ်သို့လျှင် နာကျင်သောကိုယ်ရှိသူဖြစ်၍ နာကျင်သော စိတ် ရှိသူလည်း ဖြစ်သနည်း။

-သူကြွယ်၊ ဤသာသနာတော်၌ အကြားအမြင်မရှိသော၊ အရိယာတို့ကို မမြင်ဖူးသော၊ အရိယာတရား၌ မလိမ္မာသော၊ အရိယာတရား၌ မယဉ်ကျေးသော၊ သူတော်ကောင်းတို့ကို မဖူးမြင်ဖူးသော၊ သူတော်ကောင်းတရား၌ မလိမ္မာသော၊ သူတော်ကောင်းတရား၌ မယဉ်ကျေးသော ပုထုဇဉ်သည်-

-ရုပ်ကို အတ္တဟူ၍ ရှု၏။ ရုပ်ရှိသော အတ္တဟူ၍သော်လည်းကောင်း၊ အတ္တ၌ ရုပ်ဟူ၍သော်လည်းကောင်း၊ ရုပ်၌ အတ္တဟူ၍သော်လည်းကောင်း ရှု၏။-

-ငါသည် ရုပ်ဖြစ်၏။ ရုပ်သည် ငါ၏ဥစ္စာဖြစ်၏ဟု ထကြွလွှမ်းမိုးသော အခြင်းအရာအားဖြင့် တည်၏။-

-ရုပ်သည် ငါဖြစ်၏။ ရုပ်သည် ငါ၏ဥစ္စာဖြစ်၏ဟု ထကြွလွှမ်းမိုးသော အခင်းအရာအားဖြင့် တည်သောထိုသူ၏ ထိုရုပ်သည် ဖောက်ပြန်၏။ တစ်မျိုး တစ်ဖုံ ဖြစ်၏။-

-ထိုသူအား ရုပ်၏ဖောက်ပြန်ခြင်း၊ တစ်မျိုးတစ်ဖုံ ဖြစ်ခြင်းကြောင့် စိုးရိမ်မှု၊ ငိုကြွေးမှု၊ ပြင်းစွာပူပန်မှုတို့သည် ဖြစ်ကုန်၏"

အရှင်သာရိပုတ္တရာသည် သူကြွယ်အား ရုပ်ကို အကြောင်းပြု၍ "ငါ့အတ္တ၊ ငါ့ပစ္စည်း၊ ငါ့ဟာ၊ ငါ့ဥစ္စာ" ဟူ၍ အတ္တစွဲဖြင့် အစွဲအလမ်းကြီးသူအား စိုးရိမ်ပူဆွေးခြင်း၊ ငိုကြွေးမြည်တမ်းခြင်း၊ ကိုယ်စိတ်ဆင်းရဲခြင်း၊ ပြင်းစွာ ပူပန်ခြင်းတို့ ဖြစ်ကုန်၏။ ဤသည်ကား နာကျင်သောကိုယ်ရှိသူလည်း ဖြစ်၏။ နာကျင်သော စိတ် ရှိသူလည်း ဖြစ်၏။

"သူကြွယ်၊ အဘယ်သို့လျှင် နာကျင်သောကိုယ်ရှိသူသာဖြစ်၍ နာကျင် သောစိတ်ရှိသူ မဖြစ်သနည်း။

-ဤသာသနာ၌ အကြားအမြင်ရှိသော အရိယာတို့ကို ဖူးမြင်ဖူးသော၊

အရိယာတရား၌ လိမ္မာသော၊ အရိယာတရား၌ ယဉ်ကျေးသော၊ သူတော်ကောင်းတို့ကို ဖူးမြင်ဖူးသော၊ သူတော်ကောင်းတရား၌ လိမ္မာသော၊ သူတော်ကောင်းတရား၌ ယဉ်ကျေးသော အရိယာ၏တပည့်သည်–

ရုပ်ကို အတ္တဟူ၍ မရှု။
ဝေဒနာကို အတ္တဟူ၍ မရှု။
သညာကို အတ္တဟူ၍ မရှု။
သင်္ခါရကို အတ္တဟူ၍ မရှု။
ဝိညာဉ်ကို အတ္တဟူ၍ မရှု။

–ဝိညာဉ်ရှိသောအတ္တဟူဟူသော်လည်းကောင်း၊ အတ္တ၌ ဝိညာဉ်ဟူ၍လည်းကောင်း၊ ဝိညာဉ်၌ အတ္တဟူ၍လည်းကောင်း မရှု။ ဝိညာဉ်သည် ငါဖြစ်၏။ ဝိညာဉ်သည် ငါ၏ဥစ္စာဖြစ်၏ဟု ထကြွလွှမ်းမိုးသောအခြင်းအရာအားဖြင့် မတည်။ ထိုဝိညာဉ်သည် ငါ ဖြစ်၏။ ငါ၏ဥစ္စာဖြစ်၏ဟု ထကြွလွှမ်းမိုးသော အခြင်းအရာဖြင့် မတည်သော ထိုသူ၏ ဝိညာဉ်သည် ဖောက်ပြန်၏။ တစ်မျိုးတစ်ဖုံဖြစ်ခြင်းကြောင့် စိုးရိမ်မှု၊ ငိုကြွေးမှု၊ ကိုယ်စိတ်ဆင်းရဲမှု၊ ပြင်းစွာပူပန်မှု မဖြစ်ကုန်။ သူကြွယ်၊ ဤသို့လျှင် နာကျင်သောကိုယ် ရှိသူသာဖြစ်၍ နာကျင်သောစိတ်ရှိသူ မဖြစ်"

ဤသို့ မိန့်တော်မူလျှင် နကုလပိတာသူကြွယ်မှာ များစွာဝမ်းမြောက်ခြင်းဖြစ်လေ၏။ ဘုရားသခင်က ငါ့အား 'နာကျင်သောကိုယ်ရှိသူဖြစ်လျက် ငါ၏စိတ်သည် နာကျင်မှုကင်းသည်ဖြစ်လတ္တံ့.' ဟူ၍ မိန့်တော်မူသည်မှာ ရုပ်၊ ဝေဒနာစသည်တို့၌ အတ္တဟု မရှုလေနှင့်။ အတ္တဟူ၍ မရှုသူအား နာကျင်သောကိုယ်သာရှိ၍ နာကျင်သောစိတ် မရှိသူ၊ နာကျင်စိတ် ကင်းသူဟု မိန့်တော်မူခြင်းပါကလားဟူ၍ ဝမ်းမြောက်မိလေ၏။



## ဇာတ်သဘင်သည်များ ကွယ်လွန်သော်

ပြဿနာ = ဇာတ်သမား လားရာဂတိ
မေး = ဇာတ်ဆရာကြီး
ဖြေ = ဗုဒ္ဓမြတ်ဘုရား

ဇာတ်သခင်သည် သမိုင်းဦးကာလကတည်းကပင် လူနှင့်အတူတကွ ဖြစ်ပေါ်လာခဲ့သည်။ လူတို့၏ နားမျက်စိများကို တန်ဆာဆင်ပေးသော နားတန်ဆာ၊ မျက်စိတန်ဆာများ ဖြစ်၏။ ကပြခြင်း၊ သီဆိုခြင်း၊ တီးမှုတ်ခြင်းတို့ဖြင့် နားမျက်စိကို တန်ဆာဆင်ပေးကြသည်။ နှလုံးစိတ်ဝမ်း ချမ်းမြေ့ကြည်နူးရွှင်မြူးအောင် အသုံးတော်ခံကြသည်။ ဖျော်ဖြေကြသည်။

ဇာတ်သဘင်သည် သီဆိုကပြဖျော်ဖြေရုံမျှသာမဟုတ်ဘဲ ရှေးဟောင်း နိပါတ်ဇာတ်တော်ကြီးများမှ လူတို့အား သင်ခန်းစာရရှိသော ဝတ္ထုများကို ရွေးထုတ်ပြီး ခင်းကျင်းပြသခြင်းများ ပြုလုပ်ကြလေရာ ၎င်းဇာတ်ခန်းကို များစွာနှစ်ခြိုက်စွဲလမ်းကြကုန်၏။ ထို့ကြောင့်–

ဇာတ်လာလျှင် မှတ်စရာပါမှဟူ၍လည်းကောင်း၊

ဇာတ်ပြန်လျှင် မှတ်စရာကျန်မှဟူ၍လည်းကောင်း၊

မကြည့်တတ်လျှင် တဏှာ၊ ကြည့်တတ်လျှင် ဘာဝနာဟူ၍လည်းကောင်း ပြောစမှတ်ပြုကြလေသည်။

ဇာတ်သဘင်အကြောင်းနှင့်ပတ်သက်၍ ဗုဒ္ဓလက်ထက်တော်က ဇာတ်ဆရာကြီးတစ်ဦးကို သဠာယတနသံယုတ် ပါဠိတော်၊ ဂါမဏိသံယုတ်၌ တွေ့ရ၏။ သူ့အတွက် "တာလပုဋသုတ်" ဟူ၍ သုတ်တစ်သုတ် ဖွင့်ထားလေသည်။

သူ့အမည် တာလပုဋဟု ခေါ်သည်။ သူ့မှာ ဇာတ်သဘင် ရှိ၏။ ဇာတ်

သဘင်တစ်ခုကို ကိုယ်ပိုင်တည်ထောင်ထား၏။ တာလပုဋ္ဌဇာတ်ဆရာကြီးဟူ၍ သူ့ခေတ်သူ့အခါက အလွန်ရေပန်းစားခဲ့သော အကျော်အမော် ဇာတ်ဆရာကြီး ဖြစ်လေသည်။

အခါတစ်ပါးတွင် ထိုဇာတ်ဆရာကြီး ဦးတာလပုဋ္ဌသည် သူ့ဇာတ်အဖွဲ့နှင့် အနယ်နယ်တို့သို့ လှည့်လည်ကပြရာမှ ရာဇဂြိုဟ်ပြည်သို့ ရောက်ရှိသွားလေသည်။ သူ ရောက်ရှိသွားသောအချိန်၌ ဘုရားသခင်သည် ဝေဠုဝန်ကျောင်း၌ သီတင်းသုံးလျက်ရှိ၏။ ဇာတ်ဆရာကြီးသည် အခွင့်ကြုံဆဲတွင် ဘုရားသခင်ကို ဖူးမြော်ရန် ဝေဠုဝန်ကျောင်းသို့သွား၏။ ရောက်လျှင် သင့်လျော်သောနေရာ၌ နေ၍ ဘုရားသခင်ကို ရိုသေစွာ ရှိခိုး၏။

ဇာတ်ဆရာကြီးသည် သူ၏ ဇာတ်ဆရာဘဝကို အလွန်နှစ်သိမ့်နေ၏၊ ကြည်နူးနေ၏။ ပီတိဖြစ်နေ၏။ ဤသို့ ကြည်နူးနှစ်သိမ့် တစိမ့်စိမ့် ပီတိဖြစ်နေခြင်းမှာ အကြောင်းမဲ့ မဟုတ်။ ဇာတ်သဘင်နှင့်ပတ်သက်၍ နှစ်သိမ့်ကြည်နူးလောက်သောစကားများကို ကြားဖူးထားသောကြောင့် ဖြစ်လေသည်။

ဘုရားသခင်ကို ဖူးမြင်ရလေသောအခါ သူ ကြားဖူးသောစကားများနှင့် ဘုရားသခင်၏ အာဘော်ကို ညှိနှိုင်းကြည့်လိုသောဆန္ဒများ တဘွားဘွား ဖြစ်ပေါ်လာသည့်အလျောက် မြတ်စွာဘုရားအား လျှောက်ထားမေးမြန်းခြင်း ပြုလေသတည်း။

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ပွဲအလယ် သဘင်အလယ်၌ မှန်မမှန်အားဖြင့် လူအပေါင်းကို ရွှင်ပျနှစ်သက်စေသော ကချေသည်သည် ခန္ဓာပျက်ကြွေ သေပြီးသည့်မှနောက်၌ 'ပဟာသ' မည်သော နတ်တို့၏အသင်းဝင် ဖြစ်၏ဟု ပြောဆိုကြကုန်သော ရှေးဆရာ့ဆရာ သဘင်ကချေသည်တို့၏စကားကို ကြားရဖူးပါ၏။ ဤအရာ၌ မြတ်စွာဘုရားသည် အဘယ်သို့ ဆိုလိုပါသနည်း' ဟု လျှောက်ထားသောအခါ မြတ်စွာဘုရားက ဟန့်တားတော်မူ၏။

"ဇာတ်ဆရာကြီး၊ မသင့်လျော်။ ဤစကားဤတွင်ရပ်လော့။ ငါ့ကို မမေးလင့်" ဟု တားမြစ်တော်မူ၏။

သို့သော် ဇာတ်ဆရာကြီး သန္တာန်၌ ဤပြဿနာ ကိန်းဝပ်လာခဲ့သည်မှာ ကြာပြီဖြစ်၍ ငါ့ကို မမေးလင့်ဟူသော ဘုရားသခင်၏ တားမြစ်ချက်ကို ရိုသေလေးစားသောအားဖြင့် တန့်ရပ်ပြီး ခဏမျှကြာသော် ထိုပြဿနာကို ထပ်၍ တင်ပြပြန်၏။

တစ်ကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ်၊

မြတ်စွာဘုရားက ဓာတ်ဆရာကြီးအား မေးလေတိုင်း မေးလေတိုင်း 'ငါ့ကို မမေးလင့်၊ ငါ့ကို မမေးလင့်' ဟူက တားမြစ်တော်မူသော်လည်း ဓာတ်ဆရာကြီးသည် ဘုရားစကားတော်ကို ပယ်ရှားလို၍မဟုတ်၊ သိလိုလှသော အာသာဆန္ဒက မွှတ်ထုတ်လိုက်သောကြောင့် စတုတ္ထအကြိမ်အထိ ဖြစ်လာ၏။

ထိုအခါတွင် မြတ်စွာဘုရားသည် မေးသူ၏အလိုသို့ လိုက်လျောသည့်အနေဖြင့် ဓာတ်သဘင်သည်များ ကွယ်လွန်သော် နတ်ဖြစ်-မဖြစ် ပြဿနာအတွက် ဤသို့ မိန့်မြွက်တော်မူသတည်း။

**မှတ်ချက်** ။ ။ (ဤပြဿနာသည် အရေးကြီးသောပြဿနာတစ်ရပ်ဖြစ်ခြင်းကြောင့် ဘုရားသခင်၏ မိန့်ကြားချက်ကို မူရင်းကျကျ သိလိုသူများ လေ့လာမှတ်သားနိုင်စေခြင်းငှာ သံယုတ်ပါဠိတော် မြန်မာပြန် (ဆဋ္ဌမူ) စာမျက်နှာ ၄၈၈ မူရင်းအတိုင်း ဖော်ပြထားပါသည်)

"ဓာတ်ဆရာကြီး၊ မသင့်လျော်။ ဤစကားကို ရပ်လော့။ ငါ့ကို မမေးလင့်ဟု မချွတ်လျှင် သင့်ကို ငါပြော၍ မရခဲ့ပေ။ သို့ဖြစ်လျှင် သင့်အား ငါ ဖြေကြားအံ့။-

-ဓာတ်ဆရာကြီး၊ ရှေးအစကပင် သတ္တဝါတို့သည် မကင်းသော စွဲမက်မှုရာဂ ရှိကုန်၏။ စွဲမက်မှုရာဂနှောင်ကြိုးဖြင့် ဖွဲ့အပ်ကုန်၏။ ထိုသူတို့အား ကချေသည်သည် ပွဲအလယ်၌ စွဲမက်မှုကို ဖြစ်စေတတ်သောတရားတို့ကို အတိုင်းထက်အလွန် ရှေးရှုဆောင်၏။-

-ဓာတ်ဆရာကြီး၊ ရှေးအစကပင် သတ္တဝါတို့သည် မကင်းသော အမျက်ဒေါသ ရှိကုန်၏။ အမျက်ဒေါသနှောင်ကြိုးတို့ဖြင့် ဖွဲ့အပ်ကုန်၏။ ထိုသူတို့အား ကချေသည်သည် ပွဲအလယ် သဘင်အလယ်၌ အမျက်ထွက်စေတတ်သောတရားတို့ကို အတိုင်းထက်အလွန် ရှေးရှုဆောင်၏။-

-ဓာတ်ဆရာကြီး၊ ရှေးအစကပင် သတ္တဝါတို့သည် မကင်းသော တွေဝေမှု-မောဟ ရှိကုန်၏။ တွေဝေမှု-မောဟနှောင်ကြိုးဖြင့် ဖွဲ့နှောင်အပ်ကုန်၏။ ထိုသူတို့အား ကချေသည်သည် ပွဲအလယ်၌၊ သဘင်အလယ်၌ တွေဝေစေတတ်သောတရားတို့ကို အတိုင်းထက်အလွန် ရှေးရှုဆောင်၏။-

-ထိုကချေသည်သည် မိမိကိုယ်တိုင် ယစ်မူးမေ့လျော့လျက် သူတစ်ပါးတို့ကို ယစ်မူးမေ့လျော့စေရကား ခန္ဓာပျက်ကြွေသည်မှနောက်၌ ပဟာသမည်သော ငရဲသို့ ရောက်ရ၏။ ပွဲလယ်သဘင်လယ်၌ မှန် မမှန်အားဖြင့် လူအပေါင်း

ရွှင်ပျမွေ့လျော်စေသော ကချေသည်သည် ခန္ဓာပျက်ကြွေ သေပြီးသည့်မှနောက်၌ ပဟာသမည်သော နတ်တို့၏ အသင်းဝင်အဖြစ်သို့ ရောက်ရ၏ဟု ထိုသူအား အယူဖြစ်ခဲ့မူ ထိုသူ၏အယူသည် မှားသောအယူသာ ဖြစ်၏။-

-ဓာတ်ဆရာကြီး၊ မှားသောအယူရှိသော ပုဂ္ဂိုလ်သတ္တဝါအား ငရဲ တိရစ္ဆာန်ဟူသော လားရာဂတိနှစ်ပါးတို့တွင် တစ်ပါးပါးသော လားရာဂတိကို ငါ ဟော၏" ဟု မိန့်တော်မူ၏။

ဤသို့ မိန့်တော်မူသော် တာလပုဋဓာတ်ဆရာကြီးသည် ငိုလေ၏။ မျက်ရည်ကျ၏။

"ဓာတ်ဆရာကြီး၊ မသင့်လျော်၊ ဤစကားကို ရပ်လော့၊ ငါ့ကို သင်မမေးလင့်ဟု သင့်ကို ငါ မြော၍ မရခဲ့ပေ"

"အရှင်ဘုရား၊ မြတ်စွာဘုရား ဤသို့ မိန့်တော်မူသောစကားကို တပည့်တော် ရည်ရွယ်ပြီး ငိုသည် မဟုတ်ပါ"

"သို့မဟုတ်သော် အဘယ်ကြောင့် ငိုဘိသနည်း"

"သည်လိုပါ အရှင်ဘုရား၊ ပွဲလမ်းသဘင်လယ်၌ မှန်-မမှန်အားဖြင့် လူအပေါင်းကို ရွှင်ပျမွေ့လျော်စေသော ကချေသည်သည် ခန္ဓာပျက်ကြွေ သေပြီးသည့်မှနောက်၌ ပဟာသမည်သောနတ်တို့၏အသင်းဝင်အဖြစ်သို့ ရောက်ရ၏ဟု ရှေးဆရာ့ဆရာ ကချေသည်တို့သည် တပည့်တော်အား အချိန်ကြာမြင့်စွာကပင် ကောက်ကျစ်လှည့်ပတ် ဖြားယောင်းခဲ့ပုံများကို သတိရ၍ ငိုမိပါသည်"

ထို့နောက် ဓာတ်ဆရာကြီးသည် သဘင်သည်အလုပ်ကို စွန့်လွှတ်လိုက်ပြီး မြတ်စွာဘုရားအထံတော်၌ ရှင်အဖြစ်၊ ပဉ္စင်းအဖြစ်ကို ခံယူလေ၏။ ပဉ္စင်းဖြစ်သောအခါ၌လည်း နာမည်ဟောင်းအတိုင်း အရှင် တာလပုဋဟူ၍ တွင်၏။

တရားကို မဆုတ်မနစ် အားသစ်ကြိုးပမ်းသဖြင့် အာသဝေါကုန်ခန်း၍ ရဟန္တာတို့တွင် တစ်ပါးအပါအဝင် ဖြစ်လေသတည်း။



## မျက်စိသည် အဆင်းတို့၏
## အနှောင်အဖွဲ့ သံယောဇဉ်လား

ပြဿနာ = မျက်စိနှင့် ရူပါရုံ

မေး = အရှင်ကာမဘူ

ဖြေ = အရှင်အာနန္ဒာ

မှတ်ချက် ။ ။ ဘုရားသခင်အား တိုက်ရိုက်မေးလျှောက်ခြင်းမဟုတ်သော်လည်း အဖြေမှာ ဘုရားသခင်၏အလိုတော်ကျအတိုင်းဖြစ်၍ ဤ၌ဖော်ပြအပ်ပါသည်။

ရေသည် တိမ်တိမ်ကလေး ထင်ရသော်လည်း နက်တတ်၏။ နက်သည် ထင်ရသော်လည်း တိမ်နေတတ်၏။ အချို့ရေများသည်ကား နက်ယောင်ထင်လျက် အကယ်ပင် နက်ချေ၏။ တိမ်ယောင်ထင်လျက် အကယ်ပင် တိမ်ချေ၏။

ပြဿနာများသည်လည်း ထို့အတူပင်တည်း။ အချို့မှာ လွယ်ယောင်နှင့် ခက်၍၏။ အချို့မှာ ခက်ယောင်နှင့်လွယ်၏။ အချို့မှာ လွယ်ယောင်နှင့် လွယ်၏။ အချို့မှာ ခက်ယောင်နှင့်ခက်သော ပြဿနာများလည်း ရှိတတ်ပေသည်။

ယင်းပြဿနာအတွက် သဠာယတနသံယုတ်ပါဠိတော်လာ ကာမဘူသုတ်လည်း သာဓကဖြစ်နိုင်၏။

မှန်ပါသည်။ တစ်နေ့သ၌ အရှင်အာနန္ဒာနှင့် အရှင်ကာမဘူတို့သည် ကောသမ္ဗီပြည်၊ ဃောသိတာရုံကျောင်းတော်၌ သီတင်းသုံး နေထိုင်ကုန်၏။ ကျောင်းတစ်ကျောင်းစီနှင့် သီးခြားနေကြ၏။

တစ်ညတွင် အရှင်ကာမဘူသည် ကျိန်းစက်၍ မပျော်နိုင်ဘဲ ဖြစ်နေသည်။ ပြဿနာတစ်ရပ် သူ့ဦးနှောက်ထဲ ဝင်ရောက်လာသောကြောင့် ဖြစ်၏။ အရှင်ကာမဘူသည် ထိုပြဿနာကို ခေါက်တုံ့ခေါက်ပြန် စဉ်းစားသည်။ စဉ်းစား၍ အဖြေရှာသည်။ ရေးရေးမျှ အဖြေမပေါ်၍ လက်လျှော့သည့်အနေဖြင့် ဟင်းခနဲ သက်ပြင်းချလိုက်ပြီး အိပ်ရာမှထ၍ အခန်းပြင်သို့ ထွက်ခဲ့လေ၏။

ထိုအချိန်တွင် အရှင်အာနန္ဒာသည် ကျောင်းရှေ့ အင်ကြင်းပင်ကြီးအောက်ရှိ ကျောက်အင်းပျဉ်၌ ရှိနေ၏။ ကောင်းကင်မှ ဝေ္ဆန်းစန္ဒာ လစကြာသည် ဃောသိတာရုံကျောင်းတိုက်ကြီးကို အလင်းဓာတ်ရောင်ခြည်ဖြင့် ပူဇော်သကဲ့သို့ ရှိနေ၏။ အရှင်အာနန္ဒာသည် အရှင်ကာမဘူ လာနေသည်ကိုမြင်လျှင် "ကြွော်-ငါ့ရှင်" ဟု နှုတ်ခွန်းဆက်လိုက်၏။ ကျောက်အင်းပျဉ်ထက်တွင် အရှင်အာနန္ဒာ အနီး၌ အရှင်ကာမဘူက ဝင်ထိုင်၏။

အရှင်နှစ်ပါးတို့သည် ခဲရာခဲဆစ် အဖုအထစ်များ ရှိလာခဲ့သော် ဆွေးနွေးတိုင်ပင် အမြင်ချင်းဖလှယ်လေ့ ရှိကြသည့်အတိုင်း အရှင်အာနန္ဒာ၏အထံသို့ ယခုလာရောက်ခြင်းမှာ သူ၏ရင်တွင်း၌ မရှင်းမလင်း တစ်ဆို့ဆို့ကြီး ဖြစ်နေသော ပြဿနာကြောင့် ဖြစ်၏။ ထိုပြဿနာအတွက် အဖြေကို အရှင်အာနန္ဒာထံမှ ရယူလိုသောကြောင့် ဖြစ်လေသည်။

ထိုပြဿနာကား အဘယ်သို့သော ပြဿနာဖြစ်လေသနည်း။

ထိုပြဿနာမှာ သူ့အတွက် သူ သိလိုသောကြောင့် မေးသောပြဿနာ ဖြစ်သော်လည်း စင်စစ် မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ မနောပါသော သူခပ်သိမ်းတို့နှင့်ဆိုင်သော ပြဿနာအဖြစ် ရပ်တည်လာ၏။ အရှင်အာနန္ဒာသည် အ,ကာလ ညအခါ လာရောက်သည်ကိုထောက်၍ ကိစ္စတစ်ခုခုရှိသောကြောင့်သာဟု ရိပ်စားမိသဖြင့် ဤသို့ဆိုသတည်း။

"ငါ့ရှင် ကာမဘူ၊ အခါမဲ့လာရောက်ခြင်းမှာ အကြောင်းရှိသည် ထင်၏"

"မှန်လေ၏ ငါ့ရှင်။ အကြောင်းရှိ၍ လာခဲ့ပါ၏"

"သို့ဖြစ်ဘိသော် ငါ့ရှင်ဆိုလော့။ မည်သို့သောအကြောင်းပေနည်း" ဟု အရှင်အာနန္ဒာက လမ်းဖွင့်ပေးလိုက်၏။ ထိုအခါ အရှင်ကာမဘူသည် သူ ထွေးပိုက်ယူဆောင်လာခဲ့သော ခဲရာခက်ဆစ် ပြဿနာထုပ်ကို အရှင်အာနန္ဒာအား ဤသို့ ဖွင့်ပြလေသတည်း။

(မေး) "ငါ့ရှင် အာနန္ဒာ၊

- မျက်စိသည် အဆင်းရူပါရုံ၏ အနှောင်အဖွဲ့ သံယောဇဉ်လော။ အဆင်းရူပါရုံတို့သည် မျက်စိ၏ အနှောင်အဖွဲ့၊ မျက်စိ၏ သံယောဇဉ်လော။
- နားသည် အသံသဒ္ဒါရုံ၏ အနှောင်အဖွဲ့ သံယောဇဉ်လော။ အသံသဒ္ဒါရုံသည် နား၏ အနှောင်အဖွဲ့၊ နား၏ သံယောဇဉ်လော။
- နှာခေါင်းသည် အနံ့တို့၏ အနှောင်အဖွဲ့ သံယောဇဉ်လော။ အနံ့တို့သည် နှာခေါင်း၏ အနှောင်အဖွဲ့၊ နှာခေါင်း၏ သံယောဇဉ်လော။
- လျှာသည် အရသာတို့၏ အနှောင်အဖွဲ့ သံယောဇဉ်လော။ အရသာတို့သည် လျှာ၏ အနှောင်အဖွဲ့၊ လျှာ၏ သံယောဇဉ်လော။
- ကိုယ်သည် ထိတွေ့မှုတို့၏ အနှောင်အဖွဲ့ သံယောဇဉ်လော။ ထိတွေ့မှုသည် ကိုယ်၏အနှောင်အဖွဲ့၊ ကိုယ်၏သံယောဇဉ်လော။
- စိတ်သည် သဘောတရားတို့၏ အနှောင်အဖွဲ့ သံယောဇဉ်လော။ သဘောတရားတို့သည် စိတ်၏ အနှောင်အဖွဲ့၊ စိတ်၏ သံယောဇဉ်လော"

ဤပြဿနာခြောက်သွယ်ကို တစ်ဆက်တည်း တင်ပြလေ၏။ ဤမေးခွန်းများကို ကြည့်ခြင်းအားဖြင့် မျက်စိ၊ နား၊ နှာ စသော အာယတန ခြောက်ပါးပါရှိသူတိုင်းနှင့်သက်ဆိုင်ကြောင်း ထင်ရှား၏။ မျက်စိက ရူပါရုံကို မြင်၏။ ဤသို့ မြင်ခြင်းဟာ မျက်စိက ရူပါရုံကို နှောင်ဖွဲ့တာလား။ သို့မဟုတ် အဆင်းရူပါရုံများကို မျက်စိမြင်၏။ ဤသို့မြင်ခြင်းဟာ ရူပါရုံများက မျက်စိကို မလှုပ်နိုင်အောင် ချုပ်ကိုင်နှောင်ဖွဲ့တာလားဟူ၍ မေးခြင်းပင်တည်း။

ဤပြဿနာမှာ တိမ်သယောင်နှင့် နက်လှ၏။ ထိုပြဿနာအတွက် အရှင်အာနန္ဒာက မည်သို့ဖြေတော်မူလေသနည်း။

(ဖြေ) "ငါ့ရှင် ကာမဘူ၊

- မျက်စိသည် အဆင်းရူပါရုံတို့၏ အနှောင်အဖွဲ့ သံယောဇဉ် မဟုတ်။ အဆင်း ရူပါရုံတို့သည် မျက်စိ၏ အနှောင်အဖွဲ့၊ မျက်စိ၏ သံယောဇဉ် မဟုတ်။ အမှန်အားဖြင့်သော်ကား ထိုမျက်စိနှင့် အဆင်းရူပါရုံ နှစ်မျိုးလုံးကို စွဲ၍ဖြစ်သော လိုချင်စွဲလမ်းမှု–ဆန္ဒရာဂသည် ထိုနှစ်မျိုးလုံး၌ အနှောင်အဖွဲ့၊ ထိုနှစ်မျိုးလုံး၌ သံယောဇဉ် မည်၏။ (နား–နှာ–ထို့အတူပင်)
- စိတ်သည် သဘောတရားတို့၏ အနှောင်အဖွဲ့၊ သဘောတရားတို့၏

သံယောဇဉ် မဟုတ်။ သဘောတရားတို့သည် စိတ်၏အနှောင်အဖွဲ့၊ စိတ်၏ သံယောဇဉ် မဟုတ်။ အမှန်အားဖြင့်သော်ကား ထိုစိတ်နှင့် သဘောတရား နှစ်မျိုးစလုံးကိုစွဲ၍ဖြစ်သော လိုချင်စွဲလမ်းမှု–ဆန္ဒရာဂသည် ထိုနှစ်မျိုးစလုံး၌ အနှောင်အဖွဲ့၊ ထိုနှစ်မျိုးစလုံး၌ သံယောဇဉ် မည်၏"

မျက်စိက ရုပါရုံ အချောအလှ၊ အကျည်းတန် အရုပ်ဆိုး၊ တိုက်တာအိမ်ကျောင်း၊ တန်ဆောင်းပြာသာဒ်၊ ကျွဲနွားတိရစ္ဆာန် စသည်တို့ကို မြင်ခြင်းသည်လည်း မျက်စိက နှောင်ဖွဲ့ခြင်း မဟုတ်။ ထိုသို့ အချောအလှ၊ အကျည်းတန် အရုပ်ဆိုး၏ မျက်စိ၌ ထင်ခြင်းသည်လည်း အနှောင်အဖွဲ့ မဟုတ်။ သံယောဇဉ် မဟုတ်ဟု အရှင်အာနန္ဒာက ဖြေ၏။

အရှင်ကာမဘူ၏ "မျက်စိက အဆင်း၏ အနှောင်အဖွဲ့လား၊ အဆင်းများသည် မျက်စိ၏ သံယောဇဉ်လား" ဟူသော အမေးနှစ်ခုစလုံး၊ တစ်ခုမျှ မဟုတ်။ ရူပါရုံ၊ သဒ္ဒါရုံ စသည်တို့၌ ကြိုးဖြင့် တုပ်နှောင်ထားဘိသကဲ့သို့ မလှုပ်နိုင်အောင် သံယောဇဉ် ငြိတွယ်နေခြင်းမှာ လိုချင်စွဲလမ်းမှု–ဆန္ဒရာဂကြောင့်သာ ဖြစ်ကြောင်းကို ထင်ရှားအောင် အရှင်အာနန္ဒာက ဥပမာဖြင့် ထပ်၍ ရှင်းပြတော်မူ၏။

"ငါ့ရှင် ကာမဘူ၊ ဥပမာသော်ကား နက်သောနွားနှင့် ဖြူသောနွား၊ ဤနွားနှစ်ကောင်ကို တစ်ချောင်းတည်းသောလျှော်ကြိုးဖြင့်လည်းကောင်း၊ လွန်ကြိုးဖြင့်လည်းကောင်း ချည်ထားရာ၏။ ဤသည်ကို တစ်စုံတစ်ယောက်သော သူက နွားနက်သည် နွားဖြူ၏ အနှောင်အဖွဲ့တည်း၊ နွားဖြူသည် နွားနက်၏ အနှောင်အဖွဲ့တည်းဟု ပြောဆိုရာ၏။ ထိုသို့ ပြောဆိုသောသူသည် အမှန်ပြောဆိုသည် မည်ရာသလော"

"ငါ့ရှင်၊ မမည်နိုင်ပါ"

"ငါ့ရှင် ကာမဘူ၊ နွားနက်သည် နွားဖြူ၏ အနှောင်အဖွဲ့ မဟုတ်။ နွားဖြူသည် နွားနက်၏ အနှောင်အဖွဲ့ မဟုတ်။ အမှန်အားဖြင့်သော်ကား ထိုနွားနှစ်ကောင်တို့ကို တစ်ချောင်းတည်းသော လျှော်ကြိုးဖြင့်လည်းကောင်း၊ လွန်ကြိုးဖြင့်လည်းကောင်း ချည်ထားကုန်၏။ ထိုချည်ထားသောကြိုးသည် ထိုနွားနှစ်ကောင်၌ အနှောင်အဖွဲ့သည် မည်၏။–

–ငါ့ရှင်၊ ဤအတူ မျက်စိသည် အဆင်းရူပါရုံတို့၏ အနှောင်အဖွဲ့ မဟုတ်။ သံယောဇဉ် မဟုတ်။ အဆင်း ရူပါရုံတို့သည် မျက်စိအနှောင်အဖွဲ့

မဟုတ်။ သံယောဇဉ် မဟုတ်။ အမှန်အားဖြင့်သော်ကား ထိုနှစ်မျိုးလုံးကိုစွဲ၍ ဖြစ်သော လိုချင်တပ်မက်မှု-ဆန္ဒရာဂသည် ထိုနှစ်မျိုးစလုံး၌ အနှောင်အဖွဲ့မည်၏။ သံယောဇဉ် မည်ပေ၏"

ဤသို့ အရှင်အာနန္ဒာ၏အဖြေစကားကို ကြားရသောအခါ အရှင် ကာမဘူ ၏ သန္တာန်၌ ကျိန်းစက်မရအောင် ဖြစ်နေသော ခိုးလိုးခုလု အဖုအထစ်ကြီးမှာ ချုပ်ဆုံးသွားလေသတည်း။

လရောင်သည် ဃောသိတာရုံကျောင်းတော်ကြီးကို အမှောင်ခွင်း၍ အလင်း ဆောင်ဘိသကဲ့သို့ ထို့အတူ အရှင်အာနန္ဒာ၏ ဉာဏ်တော်ရောင်သည် မှောင်ကျ နေသော အရှင်ကာမဘူ၏ နှလုံးတိုက်ခန်းဆောင်ကို အမှောင်ခွင်း၍ အလင်း ဆောင်လေပြီတည်း။



## သောက ကင်းဝေးသူများ

ပြဿနာ = သောကပရိဒေဝ
မေး = သိကြားမင်း
ဖြေ = ဘုရားအလောင်း လယ်သမား မိသားစု

လောက၌ လူသေလျှင် မိုးပြိုသကဲ့သို့ ပြိုကုန်၏။ ဝိုင်း၍ ငိုကြကုန်၏။ ငိုချင်းသည်များ ဖြစ်ကုန်၏။

ကမ္ဘာနှင့်ချီ၍ ငိုကြကုန်သော ထိုငိုချင်းသည်၊ ဤငိုချင်းသည်များထဲတွင် သူတို့မိသားစု မပါချေ။ သူတို့မိသားစုကား မည်သူပင် သေဆုံးသည်ဖြစ်စေ၊ တစ်စုံတစ်ရာ စိုးရိမ်ခြင်း၊ ပူဆွေးခြင်း၊ ငိုကြွေးခြင်း မဖြစ်။ သူတို့အကြောင်း ငါးရာငါးဆယ် ပဉ္စကနိပါတ်၊ ဥရဂဇာတ်၌ လာသည်။

သူတို့ကား ဗာရာဏသီပြည်သား လယ်သမားများ ဖြစ်ကြသည်။ သူတို့မိသားစုမှာ အဘ-တစ်၊ အမိ-တစ်၊ သား-တစ်၊ ချွေးမ-တစ်၊ သမီး-တစ်၊ ကျွန်မ-တစ် အားဖြင့် အားလုံး မိသားစု ခြောက်ယောက် ရှိ၏။ ယင်းတို့အနက်မှ ဖခင်သည် ဘုရားအလောင်းတည်း။ ကံသခင်၏ စီရင်ချက်အရ ဗာရာဏသီပြည်ဝယ် တစ်ခုသောရွာယ်ဝယ်၌ လယ်သမားကြီး ဖြစ်နေ၏။

ဘုရားအလောင်း လယ်သမားကြီး၏ အုပ်ချုပ်မှုအောက်တွင် ဝမ်းမြောက်စွာ နေထိုင်ကြကုန်၏။ ဘုရားအလောင်း ဖခင်၏ ဩဝါဒမှာ-

"သင်တို့သည် အကြင်အကြင် ရအပ်သောအမှတ်ဖြင့်လျှင် အလှူကို ပေးကုန်လော့။ သီလကို စောင့်ကုန်လော့။ ဥပုသ်သည်ဟူသောမှုကို ပြုကုန်လော့။ သေခြင်း၌ အောက်မေ့ခြင်းကို ပြုကြကုန်လော။ သင်တို့၏ သေအံ့သောအဖြစ်ကို မှတ်ကြကုန်လော့။ ဤသတ္တဝါတို့အား သေခြင်းသည် မြဲ၏။ အသက်ရှင်ခြင်း

သည် မမြဲ။ ခပ်သိမ်းသော သင်္ခါရတို့သည် အနိစ္စ ဖြစ်ကုန်၏။ ကုန်ခြင်း၊ ပျက်ခြင်း သဘောရှိကုန်၏။ ညဥ့်၌လည်းကောင်း၊ နေ့၌လည်းကောင်း မမေ့မလျော့ ဖြစ်ကုန်လော့" ဟု အဆုံးအမကို ပေး၏။ ထိုငါးယောက်သောသူတို့သည် "ကောင်းပါပြီ" ဟု အဆုံးအမခံ၍ မမေ့မလျော့ ဖြစ်ကုန်လျက် မရဏာနုဿတိကို ပွားကုန်သတည်း။

တစ်နေ့သောအခါ သားအဘနှစ်ယောက်သည် ထွန်နွားတို့ကိုယူ၍ လယ်တောသို့ သွားကုန်၏။ နံနက်ခင်း နေခြည်အောက်တွင် အဘဖြစ်သူ ဘုရားလောင်းက ယာထွန်နေ၏။ သားဖြစ်သူက ယာတွင်းရှိ အမှိုက်သရိုက်များကို စုပုံ၍ မီးရှို့ကာ အလုပ်ကိုယ်စီ လုပ်နေကြ၏။

မီးခိုးလုံးကြီးများသည် ကောင်းကင်သို့ တလူလူတက်နေ၏။ ထိုမီးဖိုအနီးတွင် တောင်ပို့ကြီးတစ်ခု ရှိလေရာ မီးခိုးတို့သည် တောင်ပို့ခေါင်းထဲသို့လည်း ဝင်ကုန်၏။ ထိုတောင်ပို့ထဲ၌ မြွေကြီးတစ်ကောင် နေ၏။ မီးခိုးမှိုင်းများသည် မြွေဟောက်ကြီး၏မျက်စိ၌ သင့်လေသောကြောင့် မနေနိုင်သဖြင့် အပြင်သို့ ရုန်းကန်၍ အတင်းတိုးထွက်လေ၏။ အပြင်ရောက်သောအခါ အမှိုက်သရိုက်များကို မီးပုံထဲသို့ ပစ်ထည့်နေသော သားကို မြင်လေသော် ဒေါသအမျက်ခြောင်းခြောင်း ထွက်လာပြီး "ဤသူကြောင့် ငါ့အား ဘေးဖြစ်ရသည်" ဟူ၍ စွယ်ဖျားမြမြ ဖြင့် တစ်အားပေါက်လေသတည်း။

သားဖြစ်သူသည် "အား" ဟူ၍ တစ်ချက်သာ အော်နိုင်ပြီး မုံးမုံးလဲကျသွားလေ၏။ ဖခင်သည် လယ်ထွန်နေစဉ် သားအော်လိုက်သောအသံကြောင့် 'ဘာဖြစ်ပါလိမ့်' ဟူ၍ ထွန်ကိုရပ်ကာ သားဆီသို့သွား၍ ရောက်လေသောအခါ မီးပုံဘေးတွင် ကွေးကွေးကလေး သေနေသောသားကို တွေ့ရလေ၏။ သား၏အလောင်းကို ပခုံးပေါ်ထွန်း၍ ယာဘေးရှိ သစ်ပင်အောက်၌ ချထားခဲ့ပြီးနောက် ယာကို ထွန်မြဲပြန်၍ထွန်၏။ မျက်ရည်မစို၊ မငို။ 'ပျက်စီးတတ်သောသဘောရှိသော ဝတ္ထုသည်ကား ပျက်စီး၏။ သေတတ်သောသဘောရှိသော ဝတ္ထုသည်ကား သေ၏။ ခပ်သိမ်းသော သင်္ခါရတို့သည် အနိစ္စဖြစ်ကုန်၏။ သေခြင်းလျှင် အပြီးရှိကုန်၏' ဟု ဤသို့ အနိစ္စသဘောကို နှလုံးသွင်းလျက် ယာထွန်မြဲ ထွန်နေသတည်း။

ထိုအချိန်တွင် အိမ်နီးချင်း ယောကျ်ားတစ်ယောက်သည် ယာဘေးရှိ လမ်းအတိုင်းလာသည်ကို ဘုရားအလောင်းက မြင်လေသော် ထိုသူကိုခေါ်၍ မှာလိုက်၏။

"အမောင်၊ ကျုပ်အိမ်သို့ သွား၍ ပြောပေးပါ။ ထမင်းကို ယနေ့ တစ်ယောက်စာသာ ယူခဲ့ပါ။ ထမင်း လာပို့ရာမှာလည်း ခါတိုင်းကဲ့သို့ ကျွန်မ တစ်ယောက်သာ မဟုတ်။ မိသားစုအားလုံး လိုက်ခဲ့ပါ။ သန့်စင်စွာ မိုးရေချိုး၊ အမွှေးနံ့သာလိမ်း၊ သစ်လွင်သော အဝတ်အစားများကို ဝတ်ဆင်ခဲ့ကြပြီး နံ့သာများ ယူလာခဲ့ကြဟု ကျုပ်က မှာလိုက်ကြောင်း ကျုပ်အိမ်ကို သွားပြောပေးပါ" ဟု မှာလိုက်၏။

ထိုသူလည်း "ကောင်းပါပြီ" ဟု ဝန်ခံပြီးလျှင် လယ်သမားကြီးက မှာကြားလိုက်သောစကားများကို လယ်သမား၏ဇနီးအား ပြောပြ၏။ ဇနီး၊ သမီး၊ ချွေးမနှင့် ကျွန်မတို့သည် မှာလိုက်သောအတိုင်း ရေချိုး၊ နံ့သာလိမ်း၊ ပန်းပန်၊ ဝတ်ကောင်းစားလှဝတ်ဆင်၍ နံ့သာများကို ယူဆောင်လျက် လယ်တောသို့ လိုက်သွားကြ၏။ လယ်တောသို့ရောက်သော် သေနေသော သား၏အလောင်းကို သစ်ပင်အောက်၌ တွေ့ကြသော်လည်း တစ်ယောက်မျှ မျက်ရည်လည်း မယို၊ ငိုလည်း မငိုကြ။

ထိုအခါ ဘုရားအလောင်း လယ်သမားက ဇနီးကို ဤစကား ဆိုလေ၏။

"ရှင်မ၊ ထင်းများကိုရှာ၍ စုပုံကြကုန်လော့။ ငါတို့သားအား မီးသဂြိုဟ်ကြကုန်အံ့။ ငါကိုယ်ကာယ သန့်ရှင်းအောင် ငါ ရေချိုးလိုက်ဦးအံ့" ဟူ၍ ရေချိုးရန် ထွက်သွား၏။ ဇနီး၊ သမီး၊ ချွေးမနှင့် ကျွန်မတို့လည်း တောတွင်းမှ ထင်းခြောက်များကို သယ်ဆောင်၍ သား၏အလောင်းဘေးတွင် စုပုံကြကုန်၏။

ထို့နောက်တွင်မူကား ငါးယောက်ကုန်သော ထိုမိသားစုတို့သည် သား၏အလောင်းကို ထင်းပုံထက်တွင်တင်လျက် နံ့သာဖြင့် ပူဇော်၍ မီးသဂြိုဟ်ကြကုန်၏။ ကွယ်လွန်သူအတွက် တစ်စက်သောမျက်ရည်မျှ မကျကုန်။ မပူဆွေးကြကုန်။ ငိုကြွေးခြင်း မပြုကြကုန်။ 'သေတတ်သော သတ္တဝါမှန်သမျှ သေကြရမှာပါတကား'ဟူ၍သာ မရဏာနုဿတိကို ပွားနေကြကုန်သတည်း။

ထိုမိသားစုတို့၏ သီလတန်ခိုးကြောင့် သိကြားမင်း၏ အလွန်နူးညံ့လှစွာသော ပဏ္ဍုကမ္ဗလာကျောက်ဖျာသည် တင်းမာလာလေသော် သိကြားမင်းသည် အဘယ်သူသည် ငါ့ကို နေရာမှ ရွေ့စေလိုသနည်း' ဟု ဆင်ခြင်၏။ စူးစမ်း၏။ ထိုအခါ ထိုမိသားစုတို့၏ ကျေးဇူးတန်ခိုးအားဖြင့် ပူသောအခြင်းအရာကို ပြပေသည်တကားဟု ကြည်ညိုခြင်းဖြစ်ရကား သိကြားမင်းသည် လူ့ပြည်သို့ သက်ဆင်းလေ၏။

မိသားစုငါးယောက်တို့သည် မီးပုံတွင်း၌ အဖျဉ်းဖျဉ်း လောင်ကျွမ်းနေသော

သူကောင်ကိုကြည့်ကာ ကမ္ဘဋ္ဌာန်း ရှုနေကုန်၏။ သဗ္ဗေသင်္ခါရာ အနိစ္စာ–ဓိဝိန် ထိန်လင်း၊ သက်ရှင်ခြင်းကား၊ ကွေကွင်းနောက်ဆုံး ရှိချေ၏။

ထိုအခိုက် သိကြားမင်းသည် ထိုမိသားစု၏အနားသို့ ဘွားခနဲ ရပ်တည် လာလျက် "အမောင်တို့၊ အဘယ်အမှုကို သင်တို့ပြုနေကြကုန်သနည်း" ဟု မေး လေသတည်း။

မှတ်ချက် ။ ။ ပေတဝတ္ထု အဋ္ဌကထာ၌ သားသေ၍ ပူဆွေးဒုက္ခရောက်နေသော ဖခင် တစ်ဦးအား ဤဥရဂဇာတ်ကိုဆောင်၍ ဟောရာတွင် သိကြားမင်းကို ဘုရားလောင်းဟုဆို၏။ ပုဏ္ဏားဏ် အသွင်ကိုဆောင်၍ တွေ့ဆုံမေးမြန်းပုံကို ပြ၏။

ထိုမိသားစုသည် လောင်မြိုက်နေသော အလောင်းကောင်ကို အာရုံစိုက်၍ မရဏာနုဿတိကမ္မဋ္ဌာန်း စီးဖြန်းနေကြစဉ် "သင်တို့ အဘယ်အမှုကို ပြုနေကြ သနည်း" ဟူသော မေးသံကြောင့် နောက်သို့လှည့်ကြည့်သည်တွင် သိကြားမင်း ကို အံ့သြစွာ တွေ့ရလေသော် ဖခင် လယ်သမားက ဤသို့ဖြေ၏။

"အရှင်၊ သူကောင်ကို ကျွန်ုပ်တို့ မီးသင်္ဂြိုဟ်မှု ပြုနေပါကုန်၏"

"သင်တို့သည် လူကို မသင်္ဂြိုဟ်၊ သားသမင်ကိုသတ်၍ မီးဖုတ်နေကြ ယောင်ပါတကား"

"အရှင်၊ ကျွန်ုပ်တို့ သမင်ကို မီးဖုတ်နေကြသည် မဟုတ်ပါ။ လူကို မီး သင်္ဂြိုဟ်နေကြပါကုန်၏"

"အမောင်တို့၊ လူကို သင်္ဂြိုဟ်ခဲ့သော် ထိုသူသည် သင်တို့၏ ရန်သူ ဖြစ် ဟန်တူပေ၏"

"ရန်သူ မဟုတ်ပါအရှင်။ ထိုကွယ်လွန်သူကား ကျွန်ုပ်တို့၏ သားအရင်း ခေါက်ခေါက် ဖြစ်ပါ၏။ ကျွန်ုပ်တို့အား များစွာ ကျေးဇူးပြုပေသော ရင်နှစ်သည်း ချာ သားလိမ္မာ ဖြစ်ပါသည် အရှင်။ ရန်သူ မဟုတ်ပါ"

"အမောင်တို့၊ သားဖြစ်ခဲ့သော် ထိုသားသည် မချစ်မနှစ်သက်သော သား ဆိုး သားမိုက် ဖြစ်လတ္တံ့"

"အရှင်၊ ဤသို့ မဟုတ်ပါ။ ကျွန်ုပ်တို့ အသည်းနှစ်အောင် ချစ်ရသော သား၊ ချစ်၍ မဝသောသား ဖြစ်ပါ၏"

"အမောင်တို့၊ ယင်းသို့ အလွန်ချစ်သည့် ရင်နှစ်သည်းချာ သားတစ်ယောက် လုံး ဆုံးရှုံးကွယ်လွန်သွားသည်ဖြစ်ပါလျက် ဘယ်အတွက် မျက်ရည်တစ်စက်မျှ မကျသနည်း။ စိုးရိမ်ပူဆွေး ငိုကြွေးခြင်း မပြုဘိသနည်း" ဟု သိကြားမင်းက မေး၏။

မှတ်ချက် ။ ။ မငိုကြွေးပုံ အကြောင်းပြချက် အဖြေများကို မူရင်းကျကျ မှတ်သားလိုသူများ မှတ်သားနိုင်စေခြင်းငှာ မူရင်းဂါထာများအတိုင်း ဖော်ပြ၍ အနက်ပြန်ဆိုပါသည်။

သားတစ်ယောက်လုံး သေဆုံးပါလျက် အဘယ်ကြောင့် မငိုသနည်းဟူသော သိကြားမင်း၏အမေးကို ဖခင်ဖြစ်သူ ဘုရားအလောင်း လယ်သမားက ဘာကြောင့် သူ မငိုကြောင်းကို ဤသို့ ဖြေ၏။

## သူ မငိုကြောင်း ဖခင်၏ အကြောင်းပြစကား

ဥရဂေါဝ တစံ ဇိဏ္ဏံ၊ ဟိတွာ ဂစ္ဆတိ သန္တနုံ။
ဧဝံ သရီရေ နိဗ္ဘောဂေ၊ ပေတေ ကာလင်္ကတေ သတိ။

သာမိ=သားတစ်ယောက်လုံး သေဆုံးပါလျက် မျက်ရည်မယို မငိုချုပ်တည်းဘယ့်ကြောင့်နည်းဟု စပ်စုသိချင် အို-သခင်၊ ဥရဂေါ=နဂါးမျိုးနွယ် ရှည်သွယ်ကိုယ်လျား မြွေသတ္တဝါများသည်၊ တစံဇိဏ္ဏံ=အရေဟောင်းကို၊ ဟိတွာ=စွန့်၍၊ တစ်နည်း-တစံဇိဏ္ဏံဟိတွာ=အရေဟောင်းကိုပစ် အရေသစ်ခဲ့၍၊ ဂစ္ဆတိယထာ=သူသွားလိုရာကို သွားလေဘိသကဲ့သို့၊ တထာ=ထိုနှင့်မခြား အလားတူစွာ၊ မမပုတ္တော၊ အကျွန်ုပ်၏ ရင်နှစ်သားတော်ချစ်သည်လည်း၊ သန္တနုံ=ဘဝ သစ်ပြောင်း မိမိ၏ ခန္ဓာဟောင်းကို၊ ဟိတွာ=မငဲ့မညှာ ပစ်စွန့်ခွာပြီး၍၊ ဂစ္ဆတိ= သူသွားလိုရာ သွားပါလေ၏။ ဧဝံ ကမ္မိနာကာရဏေန=ဤသို့ ဝိညာဉ်စွန့်ကာ သွားလိုရာသို့ သွားပါလေသောကြောင့်၊ သရီရေ=ကျန်ရစ်ခဲ့သော ဥတုဇရုပ်ကလာပ် သည်၊ နိဗ္ဘောဂေ=ခံစားခြင်းမရှိသည်၊ ဝါ-ကောင်း မကောင်းသည်ကို ထိုဤခွဲခြား ခံစားခြင်းကင်းသည်၊ ပေတေ=ဘဝတစ်ပါးသို့ ပြောင်းသွားလေသည်၊ ကာလင်္ကတေ= ဘဝပျက်ကြွေ၍ စုတေသွားသည့်၊ သတိ=ရှိသော်---

ဍယှမာနော န ဇာနာတိ၊ ဉာတီနံ ပရိဒေဝိတံ။
တသ္မာ ဧတံ န သောစာမိ၊ ဂတော၊ သောကဿယာဂတိ။

ဍယှမာနော=မီးပုံတွင်းဝယ် တစ်ဖျဉ်းဖျဉ်းလောင်မြိုက်ခြင်း ခံနေရသော သားသည်၊ ဉာတီနံ=ဆွေမျိုးတို့၏၊ ဝါ-အမိနှင့်အဘ နှမနှင့်ဇနီး အပူမီးလောင်နေကြသော ဆွေမျိုးတို့၏၊ ပရိဒေဝိတံ=တလှိုက်လှိုက်ဖို ရှိုက်၍ရှိုက်၍ ငိုနေကြသည်ကို၊ နဇာနာတိ=ဝိညာဉ်မရှိတော့သဖြင့် ဘာမျှမသိပါ၊ တသ္မာ=ထိုသို့ ငါ့အတွက်ကို သူတို့ ငိုနေကြပါကလားဟူ၍ မသိလေသောကြောင့်၊ ဧတံ=အသိဉာဏ်

ဆိတ်သုဉ်း မီးသွေးတုံးကြီးဖြစ်နေပြီဖြစ်သော ထိုသားကို၊ နသောစာမိ=ကျွန်ုပ်မစိုးရိမ်၊ တဿ=ဘဝသစ် တစ်ဖြစ်လဲသွားသော ထိုသားအား၊ ဝါ-ထိုသား၏၊ ယာဂတိ=အကြင်ဂတိသည်၊ ဝါ-သူလားမည့်ဘဝခရီးသည်၊ အတ္ထိ=ရှိ၏။ တံဂတိံ= ထိုဘဝသစ်ခရီးသို့၊ သောပုတ္တော=ထိုသားသည်၊ ဂတော=ဆွေစွန့်မျိုးစွန့် အားလုံးကို စွန့်ခွာ၍ သွားပါလေပြီ။ တသ္မာ=ထို့ကြောင့်၊ နသောစာမိ=ထိုသားအရေးကြောင့် ပူဆွေးခြင်း မဖြစ်ပါ။

သိကြားမင်းသည် ဖခင်၏ သဘောထားကို သိရပြီးနောက် မိခင်ဖြစ်သူကို တစ်ဖန်မေးပြန်၏။

"အို-အမိ၊ သေသူသည် သင်နှင့် မည်သို့တော်စပ်ပါသနည်း"

"အရှင်သခင်၊ သေသူသည် ကျွန်တော်မ ဝမ်းနှင့်လွယ်၍ မွေးဖွားပြီး နို့ချိုတိုက်ကျွေး မွေးမြူလာခဲ့ရသည့် သားအရင်း ဖြစ်ပါ၏"

"အို-အမိ၊ ဖခင်ဖြစ်သူမှာ ယောကျ်ားရင့်မာကြီးဖြစ်၍ နှလုံးကြံ့ခိုင်သဖြင့် မငိုကြွေးသည်မှာ ဟုတ်ပါစေတော့။ အမိသည်ကား မိန်းမသားဖြစ်၍ နှလုံးနူးညံ့လှ၏။ မိမိ၏ ရင်နှစ်သည်းချာ သားတစ်ယောက်လုံး သေဆုံးပါလျက် အဘယ်ကြောင့် မငိုပါသနည်း" ဟု သိကြားမင်းက မေးလျှင် ဤသို့ဖြေသတည်း။

## ဘာကြောင့် မငိုကြောင်း မိခင်၏ အကြောင်းပြစကား

အနဝှိတော တတောအာဂါ၊ နာနုညာတော ဣတောဂတော။
ယထာဂတော တထာဂတော၊ တတ္ထကာ ပရိဒေဝနာ။

သာမိ=ကျွန်တော်မအနေဖြင့် မျက်ရည်မယို မငိုမကြွေး သိလို၍ မေးပါသော အို-အရှင်သခင်၊ သောပုတ္တော=ထိုကျွန်တော်မ၏သားသည်၊ အမှေဟိ= အကျွန်ုပ်တို့က၊ အနဝှိတော=သားချစ်သည်းချာ သည်ကိုလာဟု သံသာဆိုမြွက်မခေါ်အပ်ပါဘဲလျက်၊ တတော=ထိုဖြစ်ရာဘဝမှ၊ အာဂါ=သူ့သဘော သူ့ဆန္ဒအလျောက် ရောက်လာခဲ့ပါ၏။ ဣတော=ဤကျွန်တော်မတို့၏ အထံမှ၊ ဂတော= ထွက်ခွာသွားသောအခါ၌လည်း၊ အနုညာတော=ကျွန်တော်မတို့က ခွင့်မပြုပါဘဲလျက်၊ ဂတော=သူ့သဘောအတိုင်း ထွက်ခွာသွားပါ၏။ ယထာဂတော=လာသည့်အခါ သူ့သဘောအတိုင်း ရောက်လာပြီး၊ တထာဂတော=ထွက်ခွာသွားသောအခါမှာလည်း သူ့သဘောအတိုင်း ထွက်ခွာသွားပါ၏။ အတ္ထတသ္မိံ ပုတ္တေ=ထိုသား

အပေါ်၌၊ ဝါ-ထိုသားကို အကြောင်းပြု၍၊ ပရိဒေဝနာ=စိုးရိမ်ပူဆွေး ငိုကြွေးခြင်းသည်၊ တာ=အဘယ်အကျိုးရှိပါမည်နည်း၊ တသ္မာ=ထို့ကြောင့်၊ နသောစာမိ=မစိုးရိမ်ပါ၊ မငိုကြွေးပါ။

**မှတ်ချက်** ။ ။ ဥယုမေနော-ဂါထာ အထက်၌ အနက်ဖွင့်ခဲ့သည့်အတိုင်း မှတ်ရာ၏။

ထို့နောက် သိကြားမင်းသည် သေသူ၏ နှမကို မေးပြန်၏။

"လုံမငယ်၊ သေသူသည် သင်နှင့် မည်သို့တော်စပ်ပါသနည်း"

"အရှင်သခင်၊ သေသူသည် ကျွန်မ၏မောင်ကြီး ဖြစ်ပါ၏"

"သင်၏မောင်ကြီးဖြစ်ခဲ့သော နှမသည် မောင်ကို အလွန်ချစ်ခင်တတ်၏။ သို့ပါလျက် သင်သည် အဘယ့်ကြောင့် မငိုသနည်း"

### ဘာကြောင့်မငိုကြောင်း နှမ၏ အကြောင်းပြစကား

သစေရောဒေ ကိသာအဿံ၊ တဿာ မေ ကိံ ဖလံသိယာ။

ဉာတိမိတ္တ သုဟဇ္ဇာနံ၊ ဘိယျောနော အရတီသိယာ။

သာမိ=မငိုကြွေးခြင်း ကြောင်းရင်းမူလ သိလိုလှ၍ ဖွင့်ဟမြွက်ဖော် အို-ဦးရီးတော်၊ သစေရောဒေ=မျက်ရည်စီးယို ရှိုက်၍ငိုသော်လည်း၊ ကိသာ=ကိုယ်လည်းပင်ပန်း ရိနွမ်းရင့်ရော် ပိန်ညှော်ကြုံလှီသည်၊ အဿံ=ဖြစ်ရာပါ၏။ တစ်နည်း-ကိသာအဿံ=ကြုံလှီရိနွမ်း ပင်ပန်းရုံသာ ရှိပါလိမ့်မည်၊ ဖလံ=ငိုရခြင်း၏ အကျိုးသည်၊ တဿာမေ=ထိုကျွန်တော်မအား၊ ကိံသိယာ=အဘယ်မှာလျှင် ရှိနိုင်ပါမည်နည်း၊ ဧဝံ=ဤသို့ ကျွန်တော်မ ငိုကြွေးနေသော၊ မံ=ကျွန်တော်မကို၊ ပဿန္တာနံ=မျက်စိရှေ့တွင် မချမ်းမြေ့စရာ မြင်တွေ့ကြရကုန်သော၊ ဉာတိမိတ္တ သုဟဇ္ဇာနံ=ဆွေမျိုးသားချင်းရောင်းရင်းကျွမ်းဟောင်း မိတ်သင်္ဂဟအပေါင်းတို့အား၊ ဘိယျော=လွန်မင်းစွာ၊ အရတီ=နှလုံးရိနွမ်း မချမ်းမမြေ့ မပျော်မွေ့ခြင်းသည်၊ သိယာ=ဖြစ်လေရာပါ၏၊ တသ္မာ=ထို့ကြောင့်၊ နရောဒါမိ=မငိုခြင်းဖြစ်ပါသတည်း။ (ဥယျမာနော ဂါထာနည်းတူ မှတ်။)

ထို့နောက်တစ်ဖန် သိကြားမင်းသည် သေသူ၏ဇနီးကို မေးပြန်၏။

"အို-နှမကြီး၊ သေသူသည် သင်နှင့် မည်သို့တော်စပ်ပါသနည်း။

"အရှင်သခင်၊ သေသူသည် ကျွန်တော်မ၏ ခင်ပွန်းလင် ဖြစ်ပါ၏"

"ခင်ပွန်းလင် ဖြစ်ခဲ့သော ဇနီးသည် ခင်ပွန်းအား အလွန်ချစ်ကြ၏။ လောက၌ ခင်ပွန်းလင် မရှိသောမိန်းမသည် မတင့်တယ်။ သင့်မှာ ကိုးကွယ်မဲ့လည်း ဖြစ်သည်၊ အများက မုဆိုးမဟူ၍လည်း သမုတ်ကြမည်။ သို့ဖြစ်ပါလျက် မိမိသက်ထားလင်ယောကျာ်း ကွယ်လွန်သည်ကို ဘယ်အတွက် မငိုပါသနည်း" ဟု မေး၏။

## ဘာကြောင့် မငိုကြောင်း ဇနီး၏ အကြောင်းပြစကား

ယထာပိ ဒါရကောစန္ဒံ၊ ဂစ္ဆန္တံ အနုရောဒတိ။
ဧဝံ သမ္ပဒ မေ ဝေတိ၊ ယော ပေတံ အနုသောစတိ။

သာမိ=သိလိုရေးတွက် နှုတ်မြွက်သံလွှင် မေးခွန်းရှင်သည်၊ ယထာ= ကျွန်တော်မ မငိုခြင်း၏အချက်ကို ဥပမာဖြင့် ဆက်ပါအံ့။ ဒါရကော=လူမှန်း မသိတတ်သေးသည့်အရွယ် ကလေးသူငယ်သည်၊ ဂစ္ဆန္တံ=တိမ်တိုက်များအကြား တွင် တလွှားလွှား ပြေးသွားနေပါသော၊ စန္ဒံ=ဖိုးလမင်းကြီးကို၊ ဥလ္လောကေတွာ= ကောင်းကင်ပေါ်ကို မော်၍ကြည့်ပြီးလျှင်၊ "စန္ဒ=ဖိုးရွှေလမင်း ဟိုဝင်းဝင်းကြီး ကို၊ (စန္ဒ-နှစ်ချက်သင့်) ဒေဟိ ဒေဟိတိ=ငါ့ကို မနေး အခုယူပေး" ဟူ၍ (အစိပ္ပာယ်ပြည့်အောင် ဖြည့်ပေးသည်) အနုရောဒတိယထာ=မရနိုင်သောအရာ ကို တစာစာငိုကြွေး၍ တောင်းဘိသကဲ့သို့၊ တထာ=ထိုနှင့်မခြား အလားတူ ဗွာ၊ ယောပုဂ္ဂလော=ကျွန်မသာမဟူ ဘယ်သူမဆို အကြင်ပုဂ္ဂိုလ်သည်၊ ပေတံ=သေရာ မှတစ်ဖန် ပြန်ရှင်ရိုးမဟုတ်သော သူသေကောင်ပုပ်ကို၊ အနုသောစတိ=တမ်းတ စိုးရိမ် အပူရှိန်ရိုက်ခတ်သဖြင့် ဆတ်ဆတ်လူးအောင် ပူလောင်နေ၏။ တဿပုဂ္ဂလ ဿ=သောကမီးစွဲ၍ အသည်းနှလုံးရဲနေသော ထိုအဆွေးသမား၏၊ ဝေါသောစနံ= ထိုစိုးရိမ်ပူဆွေးခြင်းသည်ကား၊ ဝေသမ္ဗဒံ=ဖိုးလမင်းကို တမ်းတဆို၍ ငိုနေသော သူငယ်နှင့်သာ တူပါချေ၏။ တသ္မာ=ထိုသို့ မရနိုင်သောရာကို အာသာပြင်းပြ မည်သို့ပင် တောင့်တသော်လည်း ရရိုးမရှိ တရားနှင့် သိထားလေသောကြောင့်၊ န သောစာမိ=ကျွန်မ မပူဆွေးပါ။ (ဥယျာနေ ဂါထာ ရှေးနည်းအတိုင်း)

ထို့နောက်တစ်ဖန် သိကြားမင်းသည် ကျွန်မကို မေးပြန်၏။

"အို-လုံမကီး၊ သေသူသည် သင်နှင့် မည်သို့တော်စပ်ပါသနည်း"

"အရှင်၊ သေသူသည် ကျွန်မ၏ သခင် ဖြစ်ပါသည်"

"သင်၏သခင်ဖြစ်ခဲ့သော် သင့်သခင်က သင့်ကို ညှဉ်းပန်းနှိပ်စက်သူ ဖြစ်မည်။ ငါ လွတ်ပြီ၊ ကျွတ်ပြီဟူ၍ သင် မငိုခြင်းပေလော"

"ဤသို့ မဟုတ်ပါ။ ကျွန်တော်မ၏သခင်ကို ဤသို့ မဆိုသင့်ပါ။ ဤသို့ဆိုခြင်းသည် မသင့်လျော်ပါ။ ကျွန်တော်မ၏သခင်သည် မေတ္တာ၊ ကရုဏာ၊ ခန္တီတရားကို လက်ကိုင်ထားသူ ဖြစ်ပါ၏။ သင့်လျော်မှန်ကန်သော စကားကိုသာ ဆိုလေ့ရှိပါ၏။ ကျွန်တော်မ၏ ရင်၌ဖြစ်သော သားအလားပါတည်း"

"အို-လုံမကြီး၊ သို့ဖြစ်ပါလျက် အဘယ့်ကြောင့် သင် မငိုပါသနည်း" ဟု သိကြားမင်းက မေး၏။

## ဘာ့ကြောင့် မငိုကြောင်း ကျွန်မ၏ တင်ပြချက်

ယထာစ ဥဒကကုမ္ဘော၊ ဘိန္နော အပ္ပဋိသန္ဓိယော။
ဧဝံ သမ္ပဒ မေ ဝေတိ၊ ယောပေတံ အနုသောစတိ။

သာမိ=အရှင်သခင်၊ ယထာ=ဥပမာခင်း၍ မငိုခြင်း၏အကြောင်းကို ပြောပြပါအံ့။ ဘိန္နော=အစိတ်စိတ်အမြွာမြွာ ဖွာရရာကြဲအောင် ကွဲသွားလေပြီးသော ကုမ္ဘော=ရေအိုးသည်၊ အပ္ပဋိသန္ဓိယော=မည်သို့ပင် ဆက်စပ်ငြားသော်လည်း အိုးကောင်းတစ်ဖန် ပြန်၍ဖြစ်မလာသည်၊ ဟောတိယထာ=ဖြစ်သကဲ့သို့၊ ယောပုဂ္ဂလော=မိန်းမယောကျ်ား မခွဲခြားလို အကြင်ပုဂ္ဂိုလ်သည်၊ ပေတံ=ကွယ်လွန်လေပြီးသော သူကို၊ မနသိကတွာ=စိတ်ဖြင့်တန်းမှန်း လွှမ်းမပြေ၍၊ အနုသောစတိ=တစိုးရိမ်ရိမ် တရှိန်ရှိန် ပူဆွေးနေ၏။ တဿ=ထိုပုဂ္ဂိုလ်၏၊ တေသောစန်=ဆွေးတမြေ့မြေ့ မေ့ပါနိုင်ပေါင် တရှောင်ရှောင်နှင့် ပိန်သွောင်ကျဆင်း ထိုစိုးရိမ်ခြင်းသည်ကား၊ ဧဝံသမ္ပဒံ= ကွဲသွားသောအိုး ပြန်၍ကောင်းလာရိုး မရှိသည်နှင့် တူပါချေ၏။ တသ္မ=ထိုသို့ မဖြစ်နိုင်သောအရာကို ပူဆာတမ်းတခြင်းသည် အကျိုးမရှိကြောင်း ကောင်းစွာသိမြင်ပါသောကြောင့် န သောစာပိ=ကျွန်မ မငိုကြွေးပါ၊ မပူဆွေးပါ။ (ဥယှမာနော-ဂါထာ အထက်ကအတိုင်း)

သိကြားမင်းသည် ထိုမိသားစုငါးယောက်တို့အား တီးခေါက်စုံစမ်းမေးမြန်း ရင်းတို့၏ မွန်မြတ်သောစိတ်ဓာတ်ကိုသိ၍ နှစ်ထောင်းအားရ ဝမ်းသာသောကြောင့် "အို-အချင်းတို့၊ ဤနေ့မှစ၍ တောင်သူလုပ်ငန်းကို လုပ်စရာ မလိုပြီ။ သင်တို့ မိသားစုအား ပေး၍မကုန်၊ လှူ၍မခန်းအောင် ရတနာ

များဖြင့် ငါ ချီးမြှင့်ပေအံ့။ ဒါနပြုကုန်လော၊ သီလစောင့် သုံးကုန်သော" ဟု ဩဝါဒပေးပြီး ၎င်းတို့၏ အိမ်ဂေဟာ၌ ရတနာတို့ဖြင့် ပြည့်အောင်စီမံပြီးနောက် နတ်ပြည်သို့ ပြန်လေသတည်း။

လူတို့သည် သားနှင့်သမီးနှင့် နေကြ၏။ ဆွေနှင့်မျိုးနှင့် နေကြ၏။ မိတ်နှင့်ဆွေနှင့် နေကြ၏။ ဤအထဲမှ တစ်ဦးတစ်ယောက် ကွယ်လွန်အနိစ္စ ရောက်သွားခဲ့သော ကျန်ရစ်သူများမှာ အပူမီး ဟုန်းဟုန်းတောက်ကုန်လေ၏။ သားသေ၍ ပူဆွေးနေသော ဖခင်တစ်ဦးအား ဘုရားသခင်သည် ဤဇာတ်ကိုဟောကြား၍ အပူဇာတ်သိမ်းစေခဲ့၏။ ပူဆွေးသူတို့အား "သောကကင်းဝေး" စေသော ဇာတ်ဖြစ်သဖြင့် ပရိဒေဝ၊ သောကမီးတောင် ပေါက်ကွဲလောင်သူတို့အတွက် ဤဇာတ်သည် အပူငြိမ်းဆေးစွမ်းကောင်းတစ်လက် ဖြစ်နိုင်ပါသတည်း။



## ရေမျောသစ်တုံးမှ ရဟန္တာအဖြစ်သို့

ပြဿနာ = ရေမျောသစ်တုံး
မေး = ရဟန်း
ဖြေ = ဗုဒ္ဓမြတ်ဘုရား

ထိုအချိန်၌ မြတ်စွာဘုရားသည် ကောသမ္ဗီမြစ်၊ ဂင်္ဂါမြစ်အနီး တောကျောင်း၌ သီတင်းသုံးတော်မူ၏။ ဂင်္ဂါမြစ်သည် ကျောင်းဘေးမှဖြတ်၍ တသွင်သွင် စီးသွား၏။

မိုးရွာပြီးစဖြစ်သောကြောင့် မြစ်ရေသည် အစီးကြမ်း၏။ အမှိုက်သရိုက် ထင်းချောင်း၊ ဝါးယောင်းတို့လည်း မျောလာကုန်၏။ ထိုမှတစ်ပါး သားကောင်တို့သည်လည်း မျောပါလာကုန်၏။ ကြီးကြီးငယ်ငယ် အသွယ်သွယ် သစ်တုံးတို့သည် ဂင်္ဂါရေကြမ်း၏ ဖက်ရမ်းပိုက်ပွေ့ ကလူကျီစယ်ခြင်းကို ခံရသဖြင့် မြုပ်တုံ၊ ပေါ်တုံ တလုံလဲလဲ ဦးဓောက်ပြောင်းပြန် ဖြစ်ကုန်၏။

မြတ်စွာဘုရားနှင့် ရဟန်းတော်တို့သည် ဂင်္ဂါကမ်းနဖူးတွင်ရှိသော ကျောင်းမှ အရှိန်အဟုန်ပြင်းစွာဖြင့် စီးဆင်းနေသော မြစ်ပြင်နှင့် ရေကြောတွင် တပေါ်လောလော မျောပါလာကုန်သော သစ်တုံးများကို မြင်ကြရကုန်၏။

မြုပ်ရာမှပေါ်၊ ပေါ်ရာမှမြုပ်၊ အချို့မှာ ဝဲစုပ်သွားသောကြောင့် စုပ်စုပ်မြုပ်လေ၏။ အချို့မှာ ဟိုမှာဘက်ကမ်း တင်မယောင်၊ အချို့မှာ သည်မှာဘက်ကမ်း ဆိုက်မယောင်ယောင်၊ မြစ်လယ်ကောင်တွင် မျောနေသော သစ်တုံးများကို မြင်ရသော် မြတ်စွာဘုရားသည် မြစ်ပြင်ကို လက်ညှိုးညွှန်ပြလျက် ရဟန်းတို့အား–

"ရဟန်းတို့၊ ဂင်္ဂါရေကြောတွင် မျောနေသော သစ်တုံးများကို မြင်ကြကုန်၏လော" ဟု မေးတော်မူ၏။ ရဟန်းတို့က "မြင်ပါကြောင်း" လျှောက်ကုန်သည်ရှိသော်–

"ရဟန်းတို့၊ အကယ်၍ ဤသစ်တုံးများသည်-
- ဟိုမှာဘက်ကမ်းသို့ မရောက်ခဲ့ပါလျှင်၊
- ဤမှာဘက်ကမ်းသို့ မရောက်ခဲ့ပါလျှင်၊
- အလယ်၌ မနစ်မြုပ်ခဲ့ပါလျှင်၊
- ကြည်း၊ ကုန်း၌ မတင်ခဲ့ပါလျှင်၊
- လူတို့ မဆယ်ယူခဲ့ပါလျှင်၊
- နတ်တို့ မဆယ်ယူခဲ့ပါလျှင်၊
- ဝဲ မစုပ်ခဲ့ပါလျှင်၊
- အတွင်း၌ မဆွေးမပုပ်ခဲ့ပါလျှင်-

ထိုသစ်တုံးများသည် သမုဒ္ဒရာသို့ ညွတ်သည်၊ သမုဒ္ဒရာသို့ ကိုင်းသည်။ သမုဒ္ဒရာသို့ ရှိုင်းသည် ဖြစ်လတ္တံ့။ ထိုသို့ဖြစ်ခြင်းသည် အဘယ်ကြောင့်နည်း။-

-ရဟန်းတို့၊ ဂင်္ဂါပြစ်ရေအလျဉ်သည် သမုဒ္ဒရာသို့ ညွတ်သည်။ သမုဒ္ဒရာသို့ကိုင်းသည်။ သမုဒ္ဒရာသို့ ရှိုင်းသည်ဖြစ်သောကြောင့်တည်း" ဟူ၍ မိန့်တော်မူ၏။

ဤသို့ မိန့်တော်မူလေမှ ရဟန်းတို့လည်း မြစ်ပြင်၏ ရှုကွက်ရှုကွင်းကို ပို၍အာရုံသွင်းမိကြကုန်လေ၏။ ထိုးလိုးထောင်လောင် သောင်လည်းမတင်၊ ကမ်းလည်းမဆိုက်၊ ကတိုက်ကရိုက် မျောနေပုံများကို ကြည့်နေကုန်၏။

"ရဟန်းတို့၊ ဤအတူလျှင် သင်တို့သည်လည်း-
- ဤမှာဘက်ကမ်းသို့ မရောက်ခဲ့ပါလျှင်၊
- ဟိုမှာဘက်ကမ်းသို့ မရောက်ခဲ့ပါလျှင်၊
- အလယ်၌ မနစ်ခဲ့ပါလျှင်၊
- ကြည်း၊ ကုန်း၌ မတင်ခဲ့ပါလျှင်၊
- လူတို့ မဆယ်ယူခဲ့ပါလျှင်၊
- နတ်တို့ မဆယ်ယူခဲ့ပါလျှင်၊
- ဝဲ မစုပ်ခဲ့ပါလျှင်၊
- အတွင်း၌ မပုပ်မဆွေးကြပါလျှင်-

သင်တို့သည် နိဗ္ဗာန်သို့ ညွတ်ကုန်သည်။ နိဗ္ဗာန်သို့ ကိုင်းကုန်သည်။ နိဗ္ဗာန်သို့ ရှိုင်းကုန်သည် ဖြစ်လတ္တံ့။ ထိုသို့ဖြစ်ခြင်းကား အဘယ့်ကြောင့်ပါနည်း။ ရဟန်းတို့၊ ကောင်းစွာမြင်ခြင်း–သမ္မာဒိဋ္ဌိသည် နိဗ္ဗာန်သို့ ညွတ်သည် ကိုင်းသည်၊ ရှိုင်းသည်ဖြစ်သောကြောင့်တည်း"

ရဟန်းတို့သည် ဘုရားသခင် မြွက်ကြားတော်မူသည့်စကားကို ကြားကား ကြားကုန်၏။ အဓိပ္ပာယ်ကို မသိ၊ မထင်၊ မလင်းကြကုန်။ ကြားကာ မတ္တသာ ဖြစ်ကုန်၏။ ထို့ကြောင့် ရဟန်းတစ်ပါးက ဤသို့ လျှောက်ပြီတည်း။

"အရှင်ဘုရား၊
- ဤမှာဘက်ကမ်းဟူသည် အဘယ်ပါနည်း။
- ဟိုမှာဘက်ကမ်းဟူသည် အဘယ်ပါနည်း။
- အလယ်၌ နစ်မြုပ်ခြင်းဟူသည် အဘယ်ပါနည်း။
- ကြည်း၊ ကုန်း၌ တင်မှုဟူသည် အဘယ်ပါနည်း။
- လူတို့ ဆယ်ယူမှုဟူသည် အဘယ်ပါနည်း။
- နတ်တို့ ဆယ်ယူမှုဟူသည် အဘယ်ပါနည်း။
- ဝဲ စုပ်ယူမှုဟူသည် အဘယ်ပါနည်း။
- အတွင်း၌ ပုပ်ဆွေးမှုဟူသည် အဘယ်ပါနည်း။"

ဟု လျှောက်၏။ ဂင်္ဂါရေအလျဉ်သည် တသွင်သွင် စီးနေ၏။ ထို့အတူ ဂင်္ဂါ တည်းဟူသော ဘုရားသခင် မြစ်ပြင်ကြီးမှ တရားတည်းဟူသော ရေအလျဉ်များ သည် တသွင်သွင် စီးဆင်းလာလေသည်။

## ဤမှာဘက်ကမ်း

"ချစ်သား ရဟန်း၊ ဤမှာဘက်ကမ်းဟူသော ဤအမည်သည် အတွင်း ဖြစ်သော အဇ္ဈတ္တိကာယတန ခြောက်ပါးတို့၏ အမည်တည်း" (စက္ခု၊ သောတ၊ ဃာန၊ ဇိဝှာ၊ ကာယ၊ မနေ)

## ဟိုမှာဘက်ကမ်း

"ချစ်သာ ရဟန်း၊ ဟိုမှာဘက်ကမ်းဟူသော အမည်သည် အပဖြစ်သော

ဗဟိဒ္ဓါယတန ခြောက်ပါးတို့၏ အမည်တည်း" (ရူပ၊ သဒ္ဒ၊ ဂန္ဓ၊ ရသ၊ ဖောဋ္ဌဗ္ဗ၊ ဓမ္မ)

## အလယ်၌ နစ်မြုပ်ခြင်း

"ချစ်သား ရဟန်း၊ အလယ်၌ နစ်မြုပ်ခြင်းဟူသော ဤအမည်သည် နှစ်သက်စွဲမက်မှု ရာဂ၏ အမည်တည်း။"

## ကြည်း၊ ကုန်း၌ တင်မှု

"ချစ်သား ရဟန်း၊ ကြည်း၊ ကုန်း၌တင်မှုဟူသော ဤအမည်သည် ငါဟူသော မာန်၏အမည်တည်း" (အတ္တစွဲ)

## လူတို့ဆယ်ယူမှု

"ချစ်သား ရဟန်း၊ လူတို့ဆယ်ယူမှုဟူသည် အဘယ်နည်း။ ချစ်သား၊ ဤသာသနာတော်၌ ရဟန်းသည် လူတို့နှင့် ရောနှောသည်ဖြစ်၍ နေ၏။ အတူတကွ နှစ်သက်မှု ရှိ၏။ အတူတကွ စိုးရိမ်မှု ရှိ၏။ လူတို့ချမ်းသာသော် ချမ်းသာ၏။ လူတို့ ဆင်းရဲသည် ရှိသော် ဆင်းရဲ၏။ ပြုဖွယ်ကိစ္စတို့ ပေါ်ပေါက်လာကုန်သည်ရှိသော် ဆင်းရဲ၏။ ပြုဖွယ်ကိစ္စတို့ ပေါ်ပေါက်လာကုန်သည်ရှိသော် မိမိသည်ပင် ထိုကိစ္စတို့၌ အား ထုတ်ခြင်းသို့ ရောက်၏။ ချစ်သား၊ ဤသို့ဖြစ်မှုကို လူတို့ဆယ်ယူမှုဟု ဆိုအပ် ၏"

## နတ်တို့ဆယ်ယူမှု

"ချစ်သား၊ နတ်တို့ဆယ်ယူမှုဟူသည် အဘယ်နည်း။ ချစ်သား၊ ဤသာသနာ၌ အချို့သော ရဟန်းသည် 'ငါသည် ဤသီလအားဖြင့်လည်းကောင်း၊ ဤအကျင့်ဝတ်အားဖြင့်လည်းကောင်း၊ ထင်ရှားသော နတ်သော်လည်းကောင်း၊ မထင်ရှားသောနတ်သော်လည်းကောင်း ဖြစ်ရလိမ့်မည်' ဟု တစ်ခုခုသော နတ်အဖြစ်ကို တောင့်တ၍ အကျင့်မြတ်ကို ကျင့်သုံး၏။ ချစ်သား၊ ဤသို့ တောင့်တမှုကို နတ်တို့ဆယ်ယူမှုဟု ဆိုအပ်၏"

## ဝဲ စုပ်မှု

"ချစ်သား၊ ဝဲ စုပ်မှုဟူသော အမည်သည် ကာမဂုဏ်ငါးပါး၏ အမည်တည်း" (ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ)

## အတွင်း၌ ပုပ်ဆွေးမှု

"ချစ်သား၊ အတွင်း၌ ပုပ်ဆွေးမှုဟူသည် အဘယ်နည်း။ ချစ်သား၊ ဤသာသနာ၌ အချို့သော ရဟန်းသည် သီလ မရှိ၊ ယုတ်ညံ့သော သဘောရှိ၏။ မစင်ကြယ်သည်ဖြစ်၍ ယုံမှားအပ်သော အလေ့ရှိ၏။ ဖုံးလွှမ်းအပ်သောအမှုရှိ၏။ ရဟန်းမဟုတ်ဘဲလျက် ရဟန်းဟု ဝန်ခံ၏။ အကျင့်မြတ်ကို ကျင့်သုံးသူဟု ဝန်ခံ၏။ အတွင်းပုပ်၏။ ကိလေသာအားဖြင့် စွတ်စို၏။ အမှိုက်သရိုက်ကဲ့သို့ ဖြစ်၏။ ဤသည်ကို အတွင်း၌ ပုပ်ဆွေးမှုဟု ဆိုအပ်၏"

ထိုအခါ နန္ဒမည်သော နွားကျောင်းသားသည် မြတ်စွာဘုရား၏ အနီး၌ ရပ်လျက် ဘုရားသခင်၏ ဟောပြောချက်ကို အလေးအနက် မှတ်သား၏။ ဟိုဘက်ကမ်း၊ သည်ဘက်ကမ်း၏ အဓိပ္ပာယ်ကို ရေရေလည်လည် သဘောပေါက်သွားဟန် တူ၏။ ဂင်္ဂါမြစ်ကမ်းထိပ်တွင် တရားတစ်ထုံး ပြီးဆုံးသွားသောအခါ နွားကျောင်းသား နန္ဒသည် ဘုရားသခင်အား ရိုသေစွာ လက်အုပ်ချီလျက် ဤသို့ လျှောက်သတည်း။

"အရှင်ဘုရား၊ တပည့်တော်သည်–
- ဤမှာဘက်ကမ်းသို့ ကပ်ရောက်သည် မဟုတ်ပါ။
- ဟိုမှာဘက်ကမ်းသို့ ကပ်ရောက်သည် မဟုတ်ပါ။
- အလယ်၌လည်း နစ်မြုပ်လိမ့်မည် မဟုတ်ပါ။
- ကြည်း၊ ကုန်း၌လည်း တင်လိမ့်မည် မဟုတ်ပါ။
- တပည့်တော်ကို လူတို့လည်း ဆယ်ယူမည် မဟုတ်ပါ။
- နတ်တို့လည်း ဆယ်ယူလိမ့်မည် မဟုတ်ပါ။
- ဝဲလည်း စုပ်ယူနိုင်မည် မဟုတ်ပါ။
- အတွင်း၌လည်း မပုပ်မဆွေးပါ။–

–အရှင်ဘုရား၊ တပည့်တော်သည် ဘုရားသခင်ထံတော်၌ ရှင်အဖြစ်ကို ရလိုပါ၏။ ပဉ္စင်းအဖြစ်ကို ရလိုပါ၏" ဟု လျှောက်၏။

နန္ဒသည် နွားကျောင်းသား ဖြစ်၏။ ကိုယ်ပိုင်နွား မဟုတ်။ သူတစ်ပါး၏ နွားကို အငှားကျောင်းနေသူ ဖြစ်လေသည်။ ထို့ကြောင့် မြတ်စွာဘုရားသည် မြက်ခင်းတွင် မြက်စားနေသော နွားများကိုကြည့်လိုက်ပြီးလျှင် ဤသို့ မိန့်တော်မူ၏။

"နန္ဒ၊ သင်သည် ငါ၏အထံ၌ ရှင်အဖြစ်၊ ပဉ္စင်းအဖြစ်ကို ရလိုသော် သင်၏ နွားများကို ပိုင်ရှင်ထံ ပြန်၍ အပ်ချေဦးလော့"

"အရှင်ဘုရား၊ နွားမတို့သည် နွားကလေးများကို ခင်တွယ်ကြသည်ဖြစ်၍ အလိုအလျောက် ပြန်ကြပါလိမ့်မည်ဘုရား"

"နန္ဒ၊ နွားများကို ပိုင်ရှင့်ထံ အပ်ရမည်သာတည်း"

ထိုအခါ နွားကျောင်းသားနန္ဒသည် မိမိထိန်းကျောင်းနေသော နွားများကို ပိုင်ရှင့်ထံသို့ ပြန်အပ်ခဲ့ပြီးနောက် ဘုရားသခင်ထံ ချဉ်းကပ်ပြီး ရှင်အဖြစ်၊ ပဉ္စင်းအဖြစ်ကို ရလိုပါကြောင်း ပန်ကြား၏။

မြတ်စွာဘုရားသည် နွားကျောင်းသား နန္ဒအား ရှင်အဖြစ်၊ ရဟန်းအဖြစ်ကို ရရှိစေ၏။ နန္ဒဟူသော အမည်ဟောင်းအတိုင်းပင် ဦးနန္ဒဟု တွင်၏။ တရားတော်ကို မနေမနား ကြိုးစားအားထုတ်မှုများကြောင့် ဦးနန္ဒသည် အာသဝေါ ကင်းကွာ ရဟန္တာ များစာရင်းတွင် တစ်ပါးအဝင် ဖြစ်လေ၏။

ယတနဝဂ္ဂ သံယုတ်၊ ဒါရုက္ခန္ဓောပမသုတ်ကို ဂင်္ဂါမြစ်ကမ်း၌ ဟောတော်မူလေရာ နန္ဒကဲ့သို့သော နွားကျောင်းသားသည်ပင်လျှင် ဒေသနာတော်၏ စွမ်းအားဖြင့် လူ့ဘောင်ကိုစွန့်ခွာပြီး ရဟန်းတရားကို အားထုတ်သဖြင့် ရဟန္တာ ဖြစ်သွားကြောင်းထောက်၍ ဤဒေသနာ၏ စွမ်းအားကြောင့် ရဟန်းတော်များလည်း အာသဝေါကုန်ခမ်း၍ ရဟန္တာဖြစ်ကုန်ကြမည်ကို ခန့်မှန်းနိုင်ပေသည်။



## ကြီးပွားချမ်းသာရေး

ပြဿနာ = ဥစ္စာစီးပွား
မေး = ရွာသူကြီး
ဖြေ = ဗုဒ္ဓမြတ်ဘုရား

"မြတ်စွာဘုရား၊ မြတ်စွာဘုရားသည် ခပ်သိမ်းကုန်သော သတ္တဝါတို့၏ အကျိုးကို လိုလားလျက်နေတော်မူသည် မဟုတ်ပါလော"

"ရွာသူကြီး၊ မှန်၏။ ငါသည် ခပ်သိမ်းကုန်သော သတ္တဝါတို့၏ အစီးအပွားကို လိုလားသူဖြစ်၏"

"အရှင်ဘုရား၊ ထိုသို့ဖြစ်ပါလျက် မြတ်စွာဘုရားသည် အဘယ့်ကြောင့် သတ္တဝါအချို့တို့အား ကောင်းမွန်စွာ တရားဟောတော်မူပြီး သတ္တဝါအချို့တို့အားမူ အဘယ်ကြောင့် ထိုသို့ ကောင်းမွန်စွာ တရားမဟောပါသနည်း"

နေရာမှာ နာဠန္ဒမြို့၊ ပါဝါရိကသူဌေး၏ သရက်ဥယျာဉ်ဖြစ်၏။ အခါတစ်ပါး၌ မြတ်စွာဘုရားသည် ထိုသရက်ဥယျာဉ်၌ သီတင်းသုံး နေတော်မူသည့် အခိုက်တွင် မြတ်စွာဘုရားအထံတော် လာရောက်ဖူးမြော်ကြသူတို့အနက်တွင် ရွာသူကြီးတစ်ယောက်လည်း ပါဝင်၏။

ထိုအချိန်၌ အသိဗန္ဓကဆိုသူသည် အကျော်ဒေးယျ ပုဂ္ဂိုလ်တစ်ဦး ဖြစ်၏။ ထိုသူကြီးသည် အဘ၏အမည်နှင့်တွဲကာ အသိဗန္ဓကသူကြီးဟူ၍ တွင်၏။ ထိုသူကြီးကား ဗုဒ္ဓဘာသာဝင်ယူတော်စင် မဟုတ်ချေ။ အရပ်ထက်စန်းကျင်၌ ဘုရားသခင်၏ ကျော်စောသတင်းများကြောင့် သုတေသနသဘောမျိုးဖြင့် လာရောက်ခြင်း ဖြစ်လေသည်။

ဘုရားသခင်နှင့် တွေ့ဆုံရလေသောအခါတွင်မူ ကြိုတုန်းကြုံခိုက် သူ့မှာ မေးလိုသောဆန္ဒတစ်ခု ဖြစ်လာ၍ အထက်ပါပြဿနာကို မေးမြန်းသဖြင့် ဘုရားသခင်ကလည်း အထက်ပါအတိုင်း ဟုတ်မှန်ကြောင်း ဝန်ခံဖြေကြားတော်မူသည်။

ထိုရွာသူကြီးသည် ဘုရား ဖြေကြားသောစကားကို ကြားရသောအခါ ထိုအဖြေကို ဤမျှဖြင့် ကျေနပ်ခြင်းမရှိ၍ အထွန့်တက်လျက် ဆက်၍ မေးလျှောက်နေပြန်၏။

"မြတ်စွာဘုရား၊ အရှင်ဘုရားသည် သတ္တဝါတို့၏ အစီးအပွားကို အကယ်ပင် လိုလားပါသလော"

"သူကြီး၊ မှန်ပေ၏"

"သို့ဖြစ်ပါလျက် သတ္တဝါအားလုံး ချမ်းသာအောင် အဘယ့်ကြောင့် မဟောပါသနည်း။ အချို့တို့ကား ကြီးပွားရာ ကြီးပွားကြောင်း ကောင်းသော နည်းလမ်းများ ညွှန်ကြားပြီး အချို့တို့ကိုမူ ထိုသို့ အဘယ့်ကြောင့် မညွှန်ကြားပါသနည်း"

ဤမေးခွန်းမှာ အကယ်သိလို၍ မေးသောမေးခွန်း၊ သို့မဟုတ် သူသည် ဗုဒ္ဓဝါဒီတစ်ဦးမဟုတ်သောကြောင့် အဘယ်မျှ ပညာရှိ၊ မရှိကို စူးစမ်းလိုသောကြောင့် မေးသောမေးခွန်းလည်း ဖြစ်နိုင်၏။ မည်သည့်ရည်ရွယ်ချက်ဖြင့် မေးသည်ဖြစ်စေ ထိုမေးခွန်းအတွက် ဘုရားသခင်ကား တုဏှိဘာဝေ ဆိတ်ဆိတ်နေတော်မမူချေ။ ထိုသူကြီးအား ဤစကားကို မြွက်ဆိုတော်မူသတည်း။

"ရွာသူကြီး၊ သို့ဖြစ်လျှင် သင့်ကိုပင် ငါ ပြန်၍ မေးအံ့။ သင် နှစ်သက်သည့်အတိုင်း ဖြေလော့။ သူကြီး၊ ထိုအရာကို သင် မည်သို့မှတ်ထင်သနည်း။ ဤလောက၌ လယ်သမားဖြစ်သော သူကြွယ်၌-

အကောင်းစား လယ်တစ်ကွက်၊

အလတ်စား လယ်တစ်ကွက်၊

အညံ့စား လယ်တစ်ကွက်-

ဟူ၍ လယ်သုံးကွက်ရှိရာ၏။ ရွာသူကြီး၊ ထိုအရာကို သင် မည်သို့ထင်သနည်း။ ထိုလယ်သမားဖြစ်သော သူကြွယ်သည် မျိုးစေ့တို့ကို စိုက်ပျိုးလိုသော် ရှေးဦးစွာ အဘယ်လယ်၌ စိုက်ပျိုးရာသနည်း။ အကောင်းစားလယ်၌ စိုက်ပျိုးမည်လော၊ အလတ်စားလယ်၌ စိုက်ပျိုးမည်လော။ အညံ့စားလယ်၌ စိုက်ပျိုးမည်လော" ဟု မေးတော်မူလေသော် သူကြီးက ဤသို့ဖြေ၏။

"အရှင်ဘုရား၊ ရှေးဦးစွာ အကောင်းစား လယ်ကွက်၌ စိုက်ရာပါ၏။ ထို့နောက် အလတ်စားလယ်၊ ထို့နောက်တွင်မှ နွားစာပင် ရရှိစေတော့ဟူ၍ အညံ့စားလယ်၌ စိုက်ပျိုးရာပါသည်"

မြတ်ဗုဒ္ဓသည် ထိုသူကြီးအား သူ၏အဖြေစကားနှင့် လိုက်ဖက်သောတရားကို ဟောတော်မူ၏။

"ရွာသူကြီး၊ ငါ၏တပည့် ရဟန်းယောကျ်ား၊ ရဟန်းမိန်းမတို့သည် အကောင်းစားလယ်နှင့် တူကုန်၏။ ထိုသူတို့တွင် ငါသာလျှင် ကိုးကွယ်ရာရှိ၍ နေကြသောကြောင့် ထိုသူတို့အား အစ၏ကောင်းခြင်း၊ အလယ်၏ကောင်းခြင်း၊ အဆုံး၏ကောင်းခြင်းရှိသော အနက်နှင့်ပြည့်စုံသော၊ သဒ္ဒါနှင့်ပြည့်စုံသောတရားကို ငါဟော၏။ အလုံးစုံ ပြည့်စုံသော ထက်ဝန်းကျင် စင်ကြယ်သောအကျင့်မြတ်ကို ငါ ပြ၏။-

- ရွာသူကြီး၊ ငါ၏ သီတင်းသည် ဥပါသကာယောကျ်ား၊ ဥပါသိကာမိန်းမတို့သည် အလတ်စားလယ်နှင့် တူကုန်၏။ ထိုသူတို့သည်လည်း ငါသာလျှင် မှီခိုရာ၊ လဲလျောင်းရာ၊ ပုန်းအောင်းရာ၊ ကိုးကွယ်ရာရှိ၍နေသောကြောင့် ထိုသူတို့အား အစ၊ အလယ်၊ အဆုံး သုံးပါးစလုံး ကောင်းခြင်းရှိသောတရားကို ငါဟော၏။ ထက်ဝန်းကျင် စင်ကြယ်သောအကျင့်ကို ငါ ပြ၏။-

- ရွာသူကြီး၊ တိတ္ထိတို့မှတစ်ပါးကုန်သော ငါ၏ သမဏ၊ ဗြာဟ္မဏတို့သည် ကြတ်တီးကုန်း၊ ဆားမြေ၊ မြေညံ့ဟူသော အညံ့စားလယ်နှင့် တူကုန်၏။ တစ်ပုဒ်မျှကိုသော်လည်း သိကြပါမူ ထိုသူတို့အား ရှည်မြင့်စွာသော ကာလပတ်လုံး စီးပွားချမ်းသာအကျိုးငှာဖြစ်ရာ၏ဟူသော ရည်ရွယ်ချက်ဖြင့် ထိုသူတို့အားလည်း အစ၊ အလယ်၊ အဆုံး သုံးပါးစလုံး ကောင်းခြင်းရှိသောတရားကို ငါ ဟော၏။ အနက်၊ သဒ္ဒါနှင့်ပြည့်စုံ၍ ထက်ဝန်းကျင် စင်ကြယ်သော အကျင့်မြတ်ကို ငါ ပြ၏"

ဗုဒ္ဓသည် ထိုရွာသူကြီးအား လယ်ဥပမာတရားကို ဟောကြားတော်မူပြီးနောက် အသိဉာဏ်ရင့်၍ ပွင့်စေရန်အလို့ငှာ ရေလှောင်အိုးပမာဖြင့် တစ်ဖန်တရားပြတော်မူပြန်၏။

"ရွာသူကြီး၊ ဥပမာ-တစ်နည်းသော်ကား ယောကျ်ားအား ရေလှောင်အိုးကြီး သုံးလုံး ရှိ၏။ တစ်လုံးကား မပေါက်၊ မယို၊ မစိမ့်။ တစ်လုံးကား မပေါက်၊ ယို၊ စိမ့်၏။ တစ်လုံးကား ပေါက်၊ ယို၏၊ စိမ့်၏။-

– ရှာသူကြီး၊ ထိုအရာကို သင် မည်သို့ ထင်မှတ်သနည်း။ ထိုယောက်ျား သည် ရေထည့်လိုသော် အဘယ်အိုး၌ ရှေးဦးစွာ ထည့်ရာသနည်း။ မပေါက်၊ မယို၊ မစိမ့်သော ရေလှောင်အိုး၌ ထည့်ရာသလော။ မပေါက်၍ ယိုစိမ့်သော ရေလှောင်အိုး၌ ထည့်ရာသလော။ ပေါက်၍ စိမ့်ယိုသော ရေလှောင်အိုး၌ ထည့်ရာသလော"

"မြတ်စွာဘုရား၊ ထိုယောက်ျားသည် ရေလှောင်လိုသော် မပေါက်၊ မယို၊ မစိမ့်သောအိုး၌ ထည့်ရာ၏"

"ရှာသူကြီး၊ ငါ၏ ရဟန်းယောက်ျား၊ ရဟန်းမိန်းမတို့သည် မပေါက်၊ မယို၊ မစိမ့်သော ရေလှောင်အိုးကြီးနှင့် တူကုန်၏။ ထိုသူတို့သည် ငါသာလျှင် မှီခိုရာ၊ လဲလျောင်းရာ၊ ပုန်းအောင်းရာ၊ ကိုးကွယ်ရာ ရှိ၍နေသောကြောင့် ထိုသူတို့ အား အစ၏ကောင်းခြင်း၊ အလယ်၏ကောင်းခြင်း၊ အဆုံး၏ကောင်းခြင်းရှိသော အနက်၊ သဒ္ဒါနှင့်ပြည့်စုံသောတရားကို ငါ ဟော၏။ ထက်ဝန်းကျင် စင်ကြယ် သော အကျင့်မြတ်ကို ငါ ပြ၏။–

– ရှာသူကြီး၊ ငါ၏ သီတင်းသည် ဥပါသကာယောက်ျား၊ ဥပါသိကာ မိန်းမတို့သည် မပေါက်မူ၍ ယိုသော၊ စိမ့်သော ရေလှောင်အိုးနှင့် တူကုန်၏။ ထိုသူတို့သည် ငါသာလျှင် မှီခိုရာ၊ လဲလျောင်းရာ၊ ပုန်းအောင်းရာ၊ ကိုးကွယ်ရာ ရှိ၍နေသောကြောင့် အစ၊ အလယ်၊ အဆုံး ကောင်းခြင်းရှိသော အနက်၊ သဒ္ဒါ နှင့် ပြည့်စုံသောတရားကို ငါ ဟော၏။ ထက်ဝန်းကျင် စင်ကြယ်သော အကျင့် မြတ်ကို ငါပြ၏။–

– ရှာသူကြီး၊ တိတ္ထိမှတစ်ပါးကုန်သော ငါ၏ သမဏ ဗြာဟ္မဏတို့ သည် ပေါက်၍ ယိုသော၊ စိမ့်သော ရေလှောင်အိုးကြီးနှင့် တူကုန်၏။ ထိုသူတို့သည် တစ်ပုဒ်မျှကိုသော်လည်း သိကြဘိမူ ထိုသူတို့အား ရှည်မြင့်စွာသော ကာလပတ် လုံး စီးပွားချမ်းသာအလို့ငှာ ဖြစ်ရာ၏ဟူသော ရည်ရွယ်ချက်ဖြင့် ထိုသူတို့အား လည်း အစ၊ အလယ်၊ အဆုံး ကောင်းခြင်းရှိသော အနက်၊ သဒ္ဒါနှင့် ပြည့်စုံသောတရားကို ငါ ဟော၏။ အလုံးစုံ ထက်ဝန်းကျင် စင်ကြယ်သော အကျင့်မြတ်ကို ငါ ပြ၏"

ဤသို့ ဟောတော်မူသောအခါ အသိဗန္ဓကာ၏ သားဖြစ်သော ထိုရှာသူ ကြီးသည် မြတ်စွာဘုရားအား ဤသို့ လျှောက်လေတော့၏။

"အရှင်ဘုရား၊ တရားတော်သည် အလွန်နှစ်သက်ဖွယ် ရှိပါပေစွ။ အလွန်နှစ်သက်ဖွယ် ကောင်းပါပေစွ။ အရှင်မြတ်ဘုရား၊ တပည့်တော်အား ဤနေ့မှစ၍ အသက်ထက်ဆုံး ဆည်းကပ်ကိုးကွယ်သော ဥပါသကာဟူ၍ မှတ်တော်မူပါဘုရား"

ထိုရွာသူကြီးကား ဘုရားကျောင်းတော်သို့ သွားရကျိုး၊ ဘုရားသခင်နှင့် ဖူးတွေ့ကျိုး နပ်သွားလေ၏။ ဥပါသကာအဆင့်သည် မြင့်၏။ သရဏဂုံ တည်လေပြီ။ သရဏဂုံတည်လျှင် အပါယ်ဘေးမှ ကင်းဝေးလေ၏။

(သင္ဂါယတနသံယုတ်၊ ခေတ္တူပမသုတ်)



## သံယောဇနနှင့် သံယောဇနိယတို့၏ ခြားနားချက် ဥပမာ

ပြဿနာ = သံယောဇဉ်

မေး = ရဟန်းများ

ဖြေ = စိတ္တသူကြွယ်

သဠာယတနဝဂ္ဂသံယုတ်၌ စိတ္တသံယုတ်ဟူ၍ ရှိ၏။ သုတ်ပေါင်း ဆယ်သုတ်တို့ဖြင့် တန်ဆာဆင်၍ ဟောအပ်သောသံယုတ် ဖြစ်၏။ စိတ္တသူကြွယ်သည် ထိုဆယ်သုတ်စလုံးတွင် အဓိကဇာတ်ဆောင်နေရာမှ ပါဝင်လေသည်။ စိတ္တသူကြွယ်သည် အဘယ်သို့သောပုဂ္ဂိုလ် ဖြစ်လေသနည်း။

မြန်မာစကားပြေများအနက် ရှေးအကျဆုံးသော စကားပြေဟူ၍ ထင်ရှားသော ပါရာယနဝတ္ထုကို တောင်တွင်းဆရာတော် အရှင်မဟာသီလဝံသ စီရင်တော်မူသွား၏။ ထိုပါရာယနဝတ္ထု၌ စိတ္တသူကြွယ်၏ အရည်အချင်း ဂုဏ်ပုဒ်များကို ဖော်ထုတ်ပြဆိုရာ၌–

> စိတ္တသူကြွယ်ကား ပညာကြီးသောအားဖြင့်ဘုရားသားတော် တပည့်အရှင်တို့နှင့် နှိုက်နဲသော ပရမတ်တရားကိုလျှင် မေးဖော် ဖြေဖော် ပြုကြ၏။ ဘုရားတပည့်သား အရှင်တို့၏ ချီးမွမ်းခြင်းကိုလည်း ခံရ၏။ အရှင်တို့ကိုသော်လည်း ဂုဏ်ကျေးဇူးအလျောက် သိသော ချီးမွမ်းခြင်းဖြင့် ချီးမွမ်းတတ်၏။
>
> စိတ္တသူကြွယ်၏အလေ့ကား ပညာလည်း ရှိ၏။ ပညာရှိသော အကျင့်ကိုလည်း ကျင့်၏။ နှိုက်နဲသော ပရမတ်တရားကိုလည်း သိမြင်နိုင်၍ မိမိဆင်သော နားတောင်းကို နားတောင်းဝတ်သောသူ

သည် လှုပ်ချောက်ချားသော် မခဲယဉ်း။ အလိုအတိုင်း လှုပ်ချောက်ချား သကဲ့သို့ ပိဋကတ်သုံးပုံကို အစ၊ အလယ်၊ အဆုံးအားဖြင့် ဖွေနှည်း၍ ချောက်ချားနိုင်၏။ ပညာရှိမည်သည်ကား-

(၁) သူ့အမေးကို အသင့်အားဖြင့် သိသာအောင် ဖြေတတ်၏။
(၂) မိမိလည်း အသင့်အားဖြင့် ဖြေသာအောင် မေးတတ်၏။
(၃) အသင့်အားဖြင့် သိသာအောင် ဖြေလေသူသော်လည်း နှစ်လို ဝမ်းမြောက်စွာဖြစ်လျက် ကောင်းချီးပေးတတ်၏။

ဤသုံးပါးလျှင် ပညာရှိအကျင့်တည်း။ သုံးပါးစုံသော၊ ပညာရှိ သော အကျင့်ကိုလည်း စိတ္တသူကြွယ် ကျင့်၏။

ဟူ၍ စိတ္တသူကြွယ်၏ ပညာရှိဂုဏ်ပုဒ်ကို ထုတ်ဖော်၍ ဆိုတော်မူ၏။

### သံယောဇနေ နှင့် သံယောဇနိယ

စိတ္တသံယုတ်၌ စိတ္တသူကြွယ်အနေဖြင့် ရှေးဦးစွာ ကိုင်တွယ်ရသည်မှာ သံယောဇနေနှင့် သံယောဇနိယပြဿနာ ဖြစ်လေသည်။

**မှတ်ချက်** ။ ။ စိတ္တသူကြွယ်၏ ဖြေဆိုချက်များမှာ ဘုရားသခင် ဟောတော်မူသည့်အတိုင်း ဖြေဆိုခြင်းဖြစ်၍ ဗုဒ္ဓကိုယ်တိုင် ဖြေဆိုသည်ပင် မည်၏။

ထိုအချိန်၌ များစွာသောရဟန်းတို့သည် မစ္ဆိကာသဏ္ဍာအရပ်၊ ဝေးပင်တော၌ နေကြကုန်၏။ အချင်းချင်း တရားဆွေးနွေးကြရာ၌ သံယောဇဉ်ပြဿနာသို့ ရောက်ရှိသွားလေ၏။

"ဇါ့ရှင်တို့၊ သံယောဇဉ်ဟူ၍လည်းကောင်း၊ သံယောဇနိယတရားဟူ၍ လည်းကောင်း၊ ဤတရားတို့သည် အနက်ထူး၊ သဒ္ဒါထူး ရှိကုန်သလော။ သို့ မဟုတ် အနက်တူ၍ သဒ္ဒါသာလျှင် ထူးသလော"

ရဟန်းတို့အကြားမှ ဤပြဿနာ ထိုးထွက်လာလေသည်။ ထိုပြဿနာ အတွက် မိမိတို့၏ အယူအဆများကို အမျိုးမျိုး တင်ပြဆွေးနွေးကြကုန်၏။ အချို့တို့က သံယောဇနနှင့် သံယောဇနိယမှာ မတူ။ သဒ္ဒါအနေအထား ထူးသကဲ့ သို့ပင် အနက်လည်း ထူးသည်ဟု ဆိုကုန်၏။

အချို့တို့ကမူ ဤသို့ မယူဆကြ။ သဒ္ဒါအနေအထားအားဖြင့် တစ်ခုနှင့် တစ်ခု မတူ၊ ကွဲပြားခြားနားခြင်းရှိသော်လည်း အနက်ကား မထူး။ အတူတူပင် တည်းဟု ယူဆကြကုန်၏။

ထိုပြဿနာ မပြီးမပြတ်ဖြစ်နေဆဲတွင် စိတ္တသူကြွယ် ရောက်ရှိသွားလေ၏။ ထိုအခါ စိတ္တသူကြွယ်ကို ရဟန်းတို့က ဤသို့ဆိုကုန်၏။

"ဒကာကြီး၊ ရောက်လာသည်မှာ အတော်ပင် ဖြစ်သည်။ ဘုန်းကြီးတို့မှာ သံယောဇနနှင့် သံယောဇနိယအတွက် ပြဿနာ ဖြစ်နေကြသည်။ အချို့က သဒ္ဒါ သာထူး၍ အနက်မထူးဟု ဆိုကုန်သည်။ အချို့တို့ကမူ သဒ္ဒါလည်းထူး၊ အနက် လည်းထူးသည်ဟု ဆိုပါကုန်သည်။ ဤပြဿနာအတွက် ဒကာကြီး၏ဆန္ဒကို သိလိုကြပါသည်" ဟု ရဟန်းတို့က ဆန္ဒတောင်းဆိုကြသောအခါ စိတ္တသူကြွယ် မှာ မငြင်းသာဘဲ ထိုပြဿနာကို ကိုင်တွယ်ဖြေရှင်းရလေ၏။

"အရှင်ဘုရားတို့၊ အချို့သော ပညာရှိတို့သည် ဥပမာဖြင့် တင်ပြလျှင် ဉာဏ်အမြင် ပွင့်လင်း၍ ဆိုလိုချက် အနက်အဓိပ္ပာယ်ကို သိလွယ်ပါကုန်၏။ သို့ ပါ၍ တပည့်တော် ဥပမာဆောင်၍ လျှောက်ထားပါမည် ဘုရား။-

- အရှင်ဘုရားတို့၊ နွားနက်က တစ်ကောင်၊ နွားဖြူက တစ်ကောင်၊ သည် နွားနှစ်ကောင်ကို တစ်ချောင်းတည်းသောကြိုးဖြင့် ချည်ထားသည် ဆိုပါတော့။ ဟိုဘက်ကြိုးစဖြင့် နွားနက်ကို၊ သည်ဘက်ကြိုးစဖြင့် နွားဖြူကို ချည်ထားသည် ဆိုပါတော့။ အဲသည့် နွားနှစ်ကောင်အနက် နွားဖြူနှင့် ကင်းကွာမသွားရအောင် နွားနက်က ဆွဲဆောင်နှောင်ဖွဲ့ထားသည်ဟူ၍လည်းကောင်း၊ နွားနက်နှင့် ကင်း ကွာမသွားရအောင် နွားဖြူက ဆွဲဆောင်နှောင်ဖွဲ့ထားသည်ဟူ၍လည်းကောင်း ပြောခဲ့သော် ထိုသူသည် ကောင်းစွာပြောသည် မည်ပါမည်လား ဘုရား" ဟူ၍ လျှောက်၏။ ရဟန်းတို့လည်း စဉ်းစား၍ ဆိုကုန်၏။

"သူကြွယ်၊ ကောင်းစွာပြောဆိုသည် မမည်ပါပေ။ နွားနက်သည် နွားဖြူ ၏ အနှောင်အဖွဲ့မဟုတ်။ နွားဖြူသည်လည်း နွားနက်၏ အနှောင်အဖွဲ့မဟုတ်။ ထိုနွားနှစ်ကောင်ကို တစ်ကောင်နှင့်တစ်ကောင် ကင်းကွာမသွားရအောင် ချည်နှောင် ထားသောကြိုးသည်သာ အနှောင်အဖွဲ့ဖြစ်၏"ဟု ဆိုကုန်၏။

ထိုအဖြေစကားကို ကြားရသောအခါ မိမိတင်ပြသော ဥပမာ၏အကျိုး ထိရောက်မှုကိုသိရ၍ သူကြွယ်၏အသွင်မှာ အထူးကြည်လာသည့်အလျောက် ကောက်ကာငင်ကာဆိုသလိုပင် လျှောက်ထားလေ၏။

"အရှင်ဘုရားတို့၊ ဤဥပမာ၌ သံယောဇနကား ကြိုးနှင့်တူ၏။ သံယောဇနိယ

ကား နှားနှစ်ကောင်နှင့် တူပါသည်ဘုရား။ အရှင်ဘုရားတို့၊ ထိုအတူပင် မျက်စိနှင့် ရူပါရုံတို့အနက် မျက်စိသည် ရူပါရုံ၏ အနှောင်အဖွဲ့ မဟုတ်ပါဘုရား။ ရူပါရုံသည်လည်း မျက်စိ၏ အနှောင်အဖွဲ့ မဟုတ်ပါဘုရား။ စင်စစ်အားဖြင့် မျက်စိနှင့် ရူပါရုံ ထိုနှစ်ပါးကိုစွဲ၍ဖြစ်သော ဆန္ဒရာဂသည် ထိုနှစ်ပါးတို့၏ အနှောင်အဖွဲ့ သံယောဇဉ်ပါ ဘုရား။-

- အရှင်ဘုရားတို့၊ နားသည် သဒ္ဒါရုံ၏ အနှောင်အဖွဲ့ မဟုတ်ပါ။ နှာခေါင်းသည် ဂန္ဓာရုံ၏ အနှောင်အဖွဲ့မဟုတ်ပါ။ လျှာသည် ရသာရုံ၏ အနှောင်အဖွဲ့ မဟုတ်ပါ။ ကိုယ်သည် ဖောဋ္ဌဗ္ဗာရုံ၏ အနှောင်အဖွဲ့ မဟုတ်ပါ။ ဖောဋ္ဌဗ္ဗရုံသည် ကိုယ်၏အနှောင်အဖွဲ့ မဟုတ်။ စင်စစ်အားဖြင့် ထိုနှစ်ပါးကိုစွဲ၍ဖြစ်သော လိုချင်တပ်မက်မှု ဆန္ဒရာဂသည် ထိုနှစ်ပါးတို့၌ အနှောင်အဖွဲ့ သံယောဇဉ်ပါ ဘုရား။ အရှင်ဘုရားတို့၊စိတ်သည် သဘောတရားတို့၏ အနှောင်အဖွဲ့ မဟုတ်ပါ။ သဘောတရားတို့သည်လည်း စိတ်၏ အနှောင်အဖွဲ့ မဟုတ်ပါ။ ထိုနှစ်ပါးကိုစွဲ၍ဖြစ်သော လိုချင်တပ်မက်မှု ဆန္ဒရာဂသည်သာ ထိုနှစ်ပါးတို့၌ သံယောဇဉ် အနှောင်အဖွဲ့ပါဘုရား"

ဤသို့ လျှောက်ထားလေသော် ရဟန်းတို့သည် စိတ္တသူကြွယ်အား ကောင်းချီးပေးကြကုန်သတည်း။

"သူကြွယ်၊ နက်နဲသောဘုရားစကားတော်၌ ပညာမျက်စိကို ဆောင်နိုင်ပေရကား သင့်အား အရတော်ပေစွတကား။ ကောင်းစွာရအပ်ပေစွတကား"

စိတ္တသူကြွယ်မှာ ဤသို့အားဖြင့် ရဟန်းတော်များ၏ ချီးကျူးခံ ပညာရှိအဖြစ်ဖြင့်လည်း အရပ်ထက်ဝန်းကျင်၌ ထင်ရှားသူ ဖြစ်ပေသည်။

## ဣသိဒတ္တသုတ်

ဤတွင် စကားစပ်၍ ဆိုချင်ပါသေး၏။ စိတ္တသံယုတ်တွင် သုတ်ပေါင်း ဆယ်သုတ်ရှိသည့်အနက် ပထမ ဣသိဒတ္တသုတ်၊ ဒုတိယ ဣသိဒတ္တသုတ်ဟူ၍ ဣသိဒတ္တဟူသောအမည်ဖြင့် သုတ်နှစ်သုတ် ပါရှိ၏။ ဣသိဒတ္တမှာ ပဉ္စင်းပျို တစ်ပါး၏ အမည်ဖြစ်လေသည်။

အရှင်၊ ဣသိဒတ္တသည် အသက်အရွယ်ငယ်သော်လည်း ပညာကြွယ်သောကြောင့်၊ ပညာစွမ်းရည် ထူးချွန်ထက်မြက်လှသောကြောင့် သဠာယတနသံယုတ်ပါဠိတော်၌ သုတ်နှစ်သုတ်၏ ပိုင်ရှင် ဖြစ်လာသည်။ သတ္တိခဲ ရဲရဲတောက် ကိုယ်တော်ကလေး ဖြစ်၏။

စိတ္တ သူကြွယ်မှာလည်း လူပုဂ္ဂိုလ်ထဲတွင် အထူးထင်ရှားသော အကျော်ဒေးယူပညာရှိကြီး ဖြစ်သောကြောင့် သူ့ကို ရိုန်းကြသည်။ အချို့ သံဃာတော်များသည်ပင် စာမေးမည်စိုးသောကြောင့် ရှောင်ကြကုန်သည်။ လျှမ်းလျှမ်းတောက်ပညာရှိကြီးပေတည်း။ ထိုလျှမ်းလျှမ်းတောက် သူကြွယ်နှင့် လျှမ်းလျှမ်းတောက် ကဿပဒတ္တကိုယ်တော်ကလေးတို့ တစ်နေ့တွင် ဆုံမိကြလေ၏။

စိတ္တသူကြွယ်သည် မစ္ဆာသဏ္ဍာအရပ်တွင် နေ၏။ ရတနာသုံးရပ်ကို အမြဲဆည်းကပ်၏။ မြတ်နိုးကော်ရော် ပူဇော်၏။ တစ်နေ့သောအခါ စိတ္တသူကြွယ်သည် ရဟန်းတော်များကို သူ့အိမ်သို့ ပင့်၍ ဆွမ်းကျွေး၏။ ဆွမ်းကိစ္စပြီးစီးလေသောအခါ စိတ္တသူကြွယ်သည် မထေရ်ကြီးအား လောကသည် မြဲ၊ မမြဲ၊ ထိုအသက်သည် ထိုကိုယ်လား၊ အသက်သည် တခြား၊ ကိုယ်သည် တခြားလား စသည်ဖြင့် မေးလျှောက်လျှင် မထေရ်ကြီးသည် ဆိတ်ဆိတ်သာ နေ၏။ သုံးကြိမ်ဆက်မေးသည်။ သုံးကြိမ်စလုံး အဖြေစကား ထွက်မလာချေ။

ထိုဆွမ်းကျွေးပွဲ၌ ကဿပဒတ္တကိုယ်တော်ကလေး ပါလာ၏။ သံဃာပရိသတ်တွင် အငယ်ဆုံးဖြစ်၏။ စိတ္တသူကြွယ်၏အမေးကို မဖြေဘဲ မထေရ်ကြီး ဆိတ်ဆိတ်နေသဖြင့် ကဿပဒတ္တပဥ္စင်းပျို့မှာ မနေသာတော့ဘဲ "တပည့်တော် ဖြေပါရစေ" ဟု မထေရ်ကြီးအား ပန်ကြား၏။ မထေရ်ကြီးက "ဖြေလော့" ဟု ခွင့်ပြု၏။

ဤသည့်နောက်ပိုင်းတွင်မူ မိုးသီးမိုးပေါက်များ ကျလာသည့်ပမာ အရှင်ကဿပဒတ္တသည် သူကြွယ်မေးသမျှ အဖြေများကို တုံ့စိုင်းခြင်းမရှိ ဒိုးဒိုးဒေါက်ဒေါက် ဖြေလေ၏။

"သူကြွယ်၊ လောကသည် မြဲ၏ဟူ၍လည်းကောင်း၊ မမြဲ၏ဟူ၍လည်းကောင်း ယူသော ဤအယူတို့သည် သက္ကာယဒိဋ္ဌိရှိသော် ဖြစ်ကုန်၏။ သက္ကာယဒိဋ္ဌိမရှိသော် မဖြစ်ကုန်"

"အရှင်ဘုရား၊ အဘယ်သို့လျှင် သက္ကာယဒိဋ္ဌိ ဖြစ်သနည်း"

"သူကြွယ်၊ ရုပ်ကိုအတ္တဟူ၍ ရှုလျှင် သက္ကာယဒိဋ္ဌိ ဖြစ်၏"

"အရှင်ဘုရား၊ အဘယ်သို့လျှင် သက္ကာယဒိဋ္ဌိ မဖြစ်သနည်း"

"သူကြွယ်၊ ရုပ်ကို အတ္တဟူ၍ မရှုလျှင် သက္ကာယဒိဋ္ဌိ မဖြစ်"

မေးလေတိုင်းမေးလေတိုင်းကို အဆစ်အပိုင်းကျကျ ဒိုးဒိုးဒေါက်ဒေါက် ဖြေဆိုသည်ကို သူကြွယ်သည် များစွာသဘောကျကြည်ညိုလှသဖြင့် လျှောက်၏။

"အရှင်ဘုရား၊ အဘယ်အရပ်က ကြွလာပါသနည်း"

"သူကြွယ်၊ အဝန္တိတိုင်းမှ လာခဲ့ပေ၏"

"အရှင်ဘုရား၊ အဝန္တိတိုင်း၌ အဒိဋ္ဌသဟာယ-လူမမြင်ဖူးသော်လည်း မိတ်ဆွေဖြစ်နေသူတစ်ဦး ရှိပါ၏။ အမည်မှာ ဣသိဒတ္တဟု ခေါ်တွင်ပါ၏။ သူသည် ယခု ရဟန်းပြုနေပါပြီ။ ထိုဣသိဒတ္တအရှင်ကို အရှင်ဘုရား မြင်ဖူးပါသလား"

"မြင်ဖူးပေ၏ သူကြွယ်"

"အရှင်ဘုရား၊ ထိုအရှင်သည် ယခုအခါ အဘယ်မှာ နေပါသနည်း"

ဤသို့မေးသောအခါတွင်မူ မဖြေဘဲ ဆိတ်ဆိတ်နေ၏။ ထိုအခါ သူကြွယ်က စဉ်းစားပြီးလျှင်-

"အရှင်ဘုရားသည် တပည့်တော်၏ အဒိဋ္ဌသဟာယ ဣသိဒတ္တပါလား ဘုရား"

"မှန်ပေ၏ သူကြွယ်"

ဤဖြစ်ရပ်သည်လည်း ဆန်းလှ၏။ လူချင်းတွေ့နေပါလျက်လည်း မိတ်ဆွေမှန်း မသိရှာလေ။ စိတ္တသူကြွယ်သည် ပဋ္ဌင်းပျို အရှင် ဣသိဒတ္တအား ကြည်ညို၍ ပစ္စည်းလေးပါး ဒါယကာခံ၍ မစ္ဆိကာသဏ္ဍ၌ ကျောင်းဆောက်ကိုးကွယ်လေသတည်း။

## အစေလက ကဿပသုတ်

ထိုမှတစ်ပါး အစေလက ကဿပသုတ်ဟူ၍လည်း စိတ္တသံယုတ်၌ ပါရှိသေး၏။ ထိုသုတ်သည်လည်း ထူးဆန်း၏။ သူငယ်ချင်းနှစ်ယောက်တို့၏ အဖြစ်ဆန်းဖြစ်၏။

အခါတစ်ပါးတွင် အစေလက ကဿပ တက္ကဒွန်းသည် မစ္ဆိကာသဏ္ဍသို့ ရောက်လာ၏။ ထိုတက္ကဒွန်းကား စိတ္တသူကြွယ်၏ ငယ်သူငယ်ချင်း ဖြစ်၏။ ငယ်စဉ်အခါက သွားဖော်လာဖက် ဖြစ်ခဲ့၏။ မိမိသူငယ်ချင်း ရောက်လာသည် ကြား၍ သွားရောက်တွေ့ဆုံလေသောအခါ စိတ္တသူကြွယ်မှာ များစွာအံ့အားသင့်သွား၏။ အဝတ်မဆီး အချည်းနှီး တက္ကဒွန်းဖြစ်နေသောကြောင့်တည်း။

သို့သော် ကြာမြင့်စွာ ကွဲကွာနေသော သူငယ်ချင်းချင်း ပြန်လည်တွေ့ဆုံရသဖြင့် ရှေးဟောင်းနှောင်းဖြစ်များ ပြောဆိုကြ၏။ ထို့နောက် သူကြွယ်က သူငယ်ချင်း ကဿပကို မေးလေသည်။

"ကဿပ၊ သင် ရဟန်းပြုသည်မှာ မည်မျှကြာပြီလဲ"

"နှစ်ပေါင်းသုံးဆယ်ရှိပြီ သူကြွယ်"

"မည်သည့်တရားထူးများ ရရှိပါသလဲ"

"မပြောချင်ပါဘူး သူငယ်ချင်းရယ်။ အနှစ်သုံးဆယ်တို့ ကာလပတ်လုံး ငါ့မှာ အဝတ်မဆီး အချည်းနှီးနေရခြင်း၊ ဦးပြည်းခေါင်းတုံး တုံးရခြင်း၊ တင်ပါး၌ ဖုံခါရန် ဥဒေါင်းမြီး စည်းကိုင်ဆောင်ရခြင်း၊ ဒါနှင့်ပဲ အချိန်ကုန်ခဲ့တာပဲ။ ဘာတရားထူးမျှ မရပါဘူး"

ထိုစကားကိုကြားလျှင် သူကြွယ်မှာ 'ဩော်-ဖြစ်ရလေခြင်း' ဟူ၍ ယူကျုံးမရ များစွာ အံ့အားသင့်နေ၏။

"သူကြွယ်၊ သင် ဥပါသကာဖြစ်နေသည်မှာ အတိမျှ ကြာပြီလဲ"

"နှစ်ပေါင်းသုံးဆယ် ရှိပါပြီ"

"တရားထူးများကော ရပြီလား"

"ရပေ၏"

စိတ္တသူကြွယ်သည် မိမိသူငယ်ချင်းအား ဘုရားသခင်၏ တရားများအကြောင်းကို ပြောပြလေသောအခါ ကဿပသည် ဘုရားတရားတော်၌ စိတ်ဝင်စားလာလေ၏။ 'စောစောကတည်းကပင် ငါ့သူငယ်ချင်းကဲ့သို့ တရားတော်နှင့် မွေ့လျော်ခဲ့ရပါမူ ကောင်းလေစွ' ဟု နောင်တရလာ၏။

"သူကြွယ်၊ ငါ ရှင်အဖြစ်၊ ရဟန်းအဖြစ်ကို ရလို၏။ ငါ့အား ကူညီပါလော့"

ထိုအခါ သူကြွယ်သည် ကဿပအား ဘုန်းကြီးကျောင်းသို့ ခေါ်သွားပြီးလျှင် သင်္ကန်းဆီးပေးပါရန် အပ်နှံလေ၏။

ကဿပသည် တက္ကဒွန်းအရေကိုခွာ၍ ယခုအခါ သာသနာ့ဝန်ထမ်း ရဟန်းအဖြစ်သို့ရောက်နေပြီဖြစ်၏။ ရဟန်းတရားကို မဆုတ်မနစ် အားထုတ်လေသောအခါ ခီဏာဇာတိ=ဇာတိကုန်ပြီ။ ပဋိသန္ဓေနေရမှု မရှိတော့ပြီ။ ဝုသိတံဗြဟ္မစရိယံ=မြတ်သောအကျင့်ကို ကျင့်ပြီးပြီ။ နာပရံကူတ္ထတ္တာယ=ပြုစရာအားလုံးကို ပြုပြီးပြီဖြစ်၍ နောက်ထပ်ပြုဖွယ်မရှိတော့ပြီ။ အာသဝေါ ကုန်ခမ်းကာ ရဟန္တာဖြစ်လေသတည်း။

စိတ္တသူကြွယ်မှာ လမ်းမှားသို့ရောက်နေသော မိမိသူငယ်ချင်းအား အမှောင်ခွင်း၍ အလင်းသို့ ဆောင်ပို့ပေးရသဖြင့် ဝမ်းသာမဆုံးတစ်ပြုံးပြုံး ရှိနေသတည်း။



## ဝေလာမပုဏ္ဏားဏ်
## ကြီးကျယ်သော အလှူတော်မင်္ဂလာ

ပြဿနာ = အလှူဒါန
မေး = အနာထပိဏ်သူဌေး
ဖြေ = မြတ်ဗုဒ္ဓ

အလှူဒါန–အလှူဒါနဟူ၍ ဆိုပြောကြကုန်၏။ အလှူဒါနဆိုကတည်းက လှူဖွယ်ဝတ္ထုများ၊ လှူစရာပစ္စည်းများ ပါလာတော့သည်။ လှူစရာပစ္စည်း၊ လှူဖွယ်ဝတ္ထု မရှိလျှင် အလှူမဖြစ်။ အလှူတစ်ခု ဖြစ်မြောက်ရာ၌ ဝတ္ထုပစ္စည်းသည် အထောက် အပံ့ဖြစ်စေသည်။ လှူလိုသော စေတနာ သဒ္ဓါတရား အဘယ်မျှ ကြီးမားထက် သန်စေကာမူလည်း လှူစရာပစ္စည်း မရှိက အလှူမမြောက်ချေ။ ဤမျှဖြင့် ကုသိုလ် ဒါနပြုကြရာ၌ လှူဖွယ်ဝတ္ထုသည် အဓိကကျကြောင်း ထင်ရှား၏။

ဒါနံသဂ္ဂသောပါနံ=
ပေးလှူခြင်းသည် နတ်ပြည်သို့ စောင်းတန်းကြီးဖြစ်၏။

ဒါနံ ပါထေယျ မုတ္တမံ=
ပေးလှူခြင်းသည် ဘဝသံသရာအတွက် မွန်မြတ်သော ရိက္ခာဖြစ်၏။

ဒါနံ သမ္ပတ္တိသာဓကံ=
အလှူပေးခြင်းသည် ခပ်သိမ်းသော ကောင်းကျိုးကို ပြီးစေ၏။

သို့ကြောင့်ပင် အလှူရေစက် လက်နှင့်မကွာ ပြုကြကုန်၏။ လှူကြတန်းကြ ကုန်၏။ ဒါနနှင့်သီလမပါလျှင် သေခါမှသိမည်ဟူ၍ပင် ဆိုရိုးစကား ပြုထားကြ ကုန်၏။

စပယ်ဦးစာပေ

ညောင်စေ့လောက်လှူသော်လည်း ညောင်ပင်ကြီးလောက် ရသည်။ ညောင်ပင်ကြီးလောက်လှူသော်လည်း ညောင်စေ့လောက်သာ ရသည်ဟူသော စကားများလည်း ရှိသေး၏။ စေတနာမွန်မြတ်လျှင် မွန်မြတ်သည့်အလျောက်၊ စေတနာညံ့လျှင် ညံ့သည့်အလျောက် အကျိုးပေးတတ်ပုံကိုဆိုသောစကား ဖြစ်၏။

စေတနာဒါနနှင့်ပတ်သက်၍ နဝကနိပါတ်၊ အင်္ဂုတ္တိုရ်၊ ဝေလာမသုတ်၌ အနာထပိဏ် သူဌေးအား ဘုရားသခင် ဟောတော်မူဖူးပေသည်။ ဟောတော်မူခြင်း အကြောင်းရင်းသော်ကား-

အနာထပိဏ်သည် ဇေတဝန်ကျောင်းတော်ကြီးကို ဆောက်လှူသော ကျောင်းဒါယကာသူဌေးကြီး ဖြစ်သည်။ သံဃာအား အမြဲလှူဒါန်းလေ့ ရှိသည်။ ကျောင်းသို့သွားလျှင် လှူစရာတန်းစရာမရှိဘဲ လက်ချည်းသက်သက်ဖြင့် သွားလေ့မရှိ။

တစ်ချိန်သောအခါတွင် ထိုအနာထပိဏ် သူဌေးကြီးမှာ စီးပွားဆုတ်ယုတ်ကျဆင်းသွားလေ၏။ ထို့ကြောင့် သံဃာတော်များအား နေ့စဉ် ဆွမ်းကပ်လှူရာ၌ ရှေးအခါကကဲ့သို့ ဘောဇဉ်ခဲဖွယ်များကို ဖွယ်ဖွယ်ရာရာ မလှူဒါန်းနိုင်ရှာသဖြင့် ဆန်ကွဲထမင်းနှင့် ပုန်းရည်ဟင်းကိုပင် ဝတ်မပျက် လှူဒါန်းနိုင်အောင် ကြိုးစား၍ လှူနေရသည့်အခြေသို့ ဆိုက်ရောက်သွား၏။

အခါတစ်ပါး၌ အနာထပိဏ်သူဌေးသည် ဇေတဝန်ကျောင်းတော် ဘုရားသခင့်ထံသို့ ရောက်သွား၏။ သင့်တင်လျောက်ပတ်သောနေရာ၌ ထိုင်လျက် ဘုရားသခင်အား ရှိသေစွာ ကန်တော့လေရာ ဘုရားသခင်နှင့် အနာထပိဏ်သူဌေးကြီးတို့၏အကြားမှ အမေးအဖြေစကားများ ထွက်လာ၏။

"သူကြွယ်၊ သင့်အိမ်၌ အလှူကို ပေးလှူ၏လော"

"အရှင်ဘုရား၊ တပည့်တော်၏ အိမ်မှာ အလှူကိုနေ့စဉ် လှူဝတ်မပျက် ပင်လှူဒါန်းလျက်ပါဘုရား။ သို့သော် ရှေးအခါကဲ့သို့ ဖွယ်ဖွယ်ရာရာ မတတ်နိုင်တော့သည့်အတွက် လှူဝတ်မပျက်အောင် ယုတ်ညံ့သော ဆန်ကွဲထမင်းနှင့် ပုန်းရည်ဟင်းကိုသာ လှူဒါန်းနေရပါသည် ဘုရား"

"သူကြွယ်၊ ယုတ်ညံ့သည်ဖြစ်စေ၊ မွန်မြတ်သည်ဖြစ်စေ၊ အလှူကိုပေးလှူရာ၏။ ထိုအလှူကိုလည်း-

မရိုမသေ လှူပါမူ၊

စိတ်မပါဘဲ လှူပါမူ၊

မိမိလက်ဖြင့် ကိုယ်တိုင်မဟုတ်ဘဲ လှူပါမူ၊

လွှင့်ပစ်သကဲ့သို့ လှူပါမူ၊
ကံ ကံ၏အကျိုး ရှိ၏ဟု အယူမရှိဘဲ လှူပါမူ–

ထိုအလှူ၏အကျိုး ဖြစ်လေတိုင်း၌ မွန်မြတ်သောအစာကို သုံးဆောင်ရန် စိတ်မညွတ်၊ မွန်မြတ်သော အဝတ်ကိုဝတ်ရန် စိတ်မညွတ်၊ မွန်မြတ်သောယာဉ်ကို သုံးဆောင်ရန် စိတ်မညွတ်၊ မွန်မြတ်သော ကာမဂုဏ်ငါးပါးတို့၌ သုံးဆောင်ရန် စိတ်မညွတ်၊ ထိုအလှူရှင်၏ သား၊ မယား၊ ကျွန်၊ အစေခံ၊ အလုပ်သမားတို့သည် လည်း ပြောစကားကို မနာခံကုန်၊ နားမထောင်ကုန်၊ သိရန် စိတ်ကို မထားကုန်၊ ထိုသို့ဖြစ်ခြင်းသည် အဘယ့်ကြောင့်နည်း။ သူကြွယ်၊ မရိုမသေ ပြုအပ်ကုန်သော ကောင်းမှုကံတို့၏အကျိုးသည် ဤသို့ ဖြစ်တတ်သောကြောင့်တည်း။–

သူကြွယ်၊ ယုတ်ညံ့သည်ဖြစ်စေ၊ မွန်မြတ်သည်ဖြစ်စေ၊ အလှူကို ပေးလှူ၏။ ထိုအလှူကိုလည်း ရိုရိုသေသေလှူပါမူ ။ပ။ အလှူ၏ အကျိုးဖြစ်လေရာတိုင်း၌ မွန်မြတ်သောအစာကို သုံးဆောင်ရန် စိတ်ညွတ်၏။ မွန်မြတ်သော အဝတ်ကို သုံးဆောင်ရန်၊ မွန်မြတ်သောယာဉ်ကို သုံးဆောင်ရန်၊ မွန်မြတ်သော ကာမဂုဏ်တို့၌ သုံးဆောင်ရန် စိတ်ညွတ်၏။ ထိုအရှင်၏ သား၊ မယား၊ ကျွန်၊ အစေခံ၊ အလုပ်သမားတို့သည်လည်း ပြောစကားကို နာခံလိုကုန်၏။ နားထောင်လိုကုန်၏။ သိရန်စိတ်ကိုထားကုန်၏။ ထိုသို့ဖြစ်ခြင်းသည် အဘယ့်ကြောင့်နည်း။ သူကြွယ်၊ ရိုရိုသေသေပြုလုပ်အပ်ကုန်သော ကောင်းမှုကံတို့၏ အကျိုးသည် ဤသို့ဖြစ်တတ်သောကြောင့်တည်း"

## ဝေလာမပုဏ္ဏားဝတ္ထု

"သူကြွယ်၊ ရှေးက ဖြစ်ခဲ့ဖူးသည်ကား ဝေလာမပုဏ္ဏားဟူ၍ ရှိခဲ့၏။ ထိုပုဏ္ဏားသည် ဤမျှကြီးကျယ်သောအလှူကို လှူခဲ့၏။ ငွေဖြင့်ဖြည့်သော ရွှေခွက်ပေါင်း ရှစ်သောင်းလေးထောင်တို့ကို လှူခဲ့၏။ ခြင်္သေ့ရေ၊ ကျားရေ၊ သစ်ရေ၊ ပဏ္ဍုကမ္ဗလာတို့ဖြင့် ခြံရံအပ်ကုန်သော ရွှေတန်ဆာ၊ ရွှေတံခွန်၊ ရွှေကွန်ရက်တို့ဖြင့် ဖုံးလွှမ်းအပ်ကုန်သော ရထားပေါင်း ရှစ်သောင်းလေးထောင်တို့ကို လှူခဲ့၏။ ဘွဲ့ဖြူပုဆိုးခင်းအပ်ကုန်သော ငွေ (နို့ရေစ်) ခွက် ရှိကုန်သော နွားမပေါင်း ရှစ်သောင်းလေးထောင်တို့ကို လှူခဲ့ဖူး၏။ ပတ္တမြားနားထောင်းဝတ်သော အမျိုးသမီး ရှစ်သောင်းလေးထောင်တို့ကို လှူခဲ့ဖူး၏။ မွေးရှည်ကော်ဇောကြီး၊ သား

မွေးဖြူအခင်း၊ ပန်းပြောက်ခြယ် သားမွေးအခင်းဖြင့် ခင်းအပ်ကုန်သော ဝံပိုင်ရေအခင်းမြတ်၊ နီသော မျက်နှာကြက်နှင့် အုန်းနီနှစ်ဖက်ရှိကုန်သော ပလ္လင်ပေါင်း ရှစ်သောင်းလေးထောင်ကို လှူခဲ့၏။ သိမ်မွေ့နူးညံ့သော ခေါမမည်သော ပုဆိုး၊ သိမ်မွေ့သော ပိုးချည်အဝတ်၊ သိမ်မွေ့သော ဝါချည်အဝတ်ပေါင်း ရှစ်သောင်းလေးထောင်ကို လှူခဲ့၏။ ထမင်းခဲဖွယ်၊ စားဖွယ်၊ လျက်ဖွယ်၊ သောက်ဖွယ်ကို လှူခြင်း၌ကား ဆိုဖွယ်မရှိ။ မြစ်ရေစီးသကဲ့သို့ ထင်ရကုန်၏။-

- သူကြွယ်၊ ထိုအခါကဖြစ်ခဲ့သော ထိုကြီးကျယ်သော အလှူကို လှူခဲ့သော ဝေလာမပုဏ္ဏားဟူသည် အခြားသူ ဖြစ်တန်ရာ၏ဟု သင့်အား ဤသို့ အကြံဖြစ်ရာ၏။ သူကြွယ်၊ ထိုအကြောင်းကို ဤသို့ မမှတ်လင့်။ ငါသည် ထိုအခါက ဝေလာမပုဏ္ဏား ဖြစ်ခဲ့ဖူး၏။ ငါသည် ထိုကြီးကျယ်သောအလှူကို လှူခဲ့၏။ သူကြွယ်၊ ထိုအလှူ၌ မြတ်သောအလှူကို ခံထိုက်သူ တစ်ဦးတစ်ယောက်မျှ မရှိခဲ့။ တစ်ဦးတစ်ယောက်မျှ မြတ်သောအလှူကို မသုတ်သင်နိုင်ခဲ့။-

- သူကြွယ်၊ ဝေလာမပုဏ္ဏားသည် အကြင် ကြီးသောအလှူကို လှူခဲ့၏။ အကြင်သူ တစ်ဦးတစ်ယောက်သည်ကား အယူပြည့်စုံသူ သောတာပန်တစ်ဦးကို ကျွေးမွေးရာ၏။ ထိုသောတာပန်တစ်ဦးကို ကျွေးမွေးခြင်းသည် ထိုဝေလာမပုဏ္ဏား၏ အလှူကြီးထက် သာ၍ အကျိုးကြီး၏။ အကြင်သူသည် သောတာပန်တစ်ရာကိုကျွေးမွေးရာ၏။ အကြင်သူသည်ကား သကဒါဂါမ်တစ်ဦးကို ကျွေးမွေးရာ၏။ ဤသကဒါဂါမ်တစ်ဦးကို ကျွေးမွေးရခြင်းသည် ထိုသောတာပန်တစ်ရာကို ကျွေးမွေးရခြင်းထက် သာ၍ အကျိုးကြီး၏။ အကြင်သူသည် သကဒါဂါမ်တစ်ရာကို ကျွေးမွေးရာ၏။ အကြင်သူသည် အနာဂါမ်တစ်ဦးကို ကျွေးမွေးရာ၏။ ။ပ။ အကြင်သူသည် အနာဂါမ်တစ်ရာကို ကျွေးမွေးရာ၏။ အကြင်သူသည် ရဟန္တာတစ်ပါးကိုကျွေးမွေးရာ၏။ ။ပ။ အကြင်သူသည် ရဟန္တာတစ်ရာကို ကျွေးမွေးရာ၏။ အကြင်သူသည်ကား ပစ္စေကဗုဒ္ဓါ တစ်ပါးကို ကျွေးမွေးရာ၏။ ။ပ။ အကြင်သူသည် ပစ္စေကဗုဒ္ဓါ တစ်ရာကို ကျွေးမွေးရာ၏။ အကြင်သူသည်ကား ပူဇော်အထူးကို ခံတော်မူထိုက်သော၊ အလုံးစုံသောတရားကို ကိုယ်တိုင် မှန်စွာသိတော်မူသော မြတ်စွာဘုရားကို ကျွေးမွေးရာ၏။ အကြင်သူသည်ကား ဘုရားမြတ်စွာ အမှူးရှိသော သံဃာကို လုပ်ကျွေးရာ၏။ ။ပ။ အကြင်သူသည်ကား အရပ်မျက်နှာ၃၌ရှိသော သံဃာအကိုရည်ညွှန်း၍ ကျောင်းဆောက်လုပ်ရာ၏။ ။ပ။ အကြင်သူသည်ကား ကြည်ညိုစိတ်ရှိသဖြင့် ဘုရား၊ တရား၊ သံဃာ ကိုးကွယ်ရာ

ဟူ၍ ဆည်းကပ်ရာ၏။ ။ယ။ အကြင်သူသည်ကား ကြည်ညိုစိတ်ရှိသဖြင့် သူ့ အသက်သတ်ခြင်းမှ ရှောင်ကြဉ်မှု၊ မပေးသည်ကို ယူခြင်းမှရှောင်ကြဉ်မှု၊ ကာမဂုဏ်တို့၌ မှားယွင်းစွာကျင့်ခြင်းမှ ရှောင်ကြဉ်မှု၊ မဟုတ်မမှန် ပြောခြင်းမှ ရှောင်ကြဉ်မှု၊ ယစ်မူးမေ့လျော့ခြင်း၏ အကြောင်းဖြစ်သော သေအရက်သောက်ခြင်းမှ ရှောင်ကြဉ်မှုဟူသောသိက္ခာပုဒ်တို့ကို ဆောက်တည်ရာ၏။ အကြင်သူသည်ကား အယုတ်သဖြင့် နို့သာတစ်ရှုခန့်မျှ အချိန်လောက် မေတ္တာစိတ်ကို ပွားများရာ၏။ အကြင်သူသည်ကား လက်ဖျစ်တစ်တွက်ခန့်မျှ အချိန်လောက် အနိစ္စသညာကို ပွားများရာ၏။ ဤလက်ဖျစ်တစ်တွက်ခန့်အချိန်လောက် အနိစ္စသညာကို ပွားများခြင်းသည် ထိုမေတ္တာပွားခြင်းထက် သာ၍အကျိုးကြီး၏။-

သူကြွယ်၊ ဝေလာမပုဏ္ဏားသည် အကြင်အလှူကြီးကို လှူခဲ့၏။ အကြင်သူသည်ကား အယူပြည့်စုံသူ (သောတာပန်) တစ်ဦးကို ကျွေးမွေးရာ၏။ အကြင်သူသည် အယူပြည့်စုံသူ (သောတာပန်) တစ်ရာကို ကျွေးမွေးရာ၏။ အကြင်သူသည် သကဒါဂါမ်တစ်ဦးကို ကျွေးမွေးရာ၏။ အကြင်သူသည်ကား သကဒါဂါမ်တစ်ရာကို ကျွေးမွေးရာ၏။ အကြင်သူသည် အနာဂါမ်တစ်ဦးကို ကျွေးမွေးရာ၏။ အကြင်သူသည် အနာဂါမ်တစ်ရာကို ကျွေးမွေးရာ၏။ အကြင်သူသည်ကား ရဟန္တာတစ်ပါးကို ကျွေးမွေးရာ၏။ အကြင်သူသည် ရဟန္တာတစ်ရာကို ကျွေးမွေးရာ၏။ အကြင်သူသည်ကား ပစ္စေကဗုဒ္ဓါတစ်ပါးကို ကျွေးမွေးရာ၏။ အကြင်သူသည် ပစ္စေကဗုဒ္ဓါတစ်ရာကို ကျွေးမွေးရာ၏။ အကြင်သူသည်ကား ပူဇော်အထူးကို ခံတော်မူထိုက်သော၊ အလုံးစုံသောတရားတို့ကို ကိုယ်တိုင်မှန်စွာ သိတော်မူသော မြတ်စွာဘုရားကို ကျွေးမွေးရာ၏။ အကြင်သူသည် ဘုရားအမှူးရှိသော သံဃာကို ကျွေးမွေးရာ၏။ အကြင်သူသည်ကား အရပ်လေးမျက်နှာ၌ရှိသော သံဃာကို ရည်ညွှန်း၍ ကျောင်းဆောက်ရာ၏။ အကြင်သူသည် ကြည်ညိုစိတ်ရှိသဖြင့်၊ ဘုရား၊ တရား၊ သံဃာကို ကိုးကွယ်ရာဟု ဆည်းကပ်ရာ၏။ အကြင်သူသည်ကား ကြည်ညိုစိတ်ရှိသဖြင့် သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်မှု။ ။ပ။ ယစ်မူးမေ့လျော့ခြင်း၏ အကြောင်းဖြစ်သော သေအရက်သောက်ခြင်းမှ ရှောင်ကြဉ်မှုဟူသော သိက္ခာပုဒ်တို့ကို ဆောက်တည်ရာ၏။ အကြင်သူသည် နို့သာတစ်ရှုခန့်မျှ အချိန်မျှလောက် မေတ္တာစိတ်ကို ပွားရာ၏။ အကြင်သူသည်ကား လက်ဖျစ်တစ်တွက်မျှအချိန်လောက် အနိစ္စသညာကို ပွားများရာ၏။ ဤလက်ဖျစ်တစ်တွက်ခန့်မျှအချိန်လောက် အနိစ္စသညာကို ပွားများခြင်းသည်

ထိုမေတ္တာကို ပွားများခြင်းထက် သာ၍ အကျိုးကြီး၏" ဟူ၍ အနာထပိဏ်သူဌေး အား မိန့်တော်မူ၏။

ဤဘုရားအလောင်းတော် ဝေလာမပုဏ္ဏားကြီးကဲ့သို့ ထမင်းရည်ချောင်းစီး အောင် အလှူကြီးအတန်းကြီး မပေးလှူနိုင်ကြသော်လည်း ထိုအလှူကြီးမျိုးထက် အကျိုးပေး သာလွန်သော ငါးပါးသီလကို မြဲမြံစွာ စောင့်ထိန်းမှု၊ သတ္တဝါအပေါင်း ကျန်းမာချမ်းသာစေကြောင်းကို အနည်းဆုံး လက်ဖျစ်တစ်တွက်အချိန်ကလေးမျှ မေတ္တာပွားမှု၊ သင်္ခါရတရားဟူသမျှ အမြဲမရှိပါတကား၊ ဖြစ်ဖြစ်သမျှတို့ အကုန် ပျက်စီးခြင်းသဘော ရှိကြပါတကားဟူ၍ အနိစ္စသညာ ပွားများခြင်းအားဖြင့် ကြီးမားသောအကျိုးကို ရရှိနိုင်ကြောင်း ဗုဒ္ဓမြတ်ဘုရား ဟောကြားတော်မူခဲ့ပါ သတည်း။



## ပေးဝေသောအမျှကို သေသူတို့ ရ၊ မရ

ပြဿနာ = ကွယ်လွန်သူကို ရည်ညွှန်း၍ လှူသောဒါန
မေး = ဇာဏုသောဏိပုဏ္ဏားး
ဖြေ = ဗုဒ္ဓမြတ်ဘုရား

ဇာဏုသောဏိသည် ပုဏ္ဏားတစ်ဦး၏အမည် ဖြစ်၏။ သူသည် ပုဏ္ဏားလူမျိုးများစွာတို့အနက် အကျော်ဒေယျပုဂ္ဂိုလ်စာရင်းတွင် ရှေ့တန်းမှပါဝင်သော ပုဏ္ဏားတစ်ဦး ဖြစ်လေသည်။ သူသည် ပုဏ္ဏားလူမျိုးတို့၏ ရိုးရာယဉ်ကျေးမှု ဓလေ့ထုံးတမ်းစဉ်လာကို လေးစားသူလည်း ဖြစ်ပေသည်။

သို့သော် ပုဏ္ဏားတို့၏ အချို့အချို့သော ရိုးရာယဉ်ကျေးမှုများကို အစဉ်အလာမပျက် ဆက်လက်ထိန်းသိမ်းထားသော်လည်း သူ့မှာ သံသယဝင်နေ၏။ ဟုတ်မှဟုတ်ပါ့မလားဟူ၍ ယုံမှားဒွိဟဖြစ်နေ၏။

ယနေ့ခေတ်၌ ဗုဒ္ဓဘာသာတို့အနေဖြင့် တစ်စုံတစ်ယောက် ကွယ်လွန်ခဲ့သော် ပေတံ ကာလကတံ=ဘဝတစ်ပါးသို့ ပြောင်းသွားသူကို၊ ဥဒ္ဒိဿ=ရည်ညွှန်း၍၊ ဣမာနိ ဒါတဗ္ဗဝတ္ထူနိ–ဤလှူဖွယ်ပစ္စည်းတို့ကို၊ ဒေမ=ဆက်ကပ်လှူဒါန်းကြပါကုန်၏ဟူ၍ သေသူကိုရည်စူး၍ လှူဒါန်းလျက် ရှိကြကုန်၏။

ထို့အတူပင် ပုဏ္ဏားလူမျိုးတို့၌လည်း သေသူကို ရည်စူး၍ လှူဒါန်းခြင်း အစဉ်အလာ ရှိသည်ဖြစ်ရာ ဇာဏုသောဏိပုဏ္ဏားသည် ထိုအစဉ်အလာ၌ သံသယဖြစ်လာသည်။ 'ကွယ်လွန်သွားသူသည် ဤဘဝ၌ မရှိတော့ပြီ။ ဘယ်ဘဝဟူ၍ မသိနိုင်သော ဘဝတစ်ပါးသို့ သွားလေပြီ။ ဘဝကတ္တား ခြားသွားလေပြီ။ ဘယ်ဘဝသို့ ရောက်သွားမှန်း မသိရသော၊ မသိနိုင်သော ဘဝတစ်ပါးသို့ ပြောင်းသွားသူအား ရည်စူး၍ ဤဘဝ၌ ကျန်ရစ်ခဲ့သူများက ပေးသောအလှူဒါနသည် ထို

ကွယ်လွန်သွားသူ့ထံ ရောက်ပါ၏လော။ သူတို့တတွေ ထိုဒါနအဖိုးဘာဂကို ရမှ ရကြပါ၏လော' ဟူသော သံသယဖြောင့်သည် ဇာဏုသောဏိဗြာဟ္မဏကြီး၏ အသည်းနှလုံး၌ စူးဝင်လေသည်မှာ ကြာပြီဖြစ်၏။

သို့သော် သူ့မှာ ဖြစ်နေသော သံသယကို အခြားသူများအား ထုတ်ဖော် ပြောကြားခြင်း မရှိ။ ပြောပြန်လျှင်လည်း မိမိသာလျှင် အရှုံးဖြစ်မည်။ ပုဏ္ဏား လောက၏ ဒဏ်ခတ်ခြင်းကို ခံရမည်ဟူ၍ တုဏှိဘာဝေ ဆိတ်ဆိတ်သာ နေခဲ့ လေသည်။

တစ်ခါသော် ဇာဏုသောဏိပုဏ္ဏားသည် ဘုရားသခင်နှင့် ဆုံမိလေ၏။ အာလာပသလ္လာပစကားများ ပြောဆိုပြီးနောက် သူ့အသည်းနှလုံး၌ စူးနေသော ထိုဖြောင့်ကြီးကို သတိရလာ၍ သူ စဉ်းစားလေသည်။ 'ရဟန်းဂေါတမသည် အရာခပ်သိမ်းကို သိတော်မူသည့် သဗ္ဗညုဟု ထင်ရှားကျော်ကြားနေသူ ဖြစ်၏။ အခြားပုဏ္ဏားများလည်းတစ်ဦးတစ်ယောက်မျှ မရှိသဖြင့် ငါ့စကား ပေါက်ကြားသွားဖွယ်လည်း မရှိ။ ထိုအကြောင်းကို ရဟန်းဂေါတမနှင့် ကြုံတောင့် ကြုံခဲ ကြုံရသည့်အခိုက်တွင် မေးလိုက်ရင် ကောင်းမည်' ဟု အကြံပေါက်လာ သဖြင့် ဤသို့မေးလျှောက်တော့သည်။

"အရှင်ဂေါတမ၊ အကျွန်ုပ်တို့ ပုဏ္ဏားတို့ မည်သည်ကား ဤအလှူဒါန သည် ကွယ်လွန်သော ဆွေမျိုးသားချင်းတို့သို့ ရောက်ပါစေ။ ဤအလှူကို ကွယ် လွန်ကုန်သော ဆွေမျိုးသားချင်းတို့သည် သုံးဆောင်ကြပါစေဟု အလှူတို့ကို လှူ ကြပါကုန်၏။ သေသူကိုရည်၍ ပြုအပ်သော ကုဗ္ဗိထမင်းတို့ကို ပြုကြပါကုန်၏။ အရှင်ဂေါတမ၊ အသို့ပါနည်း။ ထိုအလှူသည် ကွယ်လွန်သူ ဆွေမျိုးဉာတိတို့ထံ သို့ ရောက်ပါသလော။ အသို့ပါနည်း။ ကွယ်လွန်သော ဆွေမျိုးဉာတိတို့သည် ထိုအလှူကို သုံးဆောင်ကြရပါသလော"

ဤသို့ မေးလျှောက်သည်ကို "ပုဏ္ဏား၊ ရောက်သင့်သောအရပ်၌ ရောက် ၏။ မရောက်သင့်သောအရပ်၌ မရောက်" ဟု ဗုဒ္ဓက မြွက်ကြားတော်မူလေသော်-

"အရှင်ဂေါတမ၊ ရောက်သင့်သောအရပ်ဟူသည် အဘယ်ပါနည်း။ မရောက် သင့်သောအရပ်ဟူသည် အဘယ်ပါနည်း" ဟု သိလိုသောအားဖြင့် ထပ်လော၍ မေးလျှောက်ချက်အရ အတုလပရမေ မြတ်စွာဘုရားသည် ဤသို့ မိန့်တော်မူလေ သတည်း။

"ပုဏ္ဏား၊ ဤလောက၌ အချို့သောသူသည် အသက်ကို သတ်လေ့ရှိ၏။ မပေးသည်ကို ယူလေ့ရှိ၏။ ကာမတို့၌ မှားယွင်းစွာ ကျင့်လေ့ရှိ၏။ မဟုတ်မမှန်

ပြောလေ့ရှိ၏။ ကုန်းစကားရှိ၏။ ရှန့်ရင်းကြမ်းတမ်းသောစကား ရှိ၏။ ပြိန်ဖျင်းသောစကား ရှိ၏။ အဘိဇ္ဈာများ၏။ ဖျက်ဆီးလိုသောစိတ် ရှိ၏။ မှားယွင်းသော အယူရှိ၏။–

– ထိုသူသည် ကိုယ်ခန္ဓာပျက်စီး၍ သေသည်မှနောက်၌ ငရဲသို့ ရောက်ရ၏။ ထိုသူသည် ငရဲသားသတ္တဝါ၏အစာအာဟာရဖြင့် ငရဲ၌ မျှတရ၏။ ထိုအစာအာဟာရဖြင့် ထိုသူသည် ထိုငရဲ၌ တည်ရ၏။ ပုဏ္ဏားး၊ ဤသည်လည်း ရောက်သင့်သောအရပ် မဟုတ်သေး။ ယင်းငရဲ၌ တည်သူအား ထိုဒါနသည် မရောက်။

– ထိုသူသည် ကိုယ်ခန္ဓာပျက်စီး၍ သေသည်မှနောက်၌ တိရစ္ဆာန်မျိုးသို့ ရောက်ရ၏။ ထိုသူသည် တိရစ္ဆာန်မျိုးဖြစ်သည့် သတ္တဝါ၏ အစာအာဟာရဖြင့် ထိုတိရစ္ဆာန်မျိုး၌ မျှတရ၏။ ထိုအစာဖြင့် ထိုသတ္တဝါသည် ထိုတိရစ္ဆာန်မျိုး၌ တည်ရ၏။ ပုဏ္ဏားး၊ ဤသည်လည်း ရောက်သင့်သောအရပ် မဟုတ်သေး။ တိရစ္ဆာန်မျိုး၌ တည်သူအား ထိုဒါနသည် မရောက်။

– ပုဏ္ဏားး၊ ဤလောက၌ အချို့သောသူသည် အသက်သတ်ခြင်းမှ ရှောင်ကြဉ်၏။ မပေးသည်ကို ယူခြင်းမှ ရှောင်ကြဉ်၏။ ကာမတို့၌ မှားယွင်းစွာ ကျင့်ခြင်းမှ ရှောင်ကြဉ်၏။ မဟုတ်မမှန်ပြောခြင်းမှ ရှောင်ကြဉ်၏။ ကုန်းစကားမှ ရှောင်ကြဉ်၏။ ရှန့်ရင်းကြမ်းတမ်းသောစကားမှ ရှောင်ကြဉ်၏။ ပြိန်းဖျင်းသောစကားမှ ရှောင်ကြဉ်၏။ အဘိဇ္ဈာ မများ။ ဖျက်ဆီးလိုသောစိတ် မရှိ။ မှန်ကန်သော အယူရှိ၏။–

– ထိုသူသည် ကိုယ်ခန္ဓာပျက်စီး၍ သေသည်မှနောက်၌ လူတို့၏ အပေါင်းအဖော်အဖြစ်သို့ ရောက်ရ၏။ ထိုသူသည် လူတို့၏ အစာဖြင့် ထိုလူ့ဘုံ၌ မျှတရ၏။ ထိုအစာဖြင့် ထိုသူသည် ထိုဘုံ၌ တည်ရ၏။ ပုဏ္ဏားး၊ ဤသည်လည်း ရောက်သင့်သောအရပ် မဟုတ်သေး။ ယင်းလူ့ဘုံ၌ တည်သူအား ထိုဒါနသည် မရောက်။

– ထိုသူသည် ကိုယ်ခန္ဓာပျက်စီး၍ သေသည်မှနောက်၌ နတ်တို့၏ အပေါင်းအဖော်အဖြစ်သို့ ရောက်ရ၏။ ထိုသူသည် နတ်တို့၏ အစာဖြင့် ထိုနတ်ဘုံ၌ မျှတရ၏။ ထိုအစာဖြင့် ထိုသူသည် ထိုဘုံ၌

တည်ရ၏။ ပုဏ္ဏား၊ ဤသည်လည်း ရောက်သင့်သောအရပ် မဟုတ်သေး။ ယင်းနတ်ဘုံ၌ တည်သူအား ထိုဒါနသည် မရောက်။

- ပုဏ္ဏား၊ ဤလောက၌ အချို့သောသူသည် အသက်ကို သတ်လေ့ရှိ၏။ ။ပ။ မှားယွင်းသောအကျင့် ရှိ၏။-

- ထိုသူသည် ကိုယ်ခန္ဓာပျက်စီး၍ သေသည်မှနောက်၌ ပြိတ္တာဘုံသို့ ရောက်ရ၏။ ထိုသူသည် ပြိတ္တာဘုံသားဖြစ်သော သတ္တဝါတို့၏ ပြိတ္တာဘုံ၌ မျှတရ၏။ ထိုအစာဖြင့် ထိုသူသည် ထိုဘုံ၌ တည်ရ၏။ သို့မဟုတ် ထိုသူ့အတွက် အဆွေခင်ပွန်း၊ ချစ်ကျွမ်းဝင်သူတို့ကသော်လည်းကောင်း၊ ဆွေမျိုးသားချင်းတို့ကသော်လည်းကောင်း ပေးလှူအပ်သော ဒါနဖြင့် ထိုပြိတ္တာသည် ထိုပြိတ္တာဘုံ၌ မျှတရ၏။ ထိုဒါနဖြင့် ထိုပြိတ္တာသည် ထိုပြိတ္တာဘုံ၌ တည်ရ၏။ ပုဏ္ဏား၊ ဤသည်ကား ရောက်သင့်သောအရပ်တည်း။ ယင်းပြိတ္တာဘုံ၌ တည်သောသူအား ထိုဒါနသည် ရောက်၏"

ဟု မိန့်တော်မူ၏။ ထိုအခါ ဇာဏုသောဏိပုဏ္ဏားသည် သေသူရည်စူး၍ လှူသောဒါန သေသူ့ထံသို့ ရောက်၊ မရောက်ပြဿနာအတွက် ခြွင်းချက်မရှိ ကျေနပ်သော်လည်း ကွယ်လွန်သူတို့သည် လူ့ဘုံ၊ နတ်ဘုံ၊ တိရစ္ဆာန်ဘုံ၊ ပြိတ္တာဘုံသို့ မရောက်ခဲ့သော် သူတို့အတွက် လှူသော ထိုဒါနကို မည်သူ သုံးဆောင်လေမည်လဲ။ အချည်းနှီး ဖြစ်ကုန်လေမည်လားဟူ၍ တွေးမိသဖြင့် ရှင်းရှင်းလင်းလင်း သိလိုသောကြောင့် ဤသို့ မေးလျှောက်ပြန်သတည်း။

"အရှင်ဂေါတမ၊ အကယ်၍ ထိုကွယ်လွန်သူ ဆွေမျိုးသားချင်းတို့သည် ထိုဘုံဌာနများသို့ မရောက်ပါလျှင် အဘယ်သူသည် ထိုဒါနကို သုံးဆောင်ပါမည်နည်း" ဟု လျှောက်သည်ရှိသော်-

"ပုဏ္ဏား၊ ထိုဌာနသို့ ရောက်ကုန်သော အခြားသော ကွယ်လွန်သူ ဆွေမျိုးသားချင်းတို့သည် ထိုဒါနကို သုံးဆောင်ခံစားရပေသည်"

"အရှင်ဂေါတမ၊ ထိုကွယ်လွန်သော ဆွေမျိုးသားချင်းတို့သည် ထိုဘုံဌာနသို့ မရောက်လျှင် အခြားသော ကွယ်လွန်သူ ဆွေမျိုးသားချင်းတို့လည်း ထိုဘုံဌာနသို့ မရောက်ကြပါလျှင် ထိုဒါနကို မည်သူ သုံးဆောင်လေမည်နည်း"

"ပုဏ္ဏား၊ ဤမျှရှည်လျားသော အချိန်အခါကြီးဝယ် ကွယ်လွန်သူ ဆွေမျိုးသားချင်းတို့မှ ကင်းဆိတ်ရာဌာနရှိရာ၏ဟူသော ဤအကြောင်းသည် အရာ

မဟုတ်။ အခွင့်မဟုတ်ပေ။ ပုဏ္ဏား၊ အမှန်စင်စစ်အားဖြင့် အလှူရှင်သည်လည်း အကျိုးမဲ့ မဖြစ်နိုင်" ဟု မိန့်တော်မူ၏။

ဇာဏုသောဏိပုဏ္ဏားသည် ပြဿနာတစ်ခုကိုမေး၍ အဖြေရလေတိုင်း ထို အဖြေကို စိတ်ဝင်စားစွာ တွေးနေတတ်၏။ 'အရှင်ဂေါတမရဲ့စကားဟာ မှတ်သားလောက်ပါပေတယ်။ ဒါလောက်တောင် ရှည်လျားလှတဲ့ သံသရာကြီးထဲမှာ ဆွေမျိုးသားချင်းမှ လွတ်သူရယ်လို့ ဘယ်ရှိမလဲ။ အားလုံး ဆွေမျိုးသားချင်းတွေ ချည်းပေါ့တဲ့။ ငရဲဘုံ၊ လူ့ဘုံ၊ နတ်ဘုံ၊ ပြိတ္တာဘုံ မရောက်ဖူးသူရယ်လို့ကော ဘယ်ရှိမလဲ။ ဒီဘုံတွေကလွဲလို့ သတ္တဝါတွေရဲ့ ဖြစ်စရာ၊ ခိုနားစရာ မရှိ။ ဘယ်သူမပြု မိမိမှုဆိုတဲ့အတိုင်း မိမိပြုတဲ့ အမှုအလျောက် ထိုက်သင့်ရာဘုံသို့ ရောက်ကြရတာချည်းပဲတဲ့။ ဟုတ်ပေလိမ့်မယ်၊ ဟုတ်ပေလိမ့်မယ်။ ကျေနပ်စရာ ကောင်းပါတယ်' ဤသို့ တွေးနေလျက်မှ စိတ်ကူးပေါက်၍ ထပ်၍မေးလျှောက်သည်ကား–

"သေသူသည် မဖြစ်သင့်ရာ၌ ဖြစ်သော်လည်း အရှင်ဂေါတမသည် ဒါန အကျိုးကို ပညတ်ပါသလော"

သူ၏ ဆက်၍မေးလိုက်ချက်သည် လေးနက်၍ တန်ဖိုးကြီးမားလှ၏။ စဉ်းစားလိုက်သော အချက်အတွက် အဖြေထွက်လာအောင် မြတ်စွာဘုရားထံ တောင်းခံလိုက်ခြင်းပင်တည်း။

"ပုဏ္ဏား၊ သေသူသည် မဖြစ်သင့်ရာ၌ ဖြစ်သော်လည်း ငါသည် ဒါန၏ အကျိုးကို ပညတ်၏။ ပုဏ္ဏား၊ ဤလောက၌ အချို့သောသူသည်–

- အသက်ကို သတ်လေ့ရှိ၏။
- မပေးသည်ကို ယူလေ့ရှိ၏။
- ကာမတို့၌ မှားယွင်းစွာ ကျင့်လေ့ရှိ၏။
- မဟုတ်မမှန် ပြောလေ့ရှိ၏။
- ကုန်းစကား ရှိ၏။
- ရုန့်ရင်းကြမ်းတမ်းသောစကား ရှိ၏။
- ပြိန်ဖျင်းသောစကား ရှိ၏။
- အဘိဇ္ဈာ များ၏။
- ဖျက်ဆီးလိုသောစိတ် ရှိ၏။
- မှားယွင်းသောအယူ ရှိ၏။

ထိုသူသည် သမဏအားသော်လည်းကောင်း၊ ဗြာဟ္မဏအားသော်လည်းကောင်း ထမင်း၊ အဖျော်၊ အဝတ်၊ ယာဉ်၊ ပန်းနံ့သာ၊ နံ့သာပျောင်း၊ အိပ်ရာ၊ နေရာ၊ ဆီမီးကို လှူ၏။ ထိုသူသည် ကိုယ်ခန္ဓာပျက်စီး၍ သေသည်မှနောက်၌ ဆင်တို့၏ အပေါင်းအဖော်အဖြစ်သို့ ရောက်ရ၏။ ထိုသူသည် ထိုဆင်ဘဝ၌ အစားအသောက်၊ ပန်း၊ အထူးထူးသော အဆင်တန်ဆာကို ရခြင်းရှိ၏။-

– ပုဏ္ဏား၊ ဤဘဝ၌ သူ့အသက်ကိုသတ်ခြင်း၊ မပေးသည်ကို ယူခြင်း၊ ကာမတို့၌ မှားယွင်းစွာကျင့်ခြင်း၊ မဟုတ်မမှန်ပြောခြင်း၊ ကုန်းစကားဆိုခြင်း၊ ရန့်ရင်းကြမ်းတမ်းသောစကား ရှိခြင်း၊ ပြိန်ဖျင်းသောစကား ရှိခြင်း၊ အဘိဇ္ဈာများခြင်း၊ ဖျက်ဆီးလိုသောစိတ် ရှိခြင်း၊ မှားယွင်းသောအယူရှိခြင်းကြောင့် ထိုသူသည် ကိုယ်ခန္ဓာပျက်စီး၍ သေသည်မှနောက်၌ ဆင်တို့၏ အပေါင်းအဖော်အဖြစ်သို့ ရောက်ရ၏။ သမဏအားသော်လည်းကောင်း၊ ဗြာဟ္မဏအားသော်လည်းကောင်း အစားအသောက်၊ အဝတ်၊ ယာဉ်၊ ပန်း၊ နံ့သာ၊ နံ့သာပျောင်း၊ အိပ်ရာ၊ နေရာ၊ ဆီမီးကို လှူသောကြောင့်ကား ထိုသူသည် ထိုဆင်ဘဝ၌ အစားအသောက်၊ အဝတ်၊ ယာဉ်၊ ပန်း၊ အထူးထူးသော အဆင်တန်ဆာကို ရခြင်းရှိ၏။-

– ပုဏ္ဏား၊ ဤလောက၌ အချို့သောသူသည် သူ့အသက်ကို သတ်ခြင်း ရှိ၏။ ။ပ။ မှားယွင်းသောအယူရှိ၏။ ထိုသူသည် သမဏအားသော်လည်းကောင်း၊ ဗြာဟ္မဏအားသော်လည်းကောင်း အစားအသောက်၊ အဝတ်၊ ယာဉ်၊ ပန်း၊ နံ့သာ၊ နံ့သာပျောင်း၊ အိပ်ရာ၊ နေရာ၊ ဆီမီးကို လှူ၏။ ထိုသူသည် ကိုယ်ခန္ဓာပျက်စီး၍ သေသည်မှနောက်၌-

– မြင်းတို့၏ အပေါင်းအဖော်အဖြစ်သို့ ရောက်ရ၏။

– နွားတို့၏ အပေါင်းအဖော်အဖြစ်သို့ ရောက်ရ၏။

– ခွေးတို့၏ အပေါင်းအဖော်အဖြစ်သို့ ရောက်ရ၏။

ထိုသူသည် ထိုခွေးဘဝ၌ အစားအသောက်၊ ပန်း၊ အထူးထူးသော အဆင်တန်ဆာဒ၏ ကို ရခြင်းရှိ၏။-

– ပုဏ္ဏား၊ ဤလောက၌ အချို့သောသူသည် အသက်သတ်ခြင်းမှ ရှောင်ကြဉ်၏။ ။ပ။ မှန်ကန်သောစကားရှိ၏။ ထိုသူသည် သမဏအားသော် လည်းကောင်း၊ ဗြာဟ္မဏအားသော် လည်းကောင်း၊ အစားအသောက်၊ အဝတ်၊ ယာဉ်၊ ပန်း၊ နံ့သာ၊ နံ့သာပျောင်း၊ အိပ်ရာ၊ နေရာ၊ ဆီမီးကို လှူ၏။ ထိုသူသည် ကိုယ်ခန္ဓာပျက်စီး၍ သေသည်မှ နောက်၌ လူတို့၏ အပေါင်းအဖော်အဖြစ်သို့ ရောက်ရ၏။ ထိုလူ့ဘဝ၌ လူ၌ဖြစ်သော ကာမဂုဏ်ငါးပါးတို့ကို ရခြင်းရှိ၏။-

– ပုဏ္ဏား၊ ဤလောက၌ အချို့သောသူသည် အသက်သတ်ခြင်းမှ ရှောင်ကြဉ်၏။ ။ပ။ မှန်ကန်သော အယူရှိခြင်းကြောင့် ထိုသူသည် ကိုယ်ခန္ဓာ ပျက်စီး၍ သေသည်မှနောက်၌ လူတို့၏ အပေါင်းအဖော်အဖြစ်သို့ ရောက်ရ၏။ သမဏအားသော်လည်းကောင်း၊ ဗြာဟ္မဏအားသော်လည်းကောင်း၊ အစားအသောက်၊ ယာဉ်၊ အဝတ်၊ ပန်း၊ နံ့သာ၊ နံ့သာပျောင်း၊ အိပ်ရာ၊ နေရာ၊ ဆီမီးကို လှူသောကြောင့်ကား ထိုသူသည် ထိုသူ့ဘဝဝယ် လူ၌ဖြစ်သော ကာမဂုဏ်ငါးပါးတို့ကို ရခြင်းရှိ၏။ (နတ်ဖြစ်ရာ၌လည်း ထို့အတူပင်)–

– ပုဏ္ဏား၊ အမှန်စင်စစ်အားဖြင့် အလှူရှင်သည်လည်း အကျိုးမဲ့ မဖြစ်နိုင်ပေ”

ဤသို့ မိန့်တော်မူ၏။ ဇာဏုသောဏိပုဏ္ဏားသည် ဗုဒ္ဓအား ဝမ်းမြောက်စွာ ဤစကားကို လျှောက်ထားလေတော့၏။

“အရှင်ဂေါတမ၊ အံ့ဖွယ်ရှိပါပေစွ။ မဖြစ်ဖူးမြဲ ဖြစ်ပါပေစွ။ အရှင်ဂေါတမ၊ အလှူရှင်သည် အကျိုးမဲ့မဖြစ်သောကြောင့် အလှူတို့ကိုလှူရန် အလွန်ပင် သင့်သည်သာတည်း။ ကုသိုလ်ထမင်းကို ပြုသင့်သည်သာတည်း”

ထိုအခါ ဗုဒ္ဓမြတ်စွာက ဇာဏုသောဏိပုဏ္ဏားအား နိဂုံးချုပ် မိန့်ကြားတော်မူသည်ကား–

“ပုဏ္ဏား၊ ဤအရာသည် ဤသို့သာတည်း။ ပုဏ္ဏား၊ အလှူရှင်သည် အကျိုးမဲ့ မဖြစ်နိုင်သည်သာတည်း”

“အရှင်ဂေါတမ၊ အလွန်နှစ်သက်ဖွယ် ရှိပါပေစွ။ အရှင်ဂေါတမသည် အကျွန်ုပ်ကို ယနေ့မှစ၍ အသက်ထက်ဆုံး ကိုးကွယ်သော ဥပါသကာဟု မှတ်တော်မူပါဘုရား” ဟူ၍ ရိုသေလေးမြတ်စွာ လျှောက်ထားလေသတည်း။

ဖြစ်လာသူမှန်သမျှ တစ်နေ့မှာ သေရမည့်သူချည်းသာ ဖြစ်၏။ သူလည်း သေရအံ့။ ငါလည်း သေရအံ့။ ငါသေလျှင် သူပို့၍ သူသေလျှင် ငါပို့ရလတ္တံ့။

သင်္ခါရနိုင်ငံကို မလွန်ဆန်နိုင်သည့်အလျောက် တစ်နေ့မှာ ချုပ်ပျောက်ခန္ဓာ၊ ကင်းငြိမ်းကြရမည်ဖြစ်လေရာ သေပြီးသည့်နောက်၌ ကျန်ရစ်သူများအနေဖြင့် သေသူကို ရည်စူး၍ ဘာလုပ်သင့်သနည်း။ ဘာကိုလုပ်ထိုက်သနည်း။ ပရိဒေဝ သောကမီးလုံးကြီးတွေ တဟုန်းဟုန်းတောက်နေကြမည်လား။

သေသူကိုရည်စူး၍ ကောင်းမှုဒါနပြု၊ အမျှပေးဝေလျှင် သေသူထံ ရောက်၊ မရောက်၊ ကုသိုလ်ဒါန၏အကျိုးကို သေသူတို့ ခံစားရ၏၊ မခံစားရ၏ ဆိုချက်ကို ဒသကနိပါတ်၊ အင်္ဂုတ္တိုရ်ပါဠိတော် ဇာဏုသောဏိသုတ်၌ ဗုဒ္ဓမြတ်ဘုရား ဟောကြားထားပါသတည်း။



## အံ့ဖွယ်ရှစ်ဖြာ သမုဒ္ဒရာနှင့်
## အံ့ဖွယ်ရှစ်ဖြာ သာသနာ

ပြဿနာ = သမုဒ္ဒရာ၊ သာသနာ
မေး = ဗုဒ္ဓ၊ ပဟာရာဒအသုရာ
ဖြေ = ပဟာရာဒအသုရာ၊ ဗုဒ္ဓ

ဝေရဉ္စာပြည်မှာ ဖြစ်၏။ ပတ်ဝန်းကျင်အရပ်တို့မှ ကျူပင်များ၊ ကျူတောများရံလျက် အလယ်ကောင်တွင် ထီးထီးမားမား အဓိကရ တမာပင်ကြီးတစ်ပင်ရှိ၏။ နွေခေါင်ခေါင်တွင် အလွန်အေးသော အေးရိပ်သာကြီး ဖြစ်၏။

အခါတစ်ပါးတွင် မြတ်စွာဘုရားသည် ဝေရဉ္စာပြည်၊ ထိုကျူတောတွင် ပေါက်သည့် တမာပင်ကြီးအောက်၌ သီတင်းသုံးနေတော်မူ၏။ မည်သို့ပင် ဆိတ်ငြိမ်ရာသို့ကပ်၍ အေးချမ်းစွာနေလိုသော်လည်း ဗုဒ္ဓသည် စကြဝဠာအတွင်းရှိ သိကြား၊ နတ်၊ ဗြဟ္မာ၊ အသုရာတို့၏ ဦးခိုက်ရာဖြစ်သောကြောင့် မိမိတို့၌ အခါအခွင့်သင့်သည့်အခိုက်တွင် ဘုရားသခင့်ထံမှောက်သို့ အဖူးအမြော် ရောက်လာတတ်ကုန်၏။

ယခု ရှုပါလေဦး။ တမာပင်ရိပ်နန်း၌ ကိုယ်တော်တစ်ပါးတည်း အေးချမ်းစွာနေသော ရှင်တော်မြတ်ဘုရားမှာ အေးချမ်းစွာ နေခွင့်ရတော်မမူပါ။ ပဟာရာဒ အမည်ရှိသော အသုရာကြီး ရောက်လာသောကြောင့် စကားစမြည် လက်ခံဆိုပြောနေတော်မူရ၏။

"ပဟာရာဒ၊ သင်တို့အသုရာတို့သည် သမုဒ္ဒရာ၌မွေ့လျော်ကြကုန်၏လော"

အသုရာတို့၏ နေရာဒေသနှင့် အသုရာတို့၏ သဘာဝလေ့ကို ရှေးဦးစွာ မေးမြန်းတော်မူ၏။ သမုဒ္ဒရာ၌ ပျော်ကြရဲ့လားဟု မေးခြင်း၌ အသုရာတို့သည်

သမုဒ္ဒရာမှီ၍ နေကြသည့်နတ်များဖြစ်သဖြင့် သမုဒ္ဒရာနှင့်ဆိုင်ရာစကားဖြင့် နှုတ်ခွန်းဆက်ခြင်း ဖြစ်၏။ ဤတွင် ဗုဒ္ဓနှင့် ပဟာရာဒ အသုရာတို့ ခွန်းတုံ့ခွန်းလှည့် စကားဖြစ်လေ၏။

"အရှင်ဘုရား၊ တပည့်တော်တို့ အသုရာများသည် သမုဒ္ဒရာ၌ အလွန်ပျော်မွေ့ကြပါသည်ဘုရား"

"ပဟာရာဒ၊ သမုဒ္ဒရာ၌ အသုရာတို့ ပျော်မွေ့ခြင်းမှာ အကြောင်းရှိတန်ရာသည်။ မွေ့လျော်ချင်လာအောင် အသုရာတို့၏ စိတ်နှလုံးကို ယူကျုံးဆွဲဆောင်နိုင်သော သတ္တိထူးများ ရှိ၍သာ ဖြစ်ပေမည်။ သမုဒ္ဒရာ၌ အံ့ဩဖွယ်ကောင်းလောက်အောင် ထူးဆန်းသောအရာများ ရှိပါသလော"

ဗုဒ္ဓ၏မေးခွန်းစကားကို ကြားရသောအခါ ပဟာရာဒ အသုရာ၏ မျက်နှာသွင်ပြင်မှာ ရွှင်ပျလာသည်ဟု ထင်ရ၏။ မိမိတို့၏ နေထိုင်ရာ သမုဒ္ဒရာ၏ ဂုဏ်ပုဒ်ကို ထုတ်ဖော်ရန် အခွင့်ရလာသည်နှင့် ရွှင်ပျနေဟန် တူ၏။ သို့ကြောင့် ပင် သူသည် မြတ်စွာဘုရားအား ဤသို့ ဖြေကြားလေသတည်း။

"အရှင်ဘုရား၊ မြတ်ဘုရား၏ မိန့်တော်မူသည်မှာ မှန်ပါ၏။ အသုရာတို့၏ နှလုံးစိတ်ဝမ်းကို ချမ်းမြေ့အောင် ဆွဲဆောင်နိုင်သော သတ္တိထူးများ သမုဒ္ဒရာ၌ အမှန်ပင် ရှိပါ၏။ အံ့ဩချီးမွမ်း၍ မကုန်ခမ်းနိုင်အောင် ထူးထွေတည်အံ့ရာသောအရာများ သမုဒ္ဒရာ၌ ရှစ်ပါး၊ ရှစ်မျိုး ရှိပါသည်ဘုရား"

"ပဟာရာဒ၊ သမုဒ္ဒရာမှာ အံ့ဖွယ်ရှစ်ဖြာ ရှိ၏ဟု ဆိုလိုသလော"

"မှန်ပါသည်၊ သမုဒ္ဒရာမှာ အံ့ဖွယ်ရှစ်ဖြာ ရှိကြောင်းပါဘုရား"

"သို့ဖြစ်ဘိသော် ထိုအံ့ဖွယ်ရှစ်ဖြာကို ငါ သိလိုပေ၏"

"မှန်လှပါ၊ သမုဒ္ဒရာ၏ အံ့ဖွယ်ရှစ်ဖြာကို ဘုရားတပည့်တော် လျှောက်ထားပါအံ့ဘုရား"

## အံ့ဖွယ်ရှစ်ဖြာ သမုဒ္ဒရာ

"အရှင်ဘုရား၊ အသုရာတို့သည် သမုဒ္ဒရာ၌ မွေ့လျော်ကြခြင်းမှာမဖြစ်ဖူးမြဲထူးကဲသော အံ့ဖွယ်ရှစ်ပါးကြောင့် ဖြစ်ပါကုန်၏။ ထိုအံ့ဖွယ်ရှစ်ဖြာတို့မှာ–

(၁) "အရှင်ဘုရား၊ သမုဒ္ဒရာ ရေမျက်နှာပြင်သည် ကျယ်ဝန်းလှသော်လည်း ကမ်းစပ်၌ ရေတိမ်ပါသည်။ နက်ရှိုင်းခြင်း မရှိပါ။ ကမ်းစပ်မှ တဖြည်းဖြည်း နိမ့်ဆင်းသွားပါသည်။ အစဉ်အတိုင်း ကိုင်းသွား၊ ရှိုင်းသွားပါသည်။ ဤသို့ ကမ်းစပ်မှ တဖြည်းဖြည်း

နိမ့်ဆင်း၍ ကိုင်း၊ ရှိုင်းသွားခြင်းသည် သမုဒ္ဒရာ၏ ပထမအံ့ဖွယ်ပါ ဘုရား။–

(၂) – အရှင်ဘုရား၊ နောက်တစ်မျိုးကား မဟာသမုဒ္ဒရာသည် တည်တံ့သောသဘောရှိသည်ဖြစ်၍ ကမ်းကို မလွန်ပါ။ အဟုန်ဒီးဒီးဖြင့် မည်မျှပင်စီးစေကာမူ ကမ်းကိုလွန်သည်ဟူ၍ မရှိပါ။ ဤသို့ ကမ်းကို မလွန်ခြင်းသည် သမုဒ္ဒရာ၏ ဒုတိယအံ့ဖွယ်ပါဘုရား။–

(၃) – အရှင်ဘုရား၊ နောက်တစ်မျိုးကား သမုဒ္ဒရာသည် လူသူကွဲနွား စသော အကောင်ပုပ်များနှင့် မဆက်ဆံပါ။ အကောင်ပုပ်များကို လက်မခံဘဲ လျင်မြန်စွာ ကမ်းသို့ မှုတ်လွှင့်ပစ်ပါသည်။ ဤသို့ အကောင်ပုပ်များနှင့် မဆက်ဆံခြင်း၊ လက်မခံဘဲ မှုတ်ထုတ်ပစ်ခြင်းသည် သမုဒ္ဒရာ၏ တတိယအံ့ဖွယ်ပါဘုရား။–

(၄) – အရှင်ဘုရား၊ နောက်တစ်မျိုးကား ဂင်္ဂါ၊ ယမုနာ၊ အစိရဝတီမြစ်၊ သရဘူမြစ်၊ မဟီမြစ် ဟူသော မြစ်ကြီး ငါးသွယ်တို့သည် မဟာသမုဒ္ဒရာသို့ ရောက်ကုန်လတ်သော် ဂင်္ဂါ၊ ယမုနာ စသော ရှေးအမည်ဟောင်းများကို စွန့်၍ မဟာသမုဒ္ဒရာဟူ၍သာလျှင် ခေါ်ဝေါ်ခြင်းသို့ ရောက်ပါကုန်၏။ ရှေးအမည်ဟောင်းများ ပျောက်၍ သမုဒ္ဒရာဟူသော အမည်သစ်ဖြင့် တောက်ပ,ပါကုန်၏။ ဤသို့အမည်ဟောင်းပျောက်၍ သမုဒ္ဒရာဟူသော အမည်သစ်သို့ ရောက်ခြင်းသည် သမုဒ္ဒရာ၏ စတုတ္ထအံ့ဖွယ်ပါ ဘုရား။–

(၅) – အရှင်ဘုရား၊ လောက၌ မြစ်ကြီး၊ မြစ်ငယ်အသွယ်သွယ်တို့မှ ရေတို့သည် သမုဒ္ဒရာသို့ စီးဝင်ပါကုန်၏။ ကောင်းကင်မှ ရွာသွန်းသော မိုးရေတို့သည်လည်း သမုဒ္ဒရာသို့ ကျရောက်ပါကုန်၏။ သို့သော် သမုဒ္ဒရာမှာ ရေတိုးလာခြင်းလည်း မရှိ၊ ရေလျော့သွားခြင်းလည်း မရှိပါ။ အရှင်ဘုရား၊ ဤသို့ တိုးခြင်း၊ ယုတ်လျော့ခြင်း မရှိခြင်းသည် သမုဒ္ဒရာ၏ ပဉ္စမအံ့ဖွယ်ပါ ဘုရား။–

(၆) – အရှင်ဘုရား၊ နောက်တစ်မျိုးကား သမုဒ္ဒရာသည် အဘယ်မျှပင် ရေများသော်ငြားလည်း အရသာမှာ ငန်သောအရသာ တစ်မျိုးသာ ရှိပါ၏။ အရှေ့သမုဒ္ဒရာရေက ချိုသည်၊ တောင်သမုဒ္ဒရာရေက ခါးသည်၊ အနောက်သမုဒ္ဒရာရေက ချဉ်သည်၊ မြောက်

သမုဒ္ဒရာရေက ဖန်သည်ဟူ၍ အရသာ ခြားနားခြင်း မရှိ။ သမုဒ္ဒရာကြီး လေးစင်းရှိ ရေအားလုံး ငန်သောအရသာ တစ်ခုတည်းသာ ရှိပါသည်။ ဤသို့ အရသာ ခြောက်ပါးအနက် ငန်သောအရသာတစ်ခုတည်းသာ ရှိခြင်းသည် သမုဒ္ဒရာ၏ ဆဋ္ဌမမြောက် အံ့ဖွယ်ပါဘုရား။–

(၇) – အရှင်ဘုရား၊ နောက်တစ်မျိုးကား လောကဥ္စိ စိန်ကြောင်နီလာ၊ သန္တာမျက်ရွဲ၊ ပုလဲပတ္တမြား စသည်တို့သည် အဖိုးတန်ရတနာများ ဖြစ်ပါကုန်၏။ မဟာသမုဒ္ဒရာသည် အဆိုပါရတနာအမျိုးမျိုးတို့၏ တည်ရာ ဖြစ်ပါ၏။ သမုဒ္ဒရာကြီးလေးစင်းသည် ရတနာရောင်တို့ဖြင့် တဝင်းဝင်းတလက်လက် ရှိနေပါ၏။ အရှင်ဘုရား၊ ဤသို့ ရတနာအပေါင်းတို့ ကိန်းအောင်းရာဖြစ်ခြင်းသည် သမုဒ္ဒရာ၏ သတ္တမမြောက် အံ့ဖွယ်ပါဘုရား။–

(၈) – အရှင်ဘုရား၊ နောက်တစ်မျိုးကား တိမိမည်သောငါး၊ တိမိင်္ဂမည်သောငါး၊ တိမိလပိင်္ဂလမည်သောငါး၊ အသုရာ၊ နဂါး၊ ဂန္ဓဗ္ဗနတ် ဟူသော သတ္တဝါကြီးတို့၏လည်းကောင်း၊ ယူဇနာတစ်ရာမှ ယူဇနာငါးရာတိုင်အောင် အတ္တဘောကြီးမားသော သတ္တဝါတို့၏လည်းကောင်း နေရာဖြစ်ပါ၏။ အရှင်ဘုရား၊ ဤသို့ သတ္တဝါအကြီးစားကြီးများ၏ နေရာဖြစ်ခြင်းသည်လည်း ဤမဟာသမုဒ္ဒရာ၏ အဋ္ဌမမြောက် အံ့ဖွယ်ပါဘုရား။ ယင်းသို့သော ထူးထွေတည့်အံ့ရာသောသဘောများကို မြင်ကုန်မြင်ကုန်၍ အသုရာတို့သည် သမုဒ္ဒရာ၌ လွန်စွာပင် မွေ့လျော်ကြပါကုန်သည် ဘုရား”

ပဟာရာဒ အသုရာသည် သမုဒ္ဒရာ၏ အံ့ဖွယ်ရှစ်ပါးနှင့် ထူးဆန်းသော ထိုအံ့ဖွယ်အာရုံတို့က ဆွဲဆောင်သောကြောင့် အသုရာတို့ သမုဒ္ဒရာ၌ မွေ့လျော်ကြကြောင်းကို လျှောက်ထားပြီးနောက် ပဟာရာဒ အသုရာသည် ဘုရားသခင်အား မေးချင်စိတ် ပေါက်လာ၏။ ဘုရားသခင်က ငါ့ကို အသုရာတို့ သမုဒ္ဒရာမှာ ပျော်ကြပါစ ဟူ၍ မေးတော်မူ၏။ ငါကလည်း ထိုမေးခွန်းမျိုးကို မေးရလျှင် ကောင်းလေစွ။ ဤသို့ အကြံဖြစ်လာသည့်အလျောက် မြတ်စွာဘုရားအား မေးလျှောက်လေသတည်း။

## အံ့ဖွယ်ရှစ်ဖြာ သာသနာ

ဝေရဉ္ဇာပြည်၊ ကျူတောဒ္ဒေ ပေါက်ရောက်သော တမာပင်ကြီး၏ အရိပ် ဆာယာသည် အေးမြလှသည်နှင့်အမျှ ထိုတမာပင်ကြီးအောက်မှ ဓမ္မကထာကလည်း လွန်စွာပင် အေးမြလှ၏။

"အရှင်ဘုရား၊ အရှင်ဘုရား၏ တပည့်ရဟန်းတို့သည် ဤဓမ္မဝိနယ သာသနာတော်၌ မွေ့လျော်ကြပါကုန်၏လော" ဟု မေးလျှောက်၏။ ပဟာရာဒ အသုရာသည် ဘုရားသခင်၏ အမေးစကားမှ 'သမုဒ္ဒရာ' ဟူသော နေရာ၌ 'ဤဓမ္မဝိနယ' ကို အစားထိုး၍ 'အသုရာတို့ မွေ့လျော်ကြပါကုန်၏လော' နေရာတွင် 'ရဟန်းတို့ မွေ့လျော်ကြပါကုန်၏လော' ဟူ၍ မေးခြင်းပြုလေသည်။

ဘုရားသခင်က "မွေ့လျော်ပေကုန်၏" ဟု ဖြေသောအခါ–

"အရှင်ဘုရား၊ ရဟန်းတို့သည် အဘယ်သို့သော အံ့ဖွယ်သရဲ ထူးကဲသော သဘောကို မြင်ကုန်မြင်ကုန်၍ မွေ့လျော်ကြပါကုန်သနည်း" ဟူ၍ ဘုရားသခင်၏ မေးခွန်းနှင့် ထပ်တူကျ မေးလျှောက်၏။ ဘုရားသခင်ကလည်း ပဟာရာဒ အသုရာ၏ အဖြေနှင့် ထပ်တူကျအောင် ဖြေတော်မူ၏။

"ပဟာရာဒ၊ ဤဓမ္မဝိနယ သာသနာတော်၌ မဖြစ်ဖူးမြဲ အံ့ဖွယ်သရဲ ထူးကဲသော သဘောရှစ်မျိုးတို့ ရှိကုန်၏။ ယင်းသဘောတို့ကို မြင်ကုန်မြင်ကုန်၍ ဤဓမ္မဝိနယ၌ ရဟန်းတို့ မွေ့လျော်ကုန်၏။ ဤရှစ်မျိုးတို့ကား–

(၁) – ပဟာရာဒ၊ သမုဒ္ဒရာသည် ကမ်းစပ်၌ စောက်နက်သည် မဟုတ်ဘဲ အစဉ်အတိုင်း ဆင်ခြေလျှော နိမ့်ရှိုင်းသွားဘိသကဲ့သို့ ဤအတူပင် ဤဓမ္မဝိနယ သာသနာတော်၌ သိက္ခာစဉ် ရှိ၏။ ကျင့်စဉ် ရှိ၏။ အစသာလျှင် အရဟတ္တဖိုလ်ကို ထိုးထွင်း၍ သိသည်မဟုတ်။ ပဟာရာဒ၊ ယင်းသို့ ဓမ္မဝိနယ သာသနာတော်၌ သိက္ခာစဉ် ရှိခြင်း၊ လုပ်ငန်းစဉ်ရှိခြင်း၊ ကျင့်စဉ်ရှိခြင်း၊ အစဉ်သာလျှင် အရဟတ္တဖိုလ်ကို ထိုးထွင်း၍ မသိရခြင်းသည် ဤဓမ္မဝိနယ သာသနာတော်၌ အံ့ဖွယ်သရဲ ထူးကဲသော ပဌမသဘောတည်း။ ယင်းသဘောတို့ကို မြင်ကုန်မြင်ကုန်၍ ရဟန်းတို့ မွေ့လျော်ကြကုန်၏။–

(၂) – ပဟာရာဒ၊ သမုဒ္ဒရာသည် တည်တံ့သောသဘော ရှိသည် ဖြစ်၍ ကမ်းကို မလွန်သကဲ့သို့ ဤအတူပင် ငါသည် တပည့်

တို့အတွက် ပညတ်ထားသော သိက္ခာပုဒ်ကို ငါ၏တပည့်တို့သည် အဘာယ်ဟူသော အကြောင်းကြောင့်သော်လည်း မကျူးကျော်ကုန်။ ပဟာရာဒ၊ ယင်းသို့ ပညတ်ချက်ကို အဘာယ်ဟူသော အဘာယ်ဟူသော အကြောင်းကြောင့်သော်လည်း မကျူးကျော်ခြင်းသည်လည်း ဤဓမ္မဝိနယ သာသနာ၌ အံ့ဖွယ်သရဲ ထူးကဲသော ဒုတိယသဘောပင်တည်း။ ဤသဘောကို မြင်ကုန်မြင်ကုန်၍ ရဟန်းတို့ မွေ့လျော်ကုန်၏။–

(၃) – ပဟာရာဒ၊ မဟာသမုဒ္ဒရာသည် အကောင်ပုပ်နှင့် မဆက်ဆံ။ မဟာသမုဒ္ဒရာ၌ အကောင်ပုပ်ရှိလျှင် ကမ်းသို့ လျင်စွာကပ်စေသကဲ့သို့ ဤအတူပင် ယုတ်မာသောအကျင့်ရှိသော၊ မစင်ကြယ်သည်ဖြစ်၍ ယုံမှားတွေးတောဖွယ်အကျင့်ရှိသော၊ အမှုကို မုံးကွယ်သော၊ ရဟန်းမဟုတ်ဘဲ ရဟန်းဟု ဝန်ခံသော၊ မြတ်သောအကျင့်ကို မကျင့်ဘဲ မြတ်သောအကျင့်ကို ကျင့်၏ဟု ဝန်ခံသော၊ အတွင်းပုပ်သော၊ ကိလေသာ စိုစွတ်သော၊ အမှိုက်သဖွယ်ဖြစ်သော၊ သီလမရှိသော ထိုပုဂ္ဂိုလ်နှင့် သံဃာသည် မဆက်ဆံ။ စည်းဝေး၍ ထိုပုဂ္ဂိုလ်ကို လျင်စွာ နှင်ထုတ်၏။ ထိုပုဂ္ဂိုလ်သည် သံဃာ့အလယ်၌ ထိုင်နေသော်လည်း စင်စစ်အားဖြင့် သံဃာမှ ဝေး၏။ သံဃာသည်လည်း ထိုပုဂ္ဂိုလ်နှင့် ဝေး၏။ ယင်းသို့ ဝေးခြင်းသည်လည်း ဤဓမ္မဝိနယ သာသနာ၌ အံ့ဖွယ်သရဲ ထူးကဲသော တတိယသဘောပင်တည်း။ ယင်းသဘောကို မြင်ကုန်မြင်ကုန်၍ ရဟန်းတို့ မွေ့လျော်ကုန်၏။–

(၄) – ပဟာရာဒ၊ ဂင်္ဂါမြစ်၊ ယမုနာမြစ်၊ အစိရဝတီမြစ်၊ မဟီမြစ်၊ သရဘူမြစ်ဟူသော မြစ်ကြီးတို့သည် မဟာသမုဒ္ဒရာသို့ ရောက်ကုန်လတ်သော် ရှေး၌ဖြစ်သော ဂင်္ဂါ၊ ယမုနာ စသောအမည်များကို စွန့်ကုန်၍ မဟာသမုဒ္ဒရာဟူ၍သာလျှင် ရေတွက်ခြင်းသို့ ရောက်ကြရကုန်သကဲ့သို့ ဤအတူပင် မင်း၊ ပုဏ္ဏား၊ ကုန်သည်၊ သူဆင်းရဲဟူသော ဤအမျိုးလေးပါးတို့သည် မြတ်စွာဘုရား ဟောတော်မူသော ဓမ္မဝိနယ သာသနာတော်၌ လူ့ဘောင်မှ ရဟန်းဘောင်သို့ ရောက်ကုန်လတ်သော် ရှေး၌ဖြစ်ကုန်သော အမည်အနွယ်တို့ကို စွန့်ကုန်၍ 'သာကီဝင်မင်းသား၊

ဘုရားသားတော် ရဟန်းတို့’ ဟူ၍သာလျှင် ရေတွက်ခြင်းသို့ ရောက်ကုန်၏။ ပဟာရာဒ၊ ယင်းသို့ရောက်ကုန်ခြင်းသည်လည်း ဤဓမ္မဝိနယ သာသနာတော်၌ အံ့ဖွယ်သရဲ ထူးကဲသော စတုတ္ထ သဘောပင်တည်း။ ဤသဘောကို မြင်ကုန်မြင်ကုန်၍ ရဟန်းတို့ မွေ့လျော်ကုန်၏။-

(၅) - ပဟာရာဒ၊ လောက၌ အလုံးစုံသော မြစ်ကြီးမြစ်ငယ်တို့သည် မဟာသမုဒ္ဒရာသို့ ဝင်ကုန်၏။ အလုံးစုံသော ကောင်းကင်မှ မိုးရေအယဉ်တို့သည်လည်း ကျကုန်၏။ ထိုရေကြောင့် မဟာသမုဒ္ဒရာ၏ လျော့ခြင်း၊ ပြည့်ခြင်းသည် မထင်ရှားသကဲ့သို့ ဤအတူပင် များစွာသော ရဟန်းတို့သည် ခန္ဓာမကြွင်းကျန်သော အငြိမ်းဓာတ်ဖြင့် ငြိမ်းကုန်၏။ ထိုငြိမ်းခြင်းဖြင့် အငြိမ်းဓာတ်၏ လျော့ခြင်း၊ ပြည့်ခြင်းသည် မထင်ရှား။ ပဟာရာဒ၊ ယင်းသို့ မထင်ရှားခြင်းသည်လည်း ဤဓမ္မဝိနယ သာသနာတော်၌ အံ့ဖွယ်သရဲ ထူးကဲသော ပဉ္စမ သဘောပင်တည်း။ ဤသဘောကို မြင်ကုန် မြင်ကုန်၍ ဤဓမ္မဝိနယ၌ ရဟန်းတို့ မွေ့လျော်ကုန်၏။-

(၆) - ပဟာရာဒ၊ သမုဒ္ဒရာသည် ငန်သောအရသာတစ်မျိုးတည်းသာရှိသကဲ့သို့ ဤအတူပင် ဤဓမ္မဝိနယ သာသနာတော်သည် လွတ်မြောက်မှု ‘ဝိမုတ္တိ’ အရသာတစ်မျိုးတည်းသာ ရှိ၏။ ယင်းသို့ အရသာတစ်မျိုးတည်းသာ ရှိခြင်းသည်လည်း ဤဓမ္မဝိနယ သာသနာတော်၌ အံ့ဖွယ်သရဲ ထူးကဲသော ဆဋ္ဌမသဘောပင်တည်း။ ဤသဘောကို မြင်ကုန်မြင်ကုန်၍ ဤဓမ္မဝိနယ၌ ရဟန်းတို့ မွေ့လျော်ကုန်၏။-

(၇) - ပဟာရာဒ၊ သမုဒ္ဒရာသည် ပုလဲ၊ မြ၊ ကြောင်မျက်ရွဲ၊ ခရုသင်း၊ သန္တာ၊ ငွေ၊ ရွှေ၊ ပတ္တမြားနီ၊ ပတ္တမြားပြောက်ဟူသော များသောရတနာ၊ မရေမတွက်နိုင်သော ရတနာရှိသကဲ့သို့ ဤအတူပင် ဤဓမ္မဝိနယ သာသနာတော်သည် သတိပဋ္ဌာန် လေးပါး၊ သမ္မပဓာန် လေးပါး၊ ဣဒ္ဓိပါဒ်လေးပါး၊ ဣန္ဒြေငါးပါး၊ ဗိုလ်ငါးပါး၊ ဗောဇ္ဈင်ခုနစ်ပါး၊ မဂ္ဂင်ရှစ်ပါးရှိသော ‘အရိယမဂ်’ ဟူသော များသောရတနာ၊ မရေမတွက်နိုင်သော ရတနာ ရှိ၏။ ဤသို့ ရတနာများစွာတို့ ရှိခြင်းသည်လည်း ဤဓမ္မဝိနယ

သာသနာတော်၌ အံ့ဖွယ်ဆရဲ ထူးကဲသော သတ္တမ သဘောပင်တည်း။ ဤသဘောကို မြင်ကုန်မြင်ကုန်၍ ဤဓမ္မဝိနယ၌ ရဟန်းတို့ မွေ့လျော်ကုန်၏။–

(၈) – ပဟာရာဒ၊ သမုဒ္ဒရာသည် တိမိမည်သောငါး၊ တိမိင်္ဂလမည်သောငါး၊ တိမိလပိင်္ဂလမည်သောငါး၊ အသုရာ၊ နဂါး၊ ဂန္ဓဗ္ဗနတ် ဟူသော သတ္တဝါကြီးတို့၏လည်းကောင်း၊ ယူဇနာတစ်ရာ၊ နှစ်ရာ၊ သုံးရာ၊ လေးရာ၊ ငါးရာတိုင်အောင် အတ္တဘော ကြီးမားသော သတ္တဝါကြီးတို့၏လည်းကောင်း နေရာဖြစ်သကဲ့သို့ ဤအတူပင် ဤဓမ္မဝိနယ သာသနာတော်သည် သောတာပန်ပုဂ္ဂိုလ်၊ သောတာပတ္တိဖိုလ်ကို မျက်မှောက်ပြုရန် ကျင့်ဆဲပုဂ္ဂိုလ်၊ သကဒါဂါမ်ပုဂ္ဂိုလ်၊ သကဒါဂါမိဖိုလ်ကို မျက်မှောက်ပြုရန် ကျင့်ဆဲဖြစ်သောပုဂ္ဂိုလ်၊ အနာဂါမ်ပုဂ္ဂိုလ်၊ အနာဂါမိဖိုလ်ကို မျက်မှောက်ပြုရန်ကျင့်ဆဲဖြစ်သောပုဂ္ဂိုလ်၊ ရဟန္တာပုဂ္ဂိုလ်၊ အရဟတ္တဖိုလ်ကို မျက်မှောက်ပြုရန် ကျင့်ဆဲဖြစ်သော ပုဂ္ဂိုလ်ဟူသော ကြီးမြတ်သော သတ္တဝါတို့၏ နေရာဖြစ်၏။ ယင်းသို့ဖြစ်ခြင်းသည် ဤဓမ္မဝိနယ သာသနာတော်၌ အံ့ဖွယ်သရဲ ထူးကဲသော အဋ္ဌမသဘောပင်တည်း။ ဤသဘောကို မြင်ကုန်မြင်ကုန်၍ ဤဓမ္မဝိနယ သာသနာတော်၌ ရဟန်းတို့ မွေ့လျော်ကုန်၏” ဟု မိန့်တော်မူ၏။

အင်္ဂုတ္တိုရ်ပါဠိတော်၊ အဋ္ဌကနိပါတ်၊ မဟာဝဂ်၊ ကိုးခုမြောက် မဟာရာဒကို လေ့လာဖတ်ရှုကြရခြင်းအားဖြင့် သမုဒ္ဒရာ၏ အံ့ဖွယ်ရှစ်ဖြာကိုလည်းကောင်း၊ သာသနာတော်၏ အံ့ဖွယ်ရှစ်ဖြာကိုလည်းကောင်း သိကြရပြီး သုတေသီအတွက် များစွာ အကျိုးသက်ရောက်မည် ဖြစ်ရာပါသတည်း။



## ပုဂ္ဂိုလ်ထူး အရှင်ပုဏ္ဏ

ပြဿနာ = သခေ်ပကထာ
မေး = အရှင်ပုဏ္ဏ
ဖြေ = မြတ်စွာဘုရား

ဤသာသနာ၌ အရှင်ပုဏ္ဏသည် ထူးခြားသော စံပြုအပ်သော အရှင်တစ်ပါး ဖြစ်၏။ ထိုအရှင်မြတ်၏အကြောင်းကို ဥပရိပဏ္ဏာသ ပါဠိတော်၌လည်းကောင်း၊ သဠာယတနသံယုတ် ပါဠိတော်၌လည်းကောင်း၊ ထေရဂါထာ အဋ္ဌကထာ (ပထမ) ၌လည်းကောင်း တွေ့နိုင်၏။

ထိုအရှင်မြတ်၏ အကြောင်းကို ဥပရိပဏ္ဏာသ ပါဠိတော် (သဠာယတနဝဂ်) ၌ "ဓဝံမေသုတံ" စသည် ဤသို့လာရှိပေသည်။ အခါတစ်ပါးတွင် အရှင်ပုဏ္ဏသည် မြတ်စွာဘုရား၏ အထံတော်သို့ ချဉ်းကပ်၍ သင့်တင့်လျောက်ပတ်သောနေရာ၌ ထိုင်ပြီးလျှင် ဤသို့ ပန်ကြား၏။

"အရှင်ဘုရား၊ တပည့်တော်အား အကျဉ်းအားဖြင့် တရားဟောတော်မူပါ။ ဆိတ်ငြိမ်ရာအရပ်သို့ သွားရောက်နေထိုင်၍ တရားအားထုတ်လိုပါ၏"

ဗုဒ္ဓသည် အရှင်ပုဏ္ဏအား အကျဉ်းအားဖြင့် တရားဟောလိုက်၏။

"ပုဏ္ဏ၊ သင်သည် အဆင်းကို မစွဲလမ်းလေနှင့်။ စွဲလမ်းလျှင် နှစ်သက်မှုတဏှာ ဖြစ်၏။ တဏှာဖြစ်သည်ရှိသော် ဆင်းရဲ၏။–

– ပုဏ္ဏ၊ သင်သည် အသံကို မစွဲလမ်းလေနှင့်။ အနံ့ကို မစွဲလမ်းလေ နှင့်။ အရသာကို မစွဲလမ်းလေနှင့်။ ထိတွေ့မှုကို မစွဲလမ်းလေနှင့်။ သဘောတရားကို မစွဲလမ်းလေနှင့်။ စွဲလမ်းသော် နှစ်သက်မှုတဏှာ ဖြစ်၏။ တဏှာဖြစ်သည်ရှိသော် ဆင်းရဲ၏။–

– ပုဏ္ဏ၊ စွဲလမ်းခြင်းမရှိလျှင် နှစ်သက်မှုတဏှာ ချုပ်ငြိမ်း၏။ တဏှာ ချုပ်ငြိမ်းလျှင် ဆင်းရဲချုပ်ငြိမ်း၏"

ဗုဒ္ဓသည် အရှင်ပုဏ္ဏ၏ တောင်းပန်ချက်အရ ဒွါရခြောက်ပါး၌ စွဲလမ်းတပ်မက်မှု–သမုဒယသစ္စာ၊ စွဲလမ်းတပ်မက်ခြင်းချုပ်ငြိမ်းမှု–နိရောဓသစ္စာ၊ ဤသစ္စာနှစ်ပါး အထွတ်တပ်၍ အကျဉ်းအားဖြင့် ဟောတော်မူ၏။ တရားဟောပြီးသောအခါ–

"ပုဏ္ဏ၊ သင့်အား ငါ တရားဟော၍ ပြီးပေပြီ။ ဆိတ်ငြိမ်ရာအရပ်သို့ သွားရောက်နေထိုင်၍ တရားအားထုတ်မည်ဟု သင်ဆို၏။ အဘယ်အရပ်သို့ သွား၍ သင် နေမည်နည်း"

"သုနာပရန္တအရပ်သို့ သွားရောက်နေထိုင်ပါမည်ဘုရား" ဟု လျှောက်ထားသည်ရှိသော် အရှင်ပုဏ္ဏအား ဗုဒ္ဓက သတိပေးတော်မူ၏။

"ပုဏ္ဏ၊ သင် မကြားဖူးသလော။ သုနာပရန္တတိုင်းသားတို့သည် အလွန်ကြမ်းတမ်းကုန်၏။ ခက်ထန်ကုန်၏။ အကယ်၍ သင့်အား သုနာပရန္တတိုင်းသားတို့က ဆဲရေးကြကုန်သည်ရှိသော်၊ ကဲ့ရဲ့ကြကုန်သည်ရှိသော်၊ ရှုတ်ချကြကုန်သည်ရှိသော် သင် အသို့ပြုမည်နည်း"

"အရှင်ဘုရား၊ တပည့်တော်ကို ဆဲရေးကြသည်ရှိသော် ထိုသုနာပရန္တတိုင်းသားတို့အပေါ်၌ တပည့်တော် ဤသို့ စိတ်ထားပါအံ့။ 'ဤသုနာပရန္တကိုင်းသားတို့သည် ကောင်းကြပါပေ၏။ အလွန်ကောင်းကြပါပေ၏။ သူတို့သည် ငါ့အား နှုတ်ဖြင့်သာ ဆဲရေးကုန်၏။ လက်ရောက်ကျူးလွန်မှု မပြုကြကုန်' ဟူ၍ ဤသို့သဘောထားပါအံ့ ဘုရား"

"ပုဏ္ဏ၊ အကယ်၍ လက်ဖြင့် ထုခြင်း၊ ရိုက်ခြင်း၊ လက်ရောက်ကျူးလွန်မှု ပြုကြသည်ရှိသော် သင့်စိတ် မည်သို့ရှိမည်နည်း"

"အရှင်ဘုရား၊ သုနာပရန္တတိုင်းသားတို့က တပည့်တော်အား လက်ဖြင့် ရိုက်နှက်ပုတ်ခတ်ခဲ့ပါမူ သူတို့အပေါ်၌ တပည့်တော် ဤသို့ စိတ်ထားပါအံ့။ 'ဤသုနာပရန္တတိုင်းသားတို့သည် အလွန်ကောင်းကြပါပေ၏။ အလွန် တော်ကြပါပေ၏။ သူတို့သည် ငါ့အား ခဲဖြင့် မပေါက်ကြကုန်' ဟူ၍ ဤသို့ သဘောထားပါအံ့ ဘုရား"

"ပုဏ္ဏ၊ အကယ်၍ သုနာပရန္တတိုင်းသားတို့က သင့်ကို ခဲဖြင့်ပေါက်ခဲ့သော် သင် မည်သို့ပြုမည်နည်း"

"အရှင်ဘုရား၊ တပည့်တော်အား ဤသို့ ခဲဖြင့်ပစ်ခတ်ခဲ့ပါမူ သူတို့အပေါ်

၌ တပည့်တော် ဤသို့စိတ်ထားပါမည်။ 'ဤသုနာပရန္တ တိုင်းသားတို့သည် အလွန်ကောင်းကြပါပေကုန်သည်။ အလွန်တော်ကြပါပေကုန်သည်။ ငါ့အား တုတ်ဖြင့် မရိုက်ကြကုန်' ဟူ၍ ဤသို့ သဘောထားပါအံ့ ဘုရား"

"ပုဏ္ဏ၊ အကယ်၍ သုနာပရန္တ တိုင်းသားတို့က သင့်ကို တုတ်ဖြင့် ရိုက်နက်ကြပါမူ သင့်စိတ်၌ မည်သို့ ရှိမည်နည်း"

"အရှင်ဘုရား၊ တပည့်တော်အား ဤသို့ တုတ်ဖြင့် ရိုက်နက်ကြသည် ရှိသော် ထိုသူတို့အပေါ်၌ တပည့်တော် ဤသို့ စိတ်ထားပါအံ့။ 'ဤသုနာပရန္တ တိုင်းသားတို့ကား အလွန်ကောင်းကြပါပေကုန်သည်။ အလွန် တော်ကြပါပေကုန်သည်။ သူတို့သည် ငါ့ကို ဓားဖြင့် မခုတ်ကြ၊ မထိုးကြကုန်' ဟူ၍ ဤသို့ သဘောထားပါအံ့ဘုရား"

"ပုဏ္ဏ၊ အကယ်၍ သူတို့က သင့်ကို ဓားဖြင့်ခုတ်ခဲ့ပါမူ၊ ဓားဖြင့် ထိုးခဲ့ပါမူ သင့်စိတ်၌ မည်သို့ ရှိမည်နည်း"

"အရှင်ဘုရား၊ တပည့်တော်အား သူတို့က ဓားဖြင့် ခုတ်ကြ၊ ထိုးကြခဲ့သော် သူတို့အပေါ်၌ တပည့်တော် ဤသို့သဘောထားပါအံ့။ 'ဤသုနာပရန္တ တိုင်းသားတို့သည် အလွန်ကောင်းသောသူများပေတကား။ သူတို့သည် ငါ့ကို မသတ်ကြကုန်' ဟူ၍ ဤသို့ သဘောထားပါအံ့ဘုရား"

"ပုဏ္ဏ၊ အကယ်၍ သုနာပရန္တ တိုင်းသားတို့က သင့်ကို ထက်စွာသော ဓားဖြင့် သတ်ခဲ့ပါမူ သင့်စိတ်မှာ မည်သို့နေမည်နည်း"

"အရှင်ဘုရား၊ ထက်စွာသော ဓားလက်နက်ဖြင့် တပည့်တော်အား သူတို့ သတ်ကြပါမူ ထိုသူတို့အပေါ်၌ တပည့်တော် ဤသို့ သဘောထားပါအံ့။ 'ဤ သုနာပရန္တ တိုင်းသားတို့သည် အလွန်ကောင်းကြပေသည်တကား။ ဘုရားသား တော် အချို့တို့သည် ခန္ဓာကိုယ်ကို စက်ဆုပ်ကြသည်ဖြစ်၍ ခန္ဓာဝန်ကိုချရန် ဓားလက်နက် ရှာကြရပါကုန်၏။ ထိုဓားလက်နက်ကို ငါ မရှာရဘဲ လွယ်ကူစွာ ရပေသည်' ဟူ၍ သဘောထားအံ့ဘုရား"

သုနာပရန္တ တိုင်းသို့ ကျဉ်းကပ်၍ ဆိတ်ငြိမ်ရာအရပ်၌ တရားအားထုတ် နေထိုင်ပါမည်ဆိုသော ပုဏ္ဏအား မြတ်စွာဘုရားသည် သုနာပရန္တ တိုင်းသားတို့၏ နှုတ်ကြမ်း၊ ကိုယ်ကြမ်း၊ စရိုက်ကြမ်းတမ်းပုံများကို ပြောပြသောအခါ အရှင်ပုဏ္ဏ၏ သည်းခံခြင်း ခန္တီစိတ်ဓာတ်များ တဘွားဘွား ပေါ်ထွက်လာသည်ကို တွေ့ရ၏။

တပည့်တော်အား ဆဲရေးလျှင် လက်သီးနှင့် မထိုးသေးဘဲဟု သဘောထား

ပါမည်။ လက်သီးနှင့်ထိုးလျှင် တုတ်နှင့်မှ မရိုက်သေးဘဲဟူ၍၊ တုတ်နှင့်ရိုက်လျှင် ခဲနှင့်မှ မပေါက်သေးဘဲဟူ၍၊ ခဲနှင့်ပေါက်လျှင် ဓားနှင့်မှ မခုတ်သေးဘဲဟူ၍၊ ဓားနှင့်ခုတ်လျှင် ဓားဖြင့် အသေမှ မသတ်သေးဘဲဟူ၍၊ ဓားလက်နက်ဖြင့် သတ်မည်ပြုပါက အချို့တို့မှာ ရောဂါနှိပ်စက်ခြင်း စသော အကြောင်းကြောင်းတို့ကြောင့် ခန္ဓာဝန်ကို ချလို၍ ဓားရှာကြရကုန်၏။ ငါ့အဖို့ ဓားမရှာရဘဲ အလွယ်တကူ ရပါပေသည်ဟူ၍လျှောက်လျှင် မြတ်စွာဘုရားသည် အရှင်ပုဏ္ဏအား ချီးကျူးတော်မူ၏။

"ချစ်တပည့် ပုဏ္ဏ၊ ကောင်းဘိစွ၊ ကောင်းဘိစွ။ သင်သည် ဤ သည်းခံမှု အအေးဓာတ်နှင့် ပြည့်စုံသည်ရှိသော် သုနာပရန္တတိုင်း၌ နေခြင်းငှာ စွမ်းနိုင်လတ္တံ့။ ပုဏ္ဏ၊ သင်သွားရန်အချိန်ကို သင် သိ၏။ သွားရန်မှာ သင်၏ အလိုအတိုင်း ဖြစ်၏"

ဤသို့ မိန့်တော်မူလျှင် မြတ်စွာဘုရား၏စကားကို အလွန်နှစ်သက်သဖြင့် မြတ်စွာဘုရားအား ရိုသေစွာ ရှိခိုးကန်တော့၍ အိပ်ရာနေရာများကို သိမ်းဆည်းပြီးနောက် သပိတ်သင်္ကန်းကို ယူဆောင်လျက် သုနာပရန္တတိုင်းသို့ ထွက်ခဲ့၏။ အရှင်ပုဏ္ဏသည် သပိတ်တစ်လုံးကိုလွယ်လျက် တောအထပ်ထပ် တောင်အထပ်ထပ်ကို ဖြတ်ကျော်ကာ သုနာပရန္တတိုင်းသို့ ဆိုက်ဆိုက်မြိုက်မြိုက် ရောက်သွားလေ၏။ ဆိတ်ငြိမ်ရာအရပ်သို့ကပ်၍ တရားအားထုတ်လေ၏။

သုနာပရန္တတိုင်းသားတို့သည် အဘယ်မျှ ကြမ်းသည်ဟု ဆိုစေကာမူ အရှင်ပုဏ္ဏအဖို့တွင် ရောက်သွားသောအချိန်မှစ၍ ကြမ်းသောဖြစ်ရပ်များ တစ်စုံတစ်ရာမျှ မတွေ့ရဘဲ သုနာပရန္တတိုင်းသားတို့အား တရားပြ၍ သာသနာပြု၏။ ထိုဝါတွင်းမှာပင် ဥပါသကာ ငါးရာတို့အားလည်းကောင်း၊ ဥပါသိကာငါးရာတို့အားလည်းကောင်း သရဏဂုံတည်စေ၏။ မိမိကိုယ်တိုင်လည်း မဆုတ်မနစ်သောလုံ့လဖြင့် အားထုတ်မှုကြောင့် ဝိဇ္ဇာသုံးပါးကို မျက်မှောက်ပြုရပြီး ထိုဝါတွင်းမှာပင် ပရိနိဗ္ဗာန်ပြုလေသတည်း။

အရှင်ပုဏ္ဏ၏ သတင်းစကားကိုကြားလျှင် ရဟန်းတို့၏ မြတ်စွာဘုရားအား လျှောက်ကုန်၏။ အရှင်ပုဏ္ဏ၏ လားရာဂတိကိုလည်း သိလိုပါကြောင်း ပန်ကြားကုန်၏။

"ရဟန်းတို့၊ ပုဏ္ဏအမျိုးသားသည် ပညာရှိ၏။ အမှန်ကို ဆိုလေ့ရှိ၏။ တရားတော်အား လျော်သောအကျင့်ကိုလည်း ကျင့်လေ့ရှိ၏။ တရားတော်ဟူသော အကြောင်းကြောင့်လည်း ငါဘုရားကို မပင်ပန်းစေခဲ့။ ရဟန်းတို့၊ ပုဏ္ဏအမျိုးသားသည် ပရိနိဗ္ဗာန်ပြုလေပြီတည်း" ဟု မိန့်တော်မူသတည်း။



နွားကျောင်းသားအင်္ဂါ (၁၁) ချက်မှ
သာသနာကြီးပွားမှုသို့

ပြဿနာ = ကြီးပွားစည်ပင်မှု
မေး = ရဟန်းများ
ဖြေ = ဗုဒ္ဓမြတ်ဘုရား

ကုန်ကူးသူသည် ကူးသန်းရောင်းဝယ်ရေးအတတ်ကို နားလည်ရ၏။ အတွက်အချက် ကျွမ်းကျင်ရ၏။ 'ဂဏန်း မသင်၊ လာဘ် မမြင်၊ ကူးလျှင် ရှုံးမည် မှတ်' ဟူ၍ပင် ဆောင်ပုဒ် ထုတ်သွားကြ၏။

ထန်းသမားသည် ထန်းအကြောင်း ကောင်းစွာကျေပွန်ရ၏။ တောင်သူလုပ်သူသည် ထွန်၊ ထယ်၊ နွား၊ လယ်ယာအကြောင်း နားလည်ရ၏။ ရှစ်စပ်ကကြေသည်ဆိုသော ဝေါဟာရမှာ တောင်သူအလုပ်မှ ထွက်လာသော ဆောင်ပုဒ်ဖြစ်၏။

မီးသဘော်၊ မီးရထား၊ မော်တော်ကား၊ လေယာဉ်ပျံမောင်းသူများသည် ဆိုင်ရာဆိုင်ရာ စက်များအကြောင်းကို နားလည်ရ၏။ အိမ်ရာတည်ထောင် လူ့ဘောင်၌ နေသောသူသည် အိမ်ထောင်ထိန်းသိမ်းမှု၌ လိမ္မာရ၏။ သာသနာ့ဝန်ကို ထမ်းဆောင်ကြကုန်သော ရဟန်းတော်များမှာလည်း ဝိနည်းသိက္ခာပုဒ်တော်များကို မကျိုးမပေါက်ရအောင် စောင့်ထိန်းတတ်ရ၏။

အချုပ်အားဖြင့် မည်သည့်အလုပ်ကို လုပ်သည်ပင်ဖြစ်စေ၊ လုပ်သည့်အလုပ်၏ အကြောင်းကို နားမလည်လျှင် ထိုသူသည် ဆုတ်ယုတ်၊ ကျဆင်းရမည်သာဖြစ်၏။

ထိုအကြောင်းနှင့်ပက်သက်၍ အလုပ်သမားတို့ သတိပြုစရာများကို ဗုဒ္ဓ

မြတ်ဘုရားသည် ကောဒသကနိပါတ်၊ အင်္ဂုတ္တိုရ်၊ ဂေါပါလသုတ်တွင် နွားကျောင်းသား ဥပမာဖြင့် ဟောကြားတော်မူခဲ့ပေသည်။ နွားနောက်မှလိုက်၍ မောင်းတတ်ရုံ၊ ကျောင်းတတ်ရုံမျှဖြင့် နွားကျောင်းသား မဖြစ်ထိုက်။ နွားကျောင်းသားတို့၌ ရှိအပ်၊ ရှိသင့်၊ ရှိထိုက်ရမည့် အင်္ဂါရပ် (၁၁) ချက်ကို ပြောပြပြီးနောက် ရဟန်းကို နွားကျောင်းသားနှင့်နှိုင်း၍ ဟောကြားတော်မူလေသည်ကား–

"ရဟန်းတို့၊ ဤလောက၌ နွားကျောင်းသားသည်–

(၁) ရုပ်၊ ပုံသဏ္ဍာန်ကို မသိ၊
(၂) လက္ခဏာ၌ မလိမ္မာ၊
(၃) ယင်ချေးဥကို မခွာတတ်၊
(၄) အနာကို မဖုံးလွှမ်းတတ်၊
(၅) မီးခိုး မတိုက်တတ်၊
(၆) ဆိပ်ကမ်းကို မသိ၊
(၇) ရေသောက်၍ ပြီး,မပြီးကို မသိ၊
(၈) လမ်းခရီးကို မသိ၊
(၉) စားကျက်၌ မလိမ္မာ၊
(၁၀) အကြွင်းမဲ့ နို့ညှစ်လေ့ရှိ၏၊
(၁၁) နွားတို့၏ အကြီးအကဲ ရှေ့ဆောင်ဖြစ်သော နွားလားတို့ကို ပိုလွန်သော ပူဇော်ခြင်းဖြင့် မပူဇော်တတ်၊

– ရဟန်းတို့၊ ဤအင်္ဂါတစ်ဆယ့်တစ်မျိုးနှင့်ပြည့်စုံသော နွားကျောင်းသားသည် နွားအပေါင်းတို့ကို ဆောင်ရွက်ရန်၊ တိုးပွားအောင်ပြုရန် မထိုက်။

"ရဟန်း၊ ဤအတူပင် တရားတစ်ဆယ့်တစ်မျိုးနှင့်ပြည့်စုံသော ရဟန်းသည် ဤဓမ္မဝိနယသာသနာ၌ ကြီးပွားခြင်း၊ စည်ပင်ခြင်း၊ ပြန့်ပြောခြင်းသို့ ရောက်ရန် မထိုက်။ အဘယ်တစ်ဆယ့်တစ်မျိုးတို့နည်းဟူမူကား–

"ရဟန်းတို့၊ ဤသာသနာ၌ ရဟန်းသည် ရုပ်ကို မသိ၊ လက္ခဏာ၌ မလိမ္မာ၊ ယင်ချေးဥကို မခွာတတ်၊ မဖယ်ရှားတတ်၊ အနာကို မဖုံးလွှမ်းတတ်၊ အခိုးကို မပြုတတ်၊ ဆိပ်ကမ်းကို မသိ၊ သောက်ရပြီးကို မသိ၊ လမ်းကို မသိ၊ စားကျက်၌ မလိမ္မာ၊ အကြွင်းမဲ့ ညှစ်လေ့ရှိ၏။ ရဟန်းသက် ရင့်သူဖြစ်ကုန်သော သံဃာ၏ မိဘ သံဃာ၏ ရှေ့ဆောင်ဖြစ်ကုန်သော ရဟန်းတို့ကို ပိုလွန်ပူဇော်ခြင်းဖြင့် မပူဇော်တတ်။–

၁။ ရုပ်ကို မသိတတ်

"ရဟန်းတို့၊ အဘယ်သို့လျှင် ရဟန်းသည် ရုပ်ကို မသိတတ်သူ ဖြစ်သနည်း။ ရဟန်းတို့၊ ဤသာသနာ၌ ရဟန်းသည် မဟာဘုတ်လေးပါးနှင့် မဟာဘုတ်လေးပါးတို့ကို မှီသော ဥပါဒါရုပ်ဟူသော ရုပ်အားလုံးကို ဟုတ်တိုင်းမှန်စွာ မသိ။ ရဟန်းတို့၊ ဤသို့လျှင် ရဟန်းသည် ရုပ်ကို မသိသူ ဖြစ်၏။"

၂။ လက္ခဏာ၌ မလိမ္မာ

"ရဟန်းတို့၊ အဘယ်သို့လျှင် ရဟန်းသည် လက္ခဏာ၌ မလိမ္မာသူ ဖြစ်သနည်း။ ရဟန်းတို့၊ ဤသာသနာ၌ ရဟန်းသည်–လူမိုက်သည် (အကုသိုလ်) ကံ–ဟူသော လက္ခဏာ ရှိ၏။ ပညာရှိသည် (ကုသိုလ်) ကံ–ဟူသော လက္ခဏာ ရှိ၏ဟု ဟုတ်တိုင်းမှန်စွာ မသိ။ ရဟန်းတို့၊ ဤသို့လျှင် ရဟန်းသည် လက္ခဏာ၌ မလိမ္မာသူ ဖြစ်၏။"

၃။ ယင်ချေးဥကို မခွာတတ်

"ရဟန်းတို့၊ အဘယ်သို့လျှင် ရဟန်းသည် ယင်ချေးဥကို မခွာတတ်သူ၊ မဖယ်ရှားတတ်သူ ဖြစ်သနည်း။ ရဟန်းတို့ ဤသာသနာ၌ ရဟန်းသည် ဖြစ်ပေါ်လာသော ကာမအကြံအစည်၊ ကာမဝိတက်ကို လက်ခံထား၏။ မပယ်စွန့်၊ မဖျောက်ဖျက်၊ ကင်းအောင်မပြု။ နောက်ထပ်မဖြစ်ခြင်းသို့မရောက်စေ။ ဖြစ်ပေါ်လာသော ဖျက်ဆီးလိုသော အကြံအစည်ဗျာပါဒဝိတက်ကို မသိသူဖြစ်၏။"

၄။ အနာကို မဖုံးလွှမ်းတတ်

"ရဟန်းတို့၊ အဘယ်သို့လျှင် ရဟန်းသည် အနာကို မဖုံးလွှမ်းတတ်သူ ဖြစ်သနည်း။ ရဟန်းတို့၊ ဤသာသနာ၌ ရဟန်းသည် မျက်စိဖြင့် ရူပါရုံကို မြင်သော် 'မိန်းမ၊ ယောက်ျား' စသော အမှတ်နိမိတ်ကို စွဲယူလေ့ရှိ၏။ လက်ခြေစသော အင်္ဂါ၊ ပြုံးဟန်ရယ်ဟန် စသော အမှတ်လက္ခဏာကို စွဲယူလေ့ရှိ၏။ ယင်းအကြောင်းကြောင့် စက္ခုန္ဒြေကို မစောင့်စည်းမူ၍နေသော ထိုရဟန်းကို မက်မောမှု=အဘိဇ္ဈာ၊ နှလုံးမသာယာမှု=ဒေါမနဿဟု ဆိုအပ်ကုန်သော၊ ယုတ်ညံ့သော အကုသိုလ်တရားတို့သည် အစဉ်လိုက်ကုန်ရာ၏။ ထိုစက္ခုန္ဒြေကို စောင့်စည်းခြင်း၌ မကျင့်။ စက္ခုန္ဒြေကို မစောင့်ရှောက်။ စက္ခုန္ဒြေ၌ စောင့်စည်းခြင်းသို့ မရောက်။–

နားဖြင့် သဒ္ဒါရုံကို ကြားသော်-
နှာခေါင်းဖြင့် အနံ့-ဂန္ဓာရုံကို နမ်းသော်-
လျှာဖြင့် အရသာ-ရသာရုံကို လျက်သော်-
ကိုယ်ဖြင့် အတွေ့-ဖောဋ္ဌဗ္ဗာရုံကို တွေ့ထိသော်-
စိတ်ဖြင့် သဘော-ဓမ္မာရုံကို သိသော်-

မိန်းမ၊ ယောကျ်ား စသော အမှတ်နိမိတ်ကို စွဲယူလေ့ရှိ၏။ လက်ခြေ စသော အင်္ဂါ၊ ပြုံးဟန်၊ ရယ်ဟန် စသော အမူအရာ အမှတ်လက္ခဏာကို စွဲယူလေ့ ရှိ၏။ ယင်းအကြောင်းကြောင့် မနိန္ဒြေကို မစောင့်စည်းမူ၍နေသော ထိုရဟန်းကို မက်မောမှု-အဘိဇ္ဈာ၊ နှလုံးမသာယာမှု-ဒေါမနဿဟု ဆိုအပ်ကုန်သော ယုတ်ညံ့သော အကုသိုလ်တရားတို့သည် အစဉ်လိုက်ကုန်ရာ၏။ ထိုမနိန္ဒြေကို စောင့်စည်းခြင်းငှာ မကျင့်။ မနိန္ဒြေကို မစောင့်ရှောက်။ မနိန္ဒြေ၌ စောင့်စည်းခြင်းကို မရောက်။ ရဟန်းတို့၊ ဤသို့လျှင် ရဟန်းသည် အနာကို မဖုံးလွှမ်းတတ်သူ ဖြစ်၏။"

## ၅။ အခိုးကို မပြုတတ်

"ရဟန်းတို့၊ အဘယ်သို့လျှင် ရဟန်းသည် အခိုးကို မပြုတတ်သူ ဖြစ်သနည်း။ ရဟန်းတို့၊ ဤသာသနာ၌ ရဟန်းသည် ကြားနာပြီး၊ သင်ယူပြီး တိုင်းသော တရားကို အကျယ်အားဖြင့် သူတစ်ပါးတို့အား မဟော။ ရဟန်းတို့၊ ဤသို့လျှင် ရဟန်းသည် အခိုးကို မပြုတတ်သူ ဖြစ်၏။"

## ၆။ ဆိပ်ကမ်းကို မသိ

"ရဟန်းတို့၊ အဘယ်သို့လျှင် ရဟန်းသည် ဆိပ်ကမ်းကို မသိသနည်း။ ရဟန်းတို့၊ ဤသာသနာတော်၌ ရဟန်းသည် အကြားအမြင်များကုန်သော၊ နူတ်တက်အာဂုံ လေ့လာပြီးကုန်သော၊ သုတ်၊ အဘိဓမ္မာကို ဆောင်ကုန်သော၊ ဝိနည်းကို ဆောင်ကုန်သော၊ မာတိကာကို ဆောင်ကုန်သော ရဟန်းတို့ကို အခါအားလျော်စွာ ချဉ်းကပ်၍ 'အရှင်ဘုရား၊ ဤသည်ကား အဘယ်သို့ပါနည်း။ ဤပုဒ်၏ အနက်သဘောကား အဘယ်သို့ပါနည်း' ဟု မမေးတတ်။ ပြဿနာ မထုတ်တတ်။ ထိုရဟန်းအား ထိုအရှင်တို့သည် မဖွင့်သေးသည်ကိုလည်း မဖွင့်ကြကုန်။ မပေါ်လွင်သေးသည်ကိုလည်း ပေါ်လွင်အောင် မပြုကြကုန်။ များစွာကုန်သော ယုံမှားမှု၏ တည်ရာ အကြောင်းတရားတို့၌ ယုံမှားမှုကို မပယ်ဖျောက်ကုန်။ ရဟန်းတို့၊ ဤသို့လျှင် ရဟန်းသည် ဆိပ်ကမ်းကို မသိ။"

၇။ သောက်ရပြီးသည်ကို မသိ

"ရဟန်းတို့၊ အဘယ်သို့လျှင် ရဟန်းသည် သောက်ရပြီးသည်ကို မသိသနည်း။ ရဟန်းတို့၊ ဤသာသနာတော်၌ ရဟန်းသည် မြတ်စွာဘုရားဟောထားတော်မူသော သုတ်၊ အဘိဓမ္မာ၊ ဝိနည်းကို ဟောလတ်သော်အနက်ကို သိနားလည်မှု မရ။ တရားနှင့်စပ်သော ဝမ်းမြောက်မှုကို မရ။ ရဟန်းတို့၊ ဤသို့လျှင် ရဟန်းသည် သောက်ပြီးကို မသိ။"

၈။ လမ်းကို မသိ

"ရဟန်းတို့၊ အဘယ်သို့လျှင် ရဟန်းသည် လမ်းကို မသိသနည်း။ ရဟန်းတို့၊ ဤသာသနာတော်၌ ရဟန်းသည် မြတ်သော၊ အင်္ဂါရှစ်ပါးရှိသော မဂ်ကို ဟုတ်တိုင်းမှန်စွာ မသိ။ ရဟန်းတို့၊ ဤသို့လျှင် ရဟန်းသည် လမ်းကို မသိ။"

၉။ စားကျက်၌ မလိမ္မာ

"ရဟန်းတို့၊ အဘယ်သို့လျှင် ရဟန်းသည် စားကျက်၌ မလိမ္မာသူ ဖြစ်သနည်း။ ရဟန်းတို့၊ ဤသာသနာတော်၌ ရဟန်းသည် သတိပဋ္ဌာန်လေးပါးကို ဟုတ်တိုင်း မှန်စွာ မသိ။ ရဟန်းတို့၊ ဤသို့လျှင် ရဟန်းသည် စားကျက်၌ မလိမ္မာသူ ဖြစ်၏။"

၁၀။ အကြွင်းမဲ့ ညှစ်

"ရဟန်းတို့၊ အဘယ်သို့လျှင် ရဟန်းသည် အကြွင်းမဲ့ ညှစ်လေ့ရှိသူ ဖြစ်သနည်း။ ရဟန်းတို့၊ ဤသာသနာတော်၌ ရဟန်းကို ယုံကြည်မှု-သဒ္ဓါရှိကုန်သော ဒါယကာတို့သည် သင်္ကန်း၊ ဆွမ်း၊ ကျောင်း၊ ဆေး၊ အသုံးအဆောင်တို့ဖြင့် ရွေးရှုဆောင်၍ ဖိတ်ကုန်၏။ ရဟန်းတို့၊ ထိုဖိတ်ရာ၌ ရဟန်းသည် ခံယူရန် အတိုင်းအရှည်ကို မသိ။ ရဟန်းတို့၊ ဤသို့လျှင် ရဟန်းသည် အကြွင်းမဲ့ ညှစ်လေ့ရှိသူ ဖြစ်၏။"

၁၁။ မထေရ်တို့ကို ပိုလွန်စွာ ပူဇော်ရမှန်း မသိ

"ရဟန်းတို့၊ အဘယ်သို့လျှင် ရဟန်းသည် ရဟန်းဝါရင့်သူ၊ ရဟန်းသက်ရှည်သူဖြစ်ကုန်သော သံဃာ၏မိဘ၊ သံဃာ၏ရှေ့ဆောင်ဖြစ်ကုန်သော မထေရ်ရဟန်းတို့ကို ပိုလွန်သော ပူဇော်ခြင်းဖြင့် မပူဇော်တတ်သူ ဖြစ်သနည်း။"

'"ရဟန်းတို့၊ ဤသာသနာတော်၌ ရဟန်းသည် ရဟန်းဝါရင့်သူ၊ ရဟန်းသက် ရှည်သူဖြစ်ကုန်သော သံဃာ၏ မိဘ၊ သံဃာ၏ ရှေ့ဆောင်မထေရ်ရဟန်းတို့၌ မျက်မှောက်၊ မျက်ကွယ် ကာယကံမေတ္တာကို ရှေးရှု မတည်စေ၊ ဝစီကံမေတ္တာ ကို ရှေးရှုမတည်စေ၊ မနောကံမေတ္တာကို ရှေးရှုမတည်စေ။ ရဟန်းတို့၊ ဤသို့လျှင် ရဟန်းသည် ရဟန်းဝါရင့်သူ၊ ရဟန်းသက်ရှည်ကုန်သော သံဃာ၏ မိဘ၊ သံဃာ၏ ရှေ့ဆောင်မထေရ်ရဟန်းတို့ကို ပိုလွန်သော ပူဇော်ခြင်းဖြင့် မပူဇော်တတ်သူ ဖြစ်၏။–

– ရဟန်းတို့၊ ဤတရားတစ်ဆယ့်တစ်မျိုးတို့၌ ပြည့်စုံသော ရဟန်းသည် ဤဓမ္မဝိနယ သာသနာတော်၌ ကြီးပွားခြင်း၊ စည်ပင်ခြင်း၊ ပြန့်ပြောခြင်းသို့ ရောက်ရန် မထိုက်"

မြတ်စွာဘုရားသည် ဤဂေါပါလသုတ်ဖြင့် ရဟန်းတို့အား သာသနာတော် ကြီးပွားအောင်၊ စည်ပင်အောင် ထမ်းဆောင်နိုင်သော အာဇာနည် ရဟန်းများ ထွန်းကားရေးအတွက် နွားကျောင်းသားကို ပမာပြု၍ ဩဝါဒပေးတော်မူ၏

နွားကျောင်းသားသည် မိမိနွားအုပ်တွင် နွားကောင်ရေ မည်မျှရှိသည်။ နွားထီးက ဘယ်နှစ်ကောင်၊ နွားမက မည်မျှ၊ နွားကလေးက ဘယ်လောက်ရှိ ကြောင်းကို ကောင်းစွာ သိထားရ၏။ မိမိကျောင်းသော နွားအုပ်ထဲတွင် ဖြူနီ ညိုပြာ မည်မျှပါသည်ကိုလည်း သိထားရ၏။

ထိုမှတစ်ပါး မည်သည့်နွားက ယဉ်သည်၊ မည်သည့်နွားက ဆိုးသည်၊ သူတစ်ပါး ယာခင်းများ ခိုးစားတတ်သည်ဟူ၍လည်း အကျင့်လက္ခဏာကို သိ ထားရ၏။ ထို့ပြင် နွားများ၌ စွဲကပ်တတ်သော ခွာနာ၊ လျှာနာများ ဖြစ်ပေါ် လာပါလျှင် ရောဂါကင်းကြောင်း ဆေးဝါးကောင်းများဖြင့် ကုစားတတ်ရ၏။ ယင်ချေးဥတက်၊ လော်ကောင်တွေ နှိပ်စက်လျှင်လည်း ဖယ်ရှားတတ်ရ၏။

နွားအကြောင်း၊ နွားစားကျက်အကြောင်း စသည်ကို ကောင်းစွာ နားလည် သော နွားကျောင်းသား ကျောင်းသည့် နွားများသည် ချမ်းသာကြီးပွားသကဲ့သို့ သာသနာ့ဝန်ကို ထမ်းဆောင်သော ရဟန်းသည်လည်း အထက်၌ ပြဆိုခဲ့သော ချို့ယွင်းချက် အင်္ဂါ (၁၁) ချက်ကို ကျော်လွှားလျက် ပြည့်တင်းလုံလောက် ဂုဏ် ရည်မောက်သော ပြည့်စုံမှုအင်္ဂါ (၁၁) မျိုးဖြင့် ဆောင်ရွက်ပါလျှင် သာသနာတော် ကြီးပွား၍ စည်ကားမည်ဟု ဆိုလိုသည်။



## ဥဂ္ဂသူကြွယ်၏ အံ့ဖွယ်ရှစ်ဖြာ

ပြဿနာ = အံ့ဖွယ်
မေး = ရဟန်းတစ်ပါး
ဖြေ = ဥဂ္ဂသူကြွယ်

အင်္ဂုတ္တိုရ်ပါဠိတော်၊ အဋ္ဌကနိပါတ်၊ ဂဟပတိဝဂ်၌ ဥဂ္ဂဟူသော အမည်ဖြင့် သုတ်တစ်သုတ် ရှိ၏။ ပဌမ ဥဂ္ဂသုတ်၊ ဒုတိယ ဥဂ္ဂသုတ် ဟူ၍ စဉ်ထား၏။ ဥဂ္ဂမှာ လူ၏အမည်ဖြစ်၏။ နာမည်တူ ဥဂ္ဂနှစ်ယောက် ဖြစ်လေသည်။ သူတို့နှစ်ယောက်စလုံးမှာ သူကြွယ်ချည်း ဖြစ်၏။ ဥဂ္ဂသူကြွယ်၊ ဥဂ္ဂသူကြွယ် ဟူ၍ ထင်ရှားသူများ ဖြစ်ကြ၏။

အမည်ချင်းသာ တူသည် မဟုတ်သေး။ ဇနီးမယား များသောအရာတွင်လည်း တူကြ၏။ တစ်ဦးလျှင် မယား လေးယောက်စီ ရှိ၏။ ဘုရားသခင်က သူတို့အား အံ့ဖွယ်ရှစ်ပါးနှင့် ပြည့်စုံသူများဖြစ်ကြောင်း ကောင်းချီးပေးခြင်း ခံရရာတွင်လည်း တူကြ၏။ သို့သော် မတူသည်ကား နေရပ်ဒေသ ဖြစ်လေသည်။ တစ်ဦးသော ဥဂ္ဂသူကြွယ်မှာ ဝေသာလီပြည်သား၊ တစ်ဦးမှာမူ ဝဇ္ဇီတိုင်း၊ ဟတ္ထိရွာသား ဖြစ်လေသည်။

ထူးထွေသည့် အံ့ရာသော်ဟူ၍ ပုဂ္ဂိုလ်ထူးအဖြစ် ချီးကျူးရလောက်အောင်သော သူတို့ သူတို့၏ အံ့ဖွယ်ရှစ်ဖြာကား အဘယ်နည်း။ ဤတွင် ဝေသာလီပြည်သား ဥဂ္ဂသူကြွယ်၏ အံ့ဖွယ်ရှစ်ပါးကို ပြဆိုပါအံ့။

## ဥဂ္ဂသူကြွယ်၏ အံ့ဖွယ်ရှစ်ပါး

အခါတစ်ပါး၌ မြတ်စွာဘုရားသည် ဝေသာလီပြည် ကူဋာဂါရကျောင်း၌ သီတင်းသုံးတော်မူစဉ်အခါ ရဟန်းတို့အား ဤစကားကို မြွက်ကြားတော်မူ၏။

"ရဟန်းတို့၊ ဝေသာလီပြည်သား၊ ဥဂ္ဂသူကြွယ်ကို အံ့ဖွယ်ဖြစ်သော၊ မဖြစ်ဖူးမြဲဖြစ်သော သဘောရှစ်မျိုးတို့နှင့်ပြည့်စုံ၏ဟူ၍ မှတ်ကြကုန်လော"

ဤစကားကို မြွက်ကြားပြီးလျှင် ဂန္ဓကုဋိတိုက်ခန်းသို့ ဝင်တော်မူသွားသောကြောင့် ရဟန်းတို့မှာ အံ့ဖွယ်ရှစ်ချက်ကို သိချင်ရက်ရက်နှင့် ကျန်ခဲ့ကြကုန်လေ၏။ သိလိုရေးနှင့် အချင်းချင်း မေးကြ၏။

"ငါ့ရှင်၊ ဥဂ္ဂသူကြွယ်၏ အံ့ဖွယ်ရှစ်ပါးဆိုတာ ဘယ်ဟာတွေပါလဲ"

"မသိပါ ငါ့ရှင်။ မြတ်စွာဘုရား မိန့်တော်မူလို့ ကြားလိုက်ရတာပဲ"

"မြတ်ဘုရားက ထုတ်ဖော်မြွက်ကြားသွားတော်မမူဘူး။ စိတ်ဝင်စားဖွယ်ကောင်း၊ သိမှတ်စရာကောင်းတဲ့ဟာ အမှန်ပဲ။ ဘုရားသခင့်ထံသွားရောက်ပြီး မေးလျှောက်လို့ကော တော်ပါ့မလား။ ဘယ်သူ့ မေးရကောင်းမလဲ"

"ငါ့ရှင်၊ ဒါလောက် တော် သိချင်နေရင် သည်လိုလုပ်ပါလား"

"အမိန့်ရှိပါ ငါ့ရှင်"

"ဘုရားသခင်ထံ သွားရောက်လျှောက်ထားလျှင် အနှောင့်အယှက်ပေးရာကျနေဦးမယ်။ သည်တော့ကာ ကာယကံရှင် ဥဂ္ဂသူကြွယ်ထံ သွားမေးလျှင်ကောင်းမည် ထင်၏"

"သာဓုပါ ငါ့ရှင်။ ဥဂ္ဂသူကြွယ်ထံသို့ တပည့်တော် သွားမေးပါ့မယ်"

နောက်တစ်နေ့နံနက်ပိုင်းတွင် ထိုရဟန်းသည် သင်္ကန်းကို သပ္ပာယ်စွာရုံပြီး သပိတ်ပိုက်လျက် ဥဂ္ဂသူကြွယ်အိမ်သို့ ကြွလေ၏။ ဥဂ္ဂသူကြွယ်လည်း ရဟန်းကြွလာသည်ကိုမြင်လျှင် ရိုသေစွာပင့်၍ နေရာခင်းပေး၏။ ရဟန်းတော်သည် ခင်းထားအပ်သောနေရာ၌ ထိုင်လျက်-

"ဒကာကြီး၊ ဒကာကြီးကို မေးစရာတစ်ခုရှိလို့ တမင်တကာ ဦးပဉ္စင်းလာခဲ့ပါတယ်"

"အမိန့်ရှိပါဘုရား"

"တခြားတော့ မဟုတ်ဘူး ဒကာကြီး။ ဒကာကြီးမှာ အံ့ဖွယ်ရှစ်ပါးရှိတယ်လို့ ယမန်နေ့က မြတ်ဘုရား အမိန့်ရှိသွားပါတယ်။ အဲဒီ အံ့ဖွယ်ရှစ်ပါးကို သိချင်လို့ပါ ဒကာကြီး။ မြတ်ဘုရားက ဒကာကြီးကို အံ့ဖွယ်ဖြစ်သော၊ မဖြစ်ဖူးမြဲဖြစ်သော သဘောရှစ်မျိုးနှင့်ပြည့်စုံသူဟူ၍ မှတ်ကုန်လော့ဟု မိန့်ပါသည်။ အံ့ဖွယ်ရှစ်ဖြာသည် ဘယ်အရာတွေပါလဲ ဒကာကြီး"

မထင်သောစကားကို ကြားလိုက်ရသောအခါ ဥဂ္ဂသူကြွယ်မှာ များစွာအံ့အားသင့်နေ၏။ စဉ်းစား၏။ ဘာ့ကြောင့် မြတ်ဘုရားက ဤစကားကို မြွက်ကြားတော်မူပါလိမ့်မလဲဟု စဉ်းစားပြီးနောက် ဤသို့ လျှောက်၏။

"အရှင်ဘုရား၊ မြတ်စွာဘုရား အမိန့်ရှိသည်ဆိုသော စကားကို အရှင်ဘုရား အမိန့်ရှိ၍ တပည့်တော် ကြားရပါ၏။ မည်သည့်အရာကို ရည်ရွယ်၍ မြတ်ဘုရား မိန့်တော်မူသည်ကို တပည့်တော် မသိပါ။ စင်စစ် တပည့်တော်မှာ ထူးဆန်းထွေလာ အံ့ဖွယ်ရှစ်ဖြာ ရှိနေတာကတော့–"

"အဲသည့် အံ့ဖွယ်ရှစ်ဖြာကိုပဲ သိပါရစေ ဒကာကြီး" ဟူ၍ ဝမ်းသာအားရ တောင်းပန်လေသဖြင့် ဥဂ္ဂသူကြွယ်သည် မိမိ၏ ထူးထွေတည့်အံ့ရာသော သဘောရှစ်မျိုးကို ဤသို့ လျှောက်ထားလေသတည်း။

(၁) "အရှင်ဘုရား၊ တပည့်တော်သည် အကြင်အခါ၌ မြတ်စွာဘုရားကို ရှေးဦးစွာ အဝေးမှလျှင် ဖူးမြင်ရ၏။ အရှင်ဘုရား၊ ဖူးရသည်နှင့် တစ်ပြိုင်နက်သာလျှင် တပည့်တော်၏စိတ်သည် မြတ်စွာဘုရားအား ကြည်ညိုသဒ္ဓါ လွန်မင်းစွာ ဖြစ်လာပါ၏။ ဤသည်ကား တပည့်တော်၌ ရှေးဦးစွာ ဖြစ်သည့် ပထမအံ့ဖွယ်ပါဘုရား။–

(၂) – အရှင်ဘုရား၊ တပည့်တော်သည် ကြည်ညိုသောစိတ်ရှိသည်ဖြစ်၍ ဘုရားသခင်သို့ ဆည်းကပ်ပါ၏။ ထိုတပည့်တော်အား မြတ်စွာဘုရားသည် အစဉ်အတိုင်းသော တရားစကားကို ဟောတော်မူ၏။ ဤသည်ကား အဘယ်နည်းဆိုသော်–

ဒါနနှင့်စပ်သောစကားကိုလည်းကောင်း၊
သီလနှင့်စပ်သောစကားကိုလည်းကောင်း၊
နတ်ပြည်နှင့်စပ်သောစကားကိုလည်းကောင်း၊
ကာမဂုဏ်၏အပြစ်ကိုလည်းကောင်း၊ ယုတ်ညံ့ခြင်းကိုလည်းကောင်း၊
ညစ်ညူးခြင်းကိုလည်းကောင်း၊
ကာမဂုဏ်တို့မှ လွတ်မြောက်ခြင်း၌ အကျိုးကိုလည်းကောင်း–

ပြတော်မူ၏။ မြတ်စွာဘုရားသည် တပည့်တော်ကို သင့်လျော်သောစိတ်၊ နူးညံ့သောစိတ်၊ အပိတ်အပင် နီဝရဏတို့မှ ကင်းသောစိတ်၊ တက်ကြွသောစိတ်၊ ယုံကြည်သောစိတ် ရှိသည်ကို သိတော်မူသောအခါ မြတ်စွာဘုရားတို့၏ ကိုယ်တိုင် ထုတ်ဖော်သိမြင်ပြီးသော သာမုက္ကံသိကတရား ဒေသနာတော်ဖြစ်သော ဆင်းရဲခြင်း–ဒုက္ခသစ္စာကိုလည်းကောင်း၊ ဆင်းရဲဖြစ်ကြောင်း–သမုဒယသစ္စာကိုလည်းကောင်း၊ ဆင်းရဲချုပ်ရာ–နိရောဓသစ္စာကိုလည်းကောင်း၊ ဆင်းရဲချုပ်ရာကို ရောက်ကြောင်း လမ်းစဉ်–မဂ္ဂသစ္စာကိုလည်းကောင်း ပြတော်မူပါ၏။–

– အရှင်ဘုရား၊ မည်းညစ်ခြင်းကင်းသော၊ ဖြူစင်သောအဝတ်သည် ဆိုး

ရည်ကို ကောင်းစွာခံယူသကဲ့သို့ တပည့်တော်အား ထိုနေရာ၌ပင်လျှင် ဖြစ်ခြင်း သဘောရှိသော အလုံးစုံသည် ချုပ်ခြင်းသဘောရှိ၏ဟု ကိလေသာမြူ အညစ် အကြေးကင်းသော တရားမျက်စိ 'သောတာပတ္တိမဂ်ဉာဏ်" သည် ဖြစ်ပေါ် ပါ၏။-

-အရှင်ဘုရား၊ မည်းညစ်ခြင်းကင်းသော၊ ဖြူစင်သော အဝတ်သည် ဆိုးရည်ကို ကောင်းစွာခံယူသကဲ့သို့ တပည့်တော်အား ထိုနေရာ၌ပင်လျှင် ဖြစ်ခြင်း သဘောရှိသော တရားအလုံးစုံသည် ချုပ်ခြင်းသဘောရှိ၏ဟု ကိလေသာမြူ အညစ်အကြေးကင်းသော တရားမျက်စိ 'သောတာပတ္တိမဂ်ဉာဏ်'သည် ဖြစ်ပေါ် ပါ၏။-

-အရှင်ဘုရား၊ ထိုတပည့်တော်သည် တရားကို မြင်ပြီးသည်၊ တရား သို့ရောက်ပြီးသည်၊ တရားကို သိပြီးသည်ဖြစ်၍ တရားသို့ သက်ဝင်ပြီးသည်၊ ယုံမှားခြင်းကို ကူးမြောက်ပြီးသည်၊ သို့လောသို့လော တွေးတောခြင်း ကင်းပြီး သည်ဖြစ်၍ မြတ်စွာဘုရား သာသနာ၌ ရဲရင့်ခြင်းသို့ ရောက်ပြီးသည်၊ ဘုရားမှ တစ်ပါး ကိုးစားထိုက်သူမရှိသည်ဖြစ်၍ ထိုနေရာ၌ပင်လျှင် မြတ်စွာဘုရားကို လည်းကောင်း၊ တရားတော်ကိုလည်းကောင်း၊ သံဃာတော်ကို လည်းကောင်း ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါပြီ။ ဗြဟ္မစရိယသိက္ခာပုဒ်လျှင် ငါးခုမြောက်ဖြစ် သော သိက္ခာပုဒ်တို့ကို ဆောက်တည်ပါပြီ။ အရှင်ဘုရား၊ ဤသည်ကား တပည့် တော်၌ဖြစ်သော ဒုတိယမြောက် အံ့ဖွယ်ပါဘုရား။-

(၃) အရှင်ဘုရား၊ ထိုတပည့်တော်အား ကုမာရီအရွယ် နုနယ်ပျိုမျစ် ကုန်သော မယားလေးယောက်တို့သည် ရှိကုန်၏။ ထိုအခါ တပည့်တော်သည် ထိုမယားတို့ထံသို့ ချဉ်းကပ်၍ ထိုမယားတို့ကို "နှမတို့၊ ငါသည်ကား ဗြဟ္မစရိယ သိက္ခာပုဒ်လျှင် ငါးခုမြောက်ရှိသော သိက္ခာပုဒ်တို့ကို ကောင်းစွာဆောက်တည်အပ် ကုန်၏။ အလိုရှိသော နှမသည် ဤအိမ်၌ပင်လျှင် စည်းစိမ်ဥစ္စာတို့ကိုလည်း သုံး ဆောင်ခံစားလော၊ ကောင်းမှုကုသိုလ်တို့ကိုလည်း ပြုလော့။ မိမိတို့၏ အဆွေ အမျိုးတို့ အိမ်သို့သော်လည်း သွားလော။ ယောကျ်ားတစ်ပါးကို အလိုရှိသည် ဖြစ်မူကား အဘယ်ယောကျ်ားအား သင်တို့ကို ပေးရအံ့နည်းဟု ဤစကားကို ဆို၏။-

- အရှင်ဘုရား၊ မယားကြီးသည် တပည့်တော်ကို 'အရှင်၊ ဤမည်သော ယောကျ်ားအား အကျွန်ုပ်ကို ပေးပါ' ဟု ဆို၏။ အရှင်ဘုရား၊ ထိုအခါ တပည့် တော်သည် ထိုယောကျ်ားကို ခေါ်ပြီးလျှင် လက်ဝဲလက်ဖြင့် မယားကို ကိုင်၍

လက်ယာလက်ဖြင့် ကရားကိုကိုင်ပြီးလျှင် ထိုယောက်ျားကို စွန့်ပါ၏။ အရှင်ဘုရား၊ တပည့်တော်သည် ကုမာရီအရွယ် နုနယ်ပျိုမျစ်သော မယားကို စွန့်သည်ရှိသော် စိတ်ဖောက်ပြန်ခြင်းကို မသိပါ။ အရှင်ဘုရား၊ ဤသည်ကား တပည့်တော်၌ သုံးခုမြောက်သော အံ့ဖွယ်ပါ ဘုရား။-

(၄) - အရှင်ဘုရား၊ တပည့်တော်၏ အိမ်၌ရှိကုန်သော စည်းစိမ်ဥစ္စာတို့ကိုလည်း ကောင်းသောသဘောရှိကုန်သော သီလဝန္တပုဂ္ဂိုလ်တို့နှင့် မခွဲခြားအပ်ကုန်။ အရှင်ဘုရား၊ ဤသည်ကား တပည့်တော်၌ လေးခုမြောက်ဖြစ်သော အံ့ဖွယ်ပါဘုရား။-

(၅) - အရှင်ဘုရား၊ တပည့်တော်သည် ရဟန်းသို့ ဆည်းကပ်လျှင် ရိုသေစွာသာလျှင် ဆည်းကပ်ပါ၏။ မရိုမသေ မဆည်းကပ်ပါ။ ဤသည်ကား တပည့်တော်၌ ငါးခုမြောက်ဖြစ်သော အံ့ဖွယ်ပါဘုရား။-

(၆) - အရှင်ဘုရား၊ ထိုအရှင်သည် တပည့်တော်အား တရားဟောမူ ရိုသေစွာလျှင် နာ၏။ မရိုမသေ မနာပါ။ အရှင်ဘုရား၊ ထိုအရှင်သည် တပည့်တော်အား တရားမဟောခဲ့ပါမူ တပည့်တော်သည် ထိုအရှင်အား တရားဟောပါ၏။ အရှင်ဘုရား၊ ဤသည်ကား တပည့်တော်၌ ခြောက်ခုမြောက်ဖြစ်သော အံ့ဖွယ် ပါဘုရား။-

(၇) - အရှင်ဘုရား၊ တပည့်တော်ကို နတ်တို့ ချဉ်းကပ်၍ 'သူကြွယ်၊ မြတ်စွာဘုရားသည် တရားကို ကောင်းစွာဟောကြားတော်မူ၏' ဟု ပြောကြားကုန်၏။ အရှင်ဘုရား၊ ဤသို့ပြောကြားသည်ရှိသော် 'သင်နတ်တို့က ဤသို့ပြောကုန်သည်ဖြစ်စေ၊ မပြောကုန်သည်ဖြစ်စေ၊ စင်စစ်သော်ကား မြတ်စွာဘုရားသည် တရားကို ကောင်းစွာဟောတော်မူ၏' ဟု ထိုနတ်တို့ကို တပည့်တော် ပြောဆိုပါ၏။ ဤသို့ဆိုခြင်းသည် အံ့ဖွယ်မဟုတ်ပါဘုရား။ 'ငါ့ထံသို့ နတ်တို့ ချဉ်းကပ်ကုန်၏။ ငါသည်လည်း နတ်တို့နှင့်အတူတကွ စကားပြောဆိုရ၏' ဟု နတ်တို့ ချဉ်းကပ်လာခြင်း၊ နတ်တို့နှင့် အတူတကွ စကားပြောဆိုရခြင်းဟူသော အကြောင်းကြောင့် စိတ်၏ တက်ကြွမှုကို မသိစဖူးပါ။ အရှင်ဘုရား၊ ဤသည်ကား တပည့်တော်၌ သတ္တမမြောက်ဖြစ်သော အံ့ဖွယ်ပါဘုရား။-

(၈) - အရှင်ဘုရား၊ တပည့်တော်သည် မြတ်စွာဘုရား ဟောကြားတော်မူအပ်သော နောက်ပိုင်း သံယောဇဉ် ငါးမျိုးတို့တွင် မိမိ၌ မပယ်အပ်သေးသော တစ်စုံတစ်ခုသော သံယောဇဉ်ကိုမျှ မတွေ့မမြင်ပါ။ အရှင်ဘုရား၊ ဤသည်ကား တပည့်တော်၌ အဋ္ဌမမြောက်ဖြစ်သော အံ့ဖွယ်ပါဘုရား" ဟူ၍ လျှောက်၏။

ဥဂ္ဂသူကြွယ်သည် အံ့ဖွယ်ရှစ်ပါးကို သိလို၍ မေးလာသော ရဟန်းအား မြတ်စွာဘုရား မိန့်တော်မူသည့် အံ့ဖွယ်ရှစ်ပါးကို တပည့်တော် မသိပါ။ သူ့မှာ ရှိနေသော အံ့ဖွယ်ရှစ်ဖြာကို လျှောက်ထားလိုက်၏။ (ဥဂ္ဂသူကြွယ်၏ အံ့ဖွယ်ရှစ်ဖြာကို ဗုဒ္ဓဘာသာ ယုံကြည်ကိုးကွယ်သူများ အိမ်ရာတည်ထောင်၍ လူ့ဘောင်၌ သားမယားနှင့်နေသူများ စဉ်းစားထိုက်၏။ မြတ်စွာဘုရားအား ဥဂ္ဂသူကြွယ်၏ ကြည်ညိုပုံနှင့် မိမိတို့၏ ကြည်ညိုပုံကို ချိန်ကိုက်ကြည့်သင့်၏။ သားမယားတို့ကို စွန့်၍ ဗြဟ္မစရိယသိက္ခာပုဒ်ကို စောင့်ထိန်းရာ၌ကား သူ့ကို မီအောင်လိုက်နိုင်ရန် ခဲယဉ်းဘိစွ။ ရဟန်းသံဃာတော်များကိုတွေ့လျှင် ရှိသေရာ၌လည်းကောင်း၊ တရားတော်ကို ရှိသေစွာ နာရာ၌လည်းကောင်း အတုယူထိုက်၏။)

ဤသို့ ဥဂ္ဂသူကြွယ်၏ အံ့ဖွယ်ရှစ်ဖြာကို သိရပြီးနောက် ထိုရဟန်းသည် သူကြွယ်အိမ်မှဆွမ်းကိုခံယူ၍ ပြန်ခဲ့၏။ ကျောင်းရောက်လျှင် ဆွမ်းစားခြင်းကိစ္စပြု၏။ ပြီးလျှင် ထိုရဟန်းသည် ဘုရားသခင့်ထံသို့ ချဉ်းကပ်၍ ဥဂ္ဂသူကြွယ်ထံသို့ သွားရောက်တွေ့ဆုံခဲ့ပုံ၊ သူကြွယ်က သူ့မှာရှိသော အံ့ဖွယ်ရှစ်ဖြာကို ပြောပြလိုက်ပုံများကို မြတ်စွာဘုရားအား လျှောက်ထားလေ၏။

ထိုအခါ ထိုရဟန်းအား မိန့်တော်မူသည်ကား–

"ရဟန်း၊ ကောင်းဘိစွ၊ ကောင်းဘိစွ။ ကောင်းစွာပြောလိုသူသည် ဝေသာလီပြည်သား ဥဂ္ဂသူကြွယ်ပြောကြားသည့်အတိုင်း ပြောကြားရာ၏။ ရဟန်း၊ ဝေသာလီပြည်သား ဥဂ္ဂသူကြွယ်ကို အံ့ဖွယ်ဖြစ်သော၊ မဖြစ်ဖူးမြဲဖြစ်သော ဤသဘောရှစ်မျိုးတို့နှင့်ပင်လျှင် ပြည့်စုံ၏ဟု ငါ ဆို၏။ ရဟန်း၊ ဝေသာလီပြည်သား ဥဂ္ဂသူကြွယ်ကို အံ့ဖွယ်ဖြစ်သော၊ မဖြစ်ဖူးမြဲဖြစ်သော ဤသဘောရှစ်မျိုးတို့နှင့် ပြည့်စုံ၏ဟု မှတ်လေလော့" ဟူပေသတည်း။



## သမဏဗြာဟ္မဏလေးဦးတို့၏
## တစ်မျိုးစီသော အယူဝါဒ

ပြဿနာ = ယုံမှားခြင်း
မေး = ပါဠိလိစ္ဆာသူကြီး
ဖြေ = ဗုဒ္ဓမြတ်ဘုရား

လွန်ခဲ့သော နှစ်ပေါင်းသုံးထောင်လောက်က အိန္ဒိယပြည်တွင် အတ္တဝါဒသည် အရှိန်အဟုန်နှင့်တကွ ကြီးထွားလျက်ရှိခဲ့သည်။ အတ္တဝါဒ တင်းမာနေချိန်ဖြစ်သည်။ အတ္တဝါဒစွဲကို သဲကြီးမဲကြီး လုံးပန်းနေကြချိန် ဖြစ်လေသည်။

အတ္တဝါဒ တင်းမာနေသော ထိုအချိန်၌ ဂေါတမရှင်တော်မြတ်ဘုရား ပွင့်ထွန်းတော်မူလာခဲ့၏။ ဗုဒ္ဓ၏ ဝါဒမှာ အနတ္တဝါဒ ဖြစ်လေသည်။ အတ္တဝါဒ တင်းမာနေသော အိန္ဒိယမြေပေါ်၌ အနတ္တဝါဒ ပေါ်ထွန်းလာသောအခါ အဏုမြူဗုံးကြီး ကြဲချလိုက်သကဲ့သို့ အိန္ဒိယတိုင်းကြီးအားလုံး တုန်လှုပ်ချောက်ချားကုန်လေ၏။

အတ္တဝါဒနှင့် အနတ္တဝါဒမှာ အဝိုင်းနှင့်လေးထောင့်ကဲ့သို့ တိုက်ရိုက်ဆန့်ကျင်လေရကား တိုက်ပွဲမဟုတ်သော်လကည်း တိုက်ပွဲသဏ္ဍာန်ဆန်ဆန် ဖြစ်လာခဲ့သည်။ ယင်းတို့ကို အကြောင်းပြု၍ ထောင့်တိုင်းထောင့်တိုင်းတို့၌ ပြဿနာတွေ ပေါ်ပေါက်လာကုန်လေ၏။

အတ္တဝါဒ၏ ကျောရိုးကြီးများမှာ ဗြာဟ္မဏလူမျိုးများ ဖြစ်သောကြောင့် သူတို့သည် ဗုဒ္ဓ၏ အနတ္တဝါဒကို မီးဖုတ်သင်္ဂြိုဟ်ရေးအတွက် အားသွန်ခွန်စိုက် နည်းအမျိုးမျိုးဖြင့် တိုက်ခိုက်လာကြကုန်လေ၏။ ဗုဒ္ဓ၏ အနတ္တဝါဒ စည်ပင်ထွန်းကားလာချေက အတ္တဝါဒ၏ အရှိန်မှာ ညှိုးမှိန်ကွယ်ပသွားမည်ကို စိုးရိမ်ချက်ဖြင့် အနတ္တဝါဒ အညွန့်ကျိုးအောင် ချိုးနှိမ်တိုက်ဖျက်ကြကုန်လေ၏။

• စပယ်ဦးစာပေ

ဤအထဲတွင် ဝေရဥ္စာပုဏ္ဏားကြီးကဲ့သို့သော ဗြာဟ္မဏကြီးများမှာ ရှေ့တန်းမှ ပါဝင်လေသည်။ 'ရဟန်းဂေါတမသည် ဝါနုသေးသည်။ မနေ့တစ်နေ့ကမှ ပေါ်လာသော ရွှေကြာပင်ဖြစ်သည်။ သူ့ကိုယ်သူ ဗုဒ္ဓဟု အမည်ခံနေသော်လည်း ကြီးသောသူတို့ကို ပူဇော်ရမှန်း၊ ရိုသေရမှန်း သိတတ်သူပင် မဟုတ်' ဟူ၍ ဗုဒ္ဓအား ကဲ့ရဲ့ရှုတ်ချ စွပ်စွဲကြလေရာ ဗုဒ္ဓသည် ရောက်လေရာရာတိုင်းလိုလိုပင် ထိုပြဿနာမျိုးနှင့် ရင်ဆိုင်နေရလေသည်။

## ကောလိယမြို့တွင် ရင်ဆိုင်ခဲ့ရသော ပြဿနာ

အခါတစ်ပါးတွင် မြတ်စွာဘုရားသည် ကောလိယမြို့သို့ ရောက်သွား၏။ ဥတ္တရမည်သော နိဂုံး၌ သီတင်းသုံးတော်မူလေရာ အတ္တဝါဒီသမားများ စုပြုံရောက်လာကြကုန်၏။

ထိုဥတ္တရနိဂုံး၌ ပါဋလိရွာဟူ၍ ရွာကြီးတစ်ရွာရှိ၏။ ထိုရွာကို အုပ်စိုးရသော သူကြီးမှာလည်း ရွာ၏အမည်ကိုစွဲ၍ ပါဋလိသူကြီးဟူ၍ပင် တွင်၏။ အတ္တဝါဒ၏ လောင်းရိပ်အောက်တွင် ကြီးပြင်းလာသူဖြစ်သောကြောင့် ဗုဒ္ဓအပေါ်၌ ကြည်ညိုခြင်း၊ အထင်ကြီးခြင်း မရှိလှချေ။

သို့သော် သူသည် လူကြီးပီသစွာ မိမိနယ်သို့ ကြွရောက်လာသော ဘုရားသခင့်ထံသို့ အိမ်ရှင်ဝတ္တရားအတိုင်း သွားရောက်တွေ့ဆုံလေ၏။ အတ္တဝါဒီဂိုဏ်းစွဲရှိသူတို့က ဗုဒ္ဓအား 'လှည့်ပတ်တတ်သော မျက်လှည့်ဆရာ၊ မှော်ဆရာ' ဟု ယူဆထားကြသည့်အတိုင်း ဗုဒ္ဓနှင့်တွေ့ဆုံလေသောအခါ ရွာသူကြီးသည် ဤအချက်ကိုပင်ကိုင်၍ စတင်ဆွေးနွေးလေတော့သည်။

ထိုအကြောင်းနှင့်ပတ်သက်၍ ပါဋလိသူကြီးက သူ့စိတ်တွင် ဘဝင်မကျဖြစ်နေသည်ကို မေးလိုက်၊ မြတ်ဗုဒ္ဓက ဖြေကြားလိုက်နှင့် ပြဿနာမှာ တဖြည်းဖြည်း ကြီးထွားကျယ်ပြန့်သွားလေ၏။

"အရှင်ဂေါတမ၊ အကျွန်ုပ်အနေဖြင့် အရှင်ဂေါတမကို မစွပ်စွဲလိုပါ။ စွပ်စွဲရန် ကြံစည်ခြင်းလည်း မရှိပါ။ အကျွန်ုပ် ကြားသိထားသောစကားကိုတော့ ပြောကြားလိုပါ၏။ ခွင့်ပြုပါ အရှင်ဂေါတမ" ဟူ၍ ယဉ်ကျေးစွာ ပန်ကြား၏။

"ရွာသူကြီး၊ ဆိုလော့။ ငါ ခွင့်ပြုပေ၏"

"သည်လိုပါ အရှင်ဂေါတမ၊ များစွာသော လူတို့က အရှင်ဂေါတမသည် လှည့်ပတ်မှုမာယာကို သိ၏။ မာယာကိုသိ၏ဟု ပြောဆိုနေပါကုန်၏။ ထိုစကားကို အကျွန်ုပ် ကြားသိနေရပါ၏။ ထိုစကားသည် ဆိုတိုင်းမှန်ပါသလား။

သို့မဟုတ် မှားပါသလား။ အရှင်ဂေါတမအား မဟုတ်မတရား စွပ်စွဲသောစကား ဖြစ်ပါသလား။ သိလိုပါ၏"

"ရွာသူကြီး၊ ထိုစကားသည် သင် ကြားသည့်အတိုင်း မှန်၏။ ငါ့ကို မဟုတ်မမှန် စွပ်စွဲသည် မမည်။ အမှန်ကို အမှန်အတိုင်း ဆိုသောစကား ဖြစ်ပေ" ဟု မြွက်ကြားတော်မူသည့်စကားကိုကြားသော် ပါဋလိရွာသူကြီးသည် တအံ့တသြ ကြွေးကြော်မိလေ၏။

"အချင်းတို့၊ ရဟန်းဂေါတမသည် လှည့်ပတ်မှု–မာယာကို သိ၏ဆိုသော သမဏဗြာဟ္မဏတို့၏စကားကို ငါတို့ မယုံမိခဲ့ကုန်။ အချင်းတို့၊ စင်စစ်မူကား ရဟန်းဂေါတမသည် လှည့်ပတ်တတ်သူတည်း။ မာယာအတတ်ဖြင့် လူတို့အား လှည့်ပတ်နေသော မျက်လှည့်ဆရာ၊ မှော်ဆရာကြီးပေတကား" ဟု မိမိလိုရာကို ဆွဲ၍ ကြွေးကြော်လေသတည်း။

"ရွာသူကြီး၊ လှည့်ပတ်မှုမာယာကို ငါသိ၏ဟု ဆိုကာမျှဖြင့် လှည့်ပတ်တတ်သူဟုဆိုသည့် မည်ရာသလော"

ထိုသို့ ဗုဒ္ဓက ကောက်၍မေးလိုက်သည်တွင် ရွာသူကြီးသည် တန့်သွားလေ၏။ မိမိစကား လွန်သွားရာကျလေပြီလောဟူ၍ ရှိုးတိုးရှန့်တန့် ဖြစ်သွားလေ၏။

"ဘုန်းတန်ခိုး ကြီးတော်မူသော မြတ်စွာဘုရား၊ ထိုစကားသည် ထိုအတိုင်း ဖြစ်ပါ၏။ ကောင်းသောစကားကို ဆိုတော်မူတတ်သော မြတ်စွာဘုရား၊ ထိုစကားသည် ထိုအတိုင်း မှန်ပါ၏။ မာယာကို သိ၏ဟု ဆိုကာမျှဖြင့် လှည့်ပတ်တတ်သူ မဖြစ်နိုင်ပါ" ဟု လျှောက်ထားဝန်ခံ၏။

ထိုအခါ ဗုဒ္ဓသည် ပါဋလိရွာသူကြီးအား ပြန်၍ မေးခွန်းထုတ်တော်မူလိုက်သည်။

"ရွာသူကြီး၊ သို့ဖြစ်လျှင် သင့်ကိုပင် ငါ ပြန်၍ မေးအံ့။ သင် နှစ်သက်သလို ဖြေလော့။ ရွာသူကြီး၊ ကောလိယမင်းတို့၏ လမ္ဗစူဠကမည်သော အမှုထမ်းတို့ကို သင်သိ၏လော"

"သိပါသည် အရှင်ဂေါတမ"

"ထိုလမ္ဗစူဠကအမှုထမ်းတို့သည် အဘယ်အကျိုး ရှိကုန်သနည်း"

"အရှင်ဂေါတမ၊ ထိုအမှုထမ်းတို့သည် ကောလိယမင်းတို့အတွက် ခိုးပြ၊ ခိုးသူတို့ဘေးမှ တားဆီးရန်အကျိုး ရှိပါကုန်၏"

"ရွာသူကြီး၊ ထိုအရာကို သင် မည်သို့မှတ်ထင်သနည်း။ ထိုအမှုထမ်းတို့သည် သီလ ရှိ၊ မရှိ၊ အကျင့် ယုတ်၊ မယုတ်ကို သိ၏လော"

"သိပါသည် အရှင်ဂေါတမ။ ထိုအမှုထမ်းတို့သည် အကျင့်ယုတ်ညံ့သူများ ဖြစ်ပါ၏"

"ရွာသူကြီး၊ ကောလိယမင်း၏ အမှုထမ်းတို့ အကျင့်ယုတ်ညံ့ကြောင်းကို သင်သိ၏။ သိသောသင့်ကို တစ်စုံတစ်ယောက်သောသူက 'ပါဋလိရွာသူကြီး သည် သီလမရှိ၊ အကျင့်ယုတ်ညံ့၏' ဟု ဆိုခဲ့သော် ကောင်းစွာဆိုသည် မည်ရာ သလော"

"မဖြစ်နိုင်ပါ အရှင်ဂေါတမ။ ထိုမင်းမှုထမ်းတို့ကားတခြား၊ အကျွန်ုပ်ကား တခြားဖြစ်ပါ၏။ ထိုအမှုထမ်းတို့၏သဘောကားတမျိုး၊ အကျွန်ုပ်၏သဘောကား တမျိုးဖြစ်ပါ၏"

"ကောင်းပြီ ရွာသူကြီး၊ ပါဋလိရွာသူကြီးသည် ကောလိယမင်းတို့၏ မင်း ချင်းယောကျ်ားတို့ကို သီလမရှိသူ၊ အကျင့်ယုတ်သူဟု သင် သိ၏။ ပါဋလိရွာ သူကြီးသည်ကား သီလမရှိသူ မဟုတ်၊ အကျင့်ယုတ်ညံ့သူ မဟုတ်ဟူသော အဖြစ်ကို သင်သော်မှပင် ရနိုင်သေးလျှင် ငါသည် လှည့်ပတ်မှု မာယာကို သိ၏။ ငါသည် လှည့်ပတ်သူ မဟုတ်ဟု အဘယ့်ကြောင့် မရနိုင်ဘဲ ရှိမည်နည်း။–

– ရွာသူကြီး၊ ငါသည် လှည့်ပတ်မှု မာယာကိုလည်း သိ၏။ လှည့်ပတ်မှု မာယာ၏အကျိုးကိုလည်း သိ၏။ လှည့်ပတ်သော အကျင့်ကို ကျင့်သူသည် ခန္ဓာ ကိုယ် ပျက်စီး၍ သေပြီးသည်မှနောက်ကာလ၌ ချမ်းသာကင်းရာ၊ မကောင်းသူတို့ ၏ လားရာ၊ ပျက်စီးကျရောက်ရာ ငရဲသို့ ရောက်ရပုံကိုလည်း ငါ သိ၏"

ထိုအခါ ပါဋလိရွာသူကြီးသည် မြတ်စွာဘုရားအား တစ်လုံးတစ်ပါဒမျှ ပြန်လှန်မေးလျှောက်ခြင်းမပြုတော့ဘဲ မြတ်ဘုရား၏စကားကိုသာ အာရုံစိုက်၍ နားထောင်နေ၏။

"ရွာသူကြီး၊ ငါသည် အသက်သတ်ခြင်းကိုလည်းကောင်း၊ အသက်သတ် ခြင်းအကျိုးကိုလည်းကောင်း သိ၏။ အသက်သတ်ခြင်းသည် ခန္ဓာကိုယ် ပျက်စီး၍ သေသည်မှနောက်ကာလ၌ ချမ်းသာကင်းရာ၊ မကောင်းသူတို့၏ လားရာ၊ ပျက်စီး ကျရောက်ရာ ငရဲသို့ ရောက်ရပုံကိုလည်း ငါ သိ၏။–

"ရွာသူကြီး၊ ငါသည်–

– မပေးသည်ကို ခိုးယူခြင်းကိုလည်းကောင်း၊

– ကာမတို့၌ မှားယွင်းစွာကျင့်ခြင်းကိုလည်းကောင်း၊

– မမှန်ပြောခြင်းကိုလည်းကောင်း၊

– ကုန်းစကားကိုလည်းကောင်း၊

- ကြမ်းတမ်းသောစကားကိုလည်းကောင်း၊
- ပြိန်ဖျင်းသောစကားကိုလည်းကောင်း၊
- သူ့စည်းစိမ်ကို ရှေ့ရှုကြံမှုကိုလည်းကောင်း၊
- ဖျက်ဆီးလိုသော အမျက်ဒေါသကိုလည်းကောင်း၊
- မှားသောအယူကိုလည်းကောင်း၊ မှားသောအယူ၏အကျိုးလည်းကောင်း– သိ၏။ မှားသောအယူရှိသောသူသည် ခန္ဓာကိုယ် ပျက်စီး၍ သေသည်မှ နောက်ကာလ၌ ချမ်းသာကင်းရာ၊ မကောင်းသူတို့၏လားရာ၊ ပျက်စီးကျရောက်ရာ ငရဲသို့ ရောက်ရပုံကိုလည်း ငါ သိ၏"

## အသက်သတ်သူတိုင်း မျက်မှောက်ဘဝ၌ ဆင်းရဲဒုက္ခ ခံစားရသလော

ထို့နောက် မြတ်စွာဘုရားသည် သူ့အသက်သတ်သူအားလုံးသည် မျက်မှောက်ဘဝမှာပင် ဆင်းရဲခံစားရသည်ဆိုသောအချက်နှင့်ပတ်သက်၍ ပါဋလိရွာသူကြီးအား ဆက်၍ မိန့်တော်မူ၏။

"ရွာသူကြီး၊ စကားစပ်၍ သင့်ကို ငါမေးဦးအံ့။ သူ့အသက်သတ်သူ၊ သူ့ဥစ္စာ ခိုးသူ၊ ကာမတို့၌ မှားယွင်းစွာကျင့်သူ၊ မမှန်စကားဆိုသူ၊ ထိုသူဤသူအားလုံးတို့သည် ဤမျက်မှောက်ဘဝမှာပင် ကိုယ်ဆင်းရဲစိတ်ဆင်းရဲ ခံစားရ၏ဟု သမဏ၊ ဗြာဟ္မဏတို့ အယူရှိနေကြသည် မဟုတ်ပါလော".

"မှန်ပါသည် အရှင်ဂေါတမ"

"သို့သော် ရွာသူကြီး၊ သူ့အသက်သတ်သူများ ဖြစ်ပါလျက် သူတို့ ယူဆကြသကဲ့သို့ မဆင်းရဲကြကုန်ဘဲ မျက်မှောက်ဘဝမှာပင် တင့်တောင့်တင့်တယ် ကြွယ်ဝချမ်းသာစွာ နေထိုင်ကြရသူများကို တွေ့မြင်နေရ၏။ ထိုသူတို့ကား အဘယ်နည်း။ ရွာသူကြီး၊ စစ်ပွဲ၌ အနိုင်ရအောင် သွေးချောင်းစီးမျှ သတ်ဖြတ်တိုက်ခိုက်သော စစ်သူရဲအား မင်းက ဆုချ၏။ မြို့စားရွာစားများ ပေး၍ ချီးမြှင့်၏။ အကြင်ဒေသ၌ ဓားပြသောင်းကျန်းနေ၏။ ထိုဓားပြကို သူကြီးက ဖမ်းဆီး၍ သတ်၏။ မင်းက ထိုသူကြီးအား ဆုလာဘ်များ ပေး၏။ ထိုစစ်သူရဲ၊ ထိုသူကြီးတို့သည် သူ့အသက်ကို သတ်သူများ ဖြစ်ကြသော်လည်း မျက်မှောက်ဘဝ၌ ဆင်းရဲဒုက္ခ မရောက်။ ဆင်းဆင်းရဲရဲ မနေကြရကုန်။ မင်းပေးသောစည်းစိမ်ဖြင့် လောကအလယ်တွင် ချမ်းချမ်းသာသာ တင့်တယ်စွာ နေကြရကုန်၏။–

– ရွာသူကြီး၊ ထိုအရာကို သင် မည်သို့ထင်သနည်း။ ထိုအဖြစ်မျိုးကို သင် မြင်ဖူး၏လော။ ကြားဖူး၏လော"

"မြင်လည်း မြင်ဖူးပါ၏။ ကြားလည်း ကြားဖူးပါ၏"

"ရွာသူကြီး၊ သူ့ဥစ္စာကို ခိုးခြင်း၊ ဓားပြတိုက်ခြင်း၊ မိစ္ဆာဇီဝဖြင့် အသက် မွေးခြင်းစသော ဒုစရိုက်မှုများဖြင့် ကြီးပွားချမ်းသာနေသူများကိုကော သင် မြင်ဖူး၊ ကြားဖူးသလော"

"မြင်လည်း မြင်ဖူးပါ၏။ ကြားလည် ကြားဖူးပါ၏"

"ရွာသူကြီး၊ သို့ဖြစ်ဘိသော် သူ့အသက်သတ်သူ၊ သူ့ဥစ္စာကို ခိုးသူ၊ ကာမတို့၌ မှားယွင်းစွာကျင့်သူ၊ မမှန်စကားကို ဆိုသူတိုင်းသည် မျက်မှောက် ဘဝမှာပင် ကိုယ်ဆင်းရဲ၊ စိတ်ဆင်းရဲ ခံစားရ၏ ဆိုသော သမဏ၊ ဗြာဟ္မဏတို့၏ ဝါဒသည် မှန်ရာကို ဆိုသည် မည်သလော"

"မှန်ရာကိုဆိုသည် မမည်ပါ အရှင်ဂေါတမ"

"မမှန်သည်ကိုဆိုသော ထိုသမဏ၊ ဗြာဟ္မဏတို့သည် သီလရှိသူတို့လော၊ သို့မဟုတ် သီလမရှိသူတို့လော"

"အရှင်ဘုရား၊ သီလမရှိသူတို့ပါတည်း"

"ထိုသီလမရှိသူ၊ ယုတ်ညံ့သောအကျင့်ရှိသူတို့သည် မှားယွင်းစွာ ကျင့်သူ တို့လော၊ မှန်ကန်စွာ ကျင့်သူတို့လော"

"မှားယွင်းစွာ ကျင့်သူတို့ပါတည်း"

"ထိုမှားယွင်းစွာကျင့်သူတို့သည် မှားသောအယူရှိသူတို့လော၊ မှန်သော အယူရှိသူတို့လော"

"မှားသောအယူ ရှိသူတို့ပါတည်း"

"မှားသောအယူ ရှိသူတို့၌ ကြည်ညိုရန် လျော်ကန်ပါမည်လော"

"အရှင်ဘုရား၊ မလျော်ကန်ပါ"

"ရွာသူကြီး၊ ဤအဖြစ်ကိုလည်း ရှုဦးလော့။ မင်းခယောက်ျားအချို့တို့ သည် မှားမှန်းသိကြပါလျက်လည်း မင်းအလိုလိုက်၍ မင်းအကြိုက် ခစားတတ် ကြ၏။ မင်းနှစ်ခြိုက်အောင် အမှားကို အမှန်ဟူ၍ မမှန်စကားဖြင့် နားတော် လျှောက်၏။ ထိုသူကို မင်းက နှစ်ခြိုက်၍ သူကောင်းပြုကာ မြှောက်စားထား၏။ ထိုသူသည် ဆင်းရဲသလော၊ ချမ်းသာသလော"

"မဆင်းရဲပါ။ ချမ်းသာပါသည် အရှင်ဂေါတမ"

"ရွာသူကြီး၊ ထို့ကြောင့် မမှန်စကားကို ဆိုသူတိုင်းလည်း မျက်မှောက်ဘဝ၌ ကိုယ်ဆင်းရဲ၊ စိတ်ဆင်းရဲ မခံစားရသည်မှာ မထင်ရှားပါလော"

"ထင်ရှားပါသည် အရှင်ဂေါတမ"

ထိုအခါ ပါဋ္ဌလိဂ္ဂာသူကြီးသည် မြတ်စွာဘုရား၏ မြွက်ကြားတော်မူချက်ကို များစွာနှစ်သက်ကြည်ညိုလာသဖြင့် မိမိ၏ အတွင်းရေးများကို ရင်ဖွင့်လျှောက်ထားခြင်း ပြုလေတော့သည်။ သူ၏ အိမ်ဝင်းခြံကြီးအတွင်း၌ သမဏ၊ ဗြာဟ္မဏများ တည်းခိုရန် မဏ္ဍပ်ကြီး တည်ဆောက်ထားကြောင်း၊ ညဥ့်အိပ်ညဥ့်နေ ချမ်းသာစွာ တည်းခိုနိုင်ရန် အိပ်ခန်းများကို အကန့်လိုက်အကန့်လိုက် တစ်သန့်စီ သီးခြားဖွဲ့ထားကြောင်း၊ စားဖွယ်သောက်ရာ ရေမီးမှစ၍ အစစအရာရာ ပြည့်စုံအောင် ဖန်တီးထားကြောင်း၊ ရောက်လာကုန်သော သမဏ၊ ဗြာဟ္မဏများ ဟောကြားသည့်တရားကို နာယူကြောင်း၊ ဝါဒချင်းမတူ အယူအသီးသီးရှိသော ပုဂ္ဂိုလ်များ ရောက်လာကြသဖြင့် ပုဂ္ဂိုလ်အသီးသီးတို့၏ ဝါဒများကို မှတ်သားရကြောင်းကို လျှောက်ထားလျက် ပုဂ္ဂိုလ်လေးဦးတို့၏ တစ်မျိုးစီသော အယူဝါဒကို ကွက်၍ လျှောက်ထားလေသတည်း။

## ပုဂ္ဂိုလ်လေးဦးတို့၏ ဝါဒလေးမျိုး

"အရှင်ဘုရား၊ အကျွန်ုပ်၏ ဂေဟာသို့ ရောက်လာကြသော သမဏ၊ ဗြာဟ္မဏများအနက် ပုဂ္ဂိုလ်လေးဦးတို့၏ ဝါဒချင်းမတူ တစ်မျိုးစီတစ်မျိုးစီသော ဝါဒများကို လျှောက်ထားပါအံ့။–

(၁) – အရှင်ဘုရား၊ ဆရာတစ်ယောက်ကား ဤသို့ဝါဒရှိပါ၏။ လှူခြင်းသည် မရှိ။ ပူဇော်ခြင်းသည် မရှိ။ ကောင်းမှု၊ မကောင်းမှုတို့၏ အကျိုးသည် မရှိ။ ဤလောကသည် မရှိ။ တမလွန်လောကသည် မရှိ။ အမိသည် မရှိ။ အဘသည် မရှိ။ သေ၍တစ်ဖန်ဖြစ်သော သတ္တဝါ မရှိ။ ဤလောကကိုလည်းကောင်း၊ တစ်ပါးသောလောကကိုလည်းကောင်း ကိုယ်တိုင်ထူးသောဉာဏ်ဖြင့် သိ၍ မျက်မှောက်ပြုလျက် ဟောကြားနိုင်ကုန်သော သမဏ၊ ဗြာဟ္မဏတို့သည် လောက၌ မရှိကုန်ဟု အယူရှိပါ၏။–

(၂) – အရှင်ဘုရား၊ ဆရာတစ်ယောက်ကား ဤသို့အယူရှိပါ၏။ လှူခြင်းသည် ရှိ၏။ ပူဇော်ခြင်းသည် ရှိ၏။ ကောင်းမှု၊ မကောင်းမှုတို့၏ အကျိုးသည် ရှိ၏။ ဤလောကသည် ရှိ၏။ တစ်ပါးသောလောကသည် ရှိ၏။ အမိသည် ရှိ၏။ အဘသည် ရှိ၏။ သေ၍တစ်ဖန်ဖြစ်သော သတ္တဝါသည် ရှိ၏။ ဤလောကကိုလည်းကောင်း၊ တစ်ပါးသောလောကကိုလည်းကောင်း ကိုယ်တိုင်ထိုးထွင်းဉာဏ်ဖြင့် သိ၍ မျက်မှောက်ပြုလျက် ဟောကြားနိုင်ကုန်သော သမဏ၊ ဗြာဟ္မဏတို့သည် ရှိကုန်၏ဟု အယူရှိပါ၏။–

(၃) – အရှင်ဘုရား၊ ဆရာတစ်ယောက်ကား ဤသို့ဝါဒရှိပါ၏။ ပြုသူ၊ ပြုစေသူ၊ နှိပ်စက်သူ၊ နှိပ်စက်စေသူ၊ အသက်သတ်သူ၊ သတ်စေသူ၊ တိုက်ခိုက်လုယက်သူ၊ တိုက်ခိုက်လုယက်စေသူ၊ သူ့မယားကို သွားလာသူ၊ သွားလာစေသူများသည် မကောင်းမှုကိုပြုသော်လည်း ပြုသည်မမည်။ ဤမြေပေါ်ရှိ သတ္တဝါတို့ကို သင်ဓုန်းဓားစက်ဖြင့် တစ်ခုတည်းသော အသားစု၊ အသားပုံဖြစ်အောင် အကယ်၍ ပြုစေကာမူ ထိုအကြောင်းကြောင့် မကောင်းမှုဖြစ်ခြင်း မရှိ။ ဂင်္ဂါမြစ်၏ တောင်ဘက်၌ နေသူသည် အသက်ကိုသတ်လျက်၊ သတ်စေလျက် သွားနေစေကာမူ ထိုသတ်ဖြတ်ခြင်းကြောင့် မကောင်းမှု မရှိ။ ဂင်္ဂါမြစ်၏ မြောက်ဘက်၌ နေသောသူသည် လှူလျက်၊ လှူစေလျက် သွားလာနေစေကာမူ ထိုလှူသော အကြောင်းကြောင့် ကောင်းမှုမရှိ။ အလှူပေးခြင်း၊ ဣန္ဒြေကို ဆုံးမခြင်း၊ သီလစောင့်ခြင်း၊ အမှန်ဆိုခြင်းတို့ကြောင့် ကောင်းမှုဖြစ်ခြင်း မရှိဟု အယူရှိပါ၏။–

(၄) + အရှင်ဘုရား၊ ဆရာတစ်ယောက်ကား ဤသို့ဝါဒရှိပါ၏။ ပြုသူ၊ ပြုစေသူ၊ သူ့မယားကို သွားလာသူ၊ သွားလာစေသူများသည် မကောင်းမှုကိုပြုသော် ပြုသည်မည်၏။ ဤမြေပေါ်ရှိ သတ္တဝါတို့ကို သင်ဓုန်းဓားစက်ဖြင့် တစ်ခုတည်းသော အစုအပုံဖြစ်အောင် အကယ်၍ ပြုခဲ့လျှင် ထိုအကြောင်းကြောင့် မကောင်းမှု ရှိ၏။ ဂင်္ဂါမြစ်၏ တောင်ဘက်၌နေသောသူသည် သတ်လျက်၊ သတ်စေလျက် သွားခဲ့လျှင် ထိုအကြောင်းကြောင့် မကောင်းမှု ရှိ၏။ ဂင်္ဂါမြစ်၏ မြောက်ဘက်၌ နေသောသူသည် လှူလျက်၊ လှူစေလျက် သွားလာခဲ့လျှင် ထိုလှူခြင်းဟူသော အကြောင်းကြောင့် ကောင်းမှုရှိ၏။ အလှူပေးခြင်း၊ ဣန္ဒြေကို ဆုံးမခြင်း၊ သီလကို စောင့်ခြင်း၊ အမှန်ကို ဆိုခြင်းတို့ကြောင့် ကောင်းမှုဖြစ်ခြင်းရှိ၏ဟု အယူရှိပါ၏။–

– အရှင်ဘုရား၊ ဤလေးဦးကုန်သော သမဏ၊ ဗြာဟ္မဏတို့တွင် အဘယ်သူသည် အမှန်ကို ပြောဆိုသနည်း။ အဘယ်သူသည် မမှန်ပြောဆိုသနည်းဟု အကျွန်ုပ်အား ယုံမှားဖြစ်ပါ၏။ တွေးတောခြင်း ဖြစ်ပါ၏" ဟူ၍ မိမိ၏ ကိုယ်တွေ့ဖြစ်ရပ်များကို လျှောက်ထား၍ အမှား၊ အမှန်ကို မြတ်စွာဘုရားထံ တောင်းခံလေသတည်း။

"ရွာသူကြီး၊ သင်သည် ယုံမှားခြင်းငှာ ထိုက်သည်သာတည်း။ တွေးတောခြင်းငှာ ထိုက်သည်သာတည်း။ စင်စစ်သော်ကား သင်သည် ယုံမှားသင့်သောနေရာ၌ ယုံမှားခြင်း ဖြစ်ပေါ်၏"

"အရှင်ဘုရား၊ ဤယုံမှားခြင်းသဘော ပျောက်အောင် အကျွန်ုပ်အား တရားဟောခြင်းငှာ စွမ်းနိုင်၏ဟု မြတ်စွာဘုရား၌ ယုံကြည်ပါ၏။ ယုံမှားပျောက်အောင် ဖျောက်တော်မူပါလော့။ ဟောတော်မူပါလော့"

ဤသို့ ပါဋလိရွာသူကြီး တင်ပြသော ပြဿနာလေးချက်ကို ဗုဒ္ဓဘာသာဝင်တို့အနေဖြင့်လည်း အလေးအနက်ပြု၍ မှတ်သားထိုက်လှ၏။ အဘယ့်ကြောင့်ဆိုသော် ဗုဒ္ဓဘာသာဖြစ်လျက် ကြက်၊ ဝက်၊ သား၊ ငါး သတ္တဝါများကို သတ်လျှင် အပြစ်မရှိ။ သတ္တဝါကို လူ့ချွတ်မှ ကျွတ်သည်ဟူ၍လည်းကောင်း၊ ကြက်၊ ဝက်၊ ဘဲ၊ သား၊ ငါးတို့မှာ ကမ္ဘာ့ဟင်းလျာဟူ၍လည်းကောင်း ပေါ့ပေါ့ဆဆ အမြင်များ၊ အတွေးများသူများ ရှိတတ်သောကြောင့် ဖြစ်၏။

## ဗုဒ္ဓကပေးသော ယုံမှားကင်းဝေး တရားဆေး

ပါဋလိရွာသူကြီး၏ တောင်းပန်ချက်အရ ယုံမှားခြင်းမှ ကင်းဝေးစေခြင်း

"ရွာသူကြီး၊ လောကီသမာဓိဟူ၍ ရှိ၏။ သင်သည် ထိုလောကီသမာဓိ၌ တည်၍ လောကုတ္တရာ မဂ်သမာဓိကို ရပါလျှင် ဤယုံမှားခြင်းသဘော ပျောက်ကင်းနိုင်ရာ၏။ ရွာသူကြီး၊ လောကီသမာဓိဟူသည် အဘယ်နည်း။ ရွာသူကြီး၊ ဤလောက၌ အရိယာတပည့်သည်–

- အသက်သတ်ခြင်းကိုပယ်၍ အသက်သတ်ခြင်းမှ ရှောင်ကြဉ်၏။
- ခိုးယူခြင်းကိုပယ်၍ ခိုးယူခြင်းမှ ရှောင်ကြဉ်၏။
- ကာမတို့၌ မှားယွင်းစွာ ကျင့်ခြင်းကို ပယ်၍ ကာမတို့၌ မှားယွင်းစွာ ကျင့်ခြင်းမှ ရှောင်ကြဉ်၏။
- မမှန်ပြောဆိုခြင်းကိုပယ်၍ မမှန်ပြောဆိုခြင်းမှ ရှောင်ကြဉ်၏။
- ကုန်းတိုက်စကားကိုပယ်၍ ကုန်းတိုက်ပြောဆိုခြင်းမှ ရှောင်ကြဉ်၏။
- ကြမ်းတမ်းသောစကားကိုပယ်၍ ကြမ်းတမ်းသောစကားမှ ရှောင်ကြဉ်၏။
- ပြိန်ဖျင်းသောစကားကိုပယ်၍ ပြိန်ဖျင်းစကားဆိုခြင်းမှ ရှောင်ကြဉ်၏။
- သူ့စည်းစိမ်ရှေးရှုခြင်းကိုပယ်၍ သူ့စည်းစိမ်ကို ရှေးရှုမကြံစည်။
- သူတစ်ပါးအား ဖျက်ဆီးလိုသော အမျက်ဒေါသကိုပယ်၍ သူတစ်ပါးအား မဖျက်ဆီးလိုသောစိတ် ရှိ၏။
- မှားသောအယူကိုပယ်၍ မှန်ကန်သောအယူရှိ၏။

–ရွာသူကြီး၊ ထိုအရိယာတပည့်သည် ဤသို့ သူ့စည်းစိမ်ကို ရှေးရှုကြံခြင်းမှကင်းလျက်၊ သူတစ်ပါးအား ဖျက်ဆီးလိုခြင်းကင်းလျက်၊ မတွေဝေဘဲလျက်၊ ဆင်ခြင်ဉာဏ်သမ္ပဇဉ် အောက်မေ့မှု–သတိရှိလျက်၊ ချမ်းသာစေလိုခြင်း–

မေတ္တာနှင့်ယှဉ်သော်စိတ်ဖြင့် တစ်ခုသောအရပ်မျက်နှာကို ပျံ့နှံ့စေ၍ နေ၏။ ထို့အတူ နှစ်ခု၊ သုံးခု၊ လေးခုမြောက် အရပ်မျက်နှာကို ပျံ့နှံ့စေ၍ နေ၏။ ဤနည်းဖြင့် အထက်၊ အောက်၊ ဖီလာ၊ အလုံးစုံသောအရပ်မျက်နှာတို့၌ရှိသော သတ္တဝါအားလုံးကို မိမိနှင့်အတူပြု၍ သတ္တဝါအားလုံးပါဝင်သော သတ္တလောကကို ပြန့်ပြောသော၊ မြင့်မြတ်သော၊ အတိုင်းအရှည်မရှိသော၊ ရန်မရှိသော၊ ငြိုငြင်ခြင်းမရှိသော မေတ္တာနှင့် ယှဉ်သော်စိတ်ဖြင့် ပျံ့နှံ့စေ၍နေ၏။ ထိုသူသည် ဤသို့ဆင်ခြင်၏။ 'ပေးလှူခြင်းသည် မရှိ။ ပူဇော်ခြင်းသည် မရှိ။ ကောင်းမှု၊ မကောင်းမှု၏အကျိုးသည် မရှိ။ ဤလောကသည် မရှိ။ တစ်ပါးသော လောကသည် မရှိ။ အမိသည် မရှိ။ အဘသည် မရှိ။ သေ၍တစ်ဖန်ဖြစ်သော သတ္တဝါသည် မရှိ။ ဤလောကကိုလည်းကောင်း၊ တစ်ပါးသောလောကကိုလည်းကောင်း၊ ကိုယ်တိုင်ထူးသောဉာဏ်ဖြင့်သိ၍ မျက်မှောက်ပြုလျက် ဟောကြားနိုင်ကုန်သော သမဏ၊ ဗြာဟ္မဏတို့ မရှိကုန်' ဟု အယူရှိသော ဆရာ၏စကားသည် အကယ်၍ မှန်အံ့။ ဤဆရာ၏စကား၌ ငါ့အား အပြစ်မရှိ။ ငါသည် ရွေ့ရှားတတ်သော သတ္တဝါကိုလည်းကောင်း၊ မရွေ့ရှားတတ်သော သတ္တဝါကိုလည်းကောင်း၊ တစ်ဦး တစ်ယောက်ကိုမျှ မနှိပ်စက်။ ငါသည် ကိုယ်ဖြင့် စောင့်စည်း၏။ နှုတ်ဖြင့်စောင့်စည်း၏။ စိတ်ဖြင့် စောင့်စည်း၏။ ယင်းသို့ စောင့်စည်းခြင်းကြောင့် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှနောက်၌ ကောင်းသူတို့၏လားရာ နတ်ပြည်လောကသို့လည်း ရောက်ရအံ့။ငါသည် ဤဝါဒနှစ်မျိုးလုံး၌ အနိုင်ရ၏' ဟု ဤသို့ဆင်ခြင်၏။–

– ထိုသူ့အား ဝမ်းမြောက်ခြင်း ဖြစ်၏။ ဝမ်းမြောက်သောသူအား နှစ်သိမ့်ခြင်းဖြစ်၏။ နှစ်သိမ့်သောစိတ် ရှိသူ၏ ကိုယ်သည် ငြိမ်းအေး၏။ ငြိမ်းအေးသော ကိုယ်ရှိသူသည် ချမ်းသာ ခံစားရ၏။ ချမ်းသာသူ၏စိတ်သည် တည်ကြည်၏။–

– ရွာသူကြီး၊ ဤသည်ကား လောကီသမာဓိတည်း။ ထိုလောကီသမာဓိ၌ တည်၍ လောကုတ္တရာမဂ်သမာဓိကို ရခဲ့လျှင် ဤယုံမှားခြင်းသဘော ပျောက်နိုင်ရာ၏။–

– ရွာသူကြီး၊ ထိုအရိယာတပည့်သည် ဤသို့ သူ့စည်းစိမ်ကို ရှေးရှုခြင်းမှ ကင်းလျက်၊ သူတစ်ပါးအား ဖျက်စီးလိုခြင်းကင်းလျက်၊ မတွေမဝေဘဲလျက်၊ ဆင်ခြင်ဉာဏ်–သမ္ပဇဉ်၊ အောက်မေ့မှု–သတိရှိလျက်၊ ချမ်းသာစေလိုခြင်းမေတ္တာနှင့်ယှဉ်သောစိတ်ဖြင့် တစ်ခုသောအရပ်မျက်နှာကို ပျံ့နှံ့စေ၍ နေ၏။ ထို့အတူ ။ပ။ ထိုသူသည် ဤသို့ ဆင်ခြင်၏။ 'ပေးလှူခြင်းသည် ရှိ၏။ ပူဇော်ခြင်းသည်

ရှိ၏။ ။ပ။ မျက်မှောက်ပြုလျက် ဟောနိုင်ကုန်သော သမဏ၊ ဗြာဟ္မဏတို့သည် ရှိကုန်၏ဟု အယူရှိသော ဆရာ၏စကားသည် အကယ်၍ မှန်အံ့။ ဤဆရာ့စကား၌ ငါ့အား အပြစ်မရှိ။ ငါသည် ရွေ့ရှားတတ်သော သတ္တဝါကိုလည်းကောင်း၊ မရွေ့ရှားတတ်သော သတ္တဝါကိုလည်းကောင်း၊ တစ်ဦးတစ်ယောက်ကိုမျှ မနှိပ်စက်၊ ငါသည် ကိုယ်ဖြင့် စောင့်စည်း၏။ နှုတ်ဖြင့် စောင့်စည်း၏။ စိတ်ဖြင့် စောင့်စည်း၏။–

– ယင်းသို့ စောင့်စည်းခြင်းကြောင့် ခန္ဓာကိုယ် ပျက်စီး၍ သေသည်မှ နောက်၌ ကောင်းသောသူတို့၏ လားရာ နတ်ပြည်လောကသို့လည်း ရောက်ရအံ့။ ငါသည် ဤဝါဒနှစ်မျိုးလုံး၌ အနိုင်ရ၏ဟု ဤသို့ဆင်ခြင်၏။ ထိုသူ့အား ဝမ်းမြောက်ခြင်းဖြစ်၏။ ဝမ်းမြောက်သူအား နှစ်သိမ့်ခြင်းဖြစ်၏။ နှစ်သိမ့်သော စိတ်ရှိသောသူ၏ ကိုယ်သည် ငြိမ်းအေး၏။ ငြိမ်းအေးသောကိုယ်ရှိသူသည် ချမ်းသာခံစားရ၏။ ချမ်းသာသူ၏ စိတ်သည် တည်ကြည်၏။ ရွာသူကြီး၊ ဤသည်ကား လောကီသမာဓိတည်း။ သင်သည် ထိုလောကီသမာဓိ၌ တည်၍ လောကုတ္တရာမဂ် သမာဓိကိုရခဲ့လျှင် ဤယုံမှားခြင်းကို ပယ်ဖျောက်နိုင်ရာ၏"

ဤသို့ ဗုဒ္ဓမြတ်ဘုရားသည်–

(၁) အလှူပေးခြင်းသည် မရှိ၊ ပူဇော်ခြင်းသည် မရှိဟု အယူရှိသော ဆရာ၏ဝါဒ ပြဿနာအတွက် အရှေ့၊ အနောက်၊ တောင်၊ မြောက်၊ အထက်၊ အောက် ဟူသော အရပ်ဆယ်မျက်နှာ၌ နေထိုင်ကြသည့် သတ္တလောကအားလုံးကို မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာတည်းဟူသော ဗြဟ္မဝိဟာရတရား လေးပါးဖြင့် ပျံ့နှံ့စေ၍နေခြင်း=လောကီသမာဓိလေးမျိုး။

(၂) အလှူပေးခြင်းသည် ရှိ၏။ ပူဇော်ခြင်းသည် ရှိ၏ဟု အယူရှိသော ဆရာ၏ ဝါဒပြဿနာအတွက် ထို့အတူ လောကီသမာဓိလေးမျိုး။

(၃) ပြုသူ၊ ပြုစေသူ၊ သတ်သူ၊ သတ်စေသူများသည် မကောင်းမှုပြုစေကာမူ မကောင်းမှုမရှိဟု အယူရှိသော တရား၏ဝါဒပြဿနာအတွက်လည်း အရှေ့၊ အနောက်၊ တောင်၊ မြောက်၊ အထက်၊ အောက်ဟူသော အရပ်ဆယ်မျက်နှာရှိ သတ္တလောကအားလုံးကို မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ၊ ဗြဟ္မဝိဟာရတရားလေးပါးဖြင့် ပျံ့နှံ့စေ၍နေခြင်း–လောကီသမာဓိလေးမျိုး။

(၄) ပြုသူ၊ ပြုစေသူ၊ သတ်သူ၊ သတ်စေသူများသည် မကောင်းမှုလျှင် ပြုသည်

မည်၏။ မကောင်းမှုရှိ၏ဟု အယူရှိသော ဆရာ၏ ဝါဒပြဿနာအတွက် ထို့အတူ လောကီသမာဓိလေးမျိုး။

လောကီသမာဓိများကို ပါဋ္ဌလိရွာသူကြီးအား ဟောကြားတော်မူ၏။ ဤလောကီသမာဓိ၌တည်၍ လောကုတ္တရာမဂ်သမာဓိကိုရခဲ့လျှင် သင့်၌ဖြစ်နေသော ယုံမှားခြင်း ကင်းနိုင်ရာသည်ဟု မိန့်တော်မူချက်မှာ ပါဋ္ဌလိရွာသူကြီးအား သောတာပန်တည်းဟူသော တံခါးကြီး ပွင့်လာအောင် ဖွင့်ပေးလိုက်ခြင်းပင်တည်း။

**လောကုတ္တရာမဂ်သမာဓိဆိုရာ၌** မဂ်၏အဓိပ္ပာယ်မှာ သက္ကာယဒိဋ္ဌိ ငါစွဲအတ္တစွဲ၊ ဝိစိကိစ္ဆာ–သို့လော သို့လော တွေးတောယုံမှားမှု၊ သီလဗ္ဗတုပါဒါန်=နွားတို့၏အလေ့၊ နွားတို့၏အကျင့်များကို သံသရာမှ စင်ကြယ်ကြောင်းဟု ယူဆမှုများကို အကြွင်းမဲ့ပယ်ခြင်းကို ဆို၏။

**လောကုတ္တရာမဂ်သမာဓိကို** ရခဲ့ပါလျှင်ဆိုသည်ကား သက္ကာယဒိဋ္ဌိ၊ ဝိစိကိစ္ဆာနှင့် သီလဗ္ဗတုပါဒါန် ပယ်ပြီးသော သောတာပန်အဆင့်သို့ ရောက်ခဲ့လျှင် ယုံမှားခြင်း ကင်းမည်။ မပယ်နိုင်သေးသမျှ ယုံမှားကင်းမည် မဟုတ်။ ထို့ကြောင့် သင်သည် ယုံမှားခြင်းကို ပယ်ဖျောက်လိုသော် သောတာပန်အဆင့်သို့ရောက်အောင် ကြိုးစားဟူ၍ ဆိုလိုသည်။

ဒေသနာတော်၏အဆုံးတွင် ရွာသူကြီးသည် မြတ်စွာဘုရားအား ရိုသေစွာ ရှိခိုးလျက် "အရှင်ဘုရား၊ တရားတော်သည် အလွန်နှစ်သက်ဖွယ် ရှိပါပေစွ။ အရှင့်ရား၊ ယနေ့ကို အစပြု၍ တပည့်တော်အား အသက်ရှည်သျှ ကာလပတ်လုံး ရတနာသုံးရပ်ကို ဆည်းကပ်ကိုးကွယ်သော ဥပါသကာဟူ၍ အသိအမှတ် ပြုတော်မူပါဘုရား" ဟု လျှောက်ထားကာ ဥပါသကာအဖြစ် ခံယူလေသတည်း။



သွေးနှင့်ချွေးနှင့်ရင်းနှီးယူခဲ့ရသော
ဘိက္ခုနီသာသနာ

ပြဿနာ = မိန်းမများ ရဟန်းပြုခွင့် ရရှိရေး
မေး = မိထွေးတော် ဂေါတမီ
ဖြေ = ဗုဒ္ဓမြတ်ဘုရား

သက္ကတိုင်း၊ ကပိလဝတ္ထုနေပြည်တော်၏အနီး မဟာဝုန်တောကြီးတွင် မြတ်စွာဗုရားသည် သာကီနွယ်ဖွား ရဟန္တာငါးရာရံလျက် စကြဝဠာတစ်သောင်းမှ ရောက်လာကုန်သော နတ်ဗြဟ္မာအပေါင်းတို့အား နယုန်လပြည့်နေ့၌ မဟာသမယသုတ်ကို ဟောကြားတော်မူခဲ့သည်ဖြစ်ရာ ထိုမဟာသမယသုတ်၏ အရှိန်အဟုန်သည် မိထွေးတော် ပဇာပတိ ဂေါတမီ စသော သာကီဝင် မင်းသမီးအပေါင်းတို့၏စိတ်ကို တစ်မျိုးတစ်ဖုံ ပြောင်းလဲသွားစေလေ၏။

မှန်ပါသည်။ မဟာသမယသုတ်ကို ဟောတော်မူပြီးသည့်အချိန်မှစ၍ ထို မဟာသမယရွှေကွက်မှာ ပဇာပတိ ဂေါတမီ၏ မျက်စိထဲက မထွက်တော့ပါ။ 'သားတော် သိဒ္ဓတ္ထမင်းသားသည်လည်း သုံးလောက နယ်ခရိုင်တွင် ပြိုင်သူကင်းလွတ် အထွတ်ဆုံး၊ အမြတ်ဆုံး ဘုရားအဖြစ်သို့ ရောက်တော်မူလေပြီ။ သကျပုတ္တ သာကီယနွယ်ဖွား မင်းညီမင်းသား ငါးရာတို့သည်လည်း တစ်စုတဝေးတည်း အာသဝေါကုန်ခန်း၍ ရဟန္တာ ဖြစ်သွားကြကုန်ပြီ။ ငါသည်မူကား သားဘုရား၏ မယ်တော်ဖြစ်ပါလျက် သာသနာတော်၏ အနှစ်သာရကို မခံစားရပါတကား။ သာကီနွယ်ဖွား၊ မင်းညီမင်းသားတို့ကဲ့သို့ ငါသည် ရဟန်းအဖြစ်ကို ရရှိ၍ တရားဓလေ့ဖြင့် ပျော်မွေ့ရပါမူ ကောင်းလေစွ' ဟူ၍ ရဟန်းဖြစ်မှု၌ စိတ်ညွတ်တော်မူနေ၏။

စပယ်ဦးစာပေ

မဟာသမယအရှိန် ရိုက်ခတ်မှုကြောင့် ဖြစ်ပေါ်လာသော ရဟန်းပြုလိုမှု အစိုအစွေ့ကသည် ပဇာပတိ ဂေါတမီ၏ သန္တာန်၌ ခြောက်သွေ့သွားခြင်း မရှိ။ ပျားစွဲသကဲ့သို့ အုံဖွဲ့၍ စွဲတည်လျက် ရှိနေလေရာ ရဟန်းဖြစ်မှုကိုသာ ချင်ခြင်း တပ်နေ၏။ ဘယ်သောအခါများ ငါ ရဟန်းပြုရပါမည်နည်း။ သားဘုရားသည် သာကီနွယ်ဖွား မင်းယောကျ်ားများအား ရဟန်းဖြစ်စေပါလျက် အသမ္ဘိန္န သကျ နွယ်ရိုး သာကီမျိုးချင်း တူပါသည့် ငါနှင့်တကွသော သာကီအမျိုးသမီးများအား အဘယ့်ကြောင့် ရဟန်းပြုမပေးလေသနည်းဟူ၍ ရဟန်းဖြစ်လိုစိတ်မှာ အဆိပ်ကဲ့သို့ တရှိန်ရှိန် တက်နေ၏။

တစ်နေ့သ၌ ပဇာပတိ ဂေါတမီသည် မိမိ၏ဆန္ဒကို ပြောပြခြင်းငှာ သာကီအမျိုးသမီးများကို စုဝေးစေရာ အချို့ အမျိုးသမီးများမဟာ ရွှင်ရွှင်ပျပျ ရှိသော်လည်း အချို့အမျိုးသမီးများကား နေကြာပန်းကဲ့သို့ နွမ်းလျလျ ဖြစ်နေကုန်၏။

ထိုအခါ မိထွေးတော် ပဇာပတိဂေါတမီသည် ခညောင်းကပ်လာသော ကညာ၊ ဂေါရီ၊ ယုဝတီနွဲ့နှောင်း သာကီအမျိုး သမီးပျိုအပေါင်းနှင့်တကွ ခင်ပွန်းလင်များ ရဟန်းပြုသွား၍ မုဆိုးမဖြစ်၍ ကျန်ရစ်ခဲ့လေသော အမျိုးသမီးကြီး များအား ဤစကားကို မြွက်ကြားလေသတည်း။

"ချစ်သမီးတို့၊ မဟာသမယ မေ့သဘင်တော်ကြီးကို သင်တို့ အမှတ်ရကြ ကုန်၏လော" ဟူ၍ ရှေးဦးစွာ မဟာသမယစကားဖြင့် နှုတ်ခွန်းဆက်မေးမြန်း လိုက်သည်တွင် ထိုစကားမှာ မုဆိုးမဖြစ်ကျန်ခဲ့သော အမျိုးသမီးများအား အပူ ကြွအောင် ဆွပေးသကဲ့သို့ ဖြစ်သွားလေ၏။ ငို၍ လျှောက်ကုန်၏။

"သခင်မဖုရား၊ မဟာသမယစကားကို မြွက်ကြားတော်မမူပါနှင့်ဘုရား။ သည်အသံကိုကြားလေ ရဟန်းပြုသွားတဲ့ မောင်တော်ကို သတိရလေ ဖြစ်နေပါ သည် ဘုရား။ သခင်မဘုရား၏သားတော် မင်းသိဒ္ဓတ်က ကျွန်တော်မတို့၏ ကြင်ဖော်သက်ထား မောင်ဘုရားများကို ခေါ်ဆောင်သွားလေသည့်အတွက် ကျွန် တော်မတို့မှာ မုဆိုးမ ဖြစ်နေရသည်ကို သခင်မဖုရား ရှုစားရက်ပါသလား ဘုရာ့" ဟူ၍ ရှိုက်ကာငိုယို မျက်ရည်တစိုစိုနှင့် လျှောက်ကြလေသောအခါ ပဇာပတိ ဂေါတမီမှာ ကရုဏာသက်ရပြန်၏။

သို့သော် ငါမကယ်လျှင် သူတို့ခမျာ ပို၍သာ သောကလောင်တိုက် မီး တဟုန်းဟုန်း လောင်မြိုက်ကုန်တော့မည်ဟူ၍ သောကကင်းဝေးအောင် တရား ဆေးဖြင့် ကုစားလေ၏။

"ချစ်သမီးတို့၊ ဤသို့ မဆိုကုန်လင့်။ ဤသို့ မယူဆကုန်လင့်။ ဤသို့ မဆိုကောင်းပါ။ ဤသို့ မယူဆကောင်းပါ။ ချစ်သမီးတို့အတွက် ဂုဏ်ကျက်သရေ ယုတ်ဖွယ်ဖြစ်ထွေကို ဘောက်မဲ့ကြောင့် မျက်ရည်ကျကြကုန်သနည်း" ဟူ၍ စကား ပလ္လင်ပျိုးပြီးလျှင် ထိုအမျိုးသမီးတို့အား-

"ချစ်သမီးတို့၊ အမျိုးဂုဏ်ဝင့်ကြကုန်လော့။ သာကီဝင်ဂုဏ် ဖွင့်ကြကုန်လော။ ငါတို့သာကီဝင် မင်းမျိုးသည်ကား မကိုဋ္ဌ မင်္ဂလာ၊ ဤကမ္ဘာတွင်၊ ပထမာဒိက၊ ဘူမိပါလ၊ အာဒိစ္စဂိုဏ်း၊ တိုင်းပြုပြည်ပြု၊ သမ္မုတိဒေဝရာဇ်၊ နေနွယ်ဖြစ်၍၊ စင်စစ်အမျိုးအားဖြင့် မြတ်သော ဇာတိမဟာတ္တဂုဏ်နှင့် ပြည့်စုံသော အမျိုးပေတည်း။-

- ချစ်သမီးတို့၊ လောကသုံးပါး၌ ဘုရားအဖြစ်ကို အလွန်ရခဲ၏။ အလွန်ရခဲသော ဒုလ္လဘကြီး ဖြစ်ပေ၏။ ဤကမ္ဘာ၌ လူမျိုးပေါင်းများစွာရှိလေသည့် အနက် ထူးထူးခြားခြား ငါတို့ သာကီဝင်မျိုးမှ အလွန်ရခဲသော ဘုရားအဖြစ်ကို ရရှိလာသည်မဟုတ်ပါလော။ ဤသည်ကို ဂုဏ်ယူကြပါလော့။-

- ချစ်သမီးတို့၊ ငါ၏သား ဘုရားသည်လည်း မဟာသမ္မတ မင်းမျိုး၏ အနွယ်၌ ဖြစ်ပေသည်။ ချစ်သမီးတို့၏ ခင်ပွန်းလင်ဖြစ်ခဲ့သော ရဟန္တာငါးရာတို့သည်လည်း မဟာသမ္မတမင်းမျိုးမင်းနွယ်၌ ဖြစ်ကုန်သည်။ ငါ၏သား ဘုရားသည် မင်းမျိုး၏ ဝမ်း၌ ဖြစ်သည်။ ချစ်သမီးတို့၏ ခင်ပွန်းဟောင်း ရဟန္တာငါးရာတို့သည်လည်း မင်းမျိုး၏ဝမ်း၌ ဖြစ်ကုန်သည်။ ငါ၏သား ဘုရားသည်လည်း မင်းလုပ်ပြီးမှ ရဟန်းပြုသည်။ ချစ်သမီးတို့၏ ခင်ပွန်းဟောင်း ရဟန္တာငါးရာတို့သည်လည်း မင်းလုပ်ကုန်ပြီးမှ ရဟန်းပြုကုန်သည်။ ငါ၏သား ဘုရားသည် ထီးဖြူကို ပယ်ရှား၍ လက်တော်သို့ရောက်ပြီးသော စကြဝတေးမင်းအဖြစ်ကို စွန့်၍ ရဟန်းပြုသည်။ ချစ်သမီးတို့၏ ခင်ပွန်းဟောင်း ရဟန္တာငါးရာတို့သည်လည်း ထီးဖြူကို ပယ်ရှား၍ လက်တော်သို့ ရောက်ပြီးသော တိုင်းနိုင်ငံကို စွန့်ကုန်၍ ရဟန်းပြုကုန်သည်"

ဤသို့ ပြောပြကာ သောကမီးခဲ ရဲရဲပြောင်ပြောင် တောက်လောင်နေသော သာကီနွယ်ရိုး အမျိုးသမီးများအား အပူငြိမ်းအောင် ရှေးဦးစွာ ဤသို့နှိမ်လိုက်ပြီးမှ အဖိုးတန်သောဘဝကို ငါတို့ရပလေသည်ဟူ၍ ခံယူလာနိုင်အောင် မြတ်ဘုရားနှင့်တကွ ရဟန္တာများ၏ ကြည်ညိုစဖွယ် ရှုကွက်ကို ဆက်၍ ပြောပြလေ၏။

"ချစ်သမီးတို့၊ မဟာသမယသဘင်ကို သင်တို့ဉာဏ်ဖြင့် မြင်အောင် ပြန်၍ ရှုကြကုန်လော။ ငါ၏သား ဘုရားသည် စင်ကြယ်သောအရပ်ဒေသ မဟာ

ဝုန်တောအုပ်ကြီးတွင် ကိုယ်တော်သည် စင်ကြယ်သည်ဖြစ်၍ စင်ကြယ်သော အခြံအရံရှိလျက်၊ ကိုယ်တော်သည် ကင်းသောရာဂရှိသည်ဖြစ်၍ ကင်းသောရာဂ ရှိသော (ချစ်သမီးတို့၏ ခင်ပွန်းဟောင်း) ရဟန်းအပေါင်း ခြံရံလျက်၊ ကိုယ်တော် သည် ကင်းသောဒေါသရှိသည်ဖြစ်၍ ကင်းသောဒေါသရှိသော ရဟန်းအပေါင်း ခြံရံလျက်၊ ကိုယ်တော်သည် ကင်းသောမောဟရှိသည်ဖြစ်၍ ကင်းသောမောဟ ရှိသော ရဟန်းအပေါင်းခြံရံလျက်၊ ကိုယ်တော်သည် ကင်းသောတဏှာရှိသည်ဖြစ် ၍ ကင်းသောတဏှာရှိသော ရဟန်းအပေါင်းခြံရံလျက်၊ ကိုယ်တော်သည် ကင်းသော ကိလေသာရှိသည်ဖြစ်၍ ကင်းသောကိလေသာရှိသော ရဟန်းအပေါင်းခြံရံလျက်၊ ကိုယ်တော်သည် ငြိမ်သက်တော်မူသည်ဖြစ်၍ ငြိမ်သက်သောရဟန်းအပေါင်း ခြံရံလျက်၊ ကိုယ်တော်သည် ယဉ်ကျေးတော်မူသည်ဖြစ်၍ ယဉ်ကျေးသောရဟန်း အပေါင်း ခြံရံလျက်၊ ကိုယ်တော်သည် ဝဋ်ဆင်းရဲမှ လွတ်ကင်းသည်ဖြစ်၍ ဝဋ် ဆင်းရဲမှလွတ်ကင်းသော ရဟန်းအပေါင်း ခြံရံလျက် အလွန်တင့်တယ်တော်မူ၏။ ဤသို့သော အခြင်းအရာကို မြင်ကုန်သော နတ်ဗြဟ္မာအပေါင်းတို့သည် မြတ်စွာ ဘုရားနှင့်တကွ ချစ်သမီးတို့၏ ခင်ပွန်းဟောင်း သကျသာကီဝင် မင်းသားငါးရာ သော ရဟန္တာတို့အား အလွန်အကျူးအထူးကြည်ညိုကုန်၏။ ဤသည့် အံ့ဖွယ်သရဲ ထူးကဲသော ဖြစ်ရပ်များသည် သင်ချစ်သမီးတို့အတွက် ဂုဏ်ကျက်သရေပင် မဟုတ်ပါလော"

သဲပြင်ထက်၌ သွန်းလောင်းအပ်သောရေသည် တဖြည်းဖြည်း သဲတွင်းသို့ စိမ့်ဝင်သကဲ့သို့ သာသာညှင်းညှင်း ဖျောင်းဖျောင်းဖျဖျ ပြောဆိုသော မိထွေးတော် ပဇာပတိ ဂေါတမီ၏ စကားများသည် သာကီဝင်မင်းသမီးတို့၏ နှလုံးသည်းပွတ် တွင်းသို့ တစိမ့်စိမ့် စိမ့်ဝင်ပြီး မီးကို ရေဖြင့်သတ်လိုက်သည့်အလား သောက ကင်းကွာ၍ သက်သာရာရလာကုန်သည်သာမက ဗုဒ္ဓမြတ်ဘုရားအား ကြည်ညို သဒ္ဓါ ပွားလာကြကုန်လေ၏။

ထိုအခါ ပဇာပတိ ဂေါတမီသည် သာကီဝင်မင်းသမီးတို့၏ နူးညံ့ပျော့ပျောင်း လာသော စိတ်ကို ရိပ်စားမိသဖြင့် ဤစကားကို ဆိုလေ၏။

"ချစ်သမီးတို့၊ အစ်မတော် မာယာဒေဝီ ကွယ်လွန်သွားပြီးသည့်နောက် သားတော် သိဒ္ဓတ္ထအား ငါကိုယ်တိုင် နို့ချိုတိုက်ကျွေးလျက် မွေးမြူလာခဲ့ရသည် ကို ချစ်သမီးတို့ သိကြသည် မဟုတ်ပါလော"

"သိကြောင်းပါ ဘုရား"

"နို့ချိုတိုက်ကျွေး၍ ငါ မွေးမြူလာခဲ့တဲ့ ငါ့သားတော်သည် ယခု ဘုရား

ဖြစ်နေပြီ။ သားဖြစ်သူက ဘုရားဖြစ်နေပါလျက် ဘုရားမယ်တော်ဖြစ်သည့် ငါ ကား လူကြားထဲမှာ တမားမား လှုပ်ရှားနေခြင်းကား လားလားမျှ မသင့်လျော်။ ထိုးနန်း၌ စံမြန်းလိုစိတ် ငါ့မှာ မရှိတော့ပြီ။ ကုန်ပြီ။ ခန်းပြီ။ ငါသည်လည်း ငါ့သားတော်ကဲ့သို့ပင် ရဟန်းပြုတော့အံ့”

ဤသို့ မိမိဆန္ဒကို ပြောပြသောအခါ သာကီဝင်မင်းသမီးအပေါင်းတို့၏ သူလည်း ရဟန်းပြုမည်၊ ငါလည်း ရဟန်းပြုမည်ဟူသော တခဲနက် ဂယက် ရိုက်သွားလေသည်။

“သခင်မဖုရား၊ ဘယ်အခါ ရဟန်းပြုပါမည်လဲ ဘုရား”

“ရဟန်းပြုဖို့အချိန်သည် သားဘုရားအပေါ်မှာ တည်ပေသည်။ သား ဘုရားထံတွင် အမျိုးသမီးများအား ရဟန်းပြုရန် ခွင့်ပြုပါမည့်အကြောင်း ငါ တောင်းပန်ရဦးမည်။ ခွင့်ပြုသည့်အချိန်ကို ငါ ရဟန်းပြုမည့်အချိန်ဟု မှတ်ကုန် လော့”

“သခင်မဖုရား၊ အကယ်၍ ရဟန်းပြုခွင့် မရခဲ့ပါသော်–”

“အို–ချစ်သမီးတို့၊ သည့်နှယ် မဆိုကုန်လင့်။ ဤပြဿနာ မဖြစ်သင့်။ ငါ့သား ဘုရားကား ငါ့အား ခွင့်မပြုဘဲနေမည်မဟုတ်။ ကေန် ခွင့်ပြုတော်မူလိမ့် မည်။ ငါနှင့်အတူ ရဟန်းပြုလိုသူများ အသင့်ပြင်ထားကြကုန်လော့။ ငါ ယခု ပင် သားဘုရားထံ သွား၍ ခွင့်ပန်ချေအံ့” ဟူ၍ ပြောဆိုကာ ထိုင်ရာမှ ထ,လေ၏။

(၂)

ကြဲတိုင်းအောင်၍ ဆောင်တိုင်းမြောက်သည်လည်း ရှိတတ်၏။

ကြဲပါသော်လည်း အလွဲလွဲအချော်ချော် ဖြစ်တတ်သည်လည်း ရှိတတ်၏။

ဃောသိတာရုံကျောင်းတော်သည် အကယ်၍ ကြားတတ်သောနား ရှိပါမူ ကား ဘုရားသခင်နှင့် မိထွေးတော် ဂေါတမီ (သားအမိနှစ်ယောက်) တို့၏ အချီ အချ ပြောဆိုကြသော စကားများကို ကြားရလျှင် အသို့နေမည်နည်း။ မိထွေး တော် ဂေါတမီက သားဘုရားထံ ပန်ကြားနေပါ၏။

“အရှင်ဘုရား၊ တောင်းပန်ပါ၏။ မာတုဂါမသည် မြတ်စွာဘုရား ဟော ကြားတော်မူသော ဓမ္မဝိနယ သာသနာတော်၌ လူ့ဘောင်မှ ရဟန်းဘောင်သို့ ဝင် ရောက်၍ ရှင်ရဟန်းအဖြစ်ကို ရလိုပါ၏”

ဤသို့ လျှောက်ပြီးလျှင် "ရှင်ရဟန်းပြုစေ" ဟူသောအမိန့်ကို စောင့်ကြို နေ၏။ ငါ့သားက ငါ့စကားကို ပယ်မှာမဟုတ်ဟူ၍လည်း စွဲမြဲစွာ ယုံကြည်ထား၏။ သို့သော် မြတ်ဘုရား၏စကားတော်မှာ မိထွေးတော်ထင်သလို ဖြစ်မလာ။ မျှော်လင့်သောစကားနှင့် တခြားစီ ဖြစ်နေ၏။

"ဂေါတမီ၊ မသင့်။ မာတုဂါမများ သာသနာ့ဘောင်ဝင်၍ ရှင်ရဟန်းအဖြစ်ကို သင် မနှစ်သက်ပါလင့်" ဟု တားမြစ်တော်မူ၏။

သို့သော် ရဟန်းပြုလိုမှု၌ ဆန္ဒပြင်းပြနေသော ဂေါတမီကား အားမလျော့။ ထပ်ကျော့၍ နှစ်ကြိမ်မြောက် လျှောက်ထားပြန်၏။

"အရှင်ဘုရား၊ တောင်းပန်ပါ၏။ မာတုဂါမများ သာသနာ့ဘောင်ဝင်၍ ရှင်ရဟန်းပြုရန် ခွင့်ပြုတော်မူပါဘုရား"

"ဂေါတမီ၊ မသင့်။ မာတုဂါမများ ရှင်ရဟန်းဖြစ်ခြင်းကို သင် မနှစ်သက်ပါလင့်"

တစ်ကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ်မြောက် ဖွဲ့နဘဲကြီးကြီးနှင့် လျှောက်ပါသော်ငြားလည်း သုံးကြိမ်စလုံးပင် မြတ်စွာဘုရားက တားမြစ်တော်မူနေ၏။

ယောသိတာရုံကျောင်းတော်ကြီးသည် သားအမိနှစ်ယောက် (ဘုရားနှင့် ဂေါတမီ) မည်သို့ဖြစ်နေသည်ကို မသိ။ နန်းတွင်း၌ ကျန်ခဲ့သော သာကီဝင်အမျိုးသမီးများမှာ 'ငါတို့လည်း မင်းညီမင်းသားများနည်းတူ ရဟန်းပြုရတော့အံ့' ဟူ၍ သခင်မဖုရား ဂေါတမီ ဘုရားထံမှ ပြန်အလာကိုသာ စောင့်ကြိုနေကြကုန်၏။

"ဟော- ဟိုမှာ သခင်မဖုရား ပြန်လာပြီ" ဟူ၍ သာကီဝင်မင်းသမီးအပေါင်းတို့သည် ထ၍ခုန်တော့မလောက် ဝမ်းမြောက်ကြရာမှ ဂေါတမီကို ရှေ့တွင် တွေ့မြင်ကြရသောအခါ၌ကား နေထိသောပန်းကဲ့သို့ နွမ်းလျလျ ဖြစ်ကုန်လေ၏။ တစ်ခါမှ မျက်ရည်မစို့ခဲ့ဖူးသော ဂေါတမီ၏မျက်နှာပြင်တွင် မျက်ရည်တွေ တသွင်သွင် စီးနေသည်ကို မြင်ကြရသောကြောင့် ဖြစ်၏။

"ချစ်သမီးတို့၊ ငါ့သားဘုရားက ငါတို့ အမျိုးသမီးများကို ရှင်ရဟန်းပြုခွင့် မပေးနိုင်ဘူးတဲ့ သမီးတို့ရဲ့" ဟူ၍ ပြောပြောငိုငို ရှိုက်ကြီးတငင် ငိုကြွေးပြန်လေ၏။

မြတ်စွာဘုရားသည် ကပိလဝတ်နေပြည်တော်မှထွက်ခွာ၍ အစဉ်အတိုင်း ဒေသစာရီ လှည့်လည်တော်မူရာက ဝေသာလီပြည်သို့ ရောက်ရှိသွားလေသည်။ ကူဋာဂါရကျောင်းတိုက်၌ ကိန်းအောင်းမွေ့လျော် စံနေတော်မူ၏။

**ဓပယ်ဦးစာပေ**

(၃)

မိထွေးတော် ပဇာပတိ ဂေါတမီ၏ ရဟန်းပြုလိုသောဆန္ဒ အဘယ်မျှ ပြင်းပြလေသနည်း။ 'အမျိုးသမီးများ၊ ရဟန်းပြုခွင့် မရသမျှ ငါ မလျှော့' ဟူ၍ ဆန္ဒပြလေ၏။ ပိတုန်းရောင် ဆံကေသာညွန့်ကို ရိတ်ဖြတ် ပယ်စွန့်ပစ်လိုက်ရုံမက လူ့အသုံးအဆောင် အဝတ်အစား အဆင်တန်ဆာများကိုပါ ပယ်၍ သစ်ခေါက်ဆိုးသောအဝတ်ကို ဝတ်လေတော့သည်။

'အရင်းလဲလျှင် အဖျားထင်းဖြစ်' ဆိုသကဲ့သို့ ပဇာပတိ ဂေါတမီက သစ်ခေါက်ဆိုး ဝတ်လိုက်သောအခါ သာကီဝင်မင်းသမီးတို့ကလည်း အသီးအသီး ခေါင်းတုံးရိတ်ကြပြီး ဂေါတမီကဲ့သို့ပင် သစ်ခေါက်ဆိုးအထည်ကိုလွှမ်း၍ ရဟန်းမအသွင်ကို ဆောင်ကြကုန်လေ၏။ ထိုအခါ ကပိလဝတ်နေပြည်တော်ကြီးတစ်ခုလုံး အုန်းအုန်းကျွက်ကျွက် တစ်ခဲနက် ဂယက်ရိုက်ခတ်သွားလေ၏။

"ဟယ်–အံ့ဖွယ်ရှိစွတကား။ အဂ္ဂမဟေသီ ပဇာပတိ ဂေါတမီ မိဖုရားခေါင်ကြီးနှင့်တကွ သာကီဝင်မင်းသမီးအပေါင်းတို့ အခြေအနေ ပြောင်းလဲကုန်ပါကလား။ ရဟန်းမများအသွင် အညိုရောင်အဆင် ကိုယ်မှာဖုံး၍ ဦးပြည်းခေါင်းတုံးတွေ ဖြစ်ကုန်ပါကလား" ဟူ၍ အံ့ဩမဆုံးအောင် ဖြစ်ကုန်လေ၏။

"ချစ်သမီးတို့၊ ငါနှင့်လိုက်လိုသူများသည် ငါနည်းတူ ကျင့်နိုင်ရမည်။ ဆင်းရဲခြင်းဒဏ်ကို ကြံ့ကြံ့ခံနိုင်ရမည်။ ငါ့သားဘုရားသည် ငါတို့ပြည်မှ ခွာသွားလေပြီ။ ယခု ဝေသာလီပြည်သို့ ရောက်နေသည်ဟု ကြားရ၏။ ငါ့သားဘုရားရှိရာသို့ ငါ သွားအံ့။ အမျိုးသမီးများ ရဟန်းပြုခွင့်ရသည်အထိ ခန္ဓာကိုယ်ဖြင့် ရင်းနှီး၍ ဆန္ဒပြအံ့။ ခွင့်ပြုသည်အထိ ဆန္ဒပြ၍ ငါ တောင်းဆိုအံ့။ သင်တို့သည် မြေပြင်တွင် ခြေတင်၍ ခရီးသွားဖူးကြသူများ မဟုတ်။ နုနယ်သော နန်းတွင်းသူများသာ ဖြစ်ကုန်၏။ ချစ်သမီးတို့၊ သို့တစေလည်း ငါသည် ဖိနပ်လည်းမစီး၊ ထီးလည်းမဆောင်း၊ သင်တို့သည်လည်း ငါ့နှယ်အတူ မည်သူမျှ ဖိနပ်လည်း မစီးရ။ ထီးလည်း မဆောင်းရ။ သားဘုရားက ဝေသာလီပြည်မှာ တွေ့လျှင်တွေ့၊ မတွေ့ခဲ့သော် စုံစမ်းမေးမြန်း၍ သားဘုရားရှိသောနေရာအထိ သွားအံ့။ ခရီးသည် အဘယ်မျှရှည်မည် မသိ။ ဤစည်းကမ်းအတိုင်း မလိုက်နိုင်သူများ ယခုကပင် နေရစ်ကုန်လော့။ ငါတို့သည် အမျိုးသမီးများ ရဟန်းပြုခွင့်ရရှိရေးအတွက် ဆုံးစမထင်သော ခရီးကြမ်းကို လှမ်းကြကုန်အံ့" ဟု ခရီးစဉ်ကို ပြောပြလေသော် သာကီဝင် မင်းသမီးအပေါင်းတို့က "လိုက်ပါကုန်အံ့" ဟူ၍ အညီအညွတ် ဝန်ခံကြကုန်လေ၏။

ဤသည့်နောက်ပိုင်းတွင်မူ မိထွေးတော် ဂေါတမီ အမှူးပြုသော သာကီဝင် မင်းသမီးတို့သည် ကပိလဝတ်ထီးနန်းမှခွာလျက် ဝေသာလီပြည်သို့ ရှေးရှုကာ ဆူးငြောင့်ခလုတ်၊ ကျောက်ပြုပ်ခရောင်း၊ သံစောင်းတမျှ ကြမ်းတမ်းခက်ထရော်လှသော တောင်လမ်းခရီးအတိုင်း တစ်တောဝင် တစ်တောထွက် ရွှေစကြာ ဖြန့်ကြလေ၏။

ကြမ်းတမ်းသော တောလမ်းခရီး ဖြတ်သန်းရသည်မှာ နန်းတွင်းသူများအဖို့ အဘယ်မျှ ဆင်းရဲပင်ပန်းရှာကြလေမည်နည်း။ ဖဝါးခြေနုတွင် သွေးခြေဥသူက ဥ၊ ခလုတ်ငြောင့်စူးသူကစူး၊ လဲသူကလဲ၊ သွေးတရဲရဲနှင့် ဖြစ်ကုန်လေ၏။ ဂေါတမီကိုယ်တိုင်သည်ပင် ဆန္ဒပြင်းပြင်းနှင့် ကြိတ်မှိတ်၍ ကြံ့ကြံ့ခံသော်လည်း မျက်ရည်များမှာ သူ၏နုထွတ်သော ပါးပြင်ပေါ်တွင် တသွင်သွင် စီးနေ၏။

သို့သော် သူတို့ခရီးသည် အောင်မြင်သည်ဟု ဆိုရပေမည်။ မြတ်ဘုရားသည် ဝေသာလီပြည်မှာပင် ရှိနေသေးသည်။ ဘုရားသခင် သီတင်းသုံးတော်မူရာ ကူဋာဂါရ ကျောင်းတိုက်သို့ ဆိုက်ဆိုက်မြိုက်မြိုက် ရောက်ကြ၏။ ထိုအချိန်၌ ဘုရားသခင်သည် ဂန္ဓကုဋိတိုက်တွင်း၌ ရှိနေသောကြောင့် ချက်ချင်း ဖူးမြော်ခွင့်မရဘဲ ဖြစ်နေ၏။ ဂေါတမီမှာ ခရီးကပန်း၊ ခြေဖဝါးနှစ်ဖက်စလုံး သွေးသံရဲရဲဖြစ်နေသဖြင့် ကျောင်းတံခါးတိုင်မှီလျက် မျက်ရည်တစိုစိုနှင့် ငိုကြွေးနေရှာသတည်း။

အရှင်အာနန္ဒာသည် ဂန္ဓာကုဋိတိုက်ဘေး၌ စင်္ကြံလျှောက်နေ၏။

ဂေါတမီသည် တံခါးတိုင်ကိုမှီလျက် တရှုတ်ရှုတ် ငိုနေ၏။

အရှင်အာနန္ဒာသည် စင်္ကြံလျှောက်ရင်းမှ ငိုသံသဲ့သဲ့ကြားလျှင် ခေတ္တရပ်နားထောင်ပြီး ငိုသံကြားရာသို့ လာ၏။ ဂေါတမီကို အမှတ်မထင် မြင်ရသော် များစွာအံ့အားသင့်သွားလေ၏။

"ဟင်–မိထွေးတော်ပါလား။ ဘယ်လိုဖြစ်လာတာလဲ။ ခြေဖဝါးမှာလည်း သွေးသံတွေရဲလို့ပါလား။ တစ်ကိုယ်လုံးမှာလည်း မြေမှုန့်တွေ ဖုန်တွေပေလို့ကျံလို့။ မျက်ရည်လည်း အရွှဲသားနဲ့။ ဘယ်လိုဖြစ်လာတာလဲ။ ဒီလို ဘယ်လိုကြောင့် ရောက်လာတာပါလဲ"

အရှင်အာနန္ဒာက ပျာပျာသလဲမေး၍ ဂေါတမီက ဖြစ်ကြောင်းကုန်စင်ကို ပြောပြသောအခါ–

"ဂေါတမီ၊ မစိုးရိမ်နှင့်။ ခွင့်ပြုချက် ရစေရမည်။ သည်မှာ ခေတ္တစောင့်နေပါ။ ဘုရားသခင့်ထံတော်သို့ သွားရောက်လျှောက်ထားပေးမည်" ဟူ၍ ဂေါတမီ

ကို တံခါးမုခ်၌ ထားခဲ့ပြီး အရှင်အာနန္ဒာသည် ဘုရားသခင်၏ ရှေ့တော်သို့ ဝင်လေ၏။ ဂေါတမီသည် အရှင်အာနန္ဒာ၏ ဝန်ခံစကားကြောင့် စုတ်ပြတ်ပေါက်ပြဲ ခြေမှာ သွေးသံတရဲရဲနှင့် ဖြစ်နေသော်လည်း နာကျင်ရမှန်းပင် မသိ။ ပါးပြင် ပေါ် လိမ့်ဆင်းနေသော မျက်ရည်စများကိုလည်း သိမ်းလိုက်၏။

ထိုအချိန်တွင် အရှင်အာနန္ဒာကား ဘုရားသခင်အား အကျိုးအကြောင်း လျှောက်ထားနေ၏။ မိထွေးတော် ဂေါတမီဦးဆောင်၍ ကပိလဝတ် နေပြည် တော်မှ သာကီဝင်မင်းသမီးများ ရဟန်းပြုခွင့်ရလို၍ လိုက်လာကြကြောင်း၊ ကပိ လဝတ်မှ ဧည်ဝေသာလီပြည်အထိ တောလမ်းခရီးကြမ်းကို ဖိနပ်မစီး၊ ထီးမဆောင်း ဘဲ ခြေကျင်လျှောက်လာရသဖြင့် မိထွေးတော်၏ ဖဝါးခြေနုတွင် သွေးခြေဥရုံ မက ပေါက်ပြဲ၍ သွေးသံနှင့်ရဲရဲ ဆင်းရဲဒုက္ခခံ၍ လိုက်လာသည်ကို သနားသဖြင့် မိထွေးတော်၏ ဆန္ဒကို လိုက်လျောကာ မာတုဂါမများ သာသနာ့ဘောင်ဝင်၍ ရှင်ရဟန်းပြုရန် ခွင့်ပြုသင့်ပါကြောင်းဖြင့် မိထွေးတော် ဂေါတမီ၏ကိုယ်စား ပန် ကြားပါသော်လည်း–

"အာနန္ဒာ မသင့်။ သာသနာတော်၌ မာတုဂါမများ ရှင်ရဟန်းအဖြစ် ရရှိ ခြင်းကို သင် မနှစ်သက်လေနှင့်"

အရှင်အာနန္ဒာမှာလည်း မှန်းချက်နှင့် နှမ်းထွက်မကိုက်ဘဲ ဖြစ်နေ၏။ 'ဂေါတမီ၊ သည်ကိစ္စအတွက် မစိုးရိမ်နှင့်။ ခွင့်ပြုချက်ရစေရမည်' ဟု ရဲဝံ့စွာ အာမခံလာခဲ့သည့်အတွက် မိထွေးတော်အား အပြောရခက်နေ၏။ အရှင်အာနန္ဒာ သည် မလျှော့သောဇွဲဖြင့် သုံးကြိမ်တိုင်အောင် လျှောက်၏။ မြတ်စွာဘုရားက လက်မခံ။ သုံးကြိမ်စလုံး ပယ်၏။ မာတုဂါမများ ရှင်ရဟန်းအဖြစ်ဖြင့် သာသနာ့ ဘောင်ဝင်မှုကို ခွင့်ပြုတော်မမူချေ။

ဤသို့ သုံးကြိမ်စလုံး မိမိအဆိုပြုချက် ဆုံးရှုံးနေသော်လည်း အရှင်အာနန္ဒာ သည် ဇွဲမလျှော့သေး။ ဤနည်းဖြင့် ခွင့်ပြုချက်မရခဲ့သော် အခြားအကြောင်းတစ်မျိုး ဖြင့် ခွင့်ပြုနိုင်လောက်အောင် လျှောက်ထားရလျှင် ကောင်းလေစွဟု အကြံဖြစ် လာသည်။ ထိုအကြံအတိုင်း လျှောက်ထားကြည့်လေ၏။

"အရှင်ဘုရား၊ မာတုဂါမများသည် ရှင်ရဟန်းအဖြစ်ဖြင့် သာသနာ့ဘောင်သို့ ဝင်ရောက်အမှုထမ်းနေခြင်းအားဖြင့် သောတာပတ္တိဖိုလ်ကိုလည်းကောင်း၊ သကဒါဂါမိ ဖိုလ်ကိုလည်းကောင်း၊ အနာဂါမိဖိုလ်ကိုလည်းကောင်း၊ အရဟတ္တဖိုလ်ကိုလည်း ကောင်း မျက်မှောက်ပြုခြင်းငှာ ထိုက်တန်ပါ၏လော"

ဤသို့ လျှောက်ထားသောအခါ၌ကား ဘုရားသခင်က ဟန့်တားတော် မမူချေ။ "အာနန္ဒာ၊ ထိုက်တန်၏" ဟု မိန့်တော်မူ၏။

ထိုအခါ အရှင်အာနန္ဒာသည် သဲလွန်စရလာပြီဖြစ်၍ မိထွေးတော်၏ဆန္ဒ ပြည့်ရန်အတွက် ဖို၍လျှောက်လေတော့သည်။

"အရှင်ဘုရား၊ ထိုသို့ထိုက်တန်ခဲ့ပါမူ ပဇာပတိ ဂေါတမီသည် ကျေးဇူး များလှပါ၏။ မြတ်ဘုရား၏ မိထွေးတော်ပါတည်း။ ခြေဖြင့် သွားနိုင်သည်အထိ မွေးမြူလာခဲ့သူပါတည်း။ နို့တိုက်သူပါတည်း။ မယ်တော် နတ်ရွာလားပြီးသည့် နောက် မြတ်ဘုရားကို နို့တိုက်ပါ၏။ အရှင်ဘုရား၊ တောင်းပန်ပါ၏။ မြတ်စွာ ဘုရား ဟောတော်မူသော ဓမ္မဝိနယသာသနာတော်၌ မာတုဂါမသည် လူ့ဘောင် မှ ရဟန်းဘောင်သို့ ဝင်ရောက်၍ ရှင်ရဟန်းအဖြစ်ကို ရစေချင်ပါသည် ဘုရား။ မိထွေးတော်၏ မြောက်မြားလှစွာသော ကျေးဇူးတရားများကို ထောက်ထား၍ ခွင့်ပြုစေချင်ပါသည် ဘုရား"

ဤသို့ တောင်းပန်စကား လျှောက်ထားနေချိန်တွင် မိထွေးတော် ဂေါတမီ မှာ တံခါးတိုင်ကိုမှီလျက် အရှင်အာနန္ဒာ ဘုရားသခင်ထံမှ ပြန်အလာကိုသာ မျှော်ရှု၍ ကြိုလင့်နေ၏။

## (၄)

အရှင်အာနန္ဒာ၏ လျှောက်ချက်ကိုမူ ဘုရားသခင်က လက်ခံတော်မူ၍ အရှင်အာနန္ဒာအား ဤစကားကို မြွက်ကြားလေ၏။

"အာနန္ဒာ၊ ပဇာပတိ ဂေါတမီသည် အကယ်၍ ဂရုဓံရှစ်ပါးကို ဝန်ခံသည် ဖြစ်အံ့။ ထိုဝန်ခံချက်သည်ပင်လျှင် ထိုဂေါတမီအတွက် ပဉ္စင်းခံမှု ဖြစ်စေလော့"

### ဂရုဓံ ရှစ်ပါး

(၁) ဘိက္ခုနီမသည် ပဉ္စင်းဖြစ်၍ ဝါတစ်ရာ ရရှိသော်လည်း ထိုနေ့ ပဉ္စင်းဖြစ် သော ရဟန်းအား ရှိခိုးခြင်း၊ ခရီးဦးကြိုဆိုခြင်း၊ လက်အုပ်ချီခြင်း၊ ရိုသေ ခြင်းအမှုကို ပြုရမည်။ ဤတရားကိုလည်း ရိုသေ၍၊ လေးစား၍၊ မြတ်နိုး ၍၊ ပူဇော်၍ အသက်ထက်ဆုံး မလွန်ကျူးအပ်။

(၂) ဘိက္ခုနီမသည် ရဟန်းယောကျ်ား မရှိသောကျောင်း၌ ဝါမဆိုအပ်။ ဤ တရားကိုလည်း ရိုသေ၍၊ လေးစား၍၊ မြတ်နိုး ၍၊ ပူဇော်၍ အသက်ထက်ဆုံး မလွန်ကျူးအပ်။

(၃) ဘိက္ခုနီမသည် လခွဲတိုင်း၊ လခွဲတိုင်း၊ ဘိက္ခုသံဃာထံမှ ဥပုသ်ကို မေးခြင်း၊ အဆုံးအမခံရန် ချဉ်းကပ်ခြင်းဟူသော ဤတရားနှစ်ပါးတို့ကို လိုလားတောင့်တရမည်။ ဤတရားကိုလည်း ရိုသေ၍၊ လေးစား၍၊ မြတ်နိုး၍၊ ပူဇော်၍ အသက်ထက်ဆုံး မလွန်ကျူးအပ်။

(၄) ဘိက္ခုနီမသည် ဝါကျွတ်လတ်သော် နှစ်ဖက်သံဃာ၌ မြင်ခြင်း၊ ကြားခြင်း၊ ယုံမှားခြင်း ဟူသော အကြောင်းသုံးမျိုးတို့ဖြင့် ဖိတ်ကြားရမည်။ ဤတရားကိုလည်း ရိုသေ၍၊ လေးစား၍၊ မြတ်နိုး၍၊ ပူဇော်၍ အသက်ထက်ဆုံး မလွန်ကျူးအပ်။

(၅) ဘိက္ခုနီမသည် သံဃာဒိသ်အာပတ်သို့ ရောက်လတ်သော် နှစ်ဖက် သံဃာ၌ ပက္ခမာနတ်ကို ကျင့်ရမည်။ ဤတရားကိုလည်း ရိုသေ၍၊ လေးစား၍၊ မြတ်နိုး၍၊ ပူဇော်၍ အသက်ထက်ဆုံး မလွန်ကျူးအပ်။

(၆) နှစ်နှစ်တို့ပတ်လုံး တရားခြောက်မျိုးတို့၌ အကျင့်ကိုကျင့်ပြီးသော သိက္ခမာန်အား နှစ်ဖက်သော သံဃာ၌ ပဉ္စင်းခံခြင်းကို ရှာရမည်။ ဤတရားကိုလည်း ရိုသေ၍၊ လေးစား၍၊ မြတ်နိုး၍၊ ပူဇော်၍ အသက်ထက်ဆုံး မလွန်ကျူးအပ်။

(၇) ဘိက္ခုနီမသည် ရဟန်းယောကျ်ားကို တစ်စုံတစ်ခုသော ဆဲရေးရေရွတ်ခြင်းမျိုးဖြင့် မဆဲရေးအပ်၊ မရေရွတ်အပ်။ ဤတရားကိုလည်း ရိုသေ၍၊ လေးစား၍၊ မြတ်နိုး၍၊ ပူဇော်၍ အသက်ထက်ဆုံး မလွန်ကျူးအပ်။

(၈) ရဟန်းဖြစ်သည့်နေ့မှစ၍ ရဟန်းယောကျ်ားတို့အပေါ်၌ ဘိက္ခုနီမတို့၏ ပြောဆိုခွင့်ကို ပိတ်ပင်အပ်၏။ ဘိက္ခုနီတို့အပေါ်၌ ရဟန်းယောကျ်ားတို့၏ ပြောဆိုခွင့်ကို မပိတ်ပင်အပ်။ ဤတရားကိုလည်း ရိုသေ၍၊ လေးစား၍၊ မြတ်နိုး၍၊ ပူဇော်၍ အသက်ထက်ဆုံး မလွန်ကျူးအပ်။

"အာနန္ဒာ၊ ပဇာပတိ ဂေါတမီသည် ဤဂရုဓံရှစ်ပါးတို့ကို အကယ်၍ ဝန်ခံသည်ဖြစ်အံ့။ ထိုဝန်ခံချက်သည်ပင် ထိုဂေါတမီအတွက် ပဉ္စင်းခံမှု ဖြစ်စေလော့" ဟု မိန့်တော်မူ၏။

ထိုအခါ အရှင်အာနန္ဒာသည် ဘုရားသခင့်ထံမှ ဂရုဓံရှစ်ပါးကို သင်ယူခဲ့ပြီး ဂေါတမီထံသို့ ပြန်လာ၍ မြတ်ဘုရား အမိန့်ရှိလိုက်သည့်အတိုင်း ဂရုဓံ

ရှစ်ပါးကို ပြောပြလျက် "ဂေါတမီ၊ သင်သည် ဤဂရုဓံရှစ်ပါးကို ဝန်ခံမှု ထို ဝန်ခံချက်သည်ပင် သင့်အတွက် ပဉ္စင်းခံမှု ဖြစ်လိမ့်မည်" ဟု ပြောပြသောအခါ ဂေါတမီသည် ဝမ်းမြောက်စွာ ဤသို့လျှောက်လေ၏။

"အရှင်ဘုရား အာနန္ဒာ၊ ငယ်ရွယ်နုပျိုလျက် တန်ဆာဆင်လေ့ရှိသော ဦးခေါင်းဆေးလျှော်ပြီးသော မိန်းမသည်လည်းကောင်း၊ ယောကျ်ားသည်လည်းကောင်း ကြာပန်းကိုဖြစ်စေ၊ မိုးစွေပန်းကိုဖြစ်စေ၊ စစ်သိမ်းပန်းကိုဖြစ်စေ ရ၍ လက်နှစ်ဖက်တို့ဖြင့် ခံယူကာ မြတ်သောအင်္ဂါဖြစ်သော ဦးခေါင်း၌ ထားရာသကဲ့သို့ ဤအတူပင် အကျွန်ုပ်သည် အသက်ထက်ဆုံး မလွန်ကျူးအပ်ကုန်သော ဤဂရုဓံရှစ်ပါးတို့ကို ဝန်ခံပါ၏"

အရှင်အာနန္ဒာသည် ဂရုဓံတရားရှစ်ပါးတို့ကို မိထွေးတော်ဂေါတမီက ဝန်ခံပါကြောင်း ဘုရားသခင့်ထံ ချဉ်းကပ်၍ အကြောင်းပြန်လျှောက်ထား၏။ ထိုအခါ မြတ်စွာဘုရားသည် အရှင်အာနန္ဒာအား ဘိက္ခုနီနှင့် သာသနာအရှည် တည်တံ့မှု၊ မတည်တံ့မှု စကားကို ဤသို့ ဆက်၍ မြွက်ကြားတော်မူသတည်း။

"အာနန္ဒာ၊ မာတုဂါမသည် သာသနာတော်၌ လူ့ဘောင်မှ ရဟန်းဘောင်သို့ ဝင်၍ ရှင်ရဟန်းအဖြစ်ကို မရခဲ့သော် မြတ်သောအကျင့် သာသနာတော်သည် ကြာမြင့်စွာ တည်တံ့ရာ၏။ အနှစ်တစ်ထောင်ပတ်လုံး သူတော်ကောင်းတရားသည် တည်ရာ၏။ အာနန္ဒာ၊ မာတုဂါမသည် သာသနာ၌ ရှင်ရဟန်းအဖြစ် ရသောကြောင့် ယခုအခါ၌ မြတ်သောအကျင့် သာသနာတော်သည် ကြာမြင့်စွာ တည်တံ့လိမ့်မည် မဟုတ်။-

- အာနန္ဒာ၊ ယခုအခါ အနှစ်ငါးရာတို့သာလျှင် သူတော်ကောင်းတရား တည်တံ့လိမ့်မည်။ အာနန္ဒာ၊ မာတုဂါမများ၍ ယောကျ်ားနည်းသော မည်သည့်အိမ်တို့ကိုမဆို အိုးထဲ၌ မီးထွန်း၍ ခိုးတတ်သောသူခိုးတို့သည် ဖျက်ဆီးလွယ်ကုန်သကဲ့သို့ အာနန္ဒာ၊ ဤအတူပင် အကြင်ဓမ္မဝိနယ သာသနာတော်၌ မာတုဂါမသည် လူ့ဘောင်မှ ရဟန်းဘောင်သို့ဝင်၍ ရှင်ရဟန်းအဖြစ်ကို ရ၏။ ထိုမြတ်သောအကျင့် သာသနာတော်သည် ကြာမြင့်စွာ မတည်တံ့နိုင်။-

- အာနန္ဒာ၊ ပြည့်စုံဖြစ်ထွန်းသော သလေးခင်း၌ ဖလံဖြူမည်သော ရောဂါမျိုး ကျရောက်သော် ထိုသလေးခင်းသည် ကြာမြင့်စွာ မတည်တံ့နိုင်သကဲ့သို့လည်းကောင်း၊ ပြည့်စုံဖြစ်ထွန်းသော ကြံခင်း၌ အနီမည်သော ရောဂါမျိုး ကျရောက်သော် ထိုကြံခင်းသည် ကြာမြင့်စွာ မတည်တံ့နိုင်သကဲ့သို့လည်းကောင်း၊ ဤအတူပင် အကြင်ဓမ္မဝိနယသာသနာတော်၌ မာတုဂါမသည် လူ့ဘောင်

မှ ရဟန်းဘောင်သို့ဝင်၍ ရှင်ရဟန်းအဖြစ်ကို ရ၏။ ထိုမြတ်သောအကျင့် သာသနာတော်သည် ကြာမြင့်စွာ မတည်တံ့နိုင်။-

- အာနန္ဒာ၊ ယောကျ်ားသည် ရေကန်ကြီး၏ ကန်သင်းပေါင်ရိုးကို ရေမကျော်လွှန်နိုင်လောက်အောင် စောစောက ကြိုတင်၍ ကန်သင်းဖွဲ့သကဲ့သို့ ဤအတူပင် ငါသည် ဘိက္ခုနီမတို့အတွက် အသက်ထက်ဆုံး မလွှန်ကျူးအပ်ကုန်သော ဂရုဓံရှစ်ပါးတို့ကို ပညတ်ပြီးခဲ့ပြီ" ဟု မိန့်တော်မူ၏။

ဤသာသနာတော်၌ ရဟန်းတော်များနည်းတူ မာတုဂါမများ ရှင်ရဟန်းပြုခွင့်ရ၍ ဘိက္ခုနီဟူ၍ ဖြစ်ရှိလာရခြင်းမှာ မိထွေးတော် ပဇာပတိ ဂေါတမီ၏ ကျေးဇူးကြောင့် ဖြစ်၏။

မိထွေးတော် ဂေါတမီသည် မာတုဂါမများ ရဟန်းပြုခွင့်ရရှိလေအောင် မိဖုရားကြီးဖြစ်ပါလျက် တောတွင်းသူကဲ့သို့ တောလမ်းခရီးတွင် ခြေကျင်လျှောက်ကာ အသက်သွေးချွေးတို့ဖြင့် ရင်းနှီး၍ တောင်းဆိုရရှိခဲ့၏။ ထို့ကြောင့် ဤသာသနာ၌ ဘိက္ခုသံဃာ၊ ဘိက္ခုနီသံဃာဟူ၍ သံဃာနှစ်မျိုး ဖြစ်လာသတည်း။

(အင်္ဂုတ္တရနိကာယ်ပါဠိ၊ အဋ္ဌကနိပါတ်၊ ဂေါတမီဝဂ်၊ ဂေါတမီသုတ်)



## ထိုလင်နှင့် ဤမယား ညားကြရာ၌

**ပြဿနာ = အိမ်ထောင်မှု**
**မေး = များစွာသော သူကြွယ်လင်မယား**
**ဖြေ = ဗုဒ္ဓမြတ်ဘုရား**

အိမ်ထောင်မှုသည် လူနှင့်မကင်းရာမကင်းကြောင်း ဖြစ်၏။ မိဘတို့အနေဖြင့် အချိန်တန် အရွယ်ရောက်လာသော သားသမီးတို့အား သီးချိန်တန်သီး၊ ပွင့်ချိန်တန်ပွင့်ဆိုသကဲ့သို့ သင့်တော်သော အမျိုးသမီး၊ သင့်တော်သော အမျိုးသားများနှင့် လက်ထပ်ပေးခြင်းအားဖြင့် နေရာချထားပေးကြကုန်၏။

အိမ်ရာတည်ထောင်၍နေကြသော လူ့ဘောင်အဆောက်အအုံကြီးတွင် အိမ်ထောင်မှုသည် လွန်စွာအရေးကြီးလှ၏။ အဓိကသော့ချက်၊ အခရာ၊ အညှာ ဖြစ်၏။ အမာခံကြောရိုး၊ ဒေါက်တိုင်ကြီး ဖြစ်၏။ မကောင်းအစဉ် ပြင်လျှင်ခဏဆိုသော်လည်း ပြင်၍ ဖြစ်နိုင်စရာကောင်းသောအရာမျိုး မဟုတ်။ အစကောင်းမှ အနှောင်းသေချာသည်ဆိုသော ဆိုရိုးအတိုင်းသာ ပြုကျင့်ရာသည်။ တောင့်တင်းသော အိမ်ထောင်၊ ကြံ့ခိုင်သောအိမ်ထောင် ဖြစ်စေခြင်းငှာ မိဘတို့သည် မိမိတို့သားသမီးများအား ထိမ်းမြားမှု မပြုမီကပင် သမက်လောင်း၊ ချွေးမလောင်းများကို တော်, မတော်၊ သင့်, မသင့်ကို သုံးနှစ်သုံးမိုးအထိ ချင့်ချိန် စိစစ်လေ့ရှိကြသည် ဆိုကုန်၏။ လက်ထပ်ပြီးခါမှ "မကောင်းဘူး" ဟူ၍ ပြင်ရန်ကိစ္စကား မလွယ်ကူလှ။

ထို့ကြောင့် စလေဦးပုညက–

'အိမ်ထောင်မှု ဘုရားတည်၊ ဆေးမင်ရည် စုတ်ထိုး
ဤသုံးခု မှုမပိုင်လျှင်၊ နောင်ပြင်နိုင် ခက်သည့်ဟာမျိုး'

ဟူ၍ ဆိုပေသတည်း။

စပယ်ဦးစာပေ

အိမ်ထောင်မှုသက်တမ်းသည် လူ့သမိုင်းနှင့်အမျှ ရှည်လျားလာခဲ့သည်။ လူရှိနေသမျှကာလပတ်လုံး အိမ်ထောင်မှုသည် ရှိနေမည်သာတည်း။ ကောင်းသော အိမ်ထောင်ရေး၊ အဆင်ပြေသော အိမ်ထောင်ရေးများလည်း ရှိသည်သာတည်း။

လောကသုံးပါးတွင် ဘုရားစင်စစ် ပွင့်ထွန်းတော်မူသောအခါ လူသားတို့အတွက် ကောင်းသော အိမ်ထောင်ရေးဖြစ်မှုကို ရှေးရှုတော်မူလျက် နေရာများစွာတို့၌ အိမ်ထောင်ရေးတရားများကို ဟောကြားသွားတော်မူ၏။ ဥပမာ-စတုတ္ထနိပါတ်၊ အင်္ဂုတ္တိုရ်၊ ပုညာဘိသန္ဒဝဂ်တွင် အိမ်ထောင်ရေးနှင့်ပတ်သက်၍ ပထမသံဝါသသုတ်၊ ဒုတိယသံဝါသသုတ်၊ ပထမသမဇီဝိသုတ်၊ ဒုတိယသမဇီဝိသုတ် ဤလေးသုတ်ကို ဟောကြားတော်မူ၏။

## ပထမသံဝါသသုတ်

မြတ်စွာဘုရားသည် ဤသုတ်ကို ခရီးရှည်ကြွရင်း ဟောတော်မူ၏။ အိမ်ထောင်ရေးတရား ကြားနာသူတို့မှာ သူကြွယ်ဇနီးမောင်နှံတို့ ဖြစ်လေသည်။

ထိုအချိန်၌ ဗုဒ္ဓမြတ်ဘုရားသည် မဓုရမြို့နှင့် ဝေရဉ္ဇာပြည်၏အကြား ခရီးရှည် ကြွတော်မူ၏။ ထိုအချိန်မှာပင် အစုံအစုံ များစွာကုန်သော သူကြွယ်လင်မယားတို့သည်လည်း မြတ်စွာဘုရား လာသောလမ်းအတိုင်း ခရီးသွားနေကြကုန်သည်။

မြတ်စွာဘုရားသည် ခရီးသွားနေရင်းမှ လမ်းဘေး၌ အရိပ်အာဝါသကောင်းသော သစ်ပင်ကြီးကိုမြင်လျှင် လမ်းမှဖဲ၍ ထိုသစ်ပင်ကြီးအောက် ဝင်၍ ခေတ္တအပန်းဖြေတော်မူ၏။ သူကြွယ်လင်မယားတို့သည် စကားတပြောပြောနှင့် လျှောက်လာကြရင်းမှ တစ်ဦးသော သူကြွယ်က လမ်းဘေးရှိ သစ်ပင်ကြီးကို ကြည့်မိ စဉ် "ရောင်းရင်းတို့၊ ဟိုမှာ ဟိုမှာ ဘုရားသခင်ပါလား" ဟူ၍ သူကြွယ်လင်မယားအစုံတို့သည် ဘုရားသခင့်ထံသို့ သွားရောက်ဖူးမြော်ကြလေကုန်၏။

မြတ်စွာဘုရားသည် ထိုအိမ်ထောင်စုံ လင်မယားတို့အား အိမ်ထောင်ရှင်တို့နှင့် သက်ဆိုင်သော အိမ်ထောင်ရေးတရားလေးမျိုးကို ဟောတော်မူလိုက်ရာ ထိုသူကြွယ်လင်မယားတို့သည် အချင်းချင်း စူးစမ်းသောမျက်လုံးများဖြင့် ကြည့်ကုန်လေ၏။ လင်က မယားကို 'ငါ့မယားဟာ ဘယ်လိုမယားလဲ။ သူသေမယားလား၊ နတ်သမီးမယားလား'ဟူ၍လည်းကောင်း၊ မယားကလည်း လင်ကို

'ငါ့လင်ဟာ ဘယ်လိုလင်လဲ။ အသေကောင် လင်လား၊ နတ်သားလင်လား' ဟူ၍လည်းကောင်း တစ်ဦးကိုတစ်ဦး စူးစူးစိုက်စိုက် ကြည့်ကုန်လေ၏။

အဘယ့်ကြောင့်ဆိုသော် အိမ်ထောင်ရေး လေးမျိုးကို မြတ်စွာဘုရားက ဟောလိုက်သောကြောင့် ဖြစ်၏။

"ဒါယကာတို့ အတူနေခြင်းတို့သည် ဤလေးမျိုးတို့တည်း။ အဘယ်လေးမျိုးတို့နည်းဟူမူ–

(၁) သူသေလင်သည် သူသေမယားနှင့် အတူတကွ ပေါင်းသင်းနေ၏။
(၂) သူသေလင်သည် နတ်သမီးမယားနှင့် အတူတကွ ပေါင်းသင်းနေ၏။
(၃) နတ်သားလင်သည် သူသေမယားနှင့် အတူတကွ ပေါင်းသင်းနေ၏။
(၄) နတ်သားလင်သည် နတ်သမီးမယားနှင့် အတူတကွ ပေါင်းသင်းနေ၏။"

ဤသို့ ဟောတော်မူလိုက်သောကြောင့် ကိုယ့်လင်ကိုယ့်ယောကျ်ား၊ ကိုယ့်ဇနီးများအား နတ်သမီးလား၊ နတ်သားလား၊ သူသေကောင်လား ဟူသော အတွေးစိတ်များ ဖြစ်ပေါ်လာကုန်၏။ 'ဘာ့ကြောင့် ဤသို့ ဟောတော်မူပါလိမ့်။ အဘယ်သို့သော လင်မယားမျိုးကို သူသေကောင်၊ နတ်သမီး၊ နတ်သားဟု ခေါ်ပါလိမ့်မည်နည်း' ဟူ၍ သိလိုသောဆန္ဒစောနေစဉ်မှာပင် လင်မယား အနက်ဖွင့်စကားကို ဘုရားသခင်ထံမှ ကြားကြရလေ၏။

(၁) "ဒါယကာတို့၊ ဤလောက၌ လင်သည် သူ့အသက်ကို သတ်လေ့ရှိ၏။မပေးသည်ကို ခိုးယူလေ့ရှိ၏။ ကာမတို့၌ မှားယွင်းစွာကျင့်လေရှိ၏။ မမှန်စကားကို ဆိုလေ့ရှိ၏။ အရက်ကို သောက်လေ့ရှိ၏။ သီလ မရှိ။ ယုတ်ညံ့သော သဘော ရှိ၏။ ဝန်တိုခြင်း၊ အညစ်အကြေး နှိပ်စက်သောစိတ်ဖြင့် အိမ်၌ နေ၏။ သမဏ ဗြာဟ္မဏကို ဆဲရေးခြိမ်းခြောက်၏။ ထိုသူ၏မယားသည်လည်း လင်နှင့် အလားတူပင် ဖြစ်၏။ ဒါယကာတို့၊ ဤသို့လျှင် သူသေလင်သည် သူသေမယားနှင့် အတူတကွ ပေါင်းသင်းနေ၏။–

(၂) – ဒါယကာတို့၊ ဤလောက၌ လင်သည် သူ့အသက်ကို သတ်လေ့ရှိ၏။ မပေးသည်ကို ယူလေ့ရှိ၏။ ။ပ။ သမဏဗြာဟ္မဏတို့ကို ဆဲရေးခြိမ်းခြောက်၏။ ထိုသူ၏မယားသည်ကား သူ့အသက်သည်ခြင်းမှ ရှောင်ကြဉ်၏။ မပေးသည်ကို ယူခြင်းမှ ရှောင်ကြဉ်၏။ ကာမတို့၌ မှားသောအားဖြင့် ကျင့်ခြင်းမှ ရှောင်ကြဉ်၏။ မဟုတ်မမှန် ပြောဆိုခြင်းမှ ရှောင်ကြဉ်၏။ အရက်သောက်ခြင်းမှ

ရှောင်ကြဉ်၏။ သီလရှိ၏။ ကောင်းသောသဘော ရှိ၏။ ဝန်တိုခြင်း၊ အညစ်အကြေး ကင်းသောစိတ်ဖြင့် အိမ်၌ နေ၏။ သမဏ ဗြာဟ္မဏတို့ကို မခြိမ်းခြောက်တတ်။ ဒါယကာတို့၊ ဤသို့လျှင် သူသေလင်သည် နတ်သမီးမယားနှင့် အတူတကွ ပေါင်းသင်းနေ၏။-

(၃) - ဒါယကာတို့၊ ဤလောက၌ လင်သည် သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်၏။ ။ပ။ သမဏ ဗြာဟ္မဏတို့ကို မခြိမ်းခြောက်တတ်။ ထိုသူ၏ မယားသည်ကား သူ့အသက်ကို သတ်လေ့ရှိ၏။ ။ပ။ သမဏ ဗြာဟ္မဏတို့ကို ခြိမ်းခြောက်တတ်၏။ ဒါယကာတို့၊ ဤသို့လျှင် နတ်သားလင်သည် သူသေမယား နှင့် အတူတကွ ပေါင်းသင်းနေ၏။

(၄) - ဒါယကာတို့၊ ဤလောက၌ လင်သည် သူ့အသက်ကို သတ်ခြင်းမှ ရှောင်ကြဉ်၏။ ။ပ။ သမဏ ဗြာဟ္မဏတို့ကို မခြိမ်းခြောက်တတ်။ ဒါယကာတို့၊ ဤသို့လျှင် လင်နတ်သားသည် မယားနတ်သမီးနှင့် အတူတကွ ပေါင်းသင်းနေ၏။ ဒါယကာတို့၊ အတူနေခြင်းတို့သည် ဤလေးမျိုးတို့တည်း”

ဤသို့ မိန့်တော်မူသောအခါ သူကြွယ်လင်မယားတို့သည် မိမိ၊မိမိတို့၏ ဘဝကို အသီးသီး ပြန်လည်သုံးသပ်သကဲ့သို့ ရှိနေကုန်၏။

‘ငါဟာ သူသေလင်လား၊ နတ်သားလင်လား’ ဟူ၍လည်းကောင်း၊ ‘ငါဟာ သူသေမယားလား၊ နတ်သမီးမယားလား’ ဟူ၍လည်းကောင်း တစိမ့်စိမ့် တွေးတောမိကြကုန်လေ၏။ ထိုတရားလေးမျိုးကား ဇနီးမောင်နှံတိုင်းနှင့် သက်ဆိုင်သော တရားဖြစ်၍ မိမိကိုယ်ကို နတ်သားနှင့်တူသောလင်၊ နတ်သမီးနှင့် တူသောမယားမျိုးဖြစ်အောင် ကြိုးစားသင့်လှ၏။

## ဒုတိယသံဝါသသုတ်

ဤသုတ်ကား ရဟန်းတို့အား ဟောကြားသောသုတ် ဖြစ်၏။ ရဟန်းတို့နှင့် မဆိုင်သော်လည်း ရဟန်းတို့မည်သည် ဒါယကာ၊ ဒါယိကာမတို့နှင့် မကင်းသောကြောင့် ရဟန်းတို့အနေဖြင့် သက်ဆိုင်ရာ ဒါယကာ၊ ဒါယိကာမတို့အား ဟောကြားဆုံးမနိုင်စေရန် ဟောကြားတော်မူသည်ဟု ယူဆနိုင်၏။ အိမ်ထောင်ရေး လေးမျိုးတို့၏ အနက်အဓိပ္ပာယ်ကား အထက်ပါသုတ်အတိုင်းပင် ဖြစ်၏။

(၁) လင်မယားနှစ်ဦးစလုံးပင် သီလ မရှိကုန်။ ဝန်တိုကုန်၏။ မောင်းမဲ

ခြိမ်းခြောက်တတ်ကုန်၏။ ထိုလင်မယားနှစ်ဦးတို့သည် သူသေအချင်းချင်း အတူ နေခြင်းသို့ ရောက်ကုန်၏။

(၂) လင်သည် သီလ မရှိ။ ဝန်တိုတတ်၏။ ခြိမ်းခြောက်တတ်၏။ မယား သည်ကား သီလရှိ၏။ အလှူခံတို့၏ စကားအဓိပ္ပာယ်ကို သိ၏။ ဝန်တိုခြင်း ကင်း၏။ ထိုနတ်သမီးမယားသည်လည်း သူသေလင်နှင့် အတူပေါင်းသင်းနေ သည်မည်၏။

(၃) လင်သည် သီလ ရှိ၏။ အလှူခံတို့၏ စကားအဓိပ္ပာယ်ကို သိ၏။ ဝန်တိုခြင်း ကင်း၏။ မယားသည်ကား သီလ မရှိ။ ဝန်တိုတတ်၏။ အလှူခံ တို့၏စကားအဓိပ္ပာယ်ကို မသိတတ်။ ခြိမ်းခြောက်တတ်၏။ ထိုသူသေမယား သည် နတ်သားလင်နှင့် အတူပေါင်းသင်းနေသည် မည်၏။

(၄) လင်မယားနှစ်ဦးစလုံးသည်ပင်လျှင် သဒ္ဓါတရားနှင့် ပြည့်စုံကုန်၏။ အလှူခံတို့၏ စကားအဓိပ္ပာယ်ကိုလည်း သိကြကုန်၏။ ကိုယ်၊ နှုတ်၊ နှလုံးကို စောင့်စည်းကြကုန်၏။ ထိုလင်မယားနှစ်ဦးစလုံးသည် အချင်းချင်း ချစ်ဖွယ်သော စကားတို့ကို ပြောဆိုကုန်လျက် တရားသဖြင့် အသက်မွေးမြူကြကုန်၏။

ဤသို့သော သီလရှိကုန်သော ထိုလင်မယား နှစ်ဦးစလုံးတို့အား အကျိုး စီးပွားတို့သည် များပြားကုန်၏။ ချမ်းသာစွာနေခြင်းသည်လည်း ဖြစ်၏။ ရန်သူတို့ နှလုံးမသာဖွယ် ဖြစ်ကုန်၏။

ဤသို့သော အကျင့်သီလ ရှိကုန်သော ထိုလင်မယားနှစ်ဦးစလုံးသည် ဤ လူ့ဘဝ၌ တရားကိုကျင့်ကြကုန်၍ နတ်လောက၌ အလုံးစုံသော ကာမဂုဏ်တို့ ကို လိုတိုင်းရကုန်လျက် နှစ်နှစ်သက်သက် မွေ့လျော်ရကုန်သတည်း။

(ဆဋ္ဌမြန်မာပြန်)

## ပဌမသမဇီဝိသုတ်

ဤသုတ်သည်လည်း အိမ်ထောင်ရေးကို ဟောကြားသောသုတ်ပင်တည်း။ ဘဂ္ဂတိုင်း၊ သုသုမာရဂီရိမြို့၊ ဘေသကဠာမည်သောတော၌ နေတော်မူစဉ် ဟောတော် မူ၏။

ထိုသုတ်၏နိဒါန်းမှာ ရိုးရိုးနှင့်ဆန်း၏။ သုသုမာရဂီရိမြို့တွင် နကုလပိတာ နှင့် နကုလမာတာအမည်တူ သူကြွယ်လင်မယားနှစ်ယောက်ရှိ၏။ တစ်နေ့သော နံနက်တွင် မြတ်စွာဘုရားသည် သပိတ်ပိုက်လျက် နကုလသူကြွယ်လင်မယားအိမ်

သို့ ဆွမ်းခံကြွတော်မူ၏။ သူကြွယ်လင်မယားလည်း မြတ်စွာဘုရား ကြွလာသည်ကို မြင်လျှင် ရိုသေစွာ ပင့်၍ နေရာခင်းပေးကြကုန်၏။

ဤသူကြွယ်လင်မယားကား တစ်ဦးကိုတစ်ဦး အထူးချစ်ခင်ကြ၏။ ကြင်နာကြ၏။ နိဗ္ဗာန်မရသေးမီစပ်ကြား သံသရာတစ်ခွင် ကျင်လည်ရာ၌ မခွဲလိုကြ။ ငှက်ဖြစ်တောင်မှပဲ တစ်ကိုင်းတည်း အတူနားရပါစေသားဟု ဆုထူးဂန် လင်မယားဖြစ်၏။

နကုလပိတာ သူကြွယ်သည် အိမ်ထောင်ရေးကိစ္စနှင့်ပတ်သက်၍ မျိုသိပ်၍ မထားနိုင်ဘဲ မြတ်စွာဘုရားအား ရင်ဖွင့်၍ လျှောက်ထားလေသတည်း။

"အရှင်ဘုရား၊ တပည့်တော်သည် ငယ်စဉ်ကပင် သက်တူရွယ်မျှဖြစ်သော နကုလမာတာသူကြွယ်မနှင့် အိမ်ထောင်ပြုခဲ့ပါ၏။ အိမ်ထောင်ပြု၍ အကြင်လင်မယားဖြစ်လာသည့်အချိန်မှစ၍ တပည့်တော်သည် သူကြွယ်မကိုလွန်၍ စိတ်ကူးမျှပင် မကူးခဲ့စဖူးပါ။ အရှင်ဘုရား၊ တပည့်တော်သည် ယခုဘဝ၌လည်း အချင်းချင်း မြင်လိုပါကုန်၏။ နောင်တမလွန်ဘဝတို့၌လည်း အချင်းချင်း မြင်လိုပါကုန်၏" ဟူ၍ လျှောက်၏။

သူကြွယ်မကလည်း အားကျမခံပင် လျှောက်၏။

"အရှင်ဘုရား၊ နကုလပိတာ သူကြွယ်သည် ငယ်ရွယ်စဉ်ကပင် ငယ်ရွယ်သူ ဘုရားတပည့်တော်မကို ထိမ်းမြားယူဆောင်ခဲ့ပါသည်။ ထိုအခါမှစ၍ စိတ်မျှဖြင့်လည်း နကုလပိတာကိုလွန်၍ ကျင့်မိသည် မရှိခဲ့စဖူးပါ။ ကိုယ်ဖြင့်မူကား အဘယ်ဆိုဖွယ်ရာ ရှိပါအံ့နည်း။ အရှင်ဘုရား၊ တပည့်တော်တို့သည် အချင်းချင်း မြင်လိုပါကုန်၏။ နောင်တမလွန်ဘဝတို့၌လည်း အချင်းချင်း ရှုမြင်လိုကြပါကုန်၏" ဟု လျှောက်၏။

ဤသို့ လင်မယားနှစ်ယောက်တို့က လျှောက်သည်ရှိသော် မြတ်စွာဘုရားသည် သံသရာတစ်ခွင် ကျင်လည်ရာရာ ဘဝတိုင်း၌ လင်နှင့်မယား ကွဲသွားသည်မရှိ၊ တစ်ယောက်မျက်နှာကို တစ်ယောက် တစိမ့်စိမ့်ကြည့်ကာ နေထိုင်နည်းနိဿရည်း အိမ်ထောင်ရေးတရားကို ဟောကြားတော်မူသည်ကား-

"ဒါယကာတို့၊ လင်မယားနှစ်ဦးတို့သည် ယခုဘဝ၌လည်း အချင်းချင်း ရှုမြင်ကြရန်၊ တမလွန်ဘဝ၌လည်း အချင်းချင်း ရှုမြင်ကြရန် အကယ်၍ အလိုရှိကုန်အံ့။ နှစ်ဦးစလုံးတို့သည် တူမျှသော သဒ္ဓါတရားရှိကုန်ရာ၏။ တူမျှသော သီလရှိကုန်ရာ၏။ တူမျှသော စွန့်ကြဲမှု ရှိကုန်ရာ၏။ တူမျှသော ပညာရှိကုန်ရာ၏။ ယင်းသို့ဖြစ်သော် ထိုလင်မယားနှစ်ဦးတို့သည် အချင်းချင်း ရှုမြင်ကြရကုန်လတ္တံ့." ဟူ၍ မိန့်တော်မူ၏။

## ဒုတိယသမဓိဝိသုတ်

ဤသုတ်သည်ကား ရဟန်းတို့အား ဟောကြားသောသုတ်ဖြစ်၏။ နိဗ္ဗာန်ရောက်သည်အထိ မယားနှင့်လင် ခင်မင်စွဲမြဲ စိတ်ကူးထဲမျှ ကွဲသည်မရှိဘဲ သည်လင်နှင့်သည်မယား အတူတကွ နေလိုသူများအတွက် ဘဝတစ်ခွင် ထာဝစဉ်တွဲရေးတရား ဖြစ်၏။ အဓိပ္ပာယ်အားလုံး အထက်သုတ်နှင့် တူ၏။ ထူးခြားသည်ကား ပထမသုတ်ကို နကုလပိတာ သူကြွယ် လင်မယားအား ဟောတော်မူခြင်းနှင့် ဒုတိယသုတ်ကို ရဟန်းတို့အား ဟောတော်မူခြင်း ဤမျှသာ ထူးသတည်း။

ဤသို့လျှင် မြတ်စွာဘုရားသည် လောကကြောင်းအရ လူတို့နှင့်ဆိုင်ရာ အိမ်ထောင်ရေးတရားများကိုလည်း အခွင့်အခါအားလျော်စွာ ဟောတော်မူကြောင်း ကျမ်းဂန်တို့၌ များစွာလာရှိပေသည်။



## နေခုနစ်စင်း ပေါ်ထွက်လာချိန်ဝယ်

**မေးသူမရှိ။**
**(ကိုယ်တော်ဘုရား၏ အလိုအတိုင်း ဟောတော်မူသောသုတ် ဖြစ်၏။)**

အင်္ဂုတ္တိုရ်ပါဠိတော်၊ သတ္တကနိပါတ်၌ သတ္တသူရိယသုတ်ဟူ၍ သုတ် တစ်သုတ် ရှိ၏။ နေ (၇) စင်း ထွက်လာသောအခါ ဤကမ္ဘာကြီးသည် မည်သို့ ဖြစ်ရှိသွားပုံကို ဟောထားသောသုတ် ဖြစ်၏။

စင်စစ် ဤသုတ်၌ ဟောတော်မူခြင်းကား နေ (၇) စင်း ထွက်ကြောင်းကို သိစေလို၍ မဟုတ်။ သင်္ခါရတရားတို့၏ မမြဲပုံကို ဟောကြားတော်မူရာ၌ မမြဲပုံ သာဓကအဖြစ် ဟောကြားတော်မူခြင်း ဖြစ်၏။ မြင်းမိုရ်တောင်ကြီးသည် ဘယ်သောအခါမှ ပြိုခြင်း၊ ပျက်စီးခြင်း မရှိ။ သမုဒ္ဒရာကြီး လေးစင်းရှိ ရေတို့သည်လည်း ဘယ်သောအခါမျှ ခန်းခြောက်ခြင်း မရှိဟု ထင်ရသော်လည်း သင်္ခါရနိုင်ငံကို မလွန်ဆန်နိုင်သည့်အလျောက် ထိုမြင်းမိုရ်တောင်ကြီး၊ သမုဒ္ဒရာကြီးများသော်မှ ပင် ပျက်စီးကုန်ရကြောင်းကို ရဟန်းတို့အား သင်္ခါရတရားကို ဟောကြားတော်မူစဉ် နေ (၇) စင်းကို ထည့်သွင်းဟောကြားတော်မူခြင်း ဖြစ်ပေသည်။

မျက်မှောက်ခေတ်၌ တစ်စင်းတည်းသော နေသည် နွေရာသီရောက်သော အခါများ၌ အဘယ်မျှ ပူပြင်းသည်ကို သိကြသည့်အတိုင်းပင် ဖြစ်၏။ နေ (၇) စင်း ထွက်ခဲ့သော် မည်သို့နေမည်နည်း။

သင်္ခါရတရားတို့၏ မမြဲပုံ၊ အရှည်စွဲ၍ တည်မြဲခြင်း မရှိပုံကို မြတ်စွာဘုရား သည် ဝေသာလီပြည်၊ အမ္ဗပါလိသရက်ဥယျာဉ်၌ သီတင်းသုံးနေထိုင်တော်မူစဉ် ရဟန်းတို့အား သင်္ခါရတရားကို ဟောကြားတော်မူခဲ့ပြီ။

"ရဟန်းတို့၊ သင်္ခါရတို့သည် မမြဲကုန်။ ရဟန်းတို့၊ သင်္ခါရတို့သည် အမြဲ

မရှိကြကုန်။ ရဟန်းတို့၊ သင်္ခါရတို့သည် သာယာအပ်သောသဘော မရှိကြကုန်။ ရဟန်းတို့၊ အလုံးစုံသော သင်္ခါရတရားတို့၌ အလွန်လျှင် ငြီးငွေ့ထိုက်ကုန်၏။ တပ်ခြင်းကင်းရန် ထိုက်ကုန်၏။ သင်္ခါရတရားတို့မှ လွတ်ထွက်ရန် ထိုက်ကုန်၏"

ဤမျှသောစကားဖြင့် စူးစူးစိုက်စိုက် သဘောပေါက်လွယ်ကြမည် မဟုတ်သေး။ နား၌ မမြဲဟု ကြားကာမျှသာ ရှိကြလိမ့်မည်။ 'အဘယ့်ကြောင့် ငြီးငွေ့ထိုက်ကြောင်း၊ သင်္ခါရတို့မှ အဘယ့်ကြောင့် လွတ်ထွက်ထိုက်ကြောင်း' ကိုလည်း ကွက်ကွက်ကွင်းကွင်း ဉာဏ်အမြင် ရှင်းကြမည် မဟုတ်။ မမြဲပုံကို သာဓကဖြင့် ရှင်းပြမှ သင့်မည်ဟူ၍ မြင်းမိုရ်တောင်ကြီးနှင့် လေးစင်းသော သမုဒ္ဒရာကြီးများကို ထည့်၍ ဟောတော်မူသတည်း။

"ရဟန်းတို့၊ မြင်းမိုရ်တောင်မင်းသည် အလျားအားဖြင့် ယူဇနာပေါင်း ရှစ်သောင်းလေးထောင် ရှည်လျား၏။ အနံအားဖြင့် ယူဇနာပေါင်း ရှစ်သောင်းလေးထောင် ကျယ်၏။ ယူဇနာ ရှစ်သောင်းလေးထောင်တိုင်တိုင် မဟာသမုဒ္ဒရာ၌ နစ်မြုပ်၏။ ယူဇနာ ရှစ်သောင်းလေးထောင်တိုင်တိုင် မဟာသမုဒ္ဒရာမှ ပေါ်တက်၏။ (မြင်းမိုရ်တောင်မင်းကြီး၏ ကြီးကျယ်သော၊ မပျက်စီးနိုင်ဟု ထင်နိုင်လောက်အောင်သော ရောမ ထုထည်ပမာဏကြီးကို ပြ၏။) ထိုမျှ ကြီးမားလှသော မြင်းမိုရ်တောင်ကြီးသည် အဘယ့်ကြောင့် ပျက်စီးနိုင်မည်နည်း။-

## မိုးခေါင်သည်ရှိသော်

"ရဟန်းတို့၊ ရံခါ ရှည်လျားသောအခါကို ကျော်လွန်သဖြင့် များစွာသော နှစ်၊ များစွာသော နှစ်အရာ၊ နှစ်အထောင်၊ နှစ်အသိန်းတို့ပတ်လုံး မိုးမရွာ။ ထိုမိုးမရွာသောအခါမျိုးသည် ရှိသည်သာတည်း။ ရဟန်းတို့၊ မိုးမရွာလျှင် ဤဘူတဂါမ်၊ ဗီဇဂါမ်ဖြစ်ကုန်သည့် ဆေးပင်၊ မြက်ပင်၊ တောမိုးသစ်ပင်ဟူသမျှတို့သည် ခြောက်သွေ့ကုန်၏။ မဖြစ်ပွားကုန်။ ရဟန်းတို့၊ သင်္ခါရတို့သည် ဤသို့မမြဲကုန်။ ဤသို့ အမြဲမတည်ကုန်။ ရဟန်းတို့၊ သင်္ခါရတရားတို့သည် သာယာအပ်သော သဘောမရှိကုန်။ သင်္ခါရတရားတို့၌ ငြီးငွေ့ထိုက်ကုန်၏။ သင်္ခါရတရားတို့မှ ကျွတ်လွတ်ရန် ထိုက်ကုန်၏"

ယနေ့ မျက်မှောက်ခေတ်တွင် အချို့သော နိုင်ငံများ၌ တစ်နှစ်မိုးခေါင်ကာမျှဖြင့် ကောက်ပဲသီးနှံများ ပျက်စီးကုန်ကြောင်း ကြားသိနေကြရ၏။ နှစ်ပေါင်းထောင်နှင့်ချီ၍ မိုးခေါင်နေလျှင် အဘယ်မည်သော သစ်ပင်တို့ ပေါက်ရောက်နိုင်

ကုန်မည်နည်း။ သင်္ခါရတရားတို့ကို မိုးခေါင်ရေရှားသဖြင့် ပျက်ပြားကုန်သော သစ်ပင်များနှင့် ပုံခင်း၍ ရှု၏။ ရဟန်းတို့အား မမြဲခြင်း၊ သင်္ခါရသဘောကို ဟော တော်မူ၏။

## နေနှစ်စင်း ထွက်သည်ရှိသော်

"ရဟန်းတို့၊ တစ်ခါတစ်ရံ ရှည်လျားသောအခါကို ကျော်လွန်သဖြင့် နှစ်ခုမြောက်သောနေသည် ထွက်ပေါ်လာ၏။ ထိုနေနှစ်စင်း ထွက်သောအခါမျိုး ရှိသည်သာတည်း။ ရဟန်းတို့၊ နှစ်ခုမြောက်သောနေ ထွက်လာခြင်းကြောင့် မြစ်ငယ်၊ အိုင်ငယ်ဟူသမျှအားလုံးတို့သည် ခန်းခြောက်ကုန်၏။ အထူးသဖြင့် ခန်းခြောက်ကုန်၏။ ရဟန်းတို့၊ သင်္ခါရတို့သည် ဤသို့ မမြဲကုန်"

## နေသုံးစင်း ထွက်သည်ရှိသော်

"ရဟန်းတို့၊ တစ်ခါတစ်ရံ ရှည်လျားသောအခါကို ကျော်လွန်သဖြင့် သုံးခုမြောက်သောနေသည် ထွက်ပေါ်လာ၏။ ထိုနေသုံးစင်း ထွက်သောအခါမျိုး ရှိသည်သာတည်း။ ရဟန်းတို့၊ သုံးစင်းမြောက်သောနေ ထွက်ပေါ်လာခြင်းကြောင့် ဂင်္ဂါ၊ ယမုနာ၊ အစိရဝတီ၊ မဟီ၊ သရဘူ ဟူသော အလုံးစုံသော မြစ်ကြီးငါးသွယ် တို့သည် ခန်းခြောက်ကုန်၏။ အထူးသဖြင့် ခန်းခြောက်ကုန်၏။ ရဟန်းတို့၊ သင်္ခါရတို့သည် ဤသို့ မမြဲကုန်"

## နေလေးစင်း ထွက်သည်ရှိသော်

"ရဟန်းတို့၊ တစ်ခါတစ်ရံ ရှည်လျားသောအခါကို ကျော်လွန်သဖြင့် လေးခုမြောက်သောနေသည် ထွက်ပေါ်လာ၏။ ထိုနေလေးစင်း ထွက်ပေါ်လာသော အခါမျိုး ရှိသည်သာတည်း။ ရဟန်းတို့၊ လေးစင်းမြောက်သောနေ ထွက်ပေါ်လာခြင်း ကြောင့် အနောတတ္တ၊ သီဟပပါတ၊ ရထကာရ၊ ကဏ္ဏပုဏ္ဏ၊ ကုဏာလ၊ ဆဒ္ဒန္တ၊ မန္ဒာကိနီ ဟူသော ဤအိုင်ကြီးတို့သည် ရှိကုန်၏။ ယင်းအိုင်ကြီးတို့မှ မြစ်ကြီးတို့သည် စီးကုန်၏။ ထိုရေအိုင်ကြီး (၇) အိုင်တို့သည် ခန်းခြောက်ကုန်၏။ အထူးသဖြင့် ခန်းခြောက်ကုန်၏။ ရဟန်းတို့၊ သင်္ခါရတို့သည် ဤသို့ မမြဲကုန်"-

## နေငါးစင်း ထွက်သည်ရှိသော်

"ရဟန်းတို့၊ တစ်ခါတစ်ရံ ရှည်လျားသောအခါ ကျော်လွန်သဖြင့် ငါးခုမြောက်သောနေသည် ထွက်ပေါ်လာ၏။ ထိုနေငါးစင်း ထွက်ပေါ်လာသောအခါမျိုး ရှိသည်သာတည်း။ ရဟန်းတို့၊ ထိုငါးခုမြောက်သောနေ ထွက်ပေါ်လာခြင်းကြောင့် မဟာသမုဒ္ဒရာ၌ ယူဇနာတစ်ရာလောက်သော ရေတို့သည် ယုတ်လျော့ကုန်၏။ ယူဇနာနှစ်ရာ၊ သုံးရာ၊ လေးရာ၊ ငါးရာ၊ ခြောက်ရာ၊ ခုနစ်ရာလောက်မျှသော ရေတို့သည် ယုတ်လျော့ကုန်၏။ ထန်းပင် ခုနစ်ပြန်လောက်သာလျှင် မဟာသမုဒ္ဒရာ၌ ရေသည် တည်၏။ ခြောက်ပြန်၊ ငါးပြန်၊ လေးပြန်၊ သုံးပြန်၊ နှစ်ပြန်၊ ထန်းပင်တစ်ပြန်လောက်သာလျှင် ရေသည် တည်၏။ လက်ခုပ်ခုနစ်ဖောင်လောက်သာလျှင် မဟာသမုဒ္ဒရာရေသည် တည်၏။ လက်ခုပ်ခြောက်ဖောင်၊ ငါးဖောင်၊ လေးဖောင်၊ သုံးဖောင်၊ နှစ်ဖောင်၊ တစ်ဖောင်၊ လက်ခုပ်ဝက်မျှလောက်သာလျှင်၊ ခါးလည်မျှသာလျှင်၊ ဒူးလောက်မျှသာလျှင်၊ ခြေချင်းဝတ်–ဖမျက်မျှလောက်သာလျှင် ရေသည်တည်၏။–

– ရဟန်းတို့၊ ဥပမာသော်ကား တန်ဆောင်မုန်းလအခါ၌ မိုးကြီး သည်း ထန်စွာ ရွာသည်ရှိသော် ထိုထိုအရပ်၌၊ နွားခြေရာတို့၌ရေသည် တည်သကဲ့သို့ ရဟန်းတို့၊ ဤအတူသာလျှင် ထိုထိုအရပ်၌ ခြေချင်းဝတ်၊ ဖမျက်လောက်သော ရေတို့သည်သာ မဟာသမုဒ္ဒရာ၌ တည်ကုန်၏။ ရဟန်းတို့၊ ငါးစင်းမြောက်နေ ထွက်ပေါ်လာခြင်းကြောင့် မဟာသမုဒ္ဒရာ၌ ရေသည် လက်တစ်သစ်မျှလောက် မရှိတော့ချေ။ ရဟန်းတို့၊ သင်္ခါရတို့သည် ဤကဲ့သို့ မမြဲကုန်။"

## နေခြောက်စင်း ထွက်သည်ရှိသော်

"ရဟန်းတို့၊ တစ်ခါတစ်ရံ ရှည်လျားသောအခါကို ကျော်လွန်သဖြင့် ခြောက်စင်းမြောက်နေသည် ထွက်ပေါ်လာ၏။ ထိုနေခြောက်စင်း ထွက်ပေါ်လာသော အခါမျိုးလည်း ရှိသည်သာတည်း။ ရဟန်းတို့၊ ခြောက်စင်းမြောက်နေ ထွက်ပေါ်လာခြင်းကြောင့် ဤမဟာပထဝီမြေကြီးသည်လည်းကောင်း၊ မြင်းမိုရ်တောင်မင်းသည်လည်းကောင်း အခိုးထွက်ကုန်၏။ လွန်စွာအခိုးထွက်ကုန်၏။ လွန်စွာအထွေထွေအပြားပြား အခိုးထွက်ကုန်၏။–

– ရဟန်းတို့၊ အိုးထိန်းသည်တို့၏ အိုးဖုတ်ရာ၌ဖြစ်သော အိုးဖိုကို မီးတိုက်သည်ရှိသော် ရှေးဦးစွာ အခိုးထွက်သကဲ့သို့ ဤအတူသာလျှင် ခြောက်စင်း

မြောက်နေ ထွက်ပေါ်လာခြင်းကြောင့် ဤမဟာပထဝီမြေကြီးသည်လည်းကောင်း၊ မြင်းမိုရ်တောင်မင်းသည်လည်းကောင်း အခိုးထွက်ကုန်၏။ လွန်စွာ အခိုးထွက်ကုန်၏။ လွန်စွာ အထွေထွေအပြားပြား အခိုးထွက်ကုန်၏။ ရဟန်းတို့၊ သင်္ခါရတို့သည် ဤသို့ မမြဲကုန်။ သင်္ခါရတို့၌ ငြီးငွေ့ထိုက်ကုန်၏။ သင်္ခါရတို့မှ ကျွတ်လွတ်ရန် ထိုက်ကုန်၏။"

## နေခုနစ်စင်း ထွက်သည်ရှိသော်

"ရဟန်းတို့၊ တစ်ခါတစ်ရံ ရှည်လျားသောအခါကို လွန်သဖြင့် (ခြောက်စင်း မြောက်နေ ထွက်ပြီးနောက်) ခုနစ်စင်းမြောက်နေ ထွက်ပေါ်လာ၏။ ထိုနေ ခုနစ်စင်း ထွက်ပေါ်လာသောအခါမျိုး ရှိသည်သာတည်း။ ရဟန်းတို့၊ ခုနစ်စင်း မြောက်နေ ထွက်ပေါ်လာခြင်းကြောင့် ဤမဟာပထဝီမြေကြီးသည်လည်းကောင်း၊ မြင်းမိုရ်တောင်မင်းသည်လည်းကောင်း မီးခဲကြီး ဖြစ်ကုန်၏။ အလျှံတပြောင်ပြောင် တောက်လောင်ကုန်၏။ (လောကဓာတ်ကြီး အတွင်း၌) တစ်စပ်တည်းသော မီးတောက်၊ မီးလျှံကြီး ဖြစ်ပေါ်ကုန်၏။–

– ရဟန်းတို့၊ မီးတောက်လောင်သော၊ မီးလောင်ကျွမ်းနေသော ဤမြေကြီး၏လည်းကောင်း၊ မြင်းမိုရ်တောင်မင်း၏လည်းကောင်း၊ မီးတောက်မီးလျှံသည် လေအဟုန် ပင့်တင်အပ်သည်ဖြစ်၍ ဗြဟ္မာ့ပြည်တိုင်အောင် တက်ရောက်၏။ ရဟန်းတို့၊ တောက်လောင်နေသော၊ လောင်ကျွမ်းနေသော ကြီးမားသည့် မီးအစု နှိပ်စက်သည်ဖြစ်၍ ပျက်စီးနေသော မြင်းမိုရ်တောင်ကြီး၏ ယူဇနာတစ်ရာရှိ ကျောက်လွှာ၊ ကျောက်ထွတ်ကြီးတို့သည်လည်း ပြိုကွဲပျက်စီးကုန်၏။ ယူဇနာ သုံးရာ၊ လေးရာ၊ ငါးရာရှိ ကျောက်လွှာ၊ ကျောက်ထွတ်ကြီးတို့သည်လည်း ပြိုကွဲ ပျက်စီးကုန်၏။–

– ရဟန်းတို့၊ တောက်လောင်နေသော၊ လောင်ကျွမ်းနေသော ဤ မဟာပထဝီမြေကြီးလည်းကောင်း၊ မြင်းမိုရ်တောင်မင်း၏လည်းကောင်း၊ ပြာကို မတွေ့မြင်ရတော့ချေ။ မီးသွေးကို မတွေ့မြင်ရတော့ချေ။ ရဟန်းတို့၊ တောက်လောင်နေသော၊ လောင်ကျွမ်းနေသော ထောပတ်၏လည်းကောင်း၊ ဆီ၏လည်းကောင်း၊ ပြာကို မတွေ့မြင်ရ။ မီးသွေးကို မတွေ့မြင်ရသကဲ့သို့ ရဟန်းတို့၊ ဤဥပမာအတူ သာလျှင် တောက်လောင်နေသော၊ လောင်ကျွမ်းနေသော ဤမဟာပထဝီမြေကြီး၏လည်းကောင်း၊ မြင်းမိုရ်တောင်မင်း၏လည်းကောင်း ပြာနှင့်မီးသွေးကို မတွေ့

မြင်ရတော့ချေ။ ရဟန်းတို့၊ သင်္ခါရတို့သည် ဤသို့ မမြဲကုန်။ အမြဲ မတည်ကုန်။ ဤသို့ သာယာအပ်သောသဘော မရှိကုန်။ ရဟန်းတို့၊ အလုံးစုံသော သင်္ခါရတို့၌ အလွန်လျှင် ငြီးငွေ့ထိုက်ကုန်၏။ တပ်ခြင်း ကင်းသင့်၏။ သင်္ခါရတို့မှ ကျွတ်လွတ်ရန် ထိုက်ကုန်၏။–

– ရဟန်းတို့၊ ဤမဟာပထဝီမြေကြီးသည်လည်းကောင်း၊ မြင်းမိုရ်တောင်မင်းသည်လည်းကောင်း၊ လောင်ကျွမ်းကုန်လတ္တံ့၊ ပျက်စီးကုန်လတ္တံ့။ ဘာတစ်ခုမျှ မရှိကုန်လတ္တံ့။ ရဟန်းတို့၊ ထိုအခါ၌ နိဗ္ဗာန်ကို မြင်ပြီးကုန်သော အရိယာပုဂ္ဂိုလ်တို့ကိုထား၍ အဘယ်သူသည် သိနိုင်မည်နည်း။ အဘယ်သူသည် ယုံကြည်နိုင်လိမ့်မည်နည်း။"

အလွန်ကြီးမားလှသော မြင်းမိုရ်တောင်ကြီးနှင့်တကွ အလွန်ကျယ်ဝန်း နက်ရှိုင်းလှသည့် လေးစင်းသော သမုဒ္ဒရာကြီးများသော်မှပင်လျှင် သင်္ခါရနိုင်ငံကို မလွန်ဆန်နိုင်ပုံ၊ ဤကမ္ဘာကြီးတွင် နေခုနစ်စင်းပေါ်ထွက်လာသောအခါ မီးသွေးနှင့် ပြာမျှပင် မကျန်၊ ဘာဆိုဘာမျှမရှိတော့ပုံ၊ အရှည်စွဲ၍ တည်မြဲခြင်းမရှိသော သင်္ခါရတရားတို့၏ သဘာဝအချက်ကို ကွက်ကွက်ကွင်းကွင်း အထင်းသား ထင်မြင်အောင် ဟောကြားတော်မူပြီးနောက် ယုံကြည်လောက်၊ ခံတည်လောက်သော ရှေးဟောင်းပုရာဏ် ရှုကွင်းရှုကွက်များဖြင့် ဆက်၍ ရဟန်းတို့အား ဟောကြားတော်မူပြန်၏။

## အယူဝါဒကို တီထွင်သော သုနေတ္တ ဆရာကြီး

"ရဟန်းတို့၊ ရှေး၌ဖြစ်ဖူးသည်ကား အယူဝါဒ တီထွင်သော၊ ကာမဂုဏ်တို့၌ စိတ်နှလုံးနပဟာန်ဖြင့် စုံမက်မှုကင်းသော သုနေတ္တမည်သော ဆရာသည် ဖြစ်ပေါ်ခဲ့ဖူး၏။ ရဟန်းတို့၊ သုနေတ္တဆရာကြီးအား အရာမက များစွာကုန်သော တပည့်တို့သည် ရှိကုန်၏။ ရဟန်းတို့၊ သုနေတ္တဆရာကြီးသည် တပည့်တို့အား ဗြဟ္မာ့ပြည်၌ဖြစ်ရန် တရားဟော၏။ ထိုသို့ ဗြဟ္မာ့ပြည်၌ဖြစ်ရန် တရားဟောသည်ရှိသော် အဆုံးအမကို အကုန်အစင်သိကုန်သော တပည့်တို့သည် ခန္ဓာကိုယ်ပျက်စီး၍ သေပြီးသည်မှနောက်၌ ကောင်းသောလားရာ ဗြဟ္မာ့ပြည်သို့ ရောက်ကုန်၏။ အဆုံးအမကို အကုန်အစင် မသိကုန်သော တပည့်တို့သည် ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှနောက်၌ အချို့သောသူတို့သည် ပရိနိမ္မိတဝသဝတ္တီနတ်တို့၏ အသင်းအပင်းအဖြစ်သို့ ရောက်ကုန်၏။ အချို့သောသူတို့သည် နိမ္မာနရတီနတ်တို့၏

အသင်းအပင်းအဖြစ်သို့ ရောက်ကုန်၏။ အချို့သောသူတို့သည် တုသိတာနတ်တို့၏ အသင်းအပင်းအဖြစ်သို့ ရောက်ကုန်၏။ အချို့သောသူတို့သည် ယာမာနတ်တို့၏ အသင်းအပင်းအဖြစ်သို့ ရောက်ကုန်၏။ အချို့သောသူတို့သည် တာဝတိံသာနတ်တို့၏ အသင်းအပင်းအဖြစ်သို့ ရောက်ကုန်၏။ အချို့သောသူတို့သည် ဥစ္စာများသောမင်းမျိုးတို့၌ ဖြစ်ကုန်၏။ အချို့သောသူတို့သည် ဥစ္စာများသော ပုဏ္ဏားမျိုး၊ သူဌေးမျိုးတို့၌ ဖြစ်ကုန်၏။–

– ရဟန်းတို့၊ ထိုအခါ သုနေတ္တဆရာကြီးအား ဤအကြံသည် ဖြစ်၏။ 'တမလွန်ဘဝ၌ တပည့်တို့နှင့် လားရာဂတိတူမျှသောအဖြစ်မျိုးသည် ငါ့အား မသင့်တော်။ အကယ်၍ ငါသည် ပထမဈာန်ထက်လွန်မြတ်သော မေတ္တာကို ပွားများရပါမူ ကောင်းလေရာ၏။–

– ရဟန်းတို့၊ ထိုအခါ သုနေတ္တဆရာကြီးသည် ခုနစ်နှစ်တို့ပတ်လုံး မေတ္တာနှင့်ယှဉ်သော ဈာန်စိတ်ကိုပွားများ၍ သံဝဋ္ဋ၊ ဝိဝဋ္ဋကပ်ခုနစ်ခုတို့ပတ်လုံး ဤကာမဘုံသို့ တစ်ဖန်ပြန်မလာပြီ။ ရဟန်းတို့၊ လောကပျက်သည်ရှိသော် အာဘဿရ ဗြဟ္မာဘုံသို့ ရောက်၏။ လောကတည်ပြန်လျှင် ဆိတ်သုဉ်းသော ပထမဈာန် ဗြဟ္မာဘုံ၌ ဖြစ်၏။ ရဟန်းတို့၊ ထိုပထမဈာန် ဗြဟ္မာဘုံ၌ မြတ်သော ဗြဟ္မာမင်းကြီးဖြစ်၍ သူတစ်ပါးတို့ကို လွှမ်းမိုးနိုင်ပြီးလျှင် သူတစ်ပါးတို့က မလွှမ်းမိုးနိုင်ဘဲ စင်စစ်မြင်စွမ်းနိုင်သော သူတစ်ပါးတို့ကို မိမိအလိုသို့ လိုက်စေနိုင်သော ဗြဟ္မာဖြစ်၏။"

## သိကြားမင်း ထိုနောက် စကြာမင်း

"ရဟန်းတို့၊ နတ်တို့ကို အစိုးရသော သိကြားမင်း (၃၆) ကြိမ် ဖြစ်၏။ အကြိမ်တစ်ရာမက စကြာရတနာကို လည်စေတတ်သော၊ တရားစောင့်သော၊ တရားမင်းဖြစ်သော၊ သမုဒ္ဒရာလေးစင်းအဆုံးရှိသောမြေကို အစိုးရသော၊ စစ်မြေပြင်ကို အောင်ပြီးသော၊ ဇနပုဒ်၌ မြဲမြံသည်၏အဖြစ်သို့ရောက်သော ရတနာခုနစ်ပါးနှင့်ပြည့်စုံသော စကြာမင်း ဖြစ်၏။ ထိုစကြာမင်းအား ရဲရင့်၍ လုံ့လဝီရိယရှိကုန်သော၊ သူတစ်ပါးစစ်သည်ကို နှိမ်နင်းရန် စွမ်းနိုင်ကုန်သော အထောင်မကသော သားတော်တို့သည် ရှိကုန်၏။ ထိုစကြာမင်းသည် သမုဒ္ဒရာအဆုံးရှိသော (စကြာဝဠာတောင်ကို အပိုင်းအခြားပြု၍ တည်သော) ဤမြေကြီးကို ဒဏ်မထားဘဲ လက်နက်မကိုင် တရားဖြင့်သာလျှင် အောင်မြင်၍ စိုးအုပ်လျက်နေ၏။–

–ရဟန်းတို့၊ ထိုသုနေတ္တဆရာကြီးသော်မှလည်း ဤသို့ အသက်ရှည်ပါလျက်၊ ဤသို့ ကြာမြင့်စွာ တည်ပါလျက်၊ ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ သေခြင်း၊ ပူဆွေးခြင်း၊ ငိုကြွေးခြင်း၊ ဆင်းရဲခြင်း၊ နှလုံးမသာယာခြင်း၊ ပြင်းစွာ ပင်ပန်းခြင်းတို့မှ မလွတ်ကင်း။ ဆင်းရဲအပေါင်းမဟ မလွတ်ကင်းဟူ၍ ငါ ဆို၏။ ထိုသို့ မလွတ်ကင်းခြင်းသည် အဘယ့်ကြောင့်နည်း။ လေးပါးသော တရားတို့ကို လျော်စွာမသိခြင်းကြောင့်၊ ထိုးထွင်း၍ မသိခြင်းကြောင့်ပေတည်း။ အဘယ်လေးပါးတို့နည်းဟူမူ–

– ရဟန်းတို့၊

(၁) မြတ်သော သီလကို လျော်စွာ မသိခြင်းကြောင့်၊ ထိုးထွင်း၍ မသိခြင်းကြောင့် ဆင်းရဲအပေါင်းမှ မလွတ်။
(၂) မြတ်သော သမာဓိကို လျော်စွာ မသိခြင်းကြောင့်၊ ထိုးထွင်း၍ မသိခြင်းကြောင့် ဆင်းရဲအပေါင်းမှ မလွတ်။
(၃) မြတ်သောပညာကို လျော်စွာ မသိခြင်းကြောင့်၊ ထိုးထွင်း၍ မသိခြင်းကြောင့် ဆင်းရဲအပေါင်းမှ မလွတ်။
(၄) မြတ်သော ဝိမုတ္တိကို လျော်စွာ မသိခြင်းကြောင့်၊ ထိုးထွင်း၍ မသိခြင်းကြောင့် ဆင်းရဲအပေါင်းမှ မလွတ်။

– ရဟန်းတို့၊ ငါသည် ဤမြတ်သောသီလကို လျော်စွာသိအပ်ပြီ။ ထိုးထွင်း၍ သိအပ်ပြီ။ မြတ်သော သမာဓိကို၊ မြတ်သောပညာကို၊ မြတ်သော ဝိမုတ္တိကို လျော်စွာ သိအပ်ပြီ။ ထိုးထွင်း၍ သိအပ်ပြီ။ ဘဝတဏှာကို ဖြတ်အပ်ပြီ။ ဘဝသို့ ဆောင်တတ်သော တဏှာသည် ကုန်ပြီ။ ဘဝသစ်၌ တစ်ဖန် ပဋိသန္ဓေနေခြင်းသည် ယခုအခါ မရှိတော့ပြီ"

မြတ်စွာဘုရားသည် ဤစကားကို ဟောကြားတော်မူ၏။ နတ်လူတို့၏ ဆရာ ဖြစ်တော်မူသော မြတ်စွာဘုရားသည် ဤစကားကို မိန့်တော်မူပြီးနောက် ဆိုလတ္တံ့သော ဂါထာကို ဟောတော်မူ၏။

"များသော အခြံအရံရှိသော ဂေါတမ မြတ်စွာဘုရားသည် အတုမရှိ မြတ်ကုန်သော သီလ၊ သမာဓိ၊ ပညာ၊ လွတ်မြောက်မှု အရဟတ္တဖိုလ်ဟူသော ဤတရားတို့ကို လျော်စွာ သိအပ်ကုန်ပြီ"

မြတ်စွာဘုရားသည် ဤသို့ ထူးသောဉာဏ်ဖြင့် သိ၍ ရဟန်းတို့အား

သစ္စာလေးပါးတရားကို ဟောတော်မူ၏။ ဒုက္ခ၏အဆုံးကို ပြုတော်မူတတ်သော၊ စက္ခုငါးပါး ရှိတော်မူသော၊ လူနတ်တို့၏ဆရာ ဖြစ်တော်မူသော မြတ်စွာဘုရားသည် (ကိလေသာငြိမ်း၍) ပရိနိဗ္ဗာန်ပြုတော်မူ၏။

(အင်္ဂုတ္တိုရ်ပါဠိတော် မြန်မာပြန်မှ)

သဗ္ဗေသင်္ခါရာ အနိစ္စာ–ဆိုသောအတိုင်း သင်္ခါရတရားတို့၏ မမြဲလိုက်ပုံမှာ မြသည်အထင်ရောက်စေသော မြင်းမိုရ်တောင်ကြီးသည်လည်း ပြာနှင့်မီးသွေးမျှမကျန်အောင် ပျောက်သွားရလေသည့်အပြင် သမုဒ္ဒရာကြီးလေးစင်းစလုံး ရေခြောက်ခန်းကုန်သည်သာမက မီးဟုန်းဟုန်းတောက်သည်အထိ ဖြစ်ရပ်များကား သင်္ခါရ၏ ပြယုဂ်များပင်တည်း။



## ပုဂ္ဂိုလ်ထူး စိတ္တသုကြွယ်၏ နောက်ဆုံးစကား

**ပြဿနာ = ယောင်ယမ်းခြင်း**
**မေး = ဆွေမျိုးသားချင်းများ**
**ဖြေ = စိတ္တသုကြွယ်**

သားသမီးများ ဖွားမြင်လာသောအခါ ကာမဘုမ္မိ၊ သုဂတိဟု၊ ဇာတိလူ့ပြည်၊ သန္ဓေတည်၍၊ ဖွားသည်စင်စစ်၊ သက္ကရာဇ်ကား စသည်ဖြင့် မိဘတို့က ဇာတာဖွဲ့ကြကုန်၏။ နေ့မှတ်စာရေးကြကုန်၏။ မည်သည့်သက္ကရာဇ်၊ မည်သည့်လ၊ မည်သည့်နေ့ရက်အချိန်က လူ့ပြည်သို့ ရောက်ရှိလာကြောင်း သက္ကရာဇ် ကန်ခြင်းဖြစ်၏။

လူတို့သည် လူ့လောက လွင်ပြင်ကြီးပေါ်တွင် တလှုပ်ရှားရှားနှင့် သွားလာနေသော ဇာတိရုပ်ကောင်ကိုသာ မြင်ကြကုန်၏။ ထိုဇာတိရုပ်ကောင်နှင့် ကပ်မြှောင်၍ ပါလာသော ဇရာ၊ မရဏကိုကား မမြင်ကြရကုန်။ စင်စစ် ဇာတိဖြစ်လာလျှင် ဇရာ၊ မရဏ ပါမြဲဖြစ်၏။

သို့သော် ဇရာ၊ မရဏတို့သည် ဇာတိ၏ အင်အားတောင့်တင်း၊ ခိုင်မာ၊ ကြံ့ခိုင်နေချိန်တွင် ငြိမ်နေကုန်၏။ အစွမ်းရှိသမျှ သူ လှုပ်ရှားပါစေဦးဟူ၍ လွှတ်ပေးထားကုန်၏။ လူတို့၏အလှည့်သို့ ရောက်လာသည်နှင့်တစ်ပြိုင်နက် ခေါင်းထောင်၍ ပြူထွက်လာကုန်၏။ ထိုအခါ ဇာတိရုပ်ကောင်မှာ မကျန်းမမာ၊ ရောဂါသည် ဖြစ်လာသတည်း။ အကြောင်းရှာသော် ရုပ်ခန္ဓာကိုယ်ကောင်ကြီး ရှိသောကြောင့်တည်း။ ခန္ဓာကိုယ် ရုပ်ကောင်ကြီးမရှိလျှင် ဇရာလည်း မဖြစ်၊ မရဏလည်း မဖြစ်။

ခန္ဓာကိုယ် ထင်အရှားနှင့် တမားမား၊ လှုပ်ရှားနေကြသော သတ္တဝါမှန်

သမျှ တစ်ချိန်သောအခါ မကျန်းမမာဖြစ်ကာ လူနာ၊ ရောဂါသည် ဖြစ်ရမည်မှာ သေချာ၏။

အခြားသူများကို မဆိုထားဘိ။ ခန္ဓာကိုယ်၊ ရုပ်ကာယကြီး ရှိနေသည့်အတွက် သုံးလူ့ထွတ်ထား၊ ရှင်တော်မြတ်ဘုရားကြီးသော်မှပင်လျှင် ဝေဒနာ၏ ဖိစီးနှိပ်စက်ခြင်းကို ခံရချေ၏။ မြတ်ဘုရားသည် မကျန်းမမာ ဝေဒနာကို ပြင်းထန်စွာ ခံစားနေတော်မူပုံကို "ဓကာဒါမေ့မွရာဓာပိ ဂေလညေန ဘိပိဋ္ဌိတော" ဟူသော ဗောဇ္ဈင်သုတ်လာဒေသနာတော်ကို ထောက်၍ သိနိုင်၏။

ဗောဇ္ဈင်သုတ်သည် ရောဂါကင်းပျောက်စေသည့် အစွမ်းထက်သော (ပရိတ်) တော်ကြီးဖြစ်သောကြောင့် အရှင်စုန္ဒသည် နာဖျားနေသော ဗုဒ္ဓမြတ်ဘုရားအား ထိုရောဂါမှ သက်သာလွတ်ကင်း ချမ်းသာခြင်းသို့ ရောက်စေခြင်းငှာ ဗောဇ္ဈင်သုတ် (ပရိတ်) ကို ရွတ်ကာရွတ်ကာ ကုစားသဖြင့် ရောဂါပျောက်ကင်းခဲ့ဖူး၏။

ထို့အတူ အရှင်မောဂ္ဂလာန်နှင့် အရှင်မဟာကဿပ ကိုယ်တော်ကြီးနှစ်ပါး နာဖျားနေသောအခါတွင်လည်း ဘုရားသခင်ကိုယ်တိုင် ကြွတော်မူပြီးလျှင် ဗောဇ္ဈင်သုတ်ကိုပင် ရွတ်၍ ကုစားတော်မူလေရာ ဗောဇ္ဈင်သုတ်တော်၏ အစွမ်းဖြင့် အရှင်နှစ်ပါးစလုံး ချမ်းသာရာ ရသွားလေသည်။

ဤခန္ဓာကိုယ် ရုပ်ကောင်ကြီးကား ရောဂါတည်းဟူသော ဓားပြသူခိုး လူဆိုးတို့ ခိုအောင်းရာဌာနကြီး ဖြစ်သောကြောင့် ကြီးကြီးငယ်ငယ် အရွယ်မရွေး၊ ပျိုအိုမရွေး ရောဂါသည် စွဲကပ်လာတတ်၏။ မကျန်းမမာ ဖြစ်လာတတ်၏။ ထိုအခါ ရောဂါပျောက်ကြောင်း တစ်ဆေးမကောင်း တစ်ဆေးပြောင်းကာ ကုစားလေ့ ရှိကြကုန်၏။

သာဓကအားဖြင့် စိတ္တသူကြွယ်ကို ရှုနိုင်၏။ စိတ္တသူကြွယ်မှာ အသည်းအသန် မကျန်းမမာ ဖြစ်နေ၏။ အကျော်အမော် သမားတော်ကြီးများဖြင့် ကုစားနေရ၏။ သို့သော် ရောဂါ၏အခြေအနေမှာ ထူးခြားသည်မရှိ။ သူကြွယ်ခမျာ မျက်စိကို စုံမှိတ်ကာ ဝေဒနာကို အံကြိတ်၍ ခံနေရရှာ၏။ ဆွေမျိုးဉာတိတို့မှာလည်း 'သည်တောင်ကို ကျော်လွှားနိုင်ပါတော့မည်လား' ဟူ၍ စိုးရိမ်စိတ်ဖြင့် လူနာ၏ အခြေအနေကိုသာ ကြည့်နေကြရသည်။ နောက်ဆုံးအချိန်သို့ ရောက်နေ၏။

"သွားကြ သွားကြ မလိုချင်ဘူး။ အဲသည့် စကြဝတေးမင်း ဆိုတာကောင်း မြဲသလား၊ သူလည်း မမြဲပါဘူး။ မခိုင်ခန့်ပါဘူး။ စကြဝတေးမင်းအဖြစ်ကို မလိုချင်ပါဘူး။ သွားကြကုန်လော၊ ပြန်ကြကုန်လော"

လူမမာစိတ္တသူကြွယ်၏ စကားကြောင့် ကြားရသူအားလုံး လန့်ကုန်လေ၏။ သေခါနီး၍ ဖောက်လာသည်၊ ကယောင်ကတမ်းတွေ လျှောက်ပြောသည် ထင်၍ ပို၍စိုးရိမ်လာကုန်လေ၏။

"အရှင့်သား၊ သတိထားပါလော့။ ကယောင်ကတမ်း မယောင်ယမ်းပါလင့်။ သတိထားပါ အရှင့်သား"

ဤသို့ အပေါင်းအသင်း ရောင်းရင်းများနှင့်တကွ ဆွေမျိုးဉာတိတို့က ဝိုင်း၍ပြောကြသည်တွင် စိတ္တသူကြွယ်သည် တဖြည်းဖြည်း မျက်စိပွင့်လာပြီး–

"ဘာပြောကြတာလဲ"ဟု မေးလေ၏။

လူအပေါင်းတို့က 'ယောင်ယမ်းကြောင်း'ကို ပြောပြကြကုန်၏။

ထိုအခါ သူကြွယ်သည် အနည်းငယ် စဉ်းစားပြီးမှ သူတို့အား ဤစကားကို ဆိုလေ၏။

"အချင်းတို့၊ ငါ ယောင်ယမ်းခြင်း မဟုတ်။ ထိုစကားကို နတ်တို့အား တိတိကျကျ ငါပြောလိုက်သောစကား ဖြစ်ပေသည်။–

–အချင်းတို့၊ ငါ့ထံသို့ အရံစောင့်နတ်၊ တောစောင့်နတ်၊ တောင်စောင့်နတ်၊ သစ်ပင်စောင့်နတ်၊ ဆေးပင်စောင့်သော နတ်တို့လာ၍ ငါ့ကို တောင်းပန်ကုန်၏။ တိုက်တွန်းကုန်၏။ 'သူကြွယ်၊ ဤဘဝမှ ကွယ်လွန်၍ နောင်ဘဝတွင် စကြဝတေးမင်း ဖြစ်ရပါလို၏ဟု ဆုတောင်းပါလော' ဟု တိုက်တွန်းမှာကြားကုန်၏။ ထိုအခါ ငါသည် စကြာဝတေးမင်းအဖြစ် ဆုတောင်းပါဟု ငါ့ကို တိုက်တွန်းကုန်သော ထိုနတ်တို့အား 'စကြဝတေးမင်းသည်လည်း အရှည်စွဲ၍ တည်မြဲသောသဘောမရှိ။ အချိန်ကျရောက်က သူသည်လည်း သေရမည့်သူပင်တည်း။ ထို့ကြောင့် စကြဝတေးမင်းအဖြစ်ကို ငါမလိုချင်' ဟု ပြောလွှတ်လိုက်သည့်စကား ဖြစ်ပါသည်"

ထိုစကားကို ကြားရပြန်သော် လူတို့သည် ပို၍ အံ့အားသင့်ကုန်လေ၏။ နတ်တို့လာကြောင်းကိုသိချင်၍ မေးသူက မေးကြကုန်၏။

"အရှင့်သား၊ အဘယ်အကျိုးကို မျှော်ကိုး၍ နတ်တို့က အရှင့်သားအား စကြဝတေးမင်းဆုကို တောင်းစေပါသနည်း"

"အချင်းတို့၊ နတ်တို့မျှော်ကိုးသည့်အကျိုးကား 'ဤစိတ္တသူကြွယ်ကား သီလရှိ၏။ ကောင်းသောအကျင့်ရှိ၏။ အနာဂတ်ဘဝ၌ စကြဝတေးမင်း ဖြစ်ရပါလို၏ဟု အကယ်၍ တောင့်တအံ့။ သီလရှိသော ထိုသူကြွယ်အား ဤစိတ်၏ တောင့်တမှုသည် သီလစင်ကြယ်သည်၏အဖြစ်ကြောင့် ပြည့်စုံလတ္တံ့။ တရားရှိသောသူသည် တရားအားလျော်သော အကျိုးကို မြင်ရ၏' ဟု ဤသို့ ကြံ၍

(စကြဝဠာမင်း ဖြစ်နိုင်သော အလားအလာကိုမြင်၍) ငါ့ထံ လာရောက်၍ တိုက်တွန်းတောင်းပန်ကြခြင်း ဖြစ်ပေသည်”

ဤသို့ ပြောပြလေသော် လူတို့သည် နတ်တို့ကို မြင်ရနိုးနိုးဖြင့် ဟိုဟို သည်သည် တအံ့တဩ ကြည့်သူကကြည့် အချို့ကမူ စိတ္တသူကြွယ်အား တောင်းပန်ကုန်၏။

“အရှင့်သား၊ သို့ဖြစ်လျှင် အကျွန်ုပ်တို့အား ဩဝါဒ ပေးပါလော့။ ဆုံးမ တော်မူပါလော့” ဟု တောင်းပန်ကြကုန်သဖြင့် စိတ္တသူကြွယ်သည် သေရာ ညောင်စောင်းထက်မှ အမှတ်တရ ဩဝါဒစကားဖြင့် မှာကြားခဲ့သည်ကား–

“အချင်းတို့၊ သင်တို့သည် ငါ၏အဆုံးအမကို ခံယူလိုကြကုန်သည်ရှိသော် သင်တို့အား ဤဩဝါဒကို ငါ ပေးခဲ့၏။ ဘုရား၊ တရား၊ သံဃာ ရတနာသုံးရပ် ကို ဆည်းကပ်ကြကုန်လော့။ ရတနာသုံးပါး၏ ဂုဏ်တော်၊ ကျေးဇူးတော်များကို သက်ဝင်ယုံကြည်စွာ အောက်မေ့ကြကုန်လော့။–

## ဘုရားဂုဏ်တော် ကိုးပါး

(၁) မြတ်စွာဘုရားသည် ပူဇော်အထူးကို ခံတော်မူထိုက်သောအကြောင်းကြောင့် လည်း **အရဟံ** မည်တော်မူ၏။

(၂) အလုံးစုံသောတရားတို့ကို ကိုယ်တိုင်မှန်စွာ သိတော်မူသောအကြောင်းကြောင့် လည်း **သမ္မာသမ္ဗုဒ္ဓ** မည်တော်မူ၏။

(၃) အသိဉာဏ်–ဝိဇ္ဇာ၊ အကျင့်–စရဏနှင့် ပြည့်စုံတော်မူသော အကြောင်း ကြောင့်လည်း **ဝိဇ္ဇာစရဏသမ္ပန္န** မည်တော်မူ၏။

(၄) ကောင်းသောစကားကိုဆိုတော်မူသောအကြောင်းကြောင့်လည်း **သုဂတ** မည်တော်မူ၏။

(၅) လောကကို သိတော်မူသော အကြောင်းကြောင့်လည်း **လောကဝိဒူ** မည် တော်မူ၏။

(၆) ဆုံးမထိုက်သူကို ဆုံးမတတ်သည့် အတုမဲ့ပုဂ္ဂိုလ် ဖြစ်တော်မူသော အကြောင်း ကြောင့်လည်း **အနုတ္တရောပုရိသဒမ္မသာရထိ** မည်တော်မူ၏။

(၇) နတ်လူတို့၏ ဆရာဖြစ်တော်မူသော အကြောင်းကြောင့်လည်း **သတ္ထာဒေဝ မနုဿာန** မည်တော်မူ၏။

(၈) သစ္စာလေးပါးကို သိတော်မူသော အကြောင်းကြောင့်လည်း **ဗုဒ္ဓ** မည်တော်မူ ၏။

(၉) ဘုန်းတန်ခိုး ကြီးတော်မူသောအကြောင်းကြောင့်လည်း ဘဂဝါ မည်တော်မူ၏။

ဟု ဘုရားအပေါ်၌ သက်ဝင်၍ ကြည်ညိုခြင်းနှင့် ပြည့်စုံကြကုန်အံ့ဟူ၍ ဤသို့ ကျင့်ကြရမည်။–

– အချင်းတို့၊ တရားတော်၏ ဂုဏ်ကိုလည်း အမြဲအောက်မေ့ရစ်ကြကုန်လော့။–

## တရားဂုဏ်တော် ခြောက်ပါး

(၁) တရားတော်သည် မြတ်စွာဘုရား ကောင်းစွာဟောထားသော တရားတော်ပါပေတည်း။

(၂) ကိုယ်တိုင်မြင်နိုင်သော တရားတော်ပါပေတည်း။

(၃) အခါမလင့် အကျိုးပေးတတ်သော တရားတော်ပါပေတည်း။

(၄) လာလှည့်ကုန်၊ ရှုလှည့်ကုန်ဟု ပြထိုက်သော တရားတော်ပါပေတည်း။

(၅) မိမိ၏ ကိုယ်ထဲ စိတ်ထဲ၌ ဆောင်ယူထားထိုက်သော တရားတော်ပါပေတည်း။

(၆) ပညာရှိတို့သာ ကိုယ်စီကိုယ်ငှ သိနိုင်၊ ခံစားနိုင်သော တရားတော်ပါပေတည်း။

တရားတော်၏ ဂုဏ်တော်ခြောက်ပါးကို ဤသို့ အာရုံရိုးရှင်း၊ နှလုံးသွင်းရစ်ကြကုန်လော့။–

## သံဃဂုဏ်တော် ကိုးပါး

(၁) မြတ်စွာဘုရား၏ တပည့်သား သံဃာတော်သည် ကောင်းသောအကျင့်ရှိတော်မူပါပေ၏။

(၂) မြတ်စွာဘုရား၏ တပည့်သား သံဃာတော်သည် ဖြောင့်မတ်သောအကျင့်ရှိတော်မူပါပေ၏။

(၃) မြတ်စွာဘုရား၏ တပည့်သား သံဃာတော်သည် မှန်ကန်သော အကျင့်ရှိတော်မူပါပေ။

(၄) မြတ်စွာဘုရား၏ တပည့်သား သံဃာတော်သည် လျော်ကန်သော အကျင့်ရှိတော်မူပါပေ၏။

(၅) အစုံအားဖြင့် လေးစုံ၊ ပုဂ္ဂိုလ်အားဖြင့် ရှစ်ယောက်ရှိသော မြတ်စွာဘုရား၏ တပည့်သား သံဃာတော်သည် ပေးလှူပူဇော်ရန် ထိုက်တန်တော်မူပါပေ၏။

(၆) မြတ်စွာဘုရား၏ တပည့်သား သံဃာတော်သည် ဧည့်သည်တို့အလို့ငှာ စီမံထားသော ဝတ္ထုကိုသော်လည်း ပေးလှူပူဇော်ရန် ထိုက်တန်ပါပေ၏။

(၇) မြတ်စွာဘုရား၏ တပည့်သားသံဃာတော်သည် ဧည့်ကောင်း ဆောင်ကောင်းများအတွက် အထူးတလည် စီမံလှူဒါန်းအပ်သော ဝတ္ထုပစ္စည်းကိုပင် ခံယူခြင်းငှာ ထိုက်တန်ပါပေ၏။

(၈) မြတ်စွာဘုရား၏ တပည့်သား သံဃာတော်သည် လက်အုပ်ချီရန် ထိုက်တန်ပါပေ၏။

(၉) မြတ်စွာဘုရား၏ တပည့်သား သံဃာတော်သည် သတ္တဝါအပေါင်း၏ ကောင်းမှုပြုရန် အမြတ်ဆုံး လယ်မြေ ဖြစ်တော်မူပါပေ၏။

– သံဃာတော်၏ (၉) ပါးသော ဂုဏ်ကိုလည်း အမြဲအာရုံပြုကြကုန်လော။ သီလစောင့်ထိန်းခြင်း၊ အလှူပေးခြင်း၊ ကုသိုလ်မှုများကိုလည်း မမေ့ကြကုန်လင့်။ မိမိစွမ်းအားရှိသမျှ စောင့်ထိန်းရစ်ကြ၊ လှူဒါန်းရစ်ကြကုန်လော့" ဟူ၍ ဆွေမျိုးသားချင်းနှင့်တကွ အပေါင်းအသင်း ရောင်းရင်းတို့အား နောက်ဆုံး ဩဝါဒစကား မြွက်ကြားပြီးသည့်အဆုံးတွင် စိတ္တသူကြွယ် ကွယ်လွန်သွားကြောင်းကို သဠာယတနသံယုတ်၊ စိတ္တဝဂ်၊ ဂိလာနသုတ်တွင် ဟောကြားထားပါသတည်း။



## နတ်တို့ လူ့ပြည်ဆင်း၍ သန်းခေါင်စာရင်း ကောက်ယူပုံ

## (၁)

ကျေးလက်တောရွာ ဘုန်းတော်ကြီးကျောင်းများ၌ လပြည့်၊ လကွယ်၊ လဆန်း၊ လဆုတ် ရှစ်ရက်နေ့များ၌ ဥပုသ်စောင့်သုံးလေ့ ရှိကြ၏။ ထိုအခါ သူတော်ချင်းချင်း သီတင်းလွေ့လွေ့ဆိုသကဲ့သို့ ကုသိုလ်တရား ပွားများအားထုတ်ရန်နှင့် အကုသိုလ် ဒုစရိုက်မှုများကို မပြုမိအောင် ရှောင်ကြဉ်ကြရန် အချင်းချင်း ဆိုပြောတိုက်တွန်းကြရာမှ သိကြားမင်းဆီ ရောက်သွားလေသည်။ ဥပုသ်နေ့များ၌ သန်းခေါင်စာရင်းကောက်ယူရန် လူ့ပြည်သို့ သိကြားမင်းက စေလွှတ်ကြောင်း၊ သိကြားမင်းစေလွှတ်သော သန်းခေါင်စာရင်းကောက်သူများက ကောင်းသောအမှု ပြုသူများကို ရွှေပုရပိုက်တွင် ရေးမှတ်ကြပြီး မကောင်းမှုပြုသူများကိုမူ ခွေးရေ ပုရပိုက်တွင် ရေးမှတ်သွားကြောင်းများကို ဆိုပြောလေ့ ရှိကြကုန်၏။

အထူးသဖြင့် နှစ်သစ်ကူး သင်္ကြန်အခါများတွင် ခွေးရေဖြင့်ပြုလုပ်ထားသော ပုရပိုက်ထဲ ပါမသွားအောင် သတိထားရန်၊ အကုသိုလ်ကို မပြုမိအောင် ရှောင်ကြဉ်ကြရန်၊ အချင်းချင်း သတိပေးလေ့ရှိကြရာ ထိုစကား မှန်သည်၊ မှားသည်ကို မသိ။ လူကြီးသူမများ ပြောကြသည့်စကားကို ငယ်စဉ်အခါက ကြားသိခဲ့ရ၏။ မှတ်သားခဲ့ရ၏။

ယင်းသို့ မှန်သည်၊ မှားသည် မသိရသော်လည်း နတ်များက လူ့ပြည်ဆင်း၍ လူကောင်း၊ လူဆိုး သန်းခေါင်စာရင်းကောက်သည်ဆိုချက်မှာ လက်တွေ့အားဖြင့် အကျိုးသက်ရောက်သည့်ကား အမှန်ပင် ဖြစ်၏။ အကုသိုလ်ကို ရှောင်ကြဉ်၍ ကုသိုလ်မှု၌သာ စိတ်ဝင်စားကြကုန်၏။ အသက်အရွယ်ကြီးပြင်း၍ သိတတ်လာသောအခါ ထိုစကားမှာ ယုံတမ်းစကား မဟုတ်။ အကုသိုလ် မပြုဝံ့အောင် ခြောက်လှန့်သောစကား မဟုတ်၊ သိကြားမင်း၏ စေခိုင်းချက်အရ နတ်တို့သည်

ဥပုသ်သီတင်းနေ့များ၌ လူ့ပြည်ဆင်း၍ လူဆိုး၊ လူကောင်းခွဲခြား၍ သန်းခေါင်စာရင်း ကောက်ယူကြောင်းကို တိကနိပါတ်၊ အင်္ဂုတ္တိုရ်ပါဠိတော်၊ စတုမဟာရာဇသုတ်၌ ဗုဒ္ဓရှင်တော်မြတ်ဘုရား ဟောကြားသွားတော်မူ၏။

"ရဟန်းတို့၊ လဆန်းပက္ခ၊ လဆုတ်ပက္ခ၏ ရှစ်ရက်မြောက်သောနေ့၌ နတ်မင်းကြီးလေးယောက်တို့၏ အလုပ်အကျွေးနတ်တို့သည် ဤလောကကို လှည့်လည်စုံစမ်းကုန်၏။–

– ရဟန်းတို့၊ လဆုတ်ပက္ခ၏ တစ်ဆယ့်လေးရက်မြောက် လကွယ်နေ့၌ နတ်မင်းကြီး လေးယောက်တို့၏ သားတို့သည် ဤလောကကို လှည့်လည်စုံစမ်းကုန်၏။–

– ရဟန်းတို့၊ လဆန်း တစ်ဆယ့်ငါးရက်မြောက် ဥပုသ်နေ့၌ နတ်မင်းကြီး လေးယောက်တို့သည် ကိုယ်တိုင်ပင်လျှင် ဤလောကကို လှည့်လည်စုံစမ်းကုန်၏။"

နတ်တို့သည် လူ့ပြည်ဆင်း၍ လှည့်လည်စုံစမ်းကြောင်းကို ဤသို့ ဗုဒ္ဓရှင်တော်ဘုရား ဟောကြားသွားတော်မူ၏။ (**မှတ်ချက်** ။ ။ ပါဠိတော်၌ လှည့်လည်စုံစမ်းကုန်၏ဟူ၍သာ လာသည်။ ခွေးရေပုရပိုက်၊ ရွှေပုရပိုက်တွင် ရေးမှတ်ကြောင်း မပါရှိပေ။ အဓိပ္ပာယ်ပေါ်လွင်ထင်ရှားစေခြင်းငှာ အကုသိုလ်ပြုသူများကို ခွေးရေပုရပိုက်တွင် ရေးမှတ်ကြသည်။ ကုသိုလ်ပြုသူများကို ရွှေပုရပိုက်တွင် ရေးမှတ်သည်ဆိုခြင်းမှာ ဒုစရိုက်၊ သုစရိုက်ပုဂ္ဂိုလ်နှင့် ထိုက်တန်အောင် အသုံးပြုသည်ဟူ၍ မှတ်ရာ၏။)

(၂)

ဤသို့ လူ့ပြည်သို့ နတ်တို့ဆင်းလာ၍ လှည့်လည်စုံစမ်းခြင်းမှာ အကြောင်းမဲ့ မဟုတ်ချေ။ စုံစမ်းယူရလောက်အောင် အခြေအနေက တောင်းဆိုသောကြောင့် ဖြစ်လေရာသည်။

အကြောင်းသော်ကား တာဝတိံသာနတ်သဘင်၌ နတ်တို့ စည်းဝေးကုန်၏။ ထိုအခါ သိကြားမင်းသည် နတ်ပရိသတ်များ စည်စည်ကားကားမရှိဘဲ ကျဲတိကျဲတဲ ဖြစ်နေသည်ကို မြင်လေသော် များစွာ စိတ်မချမ်းမသာ ဖြစ်လာလေ၏။ ထိုနတ်သဘင်အစည်းအဝေး၌ ဓတရဋ္ဌနတ်မင်းကြီး၊ ဝိရုဠှကနတ်မင်းကြီး၊ ဝိရူပက္ခနတ်မင်းကြီး၊ ကုဝေရနတ်မင်းကြီးတည်းဟူသော နတ်မင်းကြီးလေးယောက်တို့သည် သိကြားမင်းကိုရံလျက် ခစားနေကြကုန်၏။

ဓတရဋ္ဌနတ်မင်းကြီး၏ နောက်မှ သူ၏ အခြွေအရံဖြစ်ကုန်သော ဂန္ဓဗ္ဗနတ်တို့ ခစားလျက် တည်ကုန်၏။ ထို့အတူ ဝိရူဠ္ဟကနတ်မင်းကြီးနောက်မှ သူ၏ အလုပ်အကျွေးဖြစ်ကုန်သော ကုမ္ဘဏ်နတ်တို့သည်လည်းကောင်း၊ ဝိရူပက္ခနတ်မင်းကြီး၏ နောက်မှ သူ၏ အခြွေအရံဖြစ်ကုန်သော နတ်နဂါးတို့သည်လည်းကောင်း၊ ကုဝေရနတ်မင်းကြီး၏ နောက်မှ သူ၏ လက်ပါးစေဖြစ်ကုန်သော နတ်ဘီလူးတို့သည်လည်းကောင်း အသီးသီး သိကြားမင်းကို ခစားလျက် တည်ကုန်၏။

သိကြားမင်းသည်ကား နတ်သဘင်ရှိ ပရိသတ် နည်းပါးယုတ်လျော့မှုကြောင့် နှလုံးစိတ်ဝမ်း မချမ်းမသာ ဖြစ်သောမျက်နှာဖြင့် နတ်သဘင်ကို သုံးသပ်ရှုစားတော်မူပြီးနောက် စတုမဟာရာဇ်နတ်မင်းကြီးလေးပါးတို့အား "နတ်မင်းကြီးတို့" ဟု ခေါ်တော်မူလိုက်၏။ နတ်မင်းကြီးတို့ကလည်း "အရှင်သိကြားမင်း" ဟူ၍ ခွန်းတုံ့ပေးကြကုန်၏။ ထိုအခါ နတ်မင်းကြီးလေးပါးနှင့်တကွ ကုမ္ဘဏ်၊ ယက္ခ၊ ဂန္ဓဗ္ဗ စသော နတ်အပေါင်းတို့သည် မည်သည့်စကားကို မြွက်ကြားတော်မူလေမည်နည်းဟူ၍ သိကြားမင်း မြွက်ကြားမည့်စကားကို စောင့်မျှော်ကြလျက်နေကြကုန်၏။ သိကြားမင်းသည် နတ်သဘင်၌ ဤစကားကို မြွက်ကြားလေသတည်း။

"အချင်းတို့၊ ရှေးအခါကဆိုလျှင် ငါတို့နတ်သဘင်သည် လွန်စွာစည်ကားလှ၏။ ဒေဝါ-ဒေဝီအလီလီသော နတ်သားနတ်သမီးတို့၏ အဆင်တန်ဆာ၊ အရောင်အဝါတို့ဖြင့် တဝင်းဝင်း တလျှပ်လျှပ် ရှိချေ၏။ ယခုသဘင်ကား ယခင်ကနှင့်မတူ၊ ကျဲတိကျဲတောက် ခြောက်ကပ်ကပ်ကြီး ဖြစ်နေချေပြီ။ နတ်နန်းဘုံပျံ နတ်ဗိမာန်တို့သည်လည်း ကျီးနှင့်ဖုတ်ဖုတ် ဆိုသကဲ့သို့ နေထိုင်သူကင်း၍ ဟာလာဟင်းလင်းဖြစ်ကုန်ပြီ။ ကြာသော် နတ်သမီးနတ်သားတွေ ဆိတ်သုဉ်းကာ ငါတို့တာဝတိံသာနတ်ပြည်ကြီးပါ လုံးလုံးပျောက်သွားစေသည့်ဘေးက ငါတို့အား ခြိမ်းခြောက်နေ၏။ အကြောင်းအသို့ပါနည်း။ အချင်းနတ်မင်းတို့၊ သင်တို့သည် လူ့ပြည်သို့ဆင်း၍ လူတို့၏ အခြင်းအရာကို စုံစမ်းကြည့်ကြကုန်ဦးလော့" ဟူ၍ မိန့်တော်မူပြီးနောက် ညီလာခံစဲ၍ မင်းပွဲသိမ်းလေ၏။

(၃)

စတုမဟာရာဇ်နတ်မင်းကြီးလေးယောက်တို့သည် သိကြားမင်း၏ စေခိုင်းချက်အရ လူ့ပြည်သို့ဆင်း၍ သန်းခေါင်စာရင်းကောက်ယူရေးနှင့်ပတ်သက်၍ လေးယောက်သား မျက်နှာချင်းဆိုင် တိုင်ပင်ကြလေ၏။ ရှေးဦးစွာ သန်းခေါင်စာရင်း ကောက်ယူရန် နေ့ရက်ကို ဆွေးနွေးကြကုန်၏။

"လူ့ပြည်ကို နေ့စဉ်ဆင်းပြီး သန်းခေါင်စာရင်း ကောက်မလား၊ သို့မဟုတ် မည်သည့်နေ့ရက်တွင် ကောက်သင့်တယ်ဆိုတာ ရှေးဦးစွာ နေ့ရက်သတ်မှတ်ဖို့ လိုပါတယ်" ဟု နတ်မင်းကြီးတစ်ပါးက ဆို၏။ အခြားနတ်မင်းကြီးတစ်ပါး ကလည်း သူ၏ဆန္ဒကို တင်ပြ၏။

"နတ်မင်း၏အဆိုပြုချက်ကို ကျွန်ုပ် ထောက်ခံပါတယ်။ သိကြားမင်းက လူ့ပြည်ဆင်း၍ စုံစမ်းကြဟူ၍သာ အမိန့်ရှိပါတယ်။ မည်သည့်နေ့ရက်ဟု သတ်မှတ်ချက် မပါပါဘူး။ လောကကြီးတစ်ခုလုံးရဲ့ ကိစ္စအဝဝတွေကို ကျုံး၍ နေ့စဉ် ဆောင်ရွက်နေကြရတဲ့ နတ်မင်းတို့၊ ကျွန်ုပ်တို့အဖို့မှာ နေ့စဉ် လူ့ပြည်ကိုဆင်းဖို့ ဆိုတာ မလွယ်ပါဘူး။ သည်တော့ကာ သန်းခေါင်စာရင်းကောက်ဖို့ သင့်လျော် မယ့်ရက်ကို ရွေးကြပါလို့ အဆိုပြုပါတယ်"

အခြားနတ်မင်းကြီးတစ်ပါးကလည်း -

"နတ်မင်း၏ တင်ပြချက်မှာ သဘာဝကျပါတယ်။ ကျွန်ုပ်တို့ နေ့စဉ် ဆောင်ရွက်နေကြရတဲ့ ကိစ္စတွေက များလေတော့ နေ့စဉ် လူ့ပြည်ဆင်းရန် မလွယ်လှပါဘူး။ သန်းခေါင်စာရင်း ကောက်သင့်တဲ့ရက်ကို ကျွန်ုပ်ဆန္ဒအရ တင်ပြရမယ်ဆိုရင် လူတို့အနေဖြင့် လပြည့်နေ့၊ လကွယ်နေ့၊ လဆန်းရှစ်ရက်နှင့် လဆုတ် ရှစ်ရက်နေ့များကို အထွတ်အမြတ်ထားလေ့ရှိကြပြီး ဥပုသ်နေ့၊ သီတင်းနေ့ ဟု သတ်မှတ်ထားကြပါတယ်။ သည်တော့ကာ အဲသည့်လေးရက် (လပြည့်၊ လကွယ်၊ လဆန်းရှစ်ရက်၊ လဆုတ်ရှစ်ရက်) ကို သန်းခေါင်စာရင်း ကောက်ရန်နေ့ဟု ရွေးချယ်သတ်မှတ်သင့်ကြောင်း တင်ပြလိုပါတယ်"ဟု ဆို၏။

နတ်မင်းကြီးလေးယောက်တို့သည် ဤသို့ တင်ပင်ဆွေးနွေးကြကုန်ပြီးလျှင် လဆန်း၊ လဆုတ်ရှစ်ရက်နှင့် လပြည့်၊ လကွယ် ဤလေးရက်ကို လူ့ပြည်ဆင်း၍ သန်းခေါင်စာရင်းကောက်ရန်နေ့ဟု အညီအညွတ် ဆုံးဖြတ်သတ်မှတ်ကြပြီးနောက် သန်းခေါင်စာရင်းကောက်မည့်သူအတွက် ဆက်လက်၍ ဆွေးနွေးကြပြန်၏။

ဝေရဠနတ်မင်းကြီးက ဤသို့တင်ပြ၏။

"အချင်း နတ်မင်းတို့၊ အရှင်သိကြားမင်းက ကျွန်ုပ်တို့အား စေခိုင်းခြင်းမှာ အမှားအယွင်းမရှိ၊ စာရင်းအတိအကျ မှန်မှန်ကန်ကန်ဖြစ်စေလိုသောကြောင့်ဟု ကျွန်ုပ် ယူဆပါ၏။ စာရင်းမှန်ကန်မှုသည်သာ အဓိကဟုယူဆမိပါ၏။ အကျွန်ုပ် ၌လည်းကောင်း၊ အရှင်နတ်မင်းတို့၌လည်းကောင်း၊ ကိုယ်နှင့်ထပ်တူ ယုံကြည် စိတ်ချရသူများ အသီးသီးရှိပေကုန်၏။ ထိုသူဤသူတို့ လူ့ပြည်ဆင်း၍ သန်းခေါင် စာရင်း ကောက်ယူခြင်းသည် ကျွန်ုပ်တို့ကိုယ်တိုင် ကောက်ယူခြင်းပင်တည်း။

"ထို့ကြောင့် အရှင်နတ်မင်းတို့၊ အရှင့်အာဏာ ကျွန်မှာတည်စေဆိုသော အတိုင်း အရှင်သိကြားမင်း၏ ဩဇာအာဏာသည် အကျွန်ုပ်တို့အပေါ်မှာ တည်လေအောင် လူ့ပြည်ဆင်း၍ သန်းခေါင်စာရင်းကောက်ယူရန် သတ်မှတ်ထားသော လေးရက်အနက်–

- လပြည့်နေ့၌ ကျွန်ုပ်တို့ စတုမဟာရာဇ် နတ်မင်းကြီးလေးယောက်တို့ ကိုယ်တိုင် လူ့ပြည်ဆင်း၍ သန်းခေါင်စာရင်း ကောက်ယူကုန်အံ့။
- လကွယ်နေ့၌ အသင်နတ်မင်းတို့၊ ကျွန်ုပ်တို့၏ သားတော်များအား လူ့ပြည်ဆင်း၍ သန်းခေါင်စာရင်းကောက်စေကုန်အံ့။
- လဆန်းရှစ်ရက်နှင့် လဆုတ်ရှစ်ရက်နေ့များ၌ အသင်နတ်မင်းတို့၊ ကျွန်ုပ်တို့၏ ယုံကြည်စိတ်ချသော မှူးမတ်၊ သေနာပတိ စသူတို့အား လူ့ပြည်ဆင်း၍ သန်းခေါင်စာရင်း ကောက်ယူစေကုန်အံ့။

အကျွန်ုပ် ဤသို့ သဘောရပေ၏။ အသင်တို့၏ ဆန္ဒကိုလည်း ဆိုကြပါကုန်" ဟူ၍ ဆို၏။

ထိုအခါ ကျန်နတ်မင်းကြီးတို့က "အရှင့်တင်ပြချက်ကို ငါတို့လည်း နှစ်သက်ပါကုန်၏။ လက်ခံပါကုန်၏" ဟု သဘောတူ အကြိုက်ညီကြကုန်ရကား စတုမဟာရာဇ်နတ်မင်းကြီးလေးပါးနှင့်တကွ အပေါင်းပါနတ်တို့သည် သတ်မှတ်ထားသော လေးရက်၌ လူ့ပြည်သို့ သက်ဆင်း၍ လစဉ်လစဉ် သန်းခေါင်စာရင်း ကောက်ယူကြကုန်သတည်း။

(၄)

မြတ်ဗုဒ္ဓသည် နတ်တို့၏ ဆောင်ရွက်ချက်၊ လူ့ပြည်သို့ သက်ဆင်း၍ လစဉ် သန်းခေါင်စာရင်းကောက်ယူကြပုံများကို ရဟန်းတို့ သိစေခြင်းငှာ အင်္ဂုတ္တိုရ် ပါဠိတော်၌ ဤသို့ ဟောတော်မူသတည်း။

"ရဟန်းတို့၊ လဆန်းတစ်ဆယ့်ငါးရက်မြောက် ဥပုသ်နေ့၌ နတ်မင်းကြီး လေးယောက်တို့သည် ကိုယ်တိုင်ပင်လျှင် ဤလောကသို့ လှည့်လည်၍ စုံစမ်းကုန်၏။ လူ့ပြည်၌ များစွာကုန်သောသူတို့သည် အမိ၌ ကောင်းစွာပြုသင့်သော ကျင့်ဝတ်ကို ပြုကျင့်ကြပါကုန်၏လော။ အဘ၌ ကောင်းစွာပြုကျင့်သင်သော ကျင့်ဝတ်ကို ပြုကျင့်ကြပါကုန်၏လော။ သမဏ၌ ကောင်းစွာပြုသင့်သော ကျင့်ဝတ်ကို–၊ ဗြာဟ္မဏတို့၌ ကောင်းစွာပြုကျင့်သင့်သော ကျင့်ဝတ်ကို–၊ အမျိုးထဲ၌ ကြီးသော (အဘိုးအဘွား၊ ဦးကြီး၊ဦးလေး စသည်) တို့ကို ရိုသေစွာ ကျင့်ကြပါ

ကုန်၏လော။ အကြီးအမိုနှင့်တကွ ဥပုသ်သီတင်းကို ကျင့်သုံးကြပါကုန်၏လော။ ကောင်းမှုကို ပြုကြပါကုန်၏လောဟု လှည့်လည်စုံစမ်းကုန်၏။-

- ထိုအတူ လကွယ်နေ့၌ နတ်မင်းကြီးလေးပါးတို့၏ သားတော်တို့သည် လည်းကောင်း၊ လဆန်း၊ လဆုတ် ရှစ်ရက်နေ့များ၌ နတ်မင်းကြီးလေးပါးတို့၏ အလုပ်အကျွေး မှူးကြီးမတ်ရာ သေနာပတိတို့သည်လည်းကောင်း၊ လူ့ပြည်သို့ ဆင်း၍ အထက်ပါအတိုင်း လှည့်လည်စုံစမ်း၍ ကောင်းသူ၊ မကောင်းသူများကို သန်းခေါင်စာရင်း ကောက်ယူကြကုန်၏။-

- ဤသို့ လစဉ်ကောက်ယူသော ကောင်းမှု၊ မကောင်းမှု သန်းခေါင်စာရင်းအားလုံးကို ပဉ္စသိခနတ်သားထံသို့ အပ်ကြရကုန်၏။ ပဉ္စသိခနတ်သားက တစ်ဖန် မာတလိနတ်သားထံ အပ်ရ၏။ မာတလိနတ်သားသည် ထိုကောင်းမှု၊ မကောင်းမှု ထိုသန်းခေါင်စာရင်းများကို သိကြားမင်းထံ ဆက်ရ၏။-

- ထိုအခါ သိကြားမင်းသည် လူ့ပြည်က ကောင်းမှု၊ မကောင်းမှုစာရင်းကို နတ်တို့သိစေခြင်းငှာ သုဓမ္မာမဏ္ဍပ်၌ နတ်တို့ကို စည်းဝေးစေ၏။ ထိုနတ်သဘင်၌ သိကြားမင်းသည် နတ်မင်းကြီးလေးပါးနှင့် အပေါင်းပါနတ်တို့ ကောက်ယူလာခဲ့သော လူ့ပြည်က ကုသိုလ်၊ အကုသိုလ်၊ ကောင်းမှု၊ မကောင်းမှု စာရင်းကို ကြေညာ၏။ အကယ်၍ ကုသိုလ်ပြုသူ နည်းပါး၍ အကုသိုလ်ပြုသူက များနေခဲ့သော် သိကြားမင်းသည်-

- အချင်းတို့၊ လူ့ပြည်၌ အနည်းငယ်သောလူတို့သည်သာလျှင် အမိ၌ ကောင်းစွာပြုသင့်သောကျင့်ဝတ်ကို ပြုကျင့်ကုန်၏။ အဘ၌ ကောင်းစွာပြုသင့်သောကျင့်ဝတ်ကို ပြုကျင့်ကုန်၏။ သမဏ၌ ကောင်းစွာပြုသင့်သောကျင့်ဝတ်ကို ကျင့်ကုန်၏။ ဗြာဟ္မဏတို့၌ ကောင်းစွာပြုသင့်သော ကျင့်ဝတ်ကို ကျင့်ကုန်၏။ အမျိုးထဲ၌ ကြီးသောသူ (အဘိုး၊ အဘွား စသည်) တို့ကို ရိုသေစွာ ပြုကျင့်ကုန်၏။ ဥပုသ်သီတင်းကို ကျင့်သုံးကုန်၏။ အကြီးအမိုနှင့်တကွ ဥပုသ်သီတင်းကို ကျင့်သုံးကုန်၏။ ကောင်းမှုကို ပြုကုန်၏ဟု မြွက်ကြားပြီးလျှင် 'အချင်းတို့၊ ငါတို့နတ်ပြည်တို့သည် ဆုတ်ယုတ်ကုန်လိမ့်တကား။ အပါယ်လေးပါးတို့သည် စည်ကားကုန်လိမ့်တကား' ဟု နှလုံးမသာ ဖြစ်လေ၏။-

- 'အကယ်၍ ကုသိုလ်ပြုသူက များ၍ အကုသိုလ်ပြုသူက နည်းပါးလျှင်မူကား "အချင်းတို့၊ နတ်ပြည်တို့သည် စည်ကားကုန်လတ္တံ့တကား။ အပါယ်ဘုံတို့သည် ဆုတ်ယုတ်ကုန်လိမ့်တကား' ဟူ၍ ဝမ်းမြောက်ခြင်း ဖြစ်လေ၏"

စပယ်ဦးစာပေ